

ပြည်ထောင်စု မြန်မာနိုင်ငံတော်ဝန်ကြီးချုပ်

ဘာသာပြန်စာပေအသင်း ဥက္ကဋ္ဌ

ဦးနု

လွတ်လပ်ရေးရ၍၊ ကျွန်တော်တို့၏လက်တွင်းသို့ အချုပ်အချာအာဏာ ရောက်လာသည်နှင့် တပြိုင်နက်၊ ကျွန်တော်တို့၏ ပဌမဦးဆုံးလုပ်ငန်းသည်၊ အမှောင်ခွင်း၍အလင်းဆောင်ရမည့် လုပ်ငန်းပင်ဖြစ်သည်။ ထိုအမှောင်တည်းဟူသော ကျွန်တော်တို့၏ ရန်သူနံပတ် ၁ ကိုဖြိုခွင်းချေမှုန်းရန်၊ ကျွန်တော်တို့၏တပ်မဟာများသည် အခြားမဟုတ်၊ ဘဝသစ်ပညာရေး တပ်မဟာ၊ လူထုပညာရေး တပ်မဟာ၊ စာပေဗိမာန် တပ်မဟာများဖြစ်၍၊ ဤစွယ်စုံကျမ်းကြီးသည်ကား၊ ကျွန်တော်တို့အသုံးပြုမည့် လက်နက်ကောင်းကြီးတခုဖြစ်သည်။

ဤလက်နက်ကောင်းကြီး၏ အစွမ်းသတ္တိကား အဘယ်နည်း။

ဤစွယ်စုံကျမ်းကြီးကို တနေ့လျှင် တနာရီဖတ်ပါ။ ဖတ်ပြီးသမျှကို နာရီဝက်ခန့် မှတ်သားပါ။ မှတ်သားပြီးသမျှကို နာရီဝက်မျှ ဆင်ခြင်သုံးသပ်ပါ။ ဤသို့ တနေ့လျှင် ၂ နာရီမျှ၊ ငါးနှစ်ခန့်လောက် စွဲစွဲမြဲမြဲ ကြိုးစားပါ။ ဤသို့ကြိုးစားသူ၏အမှောင်ဓါတ်သည် မည်မျှပင်ကြီးမားစေကာမူ၊ ဤစွယ်စုံကျမ်းကြီးသည် ထိုအမှောင်ဓါတ်ကိုခွင်း၍ အလင်းကိုဆောင်ကုန်လတ္တံ့။

ထိုသူသည် ဖိုးသုညပင်ဖြစ်စေကာမူ၊ ဤစွယ်စုံကျမ်းကြီးသည် ထိုဖိုးသုညကို ဖိုးရာဇာ အဖြစ်သို့ပြောင်းလဲပေးကုန်လတ္တံ့။

အလင်းဓါတ်ခံရှိပြီး ဖြစ်သော်လည်း၊ ထိုအလင်းဓါတ်ကို ဆတက်ထမ်းပိုးတိုး၍ အလိုရှိသောသူများအဖို့မှာလည်း၊ ထိုသူတို့၏ လိုအင်ဆန္ဒဟူသမျှသည် တလုံးတဝတည်း ပြည့်စုံကြကုန်လတ္တံ့။ ဤသို့သော သတ္တိထူးတို့နှင့်ပြည့်စုံသည့် ဤစွယ်စုံကျမ်းကြီးကို လက်ကိုင်ပြုလျက်၊ ပြည်ထောင်စုသူ ပြည်ထောင်စုသား အပေါင်းတို့သည်၊ လူသစ်တည်၍ ပြည်သစ်ဆောက်နိုင်ကြပါစေသတည်း။

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

## ရုပ်ပြဗဟုသုတဘဏ်



**အတွဲ - ၁**

**က - ကုံ**

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ကျမ်းဦးစကား

မြန်မာနိုင်ငံသာဘာပြန်စာပေအသင်းကို ၁၉၄၇ ခု ဩဂုတ်လ ၂၆ ရက်နေ့တွင်တည်ထောင်ခဲ့၍ ၁၉၄၈ ခု ဩဂုတ်လသို့ ရောက်သောအခါ၊ မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း၏ဥက္ကဋ္ဌ ဝန်ကြီးချုပ်ဦးနုသည် အခြားသောတိုင်းကြီးပြည်ကြီး များနည်းတူ၊ မြန်မာနိုင်ငံ၌လည်း စွယ်စုံကျမ်းတစောင်တဖွဲ့ရှိသင့်သည်ဟုသဘောရရှိသည့်အတိုင်း၊ မြန်မာ့စွယ်စုံကျမ်းကို အားသွန်ပြုစုရန် ညွှန်ကြားခဲ့လေသည်။ စွယ်စုံကျမ်းကို အလျင်အမြန်ပြီးမြောက်စေလိုသည့်အတွက် ပဌမ၌ တိုက်ရိုက် ဘာသာပြန်ဆိုရန်စီစဉ်ခဲ့၏။ သို့သော်သက်ဆိုင်ရာစွယ်စုံကျမ်းမူပိုင်ရှင်များနှင့် စကားကမ်းလှမ်းရာ၌ အကြောင်းမညီညွတ် သဖြင့် တိုက်ရိုက်ဘာသာပြန်ဆိုမှုကို လက်လျှော့လိုက်ပြီးလျှင်၊ ၁၉၄၉ ခု ဖေဖွာရီလတွင်မှ ပြည်ထောင်စုမြန်မာနိုင်ငံ တော်နှင့် ဆီလျော်အောင် ဤစွယ်စုံကျမ်းကိုပြုစုဖန်တီးရလေသည်။

စွယ်စုံကျမ်းဟူသည်မှာ ကမ္ဘာ့ပေါ်ရှိပညာရပ်များကိုသိနားလည်ရေး၊ တတ်မြောက်ရေး၊ ဗဟုသုတကြွယ်ဝကုံလုံရေး၊ အသုံးချရေးတို့ကို ထိုင်ရာမထ ရရှိနိုင်ရန် ပြုစုမြဲဖြစ်သည်။ သို့ဖြစ်ရကား မြန်မာ့စွယ်စုံကျမ်းကိုလည်း အခြားတိုင်းပြည်များ မှစွယ်စုံကျမ်းများနှင့် ယှဉ်ပေါင်တန်းလိုက်နိုင်စေရန်၊ မြန်မာနိုင်ငံမှအကြောင်းရပ်များကိုပါ ပြည့်ပြည့်ဝဝထည့်သွင်းပြုစု ထားလေသည်။ မြန်မာနိုင်ငံ၏လူဦးရေမှာ ၁၈ သန်းကျော်မျှရှိ၍ ရှင်လူအများ ကျား၊ မ၊ ကြီး၊ ငယ် ပါဝင်သောပြည် ထောင်စုသားတို့အား ကမ္ဘာ့အမွေအနှစ်ဖြစ်သော ပညာရပ်များနှင့်ယဉ်ကျေးမှုအဖြာဖြာကို သိရှိ နားလည်စေလိုသော မနောပဏိဓိဖြင့်၊ ဤစွယ်စုံကျမ်းကိုကြိုးပမ်းပြုစုထားပေသည်။ ပညာရပ်များတွင်လည်း ဝိဇ္ဇာနှင့်သိပ္ပံဟူ၍ နှစ်မျိုးနှစ်စား အကြမ်းလျာထားနိုင်ရာ၊ မြန်မာနိုင်ငံတော်လူထုအား အထူးသဖြင့် သိပ္ပံပညာရပ်များကို အနည်းနှင့်အများ ထမင်းစား ရေသောက် သိနားလည်စေလိုသည်။ ထိုမှတဆင့်အထက်တန်းပညာရပ်များကို လက်လှမ်းဆွတ်ခူးစေလိုသည်။ ထိုသို့ ဖြစ်နိုင်ရန်အတွက် အခက်အခဲအမျိုးမျိုးတို့ကိုတွန်းလှန်ကာ မဖြစ်မနေဇွဲသတ္တိဖြင့် မြန်မာ့စွယ်စုံကျမ်းကိုဖန်တီးခဲ့လေသည်။

ဤမြန်မာ့စွယ်စုံကျမ်းသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရှိ လူတိုင်းအတွက်ဖြစ်ပေသည်။ မိဖနှင့်သားသမီး၊ ဆရာနှင့်တပည့်၊ ညီနှင့်အစ်ကို၊ မောင်နှင့်နှမ၊ အသိနှင့်မိတ်ဆွေတို့ သိလိုသည့်အကြောင်းရပ်များကို လွယ်လင့်တကူ သိရှိ စေနိုင်မည့်စာအုပ်ဖြစ်ပေသည်။ မြန်မာ့စွယ်စုံကျမ်းသည် စာသင်ကျောင်းတိုင်း၊ စာကြည့်တိုက်တိုင်း၊ အလုပ်တိုက်တိုင်း၊ နေအိမ်တိုင်းအတွက် ကျက်သရေဆောင်တခုလည်းဖြစ်ပေသည်။

ဤစွယ်စုံကျမ်းကိုပြုစုဖန်တီးရာ၌ အနောက်နိုင်ငံစွယ်စုံကျမ်းများကိုမှီးလျက် ကမ္ဘာ့ပညာအရပ်ရပ်မှ ပြည်ထောင်စုသား များ အများဆုံး အသုံးပြုနိုင်မည့်အကြောင်းရပ်များကို အဓိကထားကာ အထပ်ထပ် စစ်ဆေး ရွေးချယ် ထားပေသည်။ အကြောင်းရပ်တိုင်းကိုစာအုပ်စာတမ်းအမျိုးမျိုးနှင့် အကြိမ်ကြိမ်ညှိနှိုင်းတည်းဖြတ်၍ ပညာရပ်အလိုက် သက်ဆိုင်ရာ ပညာ ရှင်များနှင့် အစိုးရဌာနများသို့တင်ပြခဲ့လေသည်။ ဤစွယ်စုံကျမ်းကိုရေးသားရာ၌ စာဖတ်တတ်သူတိုင်း နားလည်လွယ် အောင်ပြုပြင်စီမံထားသည့်အပြင်၊ မှန်ကန်တိကျ၍ ခေတ်မှီပြီးလျှင် အချက်အလက်များစုံလင်နိုင်ရန် ကြိုးပမ်းခဲ့လေသည်။ အချို့သောအကြောင်းရပ်များကို သက်ဆိုင်ရာပညာရှင်များကိုယ်တိုင် ရှာဖွေစုဆောင်းရေးသားပေးပို့သည်ဖြစ်ရာ ထို အကြောင်းရပ်များ၏အဆုံးတွင် ယိုင်းပင်းကူညီသောပညာရှင်၏အမည်ကို ဖေါ်ပြထားသည်။

မြန်မာ့စွယ်စုံကျမ်းကို ရုပ်ပြစွယ်စုံဖြစ်စေရန် ရည်သန်လျက်၊ စာမျက်နှာတိုင်း၌လိုပင် ဓါတ်ပုံ၊ ရုပ်ပုံ၊ မြေပုံများဖြင့် တန်ဆာဆင်ထားသည်။ ထိုသို့ပြုပြင်ဖန်တီးရသည်မှာ ရုပ်ပုံကောင်းတခုသည် စာလုံးတသောင်းနှင့်ညီမျှသည်ဟု ပညာရှင်များမိန့်ဆိုသည့်အတိုင်း လူကြီး၊ လူငယ်၊ ကျား၊ မ မဟူ စာသားထက်ရုပ်ပုံမြေပုံများ၌ စိတ်ပါဝင်စားတတ်ကြသည့်အတွက်ဖြစ်ပေသည်။ ဓါတ်ပုံရုပ်ပုံများရရှိရန် အနောက်နိုင်ငံများမှပင် မှာယူစုဆောင်းရသည်။ မြေပုံများကို တိကျမှန်ကန်စေရန် အကြိမ်ကြိမ်အထပ်ထပ်စစ်ဆေးရသည်။ အကြည့်ရလွယ်သလောက် အပင်ပန်းခံလျက် လက်ဝင်စွာဆောင်ရွက်ခဲ့ရသည်။

မြန်မာ့စွယ်စုံကျမ်းတွင် မြန်မာနိုင်ငံမှအကြောင်းရပ်များအပါအဝင် အကြောင်းရပ်ပေါင်း ၄၀၀၀ ခန့်ပါရှိ၍ စွယ်စုံကျမ်းတတွဲလျှင် စာမျက်နှာ ၅၀၀ ခန့်စီဖြင့် စီစဉ်ထားသည်။ မြန်မာ့စွယ်စုံကျမ်းသည် လွတ်လပ်သောပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ကျက်သရေဆောင်တခုဖြစ်သည့်အလျောက်၊ သေသပ်ကောင်းမွန်၍ ထာဝရအသုံးပြုနိုင်ရန်ရည်စူးသဖြင့် ငွေကုန်ကြေးကျခံကာအင်္ဂလန်ပြည်တွင်ပုံနှိပ်ပေသည်။ ယခုထုတ်ဝေဖြန့်ချိအပ်သော မြန်မာ့စွယ်စုံကျမ်းမှာ တကြိမ်တခါဘူးမျှ မြန်မာနိုင်ငံတော်အတွင်း မပေါ်ပေါက်ခဲ့သေးရကား၊ စတင်ကြံစည်ပြုလုပ်သည်မှ ၄ နှစ်ကျော် ၅ နှစ်အတွင်း၌ အခက်အခဲမြောက်မြားစွာကို ကျော်လွှန်ဆောင်ရွက်နိုင်သည်မှာ ပြည်ထောင်စုသားများအတွက် အထူးဂုဏ်ယူစရာဖြစ်ပေသည်။ သို့ရာတွင်ဤစွယ်စုံကျမ်းသည် မြေစမ်းခရမ်းပျိုးသည့်အလား၊ ဦးဦးဖျားဖျား စွန့်စားဆောင်ရွက်ရသည့်အတိုင်း သဲလဲစင်ကောင်းမွန်ပြီဟု မဆိုနိုင်ချေ။ အမှားအယွင်းမရှိရအောင် ကြိမ်ဖန်များစွာစစ်ဆေးသည့်အကြားမှ ချွတ်ယွင်းချက်အနည်းငယ်ပါဝင်ခဲ့ချေသော်၊ မြန်မာနိုင်ငံဘာသာပြန်စာပေအသင်းသို့ အကြံပေးချက်များကိုချီးမြှင့်ပါက ကျေးဇူးတင်ရှိပါမည်။

ဤမြန်မာ့စွယ်စုံကျမ်းကို စတင်ကြံစည်စိတ်ကူးမိလျက် မြားမြောင်လှစွာသော နိုင်ငံဝန်ကိုထမ်းဆောင်နေသည့်အကြားမှ အကြံအား၊ ဉာဏ်အား၊ စိတ်ဓါတ်အားဖြင့် အမြဲမပြတ်နှိုးဆော်သတိပေးကူညီသော မြန်မာနိုင်ငံဘာသာပြန်စာပေအသင်းဥက္ကဋ္ဌ (ပြည်ထောင်စုမြန်မာနိုင်ငံတော်ဝန်ကြီးချုပ်) ဦးနုအား အထူးကျေးဇူးတင်အပ်လှပေသည်။ ထို့ပြင်ငွေရေးကြေးရေးတွင် လိုလေသေးမရှိအောင် ထောက်ပံ့ကူမသော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအားရင်း၊ အကြောင်းရပ်များ မှန်ကန်တိကျ၍ ခေတ်မှီပြီးလျှင် ပြည့်စုံဝေရန် ကူညီယိုင်းပင်းသော အစိုးရဌာနများအားရင်း၊ အချိန်ကုန်လူပန်းခံကာ အဖက်ဖက်ကဖြည့်စွက်ပေးသော မြန်မာ့စွယ်စုံကျမ်းစီစဉ်ရေးအဖွဲ့ဝင်များအားရင်း၊ အသံလှယ်နှင့်ဝေါဟာရများစံနစ်တကျရှိစေရန် ကူညီအားပေးသောသုခမိန်အဖွဲ့ ကြီး၊ ငယ်များအားရင်း၊ မြန်မာနိုင်ငံအကြောင်းရပ်များ ပြည့်စုံလုံလောက်မှန်ကန်စေရန် ကူညီစောင်မသော ပညာရှင်အသီးသီးတို့အားရင်း၊ ၄ နှစ်ကျော် ၅ နှစ်မျှ ကိုယ်စိတ်အပင်ပန်းခံကာ အခက်အခဲများကိုတွန်းလှန်ဖယ်ရှားလျက် စိတ်အားထက်သန်စွာ ပြုစုပြင်ဆင်သော စာတည်း၊ စာပြု၊ အသင်းဝန်ထမ်းအသစ်၊ အဟောင်းများအားရင်း၊ စွယ်စုံကျမ်းပုံနှိပ်ရာ၌ စိတ်ရောကိုယ်ပါ ဝင်ရောက်ကူညီသော တီ၊ စီ၊ အေပုံနှိပ်ပါရဂူ မစ္စတာကယ်လဗင်၊ စီ၊ ဟယ်ရင်တန်အားရင်း၊ ကျေးဇူးဥပကာရတင်ရှိကြောင်း မှတ်တမ်းတင်အပ်ပါသတည်း။

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထိုမျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင် ၁း ခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းဖြေရန် နည်းများလည်း ရရှိပေအံ့။

## အပျင်းပြေမှုပုံဝတ္ထု



## ထင်ပေါ်ကျော်ကြားပုဂ္ဂိုလ်များ



## လောကီထူးပွတ်လူတို့ဇာတ်



## သစ်ပင်ပန်းမာလ်တိရစ္ဆာန်



## တမြေရပ်ခြားဒေသများ



## တိကျသိအပ်အရပ်ရပ်



## သုခုမဝင်ကြောင်းစုံလင်



## လုပ်ငန်းဆောင်တာအဖြာဖြာ



## သိပ္ပံအံ့ဖွယ်အသွယ်သွယ်



## ပြည်တော်သာရန်အခြေခံ

# ဗဟုသုတ စစ်တမ်း

ဤကျမ်းတွင်များစွာသောပြဿနာတို့ကိုဖြေရှင်းထားပေသည်။ စာရှုသူသည်မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေမည်မျှကြွယ်ဝနေပြီကိုမှတ်ကျောက်တင်ကြည့်ရန်အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင်ပြန်လည်ပတ်ရှုလေ့လာရန်တိုက်တွန်းရပေသည်။

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာအသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ် အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစတို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကိုမလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကိုသိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှါ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါအကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်းမဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များအတွက်သာလျှင် မေးခွန်းများကိုရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြားကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်း ဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့၎င်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာလေ့လာစေလိုသောအခါတွင်၎င်း၊ (....................... — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်းမရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့်အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (....................... — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ်လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက်အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကို၎င်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကို၎င်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင်မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

## ဤကျမ်းပါအကြောင်းရပ်များကိုအောက်ပါအက္ခရာစဉ်အတိုင်းစီစဉ်ထားသည်

| | | |
|---|---|---|
| ၁။ | အ | |
| ၂။ | အာ | |
| ၃။ | အား | |
| ၄။ | အိ | |
| ၅။ | အီ | |
| ၆။ | အီး | |
| ၇။ | အု | |
| ၈။ | အူ | |
| ၉။ | အူး | |
| ၁၀။ | အေ့ | |
| ၁၁။ | အေ | |
| ၁၂။ | အေး | |
| ၁၃။ | အဲ့ | နောက်ပစ် နှင့် ယသတ် |
| ၁၄။ | အယ် | |
| ၁၅။ | အဲ | |
| ၁၆။ | အော့ | |
| ၁၇။ | အော် | |
| ၁၈။ | အော | |
| ၁၉။ | အို့ | |
| ၂၀။ | အို | |
| ၂၁။ | အိုး | |
| ၂၂။ | အက် | ကသတ် |
| ၂၃။ | အောက် | |
| ၂၄။ | အိုက် | |
| ၂၅။ | အင့် | ငသတ် |
| ၂၆။ | အင် | |
| ၂၇။ | အင်း | |

| | | |
|---|---|---|
| ၂၈။ | အောင့် | ငသတ် |
| ၂၉။ | အောင် | |
| ၃၀။ | အောင်း | |
| ၃၁။ | အိုင့် | |
| ၃၂။ | အိုင် | |
| ၃၃။ | အိုင်း | |
| ၃၄။ | အစ် | စသတ် |
| ၃၅။ | အည့် | ညကြီးသတ် |
| ၃၆။ | အည် | |
| ၃၇။ | အည်း | |
| ၃၈။ | အဉ့် | ဉကလေးသတ် |
| ၃၉။ | အဉ် | |
| ၄၀။ | အဉ်း | |
| ၄၁။ | အတ် | တသတ် |
| ၄၂။ | အိတ် | |
| ၄၃။ | အုတ် | |
| ၄၄။ | အန့် | နသတ် |
| ၄၅။ | အန် | |
| ၄၆။ | အန်း | |
| ၄၇။ | အိန့် | |
| ၄၈။ | အိန် | |
| ၄၉။ | အိန်း | |
| ၅၀။ | အုန့် | |
| ၅၁။ | အုန် | |
| ၅၂။ | အုန်း | |
| ၅၃။ | အပ် | ပသတ် |
| ၅၄။ | အိပ် | |
| ၅၅။ | အုပ် | |

| | | |
|---|---|---|
| ၅၆။ | အမ့် | သေးသေးတင် နှင့် မသတ် |
| ၅၇။ | အမ် | |
| ၅၈။ | အမ်း | |
| ၅၉။ | အိမ့် | |
| ၆၀။ | အိမ် | |
| ၆၁။ | အိမ်း | |
| ၆၂။ | အုမ့် | |
| ၆၃။ | အုမ် | |
| ၆၄။ | အုမ်း | |
| ၆၅။ | ျ | ယပင့် |
| ၆၆။ | ြ | ရရစ် |
| ၆၇။ | ွ | ဝဆွဲ |
| ၆၈။ | ှ | ဟထိုး |
| ၆၉။ | ျွ | ယ ပင့် ဝဆွဲ |
| ၇၀။ | ြွ | ရ ရစ် ဝဆွဲ |
| ၇၁။ | ျှ | ယပင့် ဟထိုး |
| ၇၂။ | ြှ | ရရစ် ဟထိုး |
| ၇၃။ | ွှ | ဝဆွဲ ဟထိုး |
| ၇၄။ | ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ | ြွှ | ရရစ်ဝဆွဲဟထိုး |

## ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓါတ်ပုံစသည်ဖြင့်ဝေဆာစွာမွမ်းမံရန်ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်း နိုင်ငံပမှအကူအညီများ ရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန် မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှရင်း၊ နယူးယော့မြို့အီဝင်ဂယ်လိုဝေမှရင်း၊ ဓါတ်ပုံများဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက်စွယ်စုံကျမ်းနှင့် ထိုက်တန်သည့်ရုပ်ပုံ၊ ဓါတ်ပုံ၊ မြေပုံစသည် တို့ကိုအောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှရရှိပါ၍ကျေးဇူးအထူးတင်ပါကြောင်း။

ဌာနများ။ ။ကချင် ပြည်နယ် အစိုးရ၊ ရန်ကုန်မြို့။ ကယားပြည်နယ်အစိုးရ၊ ရန်ကုန်မြို့။ ကရင်ပြည်နယ်အစိုးရ၊ ရန်ကုန်မြို့။ ချင်းရေးရာဝန်ကြီးဌာန၊ ရန်ကုန်မြို့။ ဆည်မြောင်းဌာန၊ ရန်ကုန်မြို့။ သစ်တောဌာန၊ ရန်ကုန်မြို့။ အစိုးရရုပ်ရှင်နှင့်ပြဇာတ်ဌာန၊ ရန်ကုန်မြို့။ အစိုးရမြေတိုင်းဌာန၊ ရန်ကုန်မြို့။ အစိုးရစိုက်ပျိုးရေးဌာန၊ ရန်ကုန်မြို့။

ပညာရှင်များ။ ဦးကျော်ဆွေ၊ ရန်ကုန်မြို့။ ဦးခင်မောင်တင်၊ ရန်ကုန်မြို့။ ခန့်ခန့်ကြီးဓါတ်ပုံတိုက်၊ ရန်ကုန်မြို့။ ဦးစိုးလွင်၊ တောင်တွင်းကြီးမြို့။ ဦးထွန်းကြိုင်၊ မြိတ်မြို့။ ဦးထွန်းရည်၊ ရန်ကုန်မြို့။ ဦးထွန်းအောင်၊ မန္တလေးမြို့။ ဒဂုန် ခင်ခင်လေး၊ ရန်ကုန်မြို့။ ဒုဗိုလ်မှူးကြီးဘရှင်၊ ရန်ကုန်မြို့။ ဦးဘခင်၊ ပျဉ်းမနားမြို့။ ဦးဘသောင်၊ စစ်ကိုင်းမြို့။ ဦးဘသစ်၊ သံတွဲမြို့။ ဦးဘအောင်၊ မော်လမြိုင်မြို့။ ဦးဘအုန်း၊ ရန်ကုန်မြို့။ ဦးမောင်မောင်ကလေး၊ ရန်ကုန်မြို့။ ဦးမောင်မောင်ကလေး၊ ရွှေကျင်မြို့။ ဦးမျိုးမြင့်၊ ရန်ကုန်မြို့။ ဦးလှရွှေ၊ ရန်ကုန်မြို့။ သခင်ခင်မောင်ဦး၊ တောင်တွင်းကြီးမြို့။ ဦးသူတော်၊ ရန်ကုန်မြို့။ ဦးသောဘိတ၊ စစ်ကိုင်းမြို့။ ဦးသက်တင်၊ ပဲခူးမြို့။ ဦးသောင်း၊ ရန်ကုန်မြို့။ အတွတ်၊ ရန်ကုန်မြို့။ ဦးအုန်းဖေ၊ ရန်ကုန်မြို့။



မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း ၁၉၅၄ ခုနှစ်အုပ်ချုပ်ရေးကောင်စီ

ရပ်နေသူများ။ ဦးစံထွား (အုပ်ချုပ်မှုအတွင်းရေးမှူး)။ ဦးဘ။ ဦးခင်ဇော်။ ဦးမျိုးမင်း။ ဦးသိန်းဟန်။ ဦးကောင်း။ ဦးဝန်။ ဦးသန့်။

ထိုင်နေသူများ။ ဒေါက်တာထင်အောင်။ ပညာရေးဝန်ကြီးဦးသန်းအောင်။ အငြိမ်းစားတရားဝန်ကြီးချုပ်ဆာမြဘူး (ဒုတိယဥက္ကဋ္ဌ)။ ဝန်ကြီးချုပ်ဦးနု (ဥက္ကဋ္ဌ)။ ဘဏ္ဍာရေးဝန်ကြီးဦးတင်။ လွှတ်တော်ချုပ်တရားဝန်ကြီးဦးအေးမောင်။ ဦးချို။

မကြွရောက်နိုင်သူများ။ ဦးချန်ထွန်း။ ဦးသက်စု။



မြန်မာဗျည်း ၃၃ လုံးတွင် က သည် အစအက္ခရာဖြစ်သည်။ က၊ခ၊ဂ၊ဃ၊င ဟူသော က ဝဂ်တွင်ပါဝင်၍ က အသံ၏ဖြစ်ရာဌာနမှာ ကဏ္ဌဌာန် လည်ချောင်းအရပ်ဖြစ်သည်။ အက္ခရာ၏အရွယ်ကိုလိုက်၍ ‘ ကကြီး ’ ဟု အမည်တွင်သည်။ က၊ဃ၊ဏ၊ဌ ဟူသော ကြီးလေးကြီး တွင် ပါဝင်သည်။ က အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ┼ ဖြစ်သည်။ ဗြာဟ္မီ ┼ မှ ကုသန ┼ ဂုတ္တ ပလ္လဝ သို့အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ပုဂံကျောက်စာများတွင် နှင့်ပေစာများတွင် ဟု ရေးသားသည်ကိုတွေ့ရသည်။ ကြက်ခြေသဏ္ဌာန်ရှိသောဗြာဟ္မီအရေးအသား ┼ တွင် ကန့်လန့်ဖြတ်မျဉ်းသည် တဖြည်းဖြည်း အောက်ဖက်သို့ကုပ်လာသည်။ ထောင်လိုက်မျဉ်းသည် ဦးခေါင်းပျောက်သည်အထိ တစတစ တို၍လာသည်။ ဤသို့ဖြင့်ယခုခေတ်မြန်မာ က အက္ခရာ ပေါ် ထွန်းလာသည်ကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။



**ကကတစ်**။ ။ကကတစ်သည် မြန်မာနိုင်ငံ ကမ်းရိုးတလျှောက်၌တွေ့ရသော အရေးကြီးသည့် စားငါးတမျိုးဖြစ်၍ လူသိများသည်။ ဤငါးသည် ပါဏဗေဒ အလိုအရ င တောက်တူ၊ကသမြင်း၊ငစင်စပ် စသည်တို့နှင့်အတူ ‘ ပါစီဒို ’ မျိုးရင်းတွင်ပါဝင်သည်။ ကကတစ်၏ကိုယ်သည် ပြား၍ အနည်းငယ်ရှည် လျား သည်။ နှာတံတို၍ အောက်မေးရှေ့သို့ငေါ်ထွက်နေသည်။ ခေါင်း၏ဘေးတဖက်တချက်တွင် ကြီးမားသော မျက်လုံးနှစ်လုံးရှိသည်။ ကျောဆူးတောင်နှစ်ခုပါ၍ ရှေ့ဆူးတောင်တွင် မာကျောသောဆူးရိုးများပါရှိသည်။ အမြီးမှာ ထိပ်ဝိုင်းမျိုးဖြစ်၏။ အကြေးများမှာ မကြီးမငယ်ဖြစ်၍ အနားကြမ်းအကြေးမျိုးဖြစ်သည်။ ဤငါး၏ အရောင်မှာ မွဲပြာရောင် ဖြစ်၍၊ ကျောပိုင်းတွင် အစိမ်းရောင် ဝမ်းပိုက် တလျှောက် တွင် အဖြူရောင် သန်းနေသည်။ ကကတစ်သည် သာမန်အားဖြင့် တပေခွဲသာသာရှိသော်လည်း၊တခါတရံ အရှည် ၅ ပေ အလေးချိန် ၅၅ ပိသာခန့်အထိ ရှိနိုင်သည်။ ဤငါး၏စည်ပေါင်းများမှ အတော်အသင့် ကောင်းမွန်သော ငါးစည်ပေါင်းကော်ကို ပြုလုပ်ရရှိနိုင်သည်ဟုသိရသည်။

**ကကုသန်မြတ်စွာဘုရား**။ ။ဘုရားငါးဆူပွင့်ရာ ဤဘဒ္ဒကမ္ဘာ အတွင်း ပွင့်တော်မူခဲ့ပြီး ဘုရားလေးဆူအနက် ပဌမဆုံးပွင့်တော်မူသော ဘုရားရှင်ဖြစ်သည်။

ခေမပြည်မှအဂ္ဂိဒတ္တပုဏ္ဏားနှင့် ဝိသာခါပုဏ္ဏေးမတို့၏သားဖြစ်၏။ အရွယ်ရောက်သော် သင့်မြတ်သောသတို့သမီးနှင့် လက်ထပ်ထိမ်းမြား၏။ သားတော်ဥတ္တရကို ဖွားမြင်ပြီးနောက် လောကီစည်းစိမ်ကိုစွန့်ပယ်ကာ တောထွက်တော်မူသည်။ ရှစ်လကြာမျှ ဒုက္ကရစရိယာကျင့်တော်မူပြီးနောက် ကုက္ကိုပေါမ်ပင်ရင်းဝယ်သဗ္ဗညုတဉာဏ်တော်ကိုရ၍ ဘုရားဖြစ်တော်မူသည်။ ထိုမြတ်စွာဘုရား၏ အဂ္ဂသာဝကတပည့်နှစ်ပါးကား ရှင်ဝိဓူရနှင့် ရှင်သိဉ္ဇီဝတို့ဖြစ်သည်။ အလုပ်အကျွေး(တပည့်)ကားရှင်ဗုဒ္ဓိဇောဖြစ်သည်။

ထိုမြတ်စွာဘုရား၏ဉာဏ်တော်အမြင့်သည် အတောင်လေးဆယ်ဖြစ်၏။ သက်တော် အနှစ်သုံးသောင်းနှစ်ထောင်တွင် ခေမာရုံ၌ ပရိနိဗ္ဗာန်ပြုတော်မူရာ၊ ကြွင်းသောဓါတ်တော်အစုကိုဌပနာ၍ တဂါဝုတ် မြင့်သော စေတီ တော်ကို တည်ထား ကိုး ကွယ်ကြသည်။ ထိုအခါ လူတို့၏အသက်တမ်းမှာ ၄ သောင်းဖြစ်၏။



လူသိများသည့် ကကတစ်

**ကကူရံ**။ ။ကကူရံသည် ပင်လယ်ငါးမျိုးဖြစ်၍ ရခိုင်ပြည်ဖက်တွင် လက်ခွာဟုရင်း၊ ထားဝယ်ဖက်၌ ကွဲယင်ဟုရင်း တွင်သည်။ နိုင်ငံခြားတွင်မူ အိန္ဒိယဆာမန်ဟု ခေါ်လေ့ရှိကြသည်။ ပါဏဗေဒ အလိုအရ ကကူရံသည် ငပုဏ္ဏားနှင့်အတူ ‘ ပေါ်လီနီမီဒို ’ မျိုးရင်းတွင်ပါဝင်၍၊ ဤငါးနှစ်မျိုးလုံးပင် မြန်မာနိုင်ငံ၌ လူကြိုက်များသဖြင့် အရောင်းရတွင် ကျယ်လေသည်။

ကကူရံသည်ခြောက်ပေကျော်ကျော်အထိ ရှည်နိုင်သည်။ နှာယောင်ပွ၍ ဝိုင်းသည်။ မျက်လုံးကြီးသည်။ ပါးစပ်ကြီး၍

ပါးစပ် ပေါက် နက်သည်။ ကျောဆူး တောင် နှစ်ခုပါ၍ ထင်ရှား ပေါ် လွင် သည်။ အမြီးခွ နက် သည်။ အနားကြမ်းမျိုးဖြစ်သည့်အကြေးများမှာ သေးငယ်၍ ထောင်လိုက်ပေါက်သောဆူးတောင်များအထိပင် ဖုံးအုပ်နေတတ်သည်။ ဤငါး၏အရောင်မှာ အစိမ်းနှင့်ငွေရောင် ရောစပ်ထားသောအရောင်မျိုးဖြစ်၍ ကိုယ်နံဘေးနှင့် ဝမ်းပိုက်ပိုင်းတွင် ဖြူဝါရောင်သို့ပြောင်းသွားသည်။ ကျောနှင့်အမြီးဆူးတောင်ထိပ်ဖျားတို့မှာမည်း၍ သေးငယ်သောအမည်းပြောက်ကလေးများပါသည်။ ဝမ်းနှင့်စအိုဆူးတောင်တို့၏အနားတလျှောက်မှာ အဝါနုရောင်သန်းနေ၏။ ပါးဟက်ဖုံးပေါ်တွင် အမည်းကွက်တခုစီပါရှိသည်။ ကကူရုံကိုအဆိပ်အတောက်ကင်းသည်ဆိုကာ လူဖျားလူနာများစားသုံးနိုင်သော ငါးမျိုးစာရင်းတွင် ထည့်သွင်းထားသည်။ ကကူရုံကို မြန်မာနိုင်ငံပင်လယ်မှ အမြောက်အမြားဖမ်းဆီးရမိလေ့ရှိသည့်အတိုင်း၊ လတ်လတ် ရောင်း ချရန် ထက် ပိုလျှံနေ သောငါး များကို ပေပ်ခြောက်များ ငါးခြောက်များပြုလုပ်၍ ရောင်းချစားသောက်လေ့ရှိကြသည်။

**ကကေးအိုပင်။** ။စပိန်လူမျိုးများ အမေရိကတိုက်သို့ဦးစွာရောက်စဉ်က မက္ကဆီကိုနယ်မှတိုင်းရင်းသားတို့သည်ကကေးအိုပင်မှရသော အစေ့မှုန့်ဖြင့် ဖျော်ထားသည့် အရည်ခါးခါးကို သောက်သုံးလျက်ရှိကြောင်းတွေ့ရသည်။ ထိုတိုင်းရင်းသားတို့က ဤအရည်ခါးကို 'ချောကလက်' ဟုခေါ်၍ ကကေး အိုပင် မှ ရကြောင်း ပြောပြသဖြင့် ယနေ့တိုင်ထိုအပင်ကို ကကေး အိုပင် ဟူ၍ရင်း၊ ထိုအပင် ၏အသီးမှရရှိသော အစေ့မှုန့်နှင့် သကြားရောစပ်ထားသည်ကိုချောကလက်ဟူ၍ရင်း၊အမည်တွင်လျက်ရှိပေသည်။ ကာဖီ၊လက်ဖက်ခြောက် တို့ ကဲ့ သို့ လူတို့ သောက် သုံးကြသောကိုကိုးမှုန့်မှာကကေးအိုသီးအစေ့မှုန့်များ ပင်ဖြစ်သည်။ (ကိုကိုး — ရှု။)

ကကေးအိုပင်များ၏ မူလပေါက်ရောက်ရာအရပ်မှာ အမေရိကတိုက်ယဉ်စွန်းတန်းများအတွင်းရှိ ပူပြင်းစွတ်စိုသောဒေသများဖြစ်သည်။ ထိုအရပ်ဒေသမှတဆင့် အာဖရိကတိုက်နှင့် အာရှတိုက်ရှိ ပူပြင်းသောအပိုင်းတို့တွင် ကကေးအိုပင်ကိုစိုက်ပျိုးလာခဲ့ကြသည်။ ယခုအခါတွင် အာဖရိကတိုက်၌ ကကေး အိုပင် ကို အမြောက် အမြား စိုက်ပျိုး လျက်ရှိလေသည်။ကကေးအိုပင်မှာ ဆယ့်နှစ်ရာသီစိမ်းလန်းသောအမြဲစိမ်းပင်ဖြစ်သည်။ အမြင့် ပေ ၂၀ မှပေ ၄၀ အထိရှိ၍ တနှစ်ပတ်လုံး အပွင့်များပွင့်သည်။ ကကေးအိုပင်ကို အခြားအပင် ကြီးများက ကာကွယ် ထားမှသာလျှင် သီး သမျှအသီးတိုင်း အောင်မြင်မည် ဖြစ် သဖြင့်၊ အချို့ ကကေးအိုခြံများတွင် ငှက်ပျောပင်များကို အရိပ်ရစေရန် ရော၍စိုက်ပျိုးတတ်ကြသည်။ ကကေးအိုအပွင့်နှင့် အသီး များသည်



ပင်စည်၌သီးနေသော ကကေးအိုသီးများ။ ထူးခြားသည်မှာကကေးအိုသီးတို့သည် ပင်စည်နှင့်အကိုင်းများတွင် ယခင်ကအရွက်ထွက်ပြီးနေရာများမှ သီးကြ၏။

ပင်စည်မှ ၎င်း၊ အကိုင်း ရင့်ကြီးများမှ၎င်း၊ ထွက်၍ ပွင့်ကြသီးကြသည်။

အသီး များ မှာ သခွား သီး အငယ်စားအရွယ်ရှိ၍ မို့သီးကဲ့သို့ အသီးတောင့်များဖြစ် သည်။ အစပဌမတွင် အသီးများမှာ အရောင်စိမ်းနေ၍ မှည့်လာသည့်အခါ ဝါညစ်ညစ်အရောင်သို့ ပြောင်းသွားသည်။ ကကေးအိုခင်းထဲတွင် အသီးများမှည့်ချိန်သည် အလုပ်အများဆုံးအချိန်ဖြစ်၏။ အသီး မှည့်များကို လိုက်လံ၍ဆွတ်ခူး သူတို့သည် လက်လှမ်း မမှီသော အသီး များ ကို တံချူဖြင့် ချူယူကြသည်။ ကကေးအိုသီးခွံကိုခွာလိုက်လျှင် အရသာချိုသော အတွင်းသား အနှစ်ပျော့ထဲ၌ ကကေးအိုစေ့ပေါင်း ၂၈ စေ့မှ ၅၀ အထိ ရှိတတ်သည်။ ကကေးအိုစေ့များသည် ဗါဒံစေ့အရွယ်ခန့်ဖြစ်သည်။ အနှစ်ဖတ်များတွယ်ကပ်နေသောအစေ့များကို ၃ ရက်ခန့်စုပုံ၍ထားကြ၏။ ဤအတောအတွင်းအစေ့များ ကဇော်ပေါက်လာသဖြင့် အရသာခါးသက်သက် ဖြစ် လာသည်။ ၃ ရက်က ကျော် လွန် လာလျှင် ထိုအစေ့များကို နေပူထဲတွင်ဖြန့်၍ အခြောက်လှန်းကြသည်။

မိုးများလွန်းသောအရပ်ဒေသများ၌မူ ဖိုများတွင် အစေ့များကိုအခြောက်ခံထားကြသည်။ ကိုကိုးသို့မဟုတ်ချောကလက်ပြုလုပ်မည့် စက်ရုံများရှိရာအရပ်သို့ မတင်ပို့မီ ကကေးအိုစေ့များကို ကောင်းစွာခြောက်သွေ့အောင်ပြုလုပ်ရသည်။ ယင်းသို့မပြုလုပ်ခဲ့လျှင် လမ်းခရီးတွင် ကကေးအိုစေ့များမှိုတက် တတ် သည်။ စက်ရုံများ သို့ရောက် သည့်အခါ ထိုအစေ့များကို အမှုန့်ဖြစ်အောင်ကြိတ်၍ ကိုကိုးမှုန့် ချောကလက် စသည်တို့ပြုလုပ်ကြသည်။

စက်ရုံများတွင် ဦးစွာပဌမ ကကေးအိုစေ့ကိုဖုံးထားသောအခွံပါးကို ခွာပစ်လိုက်သည်။ ကကေးအိုစေ့များတွင် လူတို့အတွက် အာဟာရဓါတ်ကို အထူးဖြစ်စေနိုင်သည့် ဆီတမျိုးပါရှိသည်။ ထိုဆီကြောင့် ချောကလက်သည် လူတို့အတွက် အာဟာရနှင့်ပြည့်စုံသည့် အစားအစာတရပ် ဖြစ် တော့သည်။ ထိုဆီ၏ အရောင် မှာ ညိုညစ် ညစ် ဖြစ်သည်။ ချောကလက်တွင် ဤကဲ့သို့အာဟာရဓါတ်ပြည့်စုံစွာပါရှိသဖြင့်၊ စစ်သားများနှင့် ရေသစ်မြေသစ်ရှာဖွေသူများအဖို့ အလွန်အသုံးကျသော အစာတရပ်ဖြစ်ပေသည်။

ယခင် ခေတ်အခါက လူတို့စားသုံးလျက်ရှိသော ချောကလက်မှာ ကကေးအိုစေ့မှရသောအမှုန့်ကို နဂိုအခါးဓါတ်ပျောက်ပြယ် သွားအောင် သကြားကို လိုသမျှရောစပ်၍ပြုလုပ် ထားသည့် အစာမျှသာ ဖြစ်သည်။ သို့သော် ယခုခေတ်တွင် ချိုရင်းစွဲဆီအပြင် ချိုချဉ်ခဲဖွယ်လုပ်သူတို့သည် ချောကလက်တွင် ကိုကိုးဆီအပိုကို ဆောင်း၍ထည့်ကြလေသည်။(ချောကလက် — ရှု။)ထိုကြောင့် အချို့ချောကလက်များမှာ အစာကြေနိုင်ခဲသည်။ ဤကဲ့သို့ချောကလက်လုပ်ငန်းတွင် ကိုကိုးဆီကိုအသုံးများလာသည့်အလျောက်ကိုကိုးမှုန့်လုပ်ငန်းမှာလည်းပိုမို၍ကြီးကျယ်လာတော့ သည်။ အကြောင်းဆိုသော် သာမန်ကိုကိုးမှုန့်တွင် ကိုကိုးဆီများလွန်း သဖြင့် ကိုကိုးဖျော်ရည်၌ ဆီဝေ့နေသည်ကို တွေ့ရပေမည်။ ထိုကြောင့် ချောကလက်ပြုလုပ်ရာ၌လိုမည့် ကိုကိုးဆီအပိုအတွက် ကိုကိုးမှုန့်များမှ ရသမျှဆီကို စက်ဖြင့်တဖန်ကြိတ်ညှစ်ယူကြပြန်သည်။ ယင်းသို့ရရှိသောဆီကို အများအားဖြင့် ချောကလက်ပြုလုပ်ရာ၌ အသုံးချကြသည်။ သို့သော် တိရစ္ဆာန်အစာနှင့် ရေမွှေးကဲ့သို့ အမွှေးအကြိုင်ပစ္စည်းများ ပြုလုပ်ရာ၌လည်း ထိုဆီကိုအသုံးချကြသည်။ ဆေးဖက်နှင့် သက်ဆိုင် သည့် ဆီတမျိုးကိုပင် ထိုကိုကိုးဆီဖြင့်ပြုလုပ်ကြသည်။ လက်ဖက်ခြောက်နှင့်ကာဖီမှုန့်တို့ကဲ့သို့ ကိုကိုးမှုန့်ကို အသုံးများကြ၏။



အတွင်းသားခွဲပြထားသော ကကေးအိုသီး

ကကေး အိုပင် များ ကို ပျိုး ခင်း များ တွင် ပဌမပျိုးထောင်၍စိုက်ရသည်။အပင်သက် ၅ နှစ်ခန့်ရှိမှ အသီးများသီးသည်။ ကကေး အိုပင် အကြီးအကျယ်စိုက်ပျိုးသည့် တိုင်း နိုင်ငံတို့မှာ၊ မက္ကဆီကို၊အက်ကွာဒေါ၊ဗင်နီဇွဲလား၊ ဗရာဇီး၊ကျူးဗါး၊ပွဲတိုရီးကိုး၊ဟေး တီး၊ဒိုမင်နီကန် ရီပတ်ဗလစ်၊ထရင်းနီဒက်၊ဂျမေးကား၊ဂိုးလ်ကို့စ်ပေါ် တူဂီအရှေ့အာဖရိကနယ်နှင့် သီဟိုဠ်ကျွန်းများဖြစ်ကြသည်။



**ကကေးအိုခြံတခြံ၏ တစိတ်တဒေသ**

တောင် အမေရိကတိုက် အက်ကွာဒေါ နိုင်ငံ၌ စိုစွတ်၍ မြေသြဇာကောင်း သည့် ဒေသတွင် ကကေးအိုခြံများကို အထက်ပါအတိုင်း စိုက်ပျိုးထားကြ၏။ မြေသြဇာကောင်းသောကြောင့် အကိုင်းများကို ချိုးစိုက် ရုံဖြင့် လိုသလို ထပ်မံတိုးပွားစေနိုင်ပေသည်။



မြန်မာ့အနုပညာတရပ်ဖြစ်သောဇါတ်သဘင်မှ နှစ်ပါးသွား အက

နှစ်ပါးသွားအခန်းသည် မြန်မာဇါတ်သဘင်တွင် အရေးကြီးသည့်ကဏ္ဍတခုဖြစ်၏။ နိုင်ငံကျော် ဘုရားဒါယကာ ဦးဖိုးစိန်နှင့် ဒုတိယယိုးဒယား မသိန်းမေတို့သည် နှစ်ပါးသွားအကကို ဤသို့ပိုင်နိုင်ယဉ်ကျေးစွာ အသုံးတော်ခံကြသည်။

# ထာဝစဉ်တည်မြဲသည့် သုခုမပညာတရပ်

ယဉ်ကျေးသည်ဖြစ်စေ၊ ရိုင်းစိုင်းသည်ဖြစ်စေ၊ မည်သည့်လူမျိုးတွင်မဆို မိမိတို့၏စိတ်တွင်းသန္တာန်ကို အကဖြင့်ဖော်ပြသည့် ဓလေ့ရှိပေသည်။ ဤအကြောင်းရပ်တွင် ကခုန်ခြင်း၏အဓိပ္ပါယ်၊ လူအမျိုးမျိုးတို့၏ ကပုံကနည်းများနှင့် ကခြင်း၏အကျိုး ကျေးဇူးများကို ဖော်ပြထားသည်။

**ကခုန်ခြင်း။** ။ကခုန်ခြင်းဆိုသည်မှာ ကိုယ်အင်္ဂါအစိတ်အပိုင်းများကို အချက်ကျကျ လှုပ်ရှားခြင်း ဖြစ်၍၊ ထိုသို့လှုပ်ရှားမှုတွင် သဘော၊သရုပ်၊အဓိပ္ပါယ် အမျိုးမျိုး ပါရှိလေသည်။ကခုန်သည့်အခါ တေးသီချင်းများကို သီဆိုပြီးလျှင် လက်ခုပ်လက်ဝါးတီး၍ စည်းချက်လိုက်ပေးရသည်။ သို့မဟုတ် တူရိယာဂီတများ တီးမှုတ်ပေးရသည်။ အချို့သော ရှေးခေတ်အကအခုန် တို့တွင် ခေါင်း၊ ခြေထောက်၊ ကျော၊ခါး၊လက်မောင်း၊လက်ချောင်းစသည့် ကိုယ်အင်္ဂါ အစိတ်အပိုင်းအားလုံးကို လှုပ်ရှား၍ တပင်တပန်း လိမ်ကောက်ခုန်ပေါက် ကကြရ၏။ အချို့သော အကများတွင်ကား ခြေလက်များကို လှုပ်သည်ဆိုရုံမျှ လှုပ်ရလေသည်။ ရှေးခေတ် ကခုန်ခြင်းတို့တွင် ကြည့်သူနှစ်သက်မှုရရန်ထက် ကသူပျော်ရွှင်ကျေနပ်မှုရရန်မှာ အဓိကအချက်ပင်ဖြစ်၏။

တွဲဖက်၍ကခြင်းအလေ့သည် အနောက် နိုင် ငံများတွင် ပို၍ခေတ်စားလာရကား ကခုန်ခြင်းသည် ဖိုမဆက်ဆံရေးနှင့်သာ လုံးဝဆက်သွယ်နေသည်ဟု အချို့က ထင်မြင်ကြ၏။ ထိုထင်မြင်ချက် မှားယွင်းကြောင်းကို ကမ္ဘာပေါ်ရှိ လူမျိုးအသီးသီးတို့၏ ကခုန်မှုဓလေ့ထုံးစံများကိုလေ့လာခြင်းဖြင့် သိရှိနိုင်သည်။ အကအခုန် ဟူသရွေ့တွင် ဖိုမဆက်ဆံရေးသဘောဖြစ်သော ကာမဂုဏ်အာရုံစိတ် လှုံ့ဆော်မှုများမကင်းသော်လည်း ထိုလှုံ့ဆော်မှုမှာ အကြောင်းရင်းမဟုတ်၊ အဆွယ်အပွားအခြင်းအရာ တရပ်သာလျှင်ဖြစ်ချေသည်။ သာဓကပြရသော် မင်းသား မင်းသမီး နှစ်ပါးသွားအကများတွင်ဖိုမဆက်ဆံရေးသဘောများ သက်ဝင်ပါရှိသော်လည်း အဓိကအားဖြင့် ကြည့်သူ ကသူ နှစ်ဖက်သောလူတို့ စိတ်ပေါ့ပါးရွှင်မြူးခြင်း အတွင်းသန္တာန်ကို ပေါ်လွင်စေသော အမူအရာတရပ်ပင်ဖြစ်သည်။

လူတိုင်းလူတိုင်းတွင် ကြီးမားသောဆန္ဒနှစ်ခုရှိရာ၊တခုမှာ ထင်ပေါ်လိုသောဆန္ဒဖြစ်၍ အခြားတခုမှာ လူအများနှင့် ရောနှောဆက်ဆံလိုသော ဆန္ဒဖြစ်သည်။ ကခုန်ခြင်းသည် လူတဦးတယောက်အား ထိုဆန္ဒကြီးနှစ်ခုစလုံးကို တပြိုင်တည်းပြည့်ဝစေနိုင်သည်။ အဘယ်ကြောင့်ဆိုသော် ကခြေသည်တဦးသည် ပရိသတ်ရှေ့တွင် မိမိ၏အစွမ်းကိုပြသခြင်းဖြင့် မိမိကိုယ်ကို ထင်ပေါ်အောင် ပြုလုပ်နိုင်သည့်နည်းတူ၊အများနှင့်ရောနှောခြင်းဖြင့်လည်း ထင်ပေါ်မှုကို ရရှိနိုင်ပေသည်။ တခါတရံ ကိုယ်ထီးအစွမ်းပြမှုသည် ပို၍ပေါ်လွင်တတ်လျက်၊တခါတရံတွင်မူ အများနှင့်ရောနှောဆက်ဆံမှုသည် ပို၍ပေါ်လွင်တတ်လေသည်။ သို့ရာတွင် များသောအားဖြင့် ထိုအချက် နှစ်ရပ်စလုံးပင် ကမှုခုန်မှုတို့၌ အကျုံးဝင်လျက်ရှိသဖြင့်၊ ဆန္ဒကြီး နှစ်ခုစလုံးကို တကြိမ်တည်းနှင့်ပင် ဖြည့်စွမ်းနိုင်သည်သာ ဖြစ်လေသည်။ သို့အားလျော်စွာ လူတို့၏ ဆန္ဒလိုဖတ်ပြည့်ဝမှုကို ပေးစွမ်းသော ကခုန်ခြင်းသည် လူလောကတွင် ရှေးပဝေဏီခေတ်မှစ၍ ယနေ့တိုင်အောင် ခေတ်စားလျက်ရှိနေတော့သည်။

ကခုန်ခြင်းသည် မြူးထူးပျော်ရွှင်မှုကို အရင်းခံထားသည်ဟု ဆိုခဲ့သော်လည်း အချို့သောကခုန်ခြင်း တို့သည် ကာမဂုဏ်အာရုံစိတ်ကို သိသိသာသာ လှုံ့ဆော်ပေး၏။ ယင်းမှာ ဌက်များ၊တိရစ္ဆာန်များတွင် တွေ့မြင်ကြရသည့် အကအခုန်များကိုအတုယူထား ဟန်တူလေသည်။ သာဓကပြရသော် ဩစတြေးလီးယားတိုက်နှင့် နယူးဂင်းနီကျွန်းစပ်



အိန္ဒိယနိုင်ငံအရှေ့ပိုင်းမှ စုံတွဲအကကမျိုး



ကိုယ်ဟန်မူရာဖြင့် သရုပ်ဖေါ်သည့် ဗယ်လေအက



ဗါလီကျွန်းအကတမျိုးမှ သူဇာပျိုနှင့်မိစ္ဆာကောင်



ဆွီဒင်နိုင်ငံ စတော့ဟုမ်းမြို့ရှိ အပန်းဖြေပန်းခြံတခုအတွင်းမှ ယနေ့တိုင်မရိုးနိုင်သော ခေတ်ဟောင်းရှေးရိုးအက

ကြားရှိ တောရက်ရေလက်ကြားမှကျွန်းစုများတွင် ထူးဆန်းသော ရှေးရိုးထုံးစံတခုရှိ၏။ ထိုထုံးစံမှာ မိန်းမပျိုကလေးများသည် လူပျိုတစု ကခုန်နေသည်ကို စောင့်ကြည့်ကြပြီး နောက်၊ မိမိတို့သဘောကျသူကို ရွေးချယ်လျက် ပခုံးကိုလက်နှင့်တို့၍ ခေါ်ယူသွားသောထုံးစံပင်ဖြစ်သည်။

ထိုမျှမကသေး လူတို့သည် တိရစ္ဆာန်များကို အတုယူ၍ ကခုန်ခြင်း ပြုတတ်ကြ၏။ ထိုကဲ့သို့သော အကမျိုးကို မြန်မာဇာတ်ပွဲများတွင် တွေ့မြင်ကြရပေသည်။ တိရစ္ဆာန်ကဲ့သို့ ကရာတွင် မျက်နှာဖုံးများကိုစွပ်၍ ၎င်း၊ ဆိုင်ရာတိရစ္ဆာန်နှင့်တူအောင် ပြုလုပ်ထားသော ကိုယ်ခန္ဓာအတုထဲသို့ဝင်၍



(အပေါ်)
မြန်မာကလေးတစု၏ ပျော်မဆုံးသည့် အိုးစည်ဝိုင်း



(လက်ဝဲ)
စည်းပုံ လည်ကြာ ဒွါဒရာအစုံဖြင့် မြန်မာအမျိုးသမီးကိန္နရာအက

၎င်း၊ ကပြကြ၏။ တခါတရံ တိရစ္ဆာန်နှင့်တူအောင် ပြုလုပ်ရန်ပစ္စည်းမရှိသည့်အခါ အမူအရာနှင့်ပင် တိရစ္ဆာန်နှင့်တူအောင်ပြုလုပ်၍ ကပြကြသေးသည်။ ဘီလူးက၊ မျောက်က၊ ဟင်္သာက၊ လိပ်ပြာက၊ ကိန္နရာက၊ တိုးနရားက၊ စသော အကများမှာ မြန်မာတို့အတွက် တိရစ္ဆာန်များမှ အတုခိုးသည့်အကများဖြစ်ကြသည်။ ဂျားဗါးကျွန်းသူကျွန်းသား များလည်း တိရစ္ဆာန် အတုခိုးသည့် အကများကို ကခုန်လေ့ရှိကြ၏။ တိဗက်နိုင်ငံနှင့် တရုပ်နိုင်ငံများတွင်ကား မကောင်းဆိုးရွားအကများကို ကခုန်တတ်ကြသည်။

အရှေ့တိုင်းအကများသည် အဓိပ္ပါယ်နက်နဲ၍ စိတ်ပါဝင်စားဖွယ်ရာကောင်းလေသည်။ ပျော်ရွှင်မှုအတွက်သာလျှင် မဟုတ်ဘဲ သာသနာရေးအကြောင်းများကို သရုပ်ဖေါ်ကာ ဇာတ်လမ်းဇာတ်အိမ်ဖွဲ့၍ ခင်းကျင်းကပြလေ့ရှိလေသည်။

သာသနာရေးအကများမှ အဆင့်ဆင့် ပြောင်းလဲပေါ်ထွန်းလာသော လူမျိုးဆိုင်ရာအကများသည် အရှေ့တိုင်းများတွင်သာမက အနောက်နိုင်ငံများ၌လည်း တွေ့ရှိနိုင်ပေသည်။ သို့အားဖြင့် ဗိုဟီး



ယိုးဒယားဇါတ်သဘင်ပြခန်းတခန်းမှ ယဉ်မင်းပျိုနှင့်ကိုယက္ခတို့၏ ရှေးမူမပျက်ဟန်ရေးပြစုံတွဲအက



ယိုးဒယားကခြေသည်တဦး၏ တပင်တိုင်အက

အတွင်းသို့ ရောက်ရှိလာခဲ့ရာ၊ယိုးဒယားကခြေသည်များနှင့် ယိုးဒယားအကပညာလည်း ပါဝင်လေသည်။ယခုခေတ်တိုင်အောင် မြန်မာဂီတနှင့်ဇာတ်သဘင်လောကတွင် ခေတ်စားလျက်ရှိသော ယိုးဒယားသီချင်း၊ တီးလုံး၊ တီးကွက်၊ အကစသည်တို့မှာ ယိုးဒယားလူမျိုးများထံမှ ရရှိခဲ့သည့် ယဉ်ကျေးမှုအမွေအနှစ်များပင် ဖြစ်လေသည်။



မြန်မာအရပ်သူကလေးများယိမ်း

မီးယား၊ဟန်ဂေရီ၊ဣတလီ၊စပိန်၊ပိုလန်၊အင်္ဂလန်စသော အနောက်နိုင်ငံများတွင် ရှေးရိုးအကများသည် ကျေးလက်ဒေသများတွင် ယခုတိုင်အောင် ခေတ်စားလျက်ရှိကြ၏။

အနောက်နိုင်ငံများတွင် သရုပ်ဖေါ်အက 'ဗယ်လေ' မှာ ၁၅ ရာစုနှစ်တွင် ပေါ်ပေါက်ခေတ်စားခဲ့သည်။ (ဗယ်လေ — ရှု။) ယခုခေတ်စားလျက်ရှိသော ဝေါ့ဇ်စုံတွဲကနည်းမှာ နပိုလီယန်ဘုရင်လက်ထက်တွင်မှ ထင်ရှားလာခဲ့သည်။ ယခုခေတ်တွင် ကမ္ဘာ့အရပ်ရပ်၌ ခေတ်စားလျက်ရှိသော အနောက်နိုင်ငံစုံတွဲ ကနည်းများမှာ ဖေါ့စထရော့၊ တန်ဂိုရွှမ်းဗါး၊ဂျစ်တာဗတ်စသော ကနည်းများဖြစ်ကြ၏။

နိုင်ငံခြားများမှာကဲ့သို့ပင် မြန်မာအကပညာသည်လည်း ရှေးခေတ်လူတို့၏ သာသနာရေးအကများမှ ပေါ်ပေါက်လာသော သဘင်မှုတရပ် ဖြစ်ပေသည်။ ယဉ်ကျေးမှုနယ်ပယ် ကျယ်ဝန်းလာခဲ့သည်နှင့်အမျှ၊မြန်မာ့ယဉ်ကျေးမှုသည် အနောက်ဖက်ရှိ အိန္ဒိယနိုင်ငံ၏ ယဉ်ကျေးမှုနှင့် ပေါင်းစပ်မိလေသည်။ သို့ရာတွင် မြန်မာ့ယဉ်ကျေးမှု၏ မူရင်းအသွင်အပြင်မှာကား ပျောက်ကွယ်သွားခြင်း မရှိခဲ့ချေ။ မြန်မာအကပညာသည်လည်း မြန်မာပီပီပင် တည်ရှိခဲ့ပေသည်။

၁၆ ရာစုနှစ်အတွင်း စိုးစံခဲ့သော ဘုရင့်နောင်လက်ထက်နှင့် ၁၈ ရာစုနှစ်အတွင်း စိုးစံခဲ့သောအလောင်းဘုရားလက်ထက်တို့တွင်ဖြစ်ပွားခဲ့သော ယိုးဒယား — မြန်မာစစ်ပွဲများကြောင့် ယိုးဒယားယဉ်ကျေးမှုများသည် မြန်မာနိုင်ငံတော်



မြန်မာကခြေသည်တဦး၏ တပင်တိုင်အက









(အပေါ်)
ဂျပန်အမျိုးသမီးချယ်ရီယိမ်း

(အလယ် — ဝဲ)
ဗါလီကျွန်းသူယိမ်း

(အလယ် — ယာ)
ဇင်းမယ်အမျိုးသမီးယိမ်း

(အောက်)
အမေရိကန်ကျောင်းသူယိမ်း

# မြန်မာနိုင်ငံတော်၏ မြောက်ဖက်တံခါးမ

ရဲရင့်ဖြောင့်မတ်လျက် သစ္စာသုံးသော စစ်သားကောင်းတို့ ထွန်းကားသည့် ကချင်လူမျိုးတို့အတွက် သီးခြားပြည်နယ်ကို မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက် ရက်အနည်းငယ်အတွင်း ထူထောင် လာခဲ့ပေသည်။ ကချင်ပြည်နယ်သည် သဘာဝပစ္စည်းတို့ဖြင့် ပြည့်နှက်လျက်ရှိသည့်အတိုင်း ပြည်ထောင်စုမြန်မာနိုင်ငံ၏ အားထားရာဒေသ ဖြစ်လေသည်။

**ကချင်ပြည်နယ်။** ။မြောက်ဖက် သမပိုင်းဇုန်အတွင်း ပြည်ထောင်စု မြန်မာနိုင်ငံ မြောက်ဖျားတွင် တည်ရှိသော ကချင်ပြည်နယ်မှာ ဧရာဝတီနှင့် ချင်းတွင်းမြစ်ဖျား မြစ်ဝှမ်းဒေသ မြေပြန့်များနှင့် တောတောင် ရောပြွမ်းလျက်ရှိသည့် ပြည်နယ်တခု ဖြစ်သည်။ မြင့်မားညို့မှိုင်းသော တောင်ထွတ် တောင်တန်းကြီးများ၊နက်ရှိုင်း ထူထပ်သော သစ်တောကြီးများ၊ကြည်လင်မြေသောမြစ် ချောင်း များ၊ ရေတံခွန်များ၊အင်းအိုင်ကြီးများနှင့် တန်ဆာဆင်ထားလျက် ရှိပေရာ သဘာဝအားဖြင့် စိမ်းလန်း သာယာလှပေသည်။

မြောက်ဖက် လတ္တီတွဒ် ဒီဂရီ ၂၃°၃၇ နှင့် ၂ဂ°၂၅ အရှေ့ဖက် လောင်ဂျီတွဒ် ဒီဂရီ ၉၆ နှင့် ၉ဂ°၄၇ တို့၏အကြား၊ မြောက်ဖက်နှင့် အရှေ့ဖက်တွင် တရုပ်နိုင်ငံ၊အနောက်ဖက်တွင် ကသာခရိုင်၊အထက်ချင်းတွင်းခရိုင်၊နာဂတောင်တန်းနှင့် အာသံပြည်တို့ ဝန်းရံလျက် တည်ရှိသည်။ပြည်နယ်အတွင်းတွင် မြစ်ကြီးနားခရိုင်နှင့် ဗန်းမော်ခရိုင်တို့ ပါဝင်၍ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၃၉,၉ဝဝ ခန့်ရှိသည်။

## မြေမျက်နှာပြင်နှင့် ရာသီဥတု

ကချင်ပြည်နယ်မှာ ကုန်းမြင့်ဒေသ ဖြစ်သည့်အလျောက် ပင်လယ်ရေပြင်ထက် ပျမ်းမျှ ပေ ၃,ဝဝဝ ခန့်မြင့်သည်။ တနှစ်လျှင် ပျမ်းမျှ မိုးရေချိန် လက်မ ဂဝ ခန့် ရွာသွန်းသည်။ ပြည်နယ်၏ မြောက်ဖက်ပိုင်း မိုးအများဆုံးသော ဒေသများမှာမူ တနှစ်လျှင် လက်မ ၁၆ဝ ထိရွာသွန်းသည်။ အပူဆုံးအချိန်တွင် ဖါရင်ဟိုက် ၉ဂ ဒီဂရီ၊အအေးဆုံးအချိန်တွင် ဖါရင်ဟိုက် ၅၅ ဒီဂရီရှိ၍ ရာသီဥတုမှာ မျှတပေသည်။

ပြည်နယ်၏ မြောက်ဖက်အစွန် ဒေသမှာ ဧရာဝတီမြစ်နှင့် ချင်းတွင်းမြစ်တို့ မြစ်ဖျားခံရာဒေသ ဖြစ်သည်။ အရှေ့ဖက်ပိုင်းတွင် ဧရာဝတီမြစ်၏ လက်တက်များ ဖြစ်ကြသော မေခနှင့်မလိခမြစ် တို့သည်၎င်း၊အနောက်ဖက်တွင် ချင်းတွင်းမြစ်နှင့် ယင်း၏ လက်တက်ဖြစ်သော ဥရုချောင်း သည်၎င်း၊ မြောက်ဖက်မှ တောင်ဖက်သို့ စီးဆင်းလာကြသည်။ နမ်းတပက်ချောင်းနှင့် တပိန်မြစ်တို့သည် အရှေ့ဖက်မှာ မြစ်ဖျားခံ၍ ဧရာဝတီမြစ်ထဲသို့ စီးဝင်ကြသည်။ မိုးကောင်းချောင်းနှင့် ကောက်ကွေ့ချောင်းတို့သည် အနောက်ဖက်မှာ မြစ်ဖျားခံ၍ ဧရာဝတီမြစ်ထဲသို့ စီးဝင်ကြသည်။ ဤ ပြည်နယ်မှာ တောင်ထွတ် တောင်ကမ်းပါးကြီးများ၊လျှိုကြီး မြောင်ကြီးများတို့ဖြင့် ပြည့်နှက်နေရကား၊ကုန်းလမ်းခရီးသွားရန် ခဲယဉ်းလှသော်လည်း အထက်တွင်ဆိုခဲ့သော မြစ်ချောင်းများ၏ အနေအထားတို့ကြောင့် တောင်နှင့် မြောက်သို့၎င်း၊အရှေ့နှင့်အနောက်သို့၎င်း၊ ရေလမ်း ခရီးတွင် လှေငယ်များဖြင့် ကူးလူး ဆက်သွယ်နိုင်ကြသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် အကြီးဆုံးဖြစ်သော အလျား ၁၄ မိုင် အနံ ၇ မိုင်ရှိ အင်းတော်ကြီးအိုင်သည် ဤပြည်နယ်အတွင်း မိုးကောင်းချောင်းဖျားခံရာ၌ ရှိပေသည်။ (အင်းတော်ကြီး—ရှု။) ချင်းတွင်း မြစ်၏ မြစ်ဖျား ခံရာ ဟူးကောင်းမြေပြန့်၊မလိခမြစ်၏ မြစ်ဖျားခံရာ ပူတာအိုမြေပြန့် တို့မှတပါး ပြည်နယ်၏ ကျန်ဒေသတို့မှာ တောင်ထူထပ်လျက်ရှိ၏။ အထူးသဖြင့် မေခနှင့်မလိခ မြစ် ၂ သွယ်စပ်ကြားရှိ တြိဂံနယ်မှာ မြင့်မားလှသော တောင်တန်းကြီးများ ရှိရကား လူသူ အရောက်အပေါက် နည်းပါးသည်။ လူရှေ့ကျေးလက်တစိတ်တဒေသနှင့်တြိဂံနယ်၊ ဟူးကောင်းတောင်ကြားတို့မှာ လွန်ခဲ့သည့်နှစ်အနည်းငယ်အတွင်းကမှ အုပ်ချုပ်မှုစည်းဝိုင်းတွင်းသို့ ရောက်ရှိလာကြလေသည်။

## လူဦးရေနှင့် လူမျိုးစုများ

၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ ကချင်ပြည်နယ်၏ လူဦးရေမှာ ၄၂ဂ,ဝဝဝ ခန့်ဖြစ်၏။ ပျံ့နှံ့နေထိုင်ပုံမှာ မြစ်ကြီးနားခရိုင်တွင် စတုရန်း တမိုင်လျှင် ၁၄ ယောက်၊ဗန်းမော်ခရိုင်၌ ၂၉ ယောက်မျှစီ ဖြစ်၏။ ပြည်နယ်အတွင်းတွင် ကချင်၊ရှမ်း၊လိုလိုမိုဆို၊မြန်မာ၊မြန်မာတို့၏ ရှေးအနွယ်များ၊ သက်လူမျိုးစုများ နေထိုင်ကြသည်။ ၁၉၄ဂ ခုနှစ် သန်ကောင်စာရင်းများအရ ကချင်အမျိုးသား ဦးရေမှာ ၂၂ဝ,ဝဝဝ ကျော်ရှိကြောင်း သိရသည်။ ကျန်လူမျိုးစုများ၏ ဦးရေကိုမူ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရသာ သိရှိရသည်။ ထိုစာရင်းအရ ရှမ်းအမျိုးသား ၁ဝဝ,ဝဝဝ နီးပါး၊မြန်မာနှင့် အဇီ၊လရှိ၊မာရူးမိုင်းသာ၊ဖွန် စသော မြန်မာတို့၏ ရှေးအနွယ်များ ၇ဝ,ဝဝဝ ကျော်၊လိုလိုမိုဆို ဂ,ဝဝဝ နီးပါး၊သက်အစုဝင်များ ၄,ဝဝဝ မျှ၊တရုပ် ၇,ဝဝဝ မျှရှိခဲ့သည်ဟုသိရ၏။ (ကချင်လူမျိုး — ရှု။)

## သမိုင်းအကျဉ်းချုပ်

ကချင်လူမျိုးတို့မှာ တိဗက်မြန်မာ အနွယ်ဝင်များဖြစ်၍



မြစ်ကြီးနားခရိုင် အင်းတော်ကြီးတွင် ကြည်ညိုဖွယ်ရာဖူးမျှော်ရသော ရွှေမဋ္ဌုစေတီ

မြန်မာတို့နှင့် တနွယ်တည်းမှ ဆင်းသက်လာသူများ ဖြစ်ကြသည်။ တိဗက်မြန်မာ အနွယ်ဝင်တို့သည် မြန်မာနိုင်ငံတွင်းသို့ တသုတ်ပြီးတသုတ် ရွှေပြောင်း ဆင်းသက်လာရာ ၁၁ ရာစုနှစ်အတွင်းခန့်က မြန်မာနိုင်ငံ မြောက်ဖျားအစွန်းသို့ ရောက်ရှိလာကြ၍ ၁၅ ရာစုနှစ်တွင် ပြည်နယ်အတွင်းသို့ ရောက်လာအခြေစိုက်ကြသည်ဟုယူဆဖွယ်ရာရှိသည်။

ပုဂံခေတ်အတွင်းက ကချင်ပြည်နယ်တွင် ပါဝင်သော ဒေသတို့မှာ ပုဂံခေတ် မြန်မာနိုင်ငံအတွင်း ပါဝင်ခဲ့၏။ တားတားတို့ ဝင်ရောက်တိုက်ခိုက်၍ ပုဂံမင်းဆက် ပျက်ပြုန်းသောအခါ ဤပြည်နယ် ဒေသတဝိုက်တွင် မောရှမ်းတို့ ကြီးစိုးခဲ့သည်။ တောင်ငူခေတ်မရောက်မီခေတ်လယ်တလျှောက်လုံး မောရှမ်းတို့မှာ ဤပြည်နယ် ဒေသသာမက၊ အဆက်ဖြစ်သော အနောက်ပိုင်းရှိ ဒေသများကိုလည်း ကြီးစိုးနိုင်ခဲ့သည်။ တခါတရံ တောင်ဖက် မြန်မာနိုင်ငံတွင်းသို့ရင်း၊ အရှေ့ဖက်တရုပ်ပြည်တွင်းသို့ရင်း၊ ဝင်ရောက်တိုက်ခိုက် အာဏာဖြန့်ခဲ့ကြသဖြင့်၊ကြီးကျယ်သော စစ်မှုရေးရာများကို ပေါ်ပေါက်စေခဲ့သည်။ ထိုစဉ်က မောရှမ်းတို့၏ အချက်အခြာ ဒေသမှာ မိုးကောင်းဖြစ်သည်။ ၁၅၃၆ ခုနှစ်လောက်တွင် တောင်ငူမှနေ၍ မြန်မာနိုင်ငံ ပြန်လည်စည်းလုံး ထူထောင်စဉ်က၊ကချင်ပြည်နယ် ဒေသတဝိုက်မှာ မြန်မာနိုင်ငံနှင့် တပူးတပေါင်းတည်း ပြန်လည်ဖြစ်ခဲ့သည်။ ထိုနောက်သော် ကချင်ပြည်နယ် ဒေသမှာ မြန်မာနိုင်ငံအတွင်း တစည်းတရုံးတည်း တည်တံ့ပါဝင်ခဲ့၏။ မြန်မာနိုင်ငံကို ဗြိတိသျှတို့သိမ်း ပြီးနောက် ၁၈၈၅ ခု ဒီဇင်ဘာလပြီး ၂၈ ရက် နေ့တွင် ဗန်းမော်မြို့ကို သိမ်းပိုက်ခဲ့သည်။

ထိုစဉ်က ပြည်နယ်ဒေသအတွင်းရှိ မြန်မာ၊ရှမ်း၊ကချင်တို့ပူးပေါင်းကာ ဗြိတိသျှတို့၏ အုပ်ချုပ်မှုကို ကာလအတန်ကြာ တော်လှန်တိုက်ခိုက်ခဲ့ကြသည်။ ခိုင်မြဲစွာ ဖိနှိပ်အုပ်ချုပ်နိုင်ရေးအတွက် ဗြိတိသျှတို့သည် ၁၈၉၅ ခု ဒီဇင်ဘာလအထိ ၁၀ နှစ်မျှ တိုက်ခိုက်ခဲ့ရသည်။ ထိုနောက်သော် ကချင်လူမျိုးတို့အား နယ်ခြားဒေသအုပ်ချုပ်ရေးစံနစ်အောက်တွင်ထားခဲ့သဖြင့် ပြည်မအုပ်ချုပ်ရေးနှင့် ကွဲပြားခဲ့လေသည်။

ထိုအုပ်ချုပ်ရေးစံနစ်တွင် မြန်မာပြည် ဘုရင်ခံက တိုက်ရိုက်အုပ်ချုပ်၍ အထက်တန်း အရာရှိများကိုမူ အင်္ဂလန်ပြည်ရှိ အိန္ဒိယနိုင်ငံဆိုင်ရာ အတွင်းဝန်က ခန့်အပ်လေသည်။ ကချင်တောင်တန်းဒေသ အပါအဝင် ရှမ်းပြည်မြောက်ပိုင်းဒေသကို ရှမ်းပြည်မြောက်ပိုင်း နယ်ခြားဝန်ထောက်က အုပ်ချုပ်ရလေသည်။ ကချင်တောင်တန်းဒေသ အုပ်ချုပ်ရေးဥပဒေများမှာ ယင်းဒေသဓလေ့ထုံးစံများအပေါ် မှီး၍ ရေးဆွဲထားသော စည်းမျဉ်းများ ဖြစ်လေသည်။ ၁၉၃၀ ပြည့်နှစ်တွင်ထုတ်ပြန်သော ‘ကချင် တောင်တန်းသားများဆိုင်ရာ စည်းမျဉ်းဥပဒေများ ’ နှင့် ‘ ကချင်ပြည်နယ်လက်စွဲ ’ စာအုပ်များမှာ ထင်ရှားသော ဥပဒေစာအုပ်များဖြစ်ကြသည်။

## ပင်လုံညီလာခံ

၁၉၄၇ ခုနှစ်တွင် ဗိုလ်ချုပ်အောင်ဆန်း ခေါင်း ဆောင်

သော ဖဆပလ အစိုးရအဖွဲ့ တက်လာသောအခါ၊ သီးခြားကင်းလွတ်နေသောတောင်တန်းဒေသများကို မြန်မာပြည်မကြီး အတွင်းသို့ သိမ်းသွင်းလိုသဖြင့် တောင်တန်းသားများနှင့် စကား ကမ်းလှမ်းခဲ့လေသည်။ သို့ဖြင့် ၁၉၄၇ ခု ဖေဖော်ဝါရီလ ၁၂ ရက်နေ့တွင် ပင်လုံမြို့၌ ကျင်းပသော ပင်လုံညီလာခံကြီးတွင်တောင်တန်းဒေသ ခေါင်းဆောင်ကြီးများနှင့် ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုသော မြန်မာခေါင်းဆောင်ကြီးတို့သည် တောင်တန်းဒေသများအား မြန်မာပြည်မကြီးနှင့် ပူးပေါင်းရန်ကို တညီတညွတ်တည်း ဆုံးဖြတ်ကြလေသည်။ (ပင်လုံညီလာခံ — ရှု။)

အဆိုပါ သဘောတူညီချက်အရ ၁၉၄၇ ခု ဇွန်လ ၁ ရက်နေ့တွင် စတင်ကျင်းပသော တိုင်းပြည်ပြု လွှတ်တော်မှ ရေးဆွဲ အတည်ပြုခဲ့သည့် နိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ အခန်း (၁) အပိုဒ် ၆ တွင် မြစ်ကြီးနားနှင့် ဗန်းမော်ခရိုင်များဟူ၍ ယခင်က ခေါ်တွင်ခဲ့သော နယ်မြေများကို ပြည်ထောင်စု မြန်မာနိုင်ငံအတွင်းတွင် ပြည်ထောင်စု အဖွဲ့ဝင်တခုအဖြစ် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စု အဖွဲ့ဝင်ကို ဤမှနောင်အဖို့တွင် 'ကချင်ပြည်နယ်' ဟု ခေါ်ရမည်ဟူ၍ အတိအလင်း ရေးသား ဖော်ပြထားပေသည်။

၁၉၄၈ ခု ဇန်နဝါရီလ ၄ ရက်နေ့တွင် မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးနောက် ဇန်နဝါရီလ ၁၀ ရက်နေ့တွင် ကချင်ပြည်နယ်ကို စတင်ဖွဲ့စည်းလိုက်လေသည်။

### အုပ်ချုပ်ရေး

ကချင်ပြည်နယ်ကို အုပ်ချုပ်ရန် မဲဆန္ဒအရ ရွေးကောက်တင်မြှောက်သည့် ပြည်သူ့ကိုယ်စားလှယ်များ ပါဝင်သော ကချင်ပြည်နယ်ကောင်စီ တခုရှိ၏။ ထိုကောင်စီတွင် အမတ် ၁၉ ဦးရှိ၍ ကချင်လူမျိုးမဟုတ်သော ကိုယ်စားလှယ်များလည်း ပါဝင်သည်။ ကချင်ပြည်နယ်ကောင်စီ၏ ထောက်ခံချက်အရ ကချင်အမျိုးသားအမတ် တဦးကို နိုင်ငံတော်သမတကြီးက ကချင်ပြည်နယ်ဝန်ကြီးအဖြစ် ခန့်အပ်ထားသည်။ ကချင်ပြည်နယ်ဝန်ကြီးသည် ကချင်ပြည်နယ်ဥက္ကဋ္ဌလည်း ဖြစ်သည်။ သူသည် ကချင်ပြည်နယ် စီရင်အုပ်ချုပ်ရေး ကိစ္စတို့ကို တာဝန်ယူ ဆောင်ရွက်ရသည်။ ကချင်အမျိုးသား မဟုတ်သူများနှင့် သက်ဆိုင်သော ကိစ္စများကို ဆောင်ရွက်ရာ၌ ကချင်အမျိုးသား မဟုတ်သော ကိုယ်စားလှယ်များ၏ ဆန္ဒကို သီးခြားရယူပြီးမှ ဆောင်ရွက်ရလေသည်။ ကချင်ပြည်နယ် ဖွဲ့စည်းထားပုံတွင် အခြားနယ်များ ဖွဲ့စည်းထားပုံနှင့် မတူဘဲ ထူးခြားသော အချက်တခုမှာ အခြားအခြားသော ပြည်နယ်များသည် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအာဏာတည်ပြီး ၁၀ နှစ်အလွန်၌ပြည်ထောင်



ဂျပ်ခုတ်ရက်ကန်း ရက်နေသော ကချင်အမျိုးသမီး

စုအတွင်းမှ ခွဲထွက်နိုင်ခွင့်ရှိသော်လည်း ကချင်ပြည်နယ်မှာ ထိုကဲ့သို့ ခွဲထွက်နိုင်ခွင့်အာဏာများ မယူထားချေ။

### ထွက်ကုန်ပစ္စည်းများ

ကချင်ပြည်နယ်မှာ မြေပေါ်မြေအောက် သယံဇာတပစ္စည်းတို့ ကုံလုံကြွယ်ဝသော ပြည်နယ်ဖြစ်သည်။ စိမ်းစိုထူထပ်သော သစ်တောကြီးများမှာ အဖိုးတန်သော ကျွန်းသစ်များ၊အခြားသစ်မာများအပြင် သစ်တောထွက်ပစ္စည်းများ ရှိသည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီက သစ်တောကြိုးဝိုင်းအဖြစ်သတ်မှတ်ကာ သစ်များကို မွေးမြူထားသည့် မြေဧကပေါင်း ၁,၂၀၀,၀၀၀ ကျော်မျှ ရှိလေသည်။ ဗန်းမော်ခရိုင်မှ ထွက်သော ကျွန်းသစ်တို့သည် အခြားဒေသများမှ ထွက်သော ကျွန်းသစ်တို့ထက် ပိုမိုကောင်းမွန် အဖိုးထိုက်တန်ပေသည်။ ပြည်နယ်အတွင်း လယ်ယာစိုက်ပျိုးခဲ့သော မြေဧကပေါင်းမှာ ၁၅၆,၀၀၀ မျှ ရှိသည်။ စိုက်ပျိုးလက်စရှိလျက်နှင့် မစိုက်ဘဲ ထားခဲ့သော ဧကပေါင်းမှာ ၃၃,၀၀၀ မျှ ရှိသည်။ ပျမ်းမျှခြင်းအားဖြင့် နှစ်စဉ်နှစ်တိုင်း စပါးတန်ချိန် ၈၄,၀၀၀ မျှ ထွက်ရှိသဖြင့် ပြည်နယ်အတွင်းရှိ လူဦးရေအတွက် လုံလောက်ရုံသာမက ပိုလျှက်ရှိသည်ကို တွေ့ရပေသည်။ ပြည်နယ်အတွင်း လယ်ယာများကိုင်၊ သစ်တောများကိုင်၊ တိုးချဲ့လုပ်ကိုင်မည်ဆိုလျှင် ဧကမြောက်မြားစွာကိုပင် တိုးချဲ့ လုပ်ကိုင်နိုင်သေးသည်။ ပြည်နယ်မှထွက်သော မြေအောက် သယံဇာတ အဖိုးတန်ပစ္စည်းများမှာ ကျောက်စိမ်း၊ပယင်း၊မြ၊နီလာ၊မိုင်စိန်၊ပတ္တမြားနှင့် ရွှေတို့ ဖြစ်ကြသည်။ ထိုပစ္စည်းတို့ကို ခေတ်မီစနစ်ဖြင့် တူးဖော်ထုတ်ယူခြင်း မရှိသေးပေ။ ပယင်းကို ဟူးကောင်းမြေပြန့်နှင့် မိုင်းကွမ်းတို့တွင် တွေ့ရသည်။ ကျောက်စိမ်းတွင်းများမှာ မြစ်ကြီးနား အရှေ့မြောက်ဖက်ရှိ မောလုံး၊ ခင်ကန်စီနှင့် တြိဂံနယ်များတွင် ရှိသည်။ ကျောက်နီနှင့်

ပတ္တမြားတို့မှာ နန်းယာဆိပ်ဒေသမှ ထွက်သော်လည်း ယခုအခါ၌ တူးဖော်ခြင်း မရှိချေ။ ပြည်နယ်အတွင်းရှိ မြစ်ချောင်းများမှ ရွှေကိုကျင်၍ ရနိုင်သော်လည်း စီးပွားရေးလုပ်ငန်း လုပ်နိုင်လောက်အောင် မများလှပေ။ ကချင်ပြည်နယ် အစိုးရသည် ဓါတ်သတ္တု တူးဖော်လုပ်ကိုင်ရေးကို ဖွံ့ဖြိုးစေရန် ရည်သန်၍ ဓါတ်သတ္တု ရှာဖွေတူးဖော်ရေး အဖွဲ့တခု ဖွဲ့စည်းပြီးလျှင် ဓါတ်သတ္တု တူးဖော်ရေး လုပ်ငန်းများကို စံနစ်တကျ ပြုလုပ်ရန် စီမံစိုင်းပြင်းလျက် ရှိလေသည်။

## လမ်းပန်းဆက်သွယ်ရေးနှင့် ကူးသန်းရောင်းဝယ်ရေး

ပြည်နယ်အတွင်း တနေရာမှ တနေရာသို့ သွားလာရန် လမ်းကောင်းများ လုံလောက်စွာ မရှိချေ။ လား သို့မဟုတ် ဆင်များမှာ ကူးသန်းသွားလာသူများအတွက် သမားရိုးကျ ကုန်တင်သတ္တဝါများ ဖြစ်သည်။ မြစ်ကြီးနားမြို့မှာ မန္တလေးမြို့နှင့် မီးရထားလမ်း မိုင်ပေါင်း ၃၃၇ မိုင် ဝေးကွာ၍ မီးသဘော်များ အမြဲတစေ ဝင်ထွက်သွားလာနေသော မြို့ ဖြစ်သည်။ မြစ်ကြီးနားမှ ဆင်ဘိုသို့ သဘော်ဖြင့် သွားလာနိုင်သေးသည်။ မြစ်ကြီးနား၊ဗန်းမော်နှင့် ပူတာအိုမြို့များတွင် လေဆိပ်များရှိရာ ရန်ကုန်မြို့နှင့် ရက်သတ္တတပတ်လျှင် ၂ ကြိမ်ကျ ဆက်သွယ် ပျံသန်းလျက်ရှိသည်။

ရေလမ်း လေလမ်းများအပြင် အရေးကြီး အသုံးဝင်သော တောင်ကြားလမ်းများလည်း ရှိသေးသည်။မြစ်ကြီးနားမှ မိုးကောင်း၊မိုင်းကွမ်းတို့ကိုဖြတ်၍ အိန္ဒိယနိုင်ငံတွင်းရှိ လီဒိုမြို့သို့၎င်း၊မြစ်ကြီးနားမှ ဆွန်ပရာဘုံကိုဖြတ်၍ ပူတာအိုသို့၎င်း၊ တရုပ်နိုင်ငံ နယ်စပ်အနီးရှိသော ဝေါမြို့သို့၎င်း၊ တောင်ကြားလမ်းများ ရှိသည်။ ဗန်းမော်မြို့မှ တပိန်မြစ်ဝှမ်း လမ်းစဉ်ဖြင့် တရုပ်နိုင်ငံသို့ရောက်ရှိနိုင်သည်။

ထိုသို့ တောင်ကြား လမ်းခရီးများဖြင့် တရုပ်နိုင်ငံ၊အိန္ဒိယနိုင်ငံများ သို့ ဆက် သွယ်နိုင်သည့်အလျောက် ကချင်ပြည်နယ်တွင် ကုန်းလမ်း ကူးသန်းရောင်းဝယ်မှုများ တဖြည်းဖြည်းဖွံ့ဖြိုး၍လာသည်။ ထွက်ကုန်ဝင်ကုန် ကန့်သတ်ရေး ဥပဒေများကို၎င်းပြည်နယ်အတွက် အနည်းငယ် လျှော့ပေါ့၍ ပြင်ဆင်ထားရကား ခရိုင်ဝန်များက ငွေလဲလှယ်ခြင်းစံနစ်၊ ငွေပြောင်းလွှဲပေးခြင်း စံနစ်များ မရှိဘဲ အချို့ကုန်စည်များကို ထုတ်ခွင့်၊သွင်းခွင့် များ ပေးနိုင်လေသည်။



ပေါင်မှုံ၍ မျှောချလာသော ကချင်ပြည်နယ်ထွက် အဖိုးတန် ကျွန်းသစ်များ

## ခေတ်သစ် ကချင်ပြည်နယ်

ပြည်နယ်တွင် လူများစုဖြစ်သော ကချင်လူမျိုးများသည် တိုးတက်ကြီးပွားလိုသော စိတ်ရှိ၍ သိလွယ် တတ်မြောက်လွယ်သော လူမျိုးများ ဖြစ်ကြသည်။ ကချင်လူမျိုးတို့မှာ အစဉ်အလာအားဖြင့် နတ်ကိုးကွယ်ကြသော လူမျိုးများ ဖြစ်သော်လည်း လွန်ခဲ့သော နှစ်အနည်းငယ်က ဗုဒ္ဓအယူဝါဒနှင့် ခရစ်ယန်အယူဝါဒများသို့ အတော်အသင့် ကူးပြောင်းလာကြသည်။ ခရစ်ယန် သာသနာပြု ပုဂ္ဂိုလ်တို့သည် ကချင်ပြည်နယ်သို့ ၁၈၅၆-၅၇ ခုနှစ် လောက်ကပင် စတင်ရောက်ရှိခဲ့ကြလေသည်။

ကချင်လူမျိုးများတွင် ဘာသာစကားသာရှိ၍ စာပေများ မရှိခဲ့ကြချေ။ ယခုအခါ ခရစ်ယန် သာသနာပြုပုဂ္ဂိုလ်များက ရောမအက္ခရာများဖြင့် ကချင်စာပေကို တီထွင်ပေးထားသည်။ ခရစ်ယန် သာသနာပြုဆရာ ဟင်ဆန် ဆိုသူက ကချင်အင်္ဂလိပ် အဘိဓါန် တအုပ်ကို ပြုစုထားခဲ့လေသည်။

ကချင်ပြည်နယ် အစိုးရအဖွဲ့တွင် ပြည်နယ်ဥက္ကဋ္ဌအပြင် ဝန်ကြီး ၃ ဦး ရှိသေးသည်။ ဘဏ္ဍာရေးနှင့် အခွန်တော်ဌာနဝန်ကြီး၊ပညာရေး၊ကျန်းမာရေးနှင့် ပြည်သူ့ဝန်ထမ်းဌာနဝန်ကြီးနှင့် လယ်ယာစိုက်ပျိုးရေး၊သစ်တောရေးနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးများ ဖြစ်သည်။ ကချင်ပြည်နယ် အတွင်း အထက်တန်းကျောင်းများ၊အလယ်တန်းကျောင်း

များအများအပြားပင် တည်ထောင်ပြီးသည့်အပြင် ဆရာဖြစ်သင် သိပ္ပံကျောင်း တခုကိုပင် မြစ်ကြီးနားမြို့၌ စတင်ဖွင့်လှစ်လိုက်ပြီ ဖြစ်၏။ လူထုပညာရေးကိုလည်း စတင်ဆောင်ရွက်နေလေပြီ။ ပညာရေးနှင့် စပ်လျဉ်း၍ ၁၉၅၁–၅၂ ခုနှစ်တွင် အသုံးစရိတ်ရန်ပုံငွေ ၁၂,၀၇,၂၈၀ိ သတ်မှတ်ထားခဲ့သည်။ ၁၉၅၂–၅၃ ခုနှစ်တွင် ၁၉,၇၃,၆၃၀ိ အထိ တိုးမြှင့်သတ်မှတ်ထားခဲ့လေသည်။

ပြန်လည်ထူထောင်ရေး လုပ်ငန်းများတွင် လယ်ယာစိုက်ပျိုးရေးနှင့် တိရစ္ဆာန်မွေးမြူရေး လုပ်ငန်းများသည် အရေးပါ အရာရောက်သည့်အလျောက် လယ်ယာစိုက်ပျိုးရေးနှင့် တိရစ္ဆာန်မွေးမြူရေးအတွက် ကချင်ပြည်နယ် အစိုးရက နှစ်စဉ်နှစ်တိုင်း အမတော်ငွေများ ထုတ်ချေးခဲ့လေသည်။ ၁၉၅၁–၅၂ ခုနှစ်အတွင်းတွင် လယ်ယာစိုက်ပျိုးရေးအတွက် အမတော်ကြေးငွေ ၂ သိန်းမျှ ချေးခဲ့၍ တိရစ္ဆာန်မွေးမြူရေးအတွက် ငွေပေါင်း ၄၈,၀၀၀ိ မျှ ချေးငှါးခဲ့လေသည်။

ကျန်းမာရေး လုပ်ငန်းများနှင့် စပ်လျဉ်း၍ မြစ်ကြီးနား၊ ဗန်းမော်နှင့် ပူတာအိုမြို့များတွင် ပြည်သူ့ဆေးရုံများ ရှိသည့်အပြင် ကာလသားရောဂါတိုက်ဖျက်ရေး အဖွဲ့တဖွဲ့နှင့် ကျန်းမာရေးအဖွဲ့ငယ်ကလေး တခုတို့မှာ ဗန်းမော်မြို့တွင် စတင် ဆောင်ရွက်လျက်ရှိသည်။

ရန်ကုန် မြို့၌ ဖွင့်လှစ် သင်ကြားလျက် ရှိသော လက်ထောက်ကျန်းမာရေးမှူး သင်တန်းကျောင်း၊ သူနာပြုဆရာမ အတတ်သင်တန်း၊ ကျောက်ထိုးဆရာ သင်တန်းများသို့ ကချင်ပြည်နယ်မှ ကျောင်းသားများ အပတ်စဉ် စေလွှတ်သင်ကြားလျက်ရှိရာ၊ မကြာမီအတွင်း ကျန်းမာရေးစီမံကိန်းများကို အကောင်အထည် ဖေါ်နိုင်ပေတော့မည်။

ကချင်ပြည်နယ်တွင် ပြည်တော်သာ စီမံကိန်းအရ ရေးဆွဲထားသော လုပ်ငန်းဆောင်တာတို့မှာ အထူးပင် စိတ်ဝင်စားစရာ ကောင်းလှသည်။ ဤစီမံကိန်းအရ သစ်ထုတ်လုပ်ရေးအဖွဲ့၊ ဓါတ်သတ္တုတူးဖေါ် လုပ်ကိုင်ရေးအဖွဲ့၊ စက်မှုလက်မှု ထွန်းကားရေးအဖွဲ့ အစရှိသော အဖွဲ့ငယ်ကလေးများကို ဖွဲ့စည်းလျက် မြေပေါ်မြေအောက် ပစ္စည်းများကို စံနစ်တကျ ထုတ်လုပ်ရောင်းချပြီးလျှင် ခေတ်မှီသော ပြည်နယ်အဖြစ် ထူထောင်ရန် ဖြစ်သည်။ ယခု မြစ်ကြီးနားမြို့၌ သကြားစက်တခုနှင့် လက်မှုပညာသင်တန်းတခု ဖွင့်လှစ်ထားခြင်းမှာ လုပ်ငန်း အစပျိုးခြင်းမျှသာရှိသေးသည်။

ထိုမှတပါး ပြည်နယ် အနှံ့အပြားတွင် စာသင်ကျောင်းများ ဖွင့်လှစ်ရေး၊ဆေးရုံဆေးခန်းများ ဖွင့်လှစ်ရေး၊လမ်းကောင်းများ ဖေါက်လုပ်ရေး ကိစ္စတို့ကိုလည်း တပါတည်း စတင်ဆောင်ရွက်လျက် ရှိပေသည်။ ယခုအခါမြန်မာပြည်မရှိ မတ္တရာအရပ်မှ ဗန်းမော်သို့ မော်တော်ကားလမ်း ဖေါက်လုပ်တော့မည် ဖြစ်ရာ၊ယခင်က မန္တလေးနှင့် ဗန်းမော်မှာ ရှမ်းပြည်နယ်ဖက်မှ မော်တော်ကားလမ်းအရ ၃၇၈ မိုင်မျှ ကွာဝေးခဲ့သော်လည်း ဤလမ်းကြီး ပြီးမြောက်သောအခါ ၂၆၅ မိုင်မျှသာကွာဝေးပေတော့မည်။ ဆိုခဲ့သော စီမံကိန်းများကြောင့် ကချင်ပြည်နယ်မှာ နေ့ခြင်းညခြင်းပင် တကယ်ခေတ်မှီတိုးတက်သော ပြည်နယ်တခု ဖြစ်လာတော့မည်ဟု ယုံကြည်ရလေသည်။

ဦးဘရှင်။



ဗန်းမော်နှင့် ရွှေဂူမြို့အကြားတွင် ခန့်ညားစွာ တည်ရှိသည့်ဧရာဝတီမြစ်၏ ဒုတိယမြစ်ကျဉ်း



ကချင်အမျိုးသားနှင့်အမျိုးသမီး

**ကချင်လူမျိုး။** ။ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း ကချင်လူမျိုးတို့နေထိုင်ရာအချက်အခြာဒေသမှာ ချင်းတွင်းမြစ်ဖျားနှင့် ဧရာဝတီမြစ်ဖျားတို့ ဖြတ်သန်းစီးဆင်းရာ ဒေသတဝိုက်ဖြစ်၏။ မြောက်ဖက် လတ္တီတွဒ် ၂၃°၃၇ ဒီဂရီနှင့် ၂၈°၂၅ ဒီဂရီတို့အကြား အရှေ့ဖက် လောင်ဂျီတွဒ် ၉၆ ဒီဂရီနှင့် ၉၈°၄၇ ဒီဂရီ အကြားဖြစ်သော အာသံပြည် အရှေ့မြောက်ပိုင်းနှင့် မြန်မာနိုင်ငံမြောက်ပိုင်း တရုပ်မြန်မာနယ်စပ်အလွန် ဒေသများတွင် ပျံ့နှံ့နေထိုင်ကြသည်။ ကချင်တို့၏ လူဦးရေမှာ တဖြည်းဖြည်း တိုးတက် များပြားလာခဲ့ရာ၊ မိုးကုတ်နယ် ကိုးတောင်ဒေသ၊ ရွှေလီမြစ်ဝှမ်းဒေသ၊ လာရှိုးနယ်နှင့် ရှမ်းပြည်နယ် မြောက်ပိုင်း၊တောင်ဖက် ကျိုင်းတုံနယ်အထိ ပျံ့နှံ့လျက်ရှိကြသည်။ မြန်မာနိုင်ငံ၏ အပဖြစ်သော အာသံပြည် ပတ်ကွိုင်တောင်၏ အနောက်ဖက်တောင်စောင်းဒေသနှင့် တရုပ်နိုင်ငံ ယူနန်ပြည်နယ်တွင် အရှေ့ဖက်လောင်ဂျီတွဒ် ၉၉ ဒီဂရီခန့်အထိ ဒေသတို့တွင်လည်း ကချင်လူမျိုးများကို တွေ့ရပေသည်။

၁၉၃၁ ခုနှစ် မြန်မာနိုင်ငံ သန်ကောင်စာရင်းအရ မြန်မာနိုင်ငံအတွင်း နေထိုင်ကြသော ကချင်ဦးရေမှာ ၁၅၃,၀၀၀ ကျော်ရှိ၏။ ထိုအရေအတွက်မှာ သန်ကောင်စာရင်း မကောက်ယူနိုင်ခဲ့သေးသော ပူတာအိုနယ်၊ဟူးကောင်းနယ်၊ ဝနယ်၊မေခနှင့် မလိခမြစ် စပ်ကြားရှိ တြိဂံနယ်တို့တွင် ရှိသော ကချင်ဦးရေများ မပါဝင်ခဲ့ပေ။ ၁၉၃၁ ခုနှစ်က မြန်မာနိုင်ငံအတွင်း ကချင်ဦးရေ ၂၁၄,၀၀၀ မျှ ရှိလိမ့်မည်ဟု ကျွမ်းကျင်သူတို့က ခိုင်လုံစွာ ခန့်မှန်းခဲ့ကြသည်။ ထိုစဉ်အခါက အာသံပြည်တွင် ကချင်အမျိုးသားပေါင်း ၃,၀၀၀ မျှ ရှိသည်ဟု အာသံပြည် သန်ကောင်စာရင်းတွင် ဖော်ပြထားသည်။ ဗန်းမော်နှင့် မြစ်ကြီးနားခရိုင်များ အပါအဝင်ဖြစ်သော ကချင်ပြည်နယ် ဒေသအတွင်း၌ပင် ၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ ကချင်ဦးရေ ၂၂၁,၉၀၁ ယောက် ရှိသည်ဟု သိရသဖြင့် ကချင်လူမျိုးတို့မှာ တဖြည်းဖြည်း လူဦးရေ တိုးတက်လျက်ရှိသည်ကို သိသာနိုင်သည်။

## ကချင်တို့၏ မူလဇာစ်မြစ်

ကချင်လူမျိုးတို့မှာ တိဗက်မြန်မာ အနွယ်ဝင်များ ဖြစ်ကြ၍ မြန်မာလူမျိုးတို့နှင့် ဘိုးစဉ်ဘောင်ဆက်မှစ၍ မျိုးရိုးတခုတည်းက ဆင်းသက်လာသူတို့ ဖြစ်ကြသည်။ သူတို့၏ မူရင်းဒေသမှာ မဂျိုင်းရှင်ဂရဘုံ ဖြစ်သည်ဟု မိရိုးဖလာ မှတ်သားထားကြသည်။ ထိုစကား၏အဓိပ္ပါယ်မှာ သဘာဝအားဖြင့် ပြန့်ပြူးနေသော တောင်ထိပ်ဖြစ်သည်။ ၎င်းပြန့်ပြူးနေသော တောင်ထိပ်မှာ တိဗက်ပြည် အရှေ့ဖက်နှင့် စူချွမ်နယ် စပ်ကြားရှိ ကုန်းမြင့်ဒေသပင်ဖြစ်ဟန်တူလေသည်။

## ရွှေ့ပြောင်းနေထိုင်လာပုံ

တောင်ဖက် ဒေသများသို့ ရွှေ့ပြောင်းလာကြရာတွင် ကချင်တို့သည် တရုပ်၊မြန်မာ၊တိဗက်နှင့် အာသံပြည်တို့၏ နယ်စပ်များဆုံရာ တောတောင် ထူထပ်လှသော ဒေသတဝိုက်တွင် ရောက်ရှိလာကြပြီးနောက်၊ထိုဒေသမှ အခွင့်သာလျှင် သာသည့်အလျောက် တောင်ဖက် မြန်မာနိုင်ငံတွင်းသို့ တဖြည်းဖြည်း ရွှေ့ပြောင်းလာခဲ့ကြဟန် တူသည်။ သူတို့၏ ရွှေ့ပြောင်းရာ ခရီးလမ်းမှာ ခက်ခဲလှ၍ တကြောင်း၊ ထို့မှတပါး သူတို့၏ အလျင်က ရွှေ့ပြောင်းသွားခဲ့ကြသော မွန်ခမာ အနွယ်ဝင်များနှင့် အခြားအနွယ်တူ လူမျိုးများက ရွှေ့ပြောင်းရာလမ်းတွင် ပိတ်ဆို့ ဟန့်တားဘိသကဲ့သို့ ရှိနေခဲ့သောကြောင့်တကြောင်း၊ ကချင်တို့မှာ မြန်မာနိုင်ငံတွင်းသို့ ရွှေ့ပြောင်း ဝင်ရောက်ရာတွင် အတန် နောက်ကျသူများ ဖြစ်ကြသည်။ မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ခဲ့ကြပြီးနောက် တြိဂံနယ် (မေခနှင့် မလိခမြစ် ၂ သွယ် စပ်ကြားရှိ သုံးထောင့်ဒေသ) သို့ ရောက်သောအခါတွင် ရှေ့သို့ ဆက်လက်ရွှေ့ပြောင်းခြင်း မပြုနိုင်ဘဲ ကာလအတန်ကြာ အခြေစိုက် နေထိုင်ခဲ့ကြရဟန် တူသည်။ အကြောင်းမှာ ထိုစဉ်က မြန်မာနိုင်ငံ မြောက်ဖျားကို မောရှမ်းတို့ ကြီးစိုးခဲ့ကြသောကြောင့်ဟု ဆိုဖွယ်ရာ ရှိသည်။ မောရှမ်းတို့ အင်အား ယိမ်းယိုင်သောအခါမှ ရှေ့သို့ ဆက်လက်ရွှေ့ပြောင်း၍ ယခုနေထိုင်ရာ ဒေသများသို့ တဖြည်းဖြည်း ရောက်လာခဲ့ကြသည်။ တရုပ်သမိုင်းကျမ်းများကို ထောက်ထားခြင်းအားဖြင့် တြိဂံနယ်မှ တောင်ဖက်သို့ စတင် ရွှေ့ပြောင်းသည်မှာ ခရစ်နှစ် ၁၅ ရာစု အလယ်လောက်ကဟု ခန့်မှန်းနိုင်သည်။ မြန်မာနိုင်ငံတွင်းသို့ စတင် ဝင်ရောက်သည်မှာကား ၁၁ ရာစုနှစ်လောက် ဖြစ်တန်ရာသည်ဟု ယူဆနိုင်ပေသည်။

၁၅ ရာစုနှစ် အလယ်လောက်ကစ၍ လူတဆက်ပြီးတဆက် ရွှေ့ပြောင်းလာကြစဉ်တွင် ကချင်တို့မှာ ရောက်ရှိပြီးဖြစ်သော ရှမ်းနှင့် မြန်မာတို့၏ ယဉ်ကျေးမှု အချက်အလက်များကို စတင် ရရှိခဲ့ကြသည်။ ထို့မှတပါး မိမိတို့ နေရာရရှိရေးစသည်တို့အတွက် ရောက်ရှိပြီးသော ရှမ်းမြန်မာစသော သူတို့နှင့် မကြာခဏ ဆိုသကဲ့သို့ တိုက်ခိုက်မှုများ ဖြစ်ပွားခဲ့၏။ အင်အားနည်းသည့် ရောက်ရှိပြီး လူမျိုးများကို တောင်ဖက်သို့ တွန်းထုတ်နိုင်ခဲ့ကြ၏။ ၎င်းသို့ဖြင့် ဆဒုံးနယ်တွင် နေခဲ့သော ပလောင်တို့မှာ တောင်ဖက် ရွှေလီမြစ်ဝှမ်းဖက်သို့ ရွှေ့ပြောင်းလာခဲ့၍ ကချင်တို့မှာမူ ဆဒုံးနယ်တွင် အင်အားနှင့် အခြေစိုက်နေလျက် ရှိကြလေပြီ။ ကချင်တို့မှာ ရွှေ့ပြောင်းကြရာတွင် တောင်ရိုးကို လိုက်ကြ၏။ အခြေစိုက် နေထိုင်ကြရာ၌လည်း များသောအားဖြင့် တောင်ရိုးတောင်စွယ်တို့ကိုပိုမို နှစ်သက်ကြသည်။ မြန်မာနိုင်ငံ

တွင်းသို့ ရောက်ပြီးနောက် တောင်တန်းများ တလျှောက် တောင်ဖက် ဆွန်ပရာဘုံသို့၊ ဆွန်ပရာဘုံမှသည် တောင်ဖက် တောင်ရိုးအတိုင်းငှင်း၊ အနောက်တောင်ဖက် ဒရုချက်သို့ ငှင်း၊ ထပ်မံခွဲသွားသည့် လမ်းတသွယ်၊ဇြာဝိကံနယ်အတွင်းရှိ တောင်တန်းအတိုင်း ဆက်လာ၍ မေခမြစ်ရိုးတလျှောက် တောင်ဖက်သို့ ဆင်းလာခဲ့သည့် လမ်းတသွယ်၊ဤသို့ လမ်း နှစ်သွယ် ကွဲပြားကာ ရွှေပြောင်း ပျံ့နှံ့ခဲ့ကြသည်ဟု ယူဆ ဖွယ်ရာရှိ၏။


အနေအထိုင် ရိုးသားကြသော ကချင်မိသားတစု

## အမည်

ကချင်ဟူသော ဝေါဟာရမှာ အမှန်စင်စစ် မြန်မာတို့ခေါ် သော ဝေါဟာရသာ ဖြစ်သည်။ ကချင်လူမျိုးတို့၏ စကား မဟုတ်ချေ။ ကချင်လူမျိုးများသည် မိမိတို့ကို မိမိတို့ ‘ဂျင်း ဖေါ’ လူမျိုးများဟုသာ ပြောဆိုကြသည်။ လူတယောက် ဟု အဓိပ္ပါယ်ရှိသည်။ တရုပ်လူမျိုးများကမူ ကချင်လူမျိုး များကို ‘ယေဂျင်’ ဟု ခေါ် ဆိုကြသည်။ အဓိပ္ပါယ်မှာ လူရိုင်း ဟု ရရှိသည်။ ယဉ်ကျေးသော တရုပ်အမည် တခုမှာ ‘ရှန်ထို’ ဖြစ်၏။ တောင်ထိပ်သားဟု အဓိပ္ပါယ်ရသည်။ အာသံပြည်တွင် ကချင်တို့ကို ‘စင်ဖိုး’ ဟု ခေါ် ဝေါ် ကြသည်။ မြန်မာမှတ်တမ်းများ၌ ‘သိမ်းဖေါ’ ဟု ပါရှိသည်။ ရှမ်းလူမျိုး တို့က ကချင်လူမျိုးကို ‘ခန်ဂ’ ဟု ခေါ် ဝေါ် ကြသည်။ ယခု အခါ လူအများကပင် ဂျင်းဖေါလူမျိုးကို ကချင်လူမျိုးဟု သာ သိရှိနားလည်ကြသည်။ အလွန် ရှေးကျသော မြန်မာ ကျောက်စာများတွင် ကချင်ဆိုသော စကား သုံးနှုန်းထား သည်ကို မတွေ့ရပေ။ သို့ရာတွင် သက္ကရာဇ် ၇၀၄ ခုနှစ်ထိုး ညောင်ဦး ရွှေစည်းခုံ ဉညံ့နဝ ကျောက်စာတွင် ‘ကခြင်’ ဟု ရေးထိုးထားသည်ကို ရှေးဦးစွာ တွေ့ရသည်။


ညှော့သည်အားမုံ့ခွန့်ညှော့ခံရသောကချင်မင်္ဂလာဆောင်သတို့သမီး

## ကချင်အုပ်စုကွဲများ

ဂျင်းဖေါဆိုသော စကားမှာ ယေဘုယျအားဖြင့် ကချင် များကို ခေါ် ဝေါ် သော်လည်း ဒေသအလိုက်ဆိုလျှင် တောင် ဖက် အောက်ဖက်တွင် နေထိုင်ကြသော ကချင်များကို ဂျင်းဖေါဟု ခေါ် တွင်၍ အထက်ဖက် (ဝါ) မြစ်ဖျားဖက် တွင် နေထိုင်ကြသော ကချင်များကို ‘ခခု’ ဟု ခေါ်ကြ လေသည်။ ခခုဆိုသော ကချင်စကားမှာ မြစ်ဖျားဟု အဓိပ္ပါယ်ရရှိသည်။

ကချင်လူမျိုးတို့၏ အစဉ်အလာအားဖြင့် သူတို့သည် ‘ဝချက်ဝ’ ဆိုသော ရှေးဦးဖခင်ကြီးမှ ဆင်းသက်ပေါက် ဖွားလာကြသည်ဟု ယုံကြည်ကြ၏။ ဖခင်ကြီး ဝချက်ဝ မှာ သားငါးဦးရှိရာ အဆိုပါ သားငါးဦးမှ ကြီးစဉ်ငယ် လိုက် ထင်ရှားသော လူမျိုးအုပ်စုကြီး ၅စု ဖြစ်ပေါ် လာ သည်ဟု အဆိုရှိသည်။ ထိုသူတို့မှာ (၁) မရစ် (၂) လထော (၃) လဖိုင် (၄) အင်ခုမ်နှင့်(၅) မရမ်တို့ ဖြစ်ကြသည်။အစ် ကို အကြီးဆုံးမှ ပေါက်ဖွားဆင်းသက်သော မရစ်အုပ်စုမှာ သူတို့လူမျိုးစုတို့ထဲတွင် ဝါအရင့်ဆုံးဖြစ်၍ လဖိုင်အုပ်စုမှာ အင်အားအကြီးဆုံး ဖြစ်သည်။ ဤလူမျိုးအုပ်စု ၅ စုတို့ သည် ရှေးယခင်အခါ လူမျိုးချင်း ရောယှက်ခါ အတူတကွ ပင် ရောနှော နေထိုင်လေ့ရှိကြသည်။

ပြဆိုခဲ့သော လူမျိုးအုပ်စု ၅စု အပြင် ဖခင်ကြီး ဝချက်ဝ ဆိုသူ၏ ညီငယ် ၇ ဦးမှ ဆင်းသက် ပေါက်ဖွားသည်ဆိုသော

အခြား လူမျိုးအုပ်စု ၁၅ စုလည်း ရှိသေးသည်။ သို့သော် ထိုသူတို့မှာ ထင်ရှားခြင်း မရှိချေ။

## ဓလေ့ထုံးစံများ

ကချင်လူမျိုးတို့သည် အစဉ်အလာအားဖြင့် နတ်ကိုကိုးကွယ်သော လူမျိုးများ ဖြစ်ကြသည်။ ကျေးရွာများတွင် ဒုမ်ဆဆိုသော နတ်ဆရာမှာ အထူးပင် အရေးပါအရာရောက်သော ပုဂ္ဂိုလ်တဦး ဖြစ်သည်။ မင်္ဂလာ ဆောင်သောအခါတွင် ၎င်း၊တစုံတယောက် သေဆုံး၍ သင်္ဂြိုဟ်မည့် အခါတွင်၎င်း၊ဒုမ်ဆ နတ်ဆရာက ညွှန်ပြ ရွှေဆောင်ရသည်။

ကျေးရွာတိုင်း ကျေးရွာတိုင်းတွင် ဆလိုင်းဟု ခေါ်သော အရပ်လူကြီးများ ရှိသည်။ ဆလိုင်းကို ပေါမှိုင်းဟု အခေါ်များသည်။ ထိုသူတို့သည် မိမိကျေးရွာအတွင်း အမှုအခင်း၊ သာရေးနာရေးကိစ္စများ၌ မြန်မာနိုင်ငံတွင် ဆယ်အိမ်မှူးများ နည်းတူ ရွှေဆောင် ညွှန်ပြလေ့ရှိလေသည်။ ဒူးဝါးဟုခေါ်သော အကြီးအကဲများမှာ ကျေးရွာပေါင်း ၂၀ မှ ၁၀၀ အထိ အသီးအသီး အုပ်ချုပ်ကြရသည်။ အင်္ဂလိပ်အစိုးရလက်ထက်၌ တောင်အုပ်ဆိုသူများကိုလည်း ခန့်ထားလေသည်။ တောင်အုပ်မှာ ဆလိုင်း (အရပ်လူကြီး) နှင့် ဒူးဝါးတို့ကြားတွင် ရှိသည်။ တောင်အုပ်၏ တာဝန်ဝတ္တရားမှာ အုပ်ချုပ်မှုတွင် ပြေပြစ်လွယ်ကူစေရန် ကျေးရွာလူထုနှင့် ဒူးဝါးတို့ကို ဆက်သွယ်ပေးရသူ ဖြစ်သည်။

ကချင်လူမျိုးတို့တွင် မူရင်းစာပေများ မရှိကြချေ။ ခရစ်ယန် သာသနာပြုပုဂ္ဂိုလ်များက ရောမအက္ခရာများဖြင့် ကချင်စာကို တီထွင်ပေးခဲ့သည်။ ကချင်လူမျိုးတို့သည် မိမိတို့ ဘာသာစကားဖြင့် ပြော၍မဖြစ်သော အခေါ်အဝေါ်များကို မြန်မာစကားဖြင့်၎င်း၊ရှမ်း စကားဖြင့် ၎င်း၊ ခေါ်ဝေါ်ကြသည်။

## အဆိုအကနှင့် တူရိယာများ

ကချင်လူမျိုးတို့သည် ကခုန်ခြင်း၊သီချင်းဆိုခြင်းများတွင် အထူးဝါသနာထုံသော လူမျိုးများ ဖြစ်သည်။ မင်္ဂလာပွဲများတွင်၎င်း၊အသုဘကြုံသည့် အခါ၌၎င်း၊အခြား နတ်ပွဲများတွင်၎င်း၊အစုလိုက် အပြုံလိုက် သီဆို ကခုန်လေ့ ရှိကြသည်။ တယောက်တည်း ကပြခြင်းကား နည်းပါးလှသည်။ ယောကျ်ားနှင့် မိန်းမ တွဲဖက်ကကြရာတွင် တဦးကိုတဦး ကိုင်တွယ်ခြင်း မရှိကြချေ။ တဦးနှင့်တဦး သားမွေးယပ်တောင်များဖြင့် ဆက်သွယ်လေ့သာ ရှိကြသည်။ ကချင်ပြည်နယ်၌ ထင်ရှားကျော်စောလှသော ပွဲတော်ကြီး တခုမှာ 'မနောပွဲ' ခေါ် နတ်ပူဇော်ပွဲကြီးပင် ဖြစ်သည်။ (မနောပွဲ — ရှု။) နတ်များကို ပူဇော်ပသသော အလေ့အထမှာ တိဗက်မြန်မာ လူမျိုးတို့၏ ဓလေ့ထုံးစံများ ဖြစ်ဟန်တူသည်။ မြစ်ကြီးနားမြို့တွင် မနောနတ်စင်ကြီး ဆောက်လုပ်ရန် ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရက ငွေပေါင်း ၁,၁၁,၇၅ဝိမျှ ထုတ်ပေးခဲ့ဘူးသည်။

ကချင်လူမျိုးတို့သည် မိရိုးဖလာအားဖြင့် မောင်း၊လင်းကွင်း၊ပုံရှည်နှင့် ပြွေတူရိယာများကို တီးမှုတ်လေ့ရှိကြသည်။ သို့သော် ယခုအခါ၌ တရုပ်နိုင်ငံ၊အိန္ဒိယနိုင်ငံ၊မြန်မာပြည်မ



ရဲသွေးရဲမာန် တက်ကြွစေသော ကချင်အမျိုးသားတို့၏ ဓါးသိုင်းအက



ကချင်ပြည်နယ် စိန်းလုံကဘားမြို့တွင် ၅ ရက်တကြိမ် စည်ကားစွာ ရောင်းဝယ်လေ့ရှိသော ' ၅ ရက်ဈေး '

တို့နှင့် များစွာ ဆက်ဆံမိကြပြီ ဖြစ်ရကား ညှိုကြိုးတုရိယာများ၊ဘေးပေါက်ပြွေများ၊ခရာများကို မှုတ်တီးတ်နေကြပြီ ဖြစ်သည်။

### လက်မှုပညာများ

ကချင်လူမျိုးများသည် လက်မှုပညာရပ်များတွင် နုံချာလှသူများ မဟုတ်ချေ။ နီးဖြင့် ရက်လုပ်ရသော ယွန်းထည် ပစ္စည်းများ၊တောင်းပလုံး၊အိမ်သုံးကရိယာများမှာ လက်စလက်န ချောမွေ့လှသည့်ပြင် ခိုင်ခံ့ကောင်းမွန်သည်။ ဓါးအမျိုးမျိုး၊လှံ၊သေနတ်နှင့် မောင်းများကို ရှေး ကာလကြာမြင့်စွာကပင် ခိုင်ခံ့လှပအောင် လုပ်တတ်ကြသည်။ ကြိုးတန်တားများ ဆောက်လုပ်ခြင်း၊သစ်သားတန်တား၊ဝါးတန်တားများ ဆောက်လုပ်ခြင်း၊အိမ်သာ ဆောက်လုပ်ခြင်း၊အစရှိသော လုပ်ငန်း များ တွင် လည်း ကျွမ်း ကျင် လိမ်မာလှသဖြင့် သေသပ်ကောင်းမွန်စွာ ဆောက်လုပ်တတ်ကြလေသည်။

### အယူဝါဒ

ကချင်လူမျိုးများသေလျှင် သူတို့သင်းချိုင်း ပတ်ပတ်လည်တွင် ကျုံးသဖွယ် တူးမြောင်းများ တူးထားပြီးလျှင် သင်းချိုင်းအပေါ်တွင် ခိုင်ခံ့သော တင်းကုပ်များဆောက်လုပ်ကာ အမိုးမိုး၍ ထားတတ်ကြသည်။ သူတို့သေပြီးနောက် သူတို့ဝိညာဉ်များမှာ ရှေးအဖိုးအဖွားများ၏ဝိညာဉ်များ ရှိရာသို့ သွားရောက် ပူးပေါင်းကြသည်ဟု အယူရှိကြသည်။ ကချင်တဦးသေလျှင် သူနေ့စဉ် သုံးလေ့သုံးထရှိသော ဓါး၊လှံ၊သေနတ်နှင့် အဝတ်အစားများကို သူနှင့်အတူ မြှုပ်နှံလေ့ရှိသည်။

### ခေတ်သစ် ကချင်လူမျိုး

ယခုအခါ ရှေးရိုးအယူဝါဒတို့မှာ တဖြည်းဖြည်း ပပျောက်လာပြီး လျှင် မည်သည့် အရာကိစ္စတွင် မဆို အကျိုး နှင့် အကြောင်းတရားများကို ဆက်စပ်၍ တွေးတောပြီးမှ လက်ခံသင့်သည်ကိုသာ လက်ခံလာကြတော့သည်။ အထူးသဖြင့် ခေတ်ပညာတတ် လူငယ်လူရွယ်တို့သည် အမှန်တရားကိုသာ စိစစ်ရှာဖွေလိုသော ဆန္ဒရှိကြသည့်အလျောက်၊ဟောင်းနွမ်းသော အယူဝါဒများတွင် ယုံကြည်စိတ် မရှိကြချေ။များစွာသော ခေတ်ပညာတတ် ကချင်လူငယ်များသည် စစ်ဖက်ဌာနဆိုင်ရာ၊အုပ်ချုပ်ရေးဖက်ဌာနဆိုင်ရာ၊ဝင်ရောက် အမှုထမ်းလျက်ရှိကြသည်။ ကချင်ပြည်နယ်အတွက် ရှေးယခင်က ဒေသထုံးတမ်းများကိုမှီး၍ ရေးသားထားသော တရားဥပဒေများသာ ရှိခဲ့ရာ၊ယခုအခါတွင်မူ ကချင်လူမျိုးများ၏ ယဉ်ကျေးမှု တိုးတက်လာသည်နှင့်အမျှ တရားစီရင်ထုံးများလည်း ပြောင်းလဲ၍ လာခဲ့သည်။ ကချင်ပြည်နယ်တွင် စက်ရှင်တရားသူကြီးရုံးကို ၁၉၅၁ ခု ဧပြီလ ၁ ရက်နေ့ကပင် စတင်ဖွင့်လှစ်ခဲ့သည်။ ဤတရားရုံးမှာ ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တရားလွှတ်တော် လက်အောက်ခံ ဖြစ်လေသည်။

အထက်တွင် ဖော်ပြခဲ့သော အကြောင်းခြင်းရာများကြောင့် ကချင်လူမျိုးတို့မှာ မျှားမကြာမီအတွင်း ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် အထူးပင် အရေးပါအရာရောက်သော လူမျိုးတမျိုးအဖြစ်နှင့် တွေ့မြင်ရတော့မည်မှာ မလွဲတည်း။

ဦးဘရှင်။

# ကလေးသူငယ်နှင့်ကစားခြင်း

ကလေးများကို ကြိမ်လုံးနှင့်ရိုက်မှ ဉာဏ်ထွက်မည်ဟု ရှေးအခါက လူအများယုံကြည်ခဲ့ကြ၏။ ယခုခေတ်ပညာရှင်တို့ကမူ၊ ထိုစံနစ်ဆိုးကို သဘောမကျဘဲ ဉာဏ်ပညာ ပိုမိုဖွံ့ဖြိုးတွင်ကျယ်စေရန် ကလေးများ စိတ်တိုင်းကျကစားခြင်းကို အားပေးကြသည်။

**ကစားခြင်း၏အရေးကြီးပုံ။** ။ကလေးများ ပညာသင်ကြားရေး၌ ကစားခြင်းသည် စာသင်ကြားပေးခြင်းနှင့် ထပ်တူထပ်မျှ အရေးကြီးလေသည်။ ကစားခြင်းအားဖြင့် ကလေးတို့၌ ကာယဗလသာမက ဉာဏဗလပါ ဖွံ့ဖြိုးတိုးတက်နိုင်လေသည်။ (ကင်ဒါဂါတင် — ရှု။) ကလေးတိုင်း ကစားခြင်းဖြင့်သာ အချိန်ကုန်လွန်လိုကြ၍၊ ကစားရမည်ဆိုလျှင် မည်သည့်ကလေးမျှ ငြင်းပယ်လိမ့်မည်မဟုတ်ချေ။ လူတို့၏နဂိုစိတ်သည်ပင် ကလေးအရွယ်၌ ကစားရန်သာ စိတ်အားထက်သန်၏။ ကလေးများ၏ ကိုယ်အင်္ဂါအစိတ်အပိုင်းများ၌ရှိသောအင်အားများသည်လိုသည်ထက်ပိုနေသဖြင့် ထိုအားပိုများကိုအသုံးချရန် ကစားပေးရသည်ဟုဆိုလေသည်။ မကစားသောကလေးသည် ကျန်းမာရေး၌၎င်း၊ဉာဏ်ပညာဖွံ့ဖြိုးရေး၌၎င်း၊ချို့တဲ့တတ်သည်။ ကစားရမည့်အရွယ်တွင် ကစားပေးမှသာ အရာရာတိုးတက်နိုင်ပေမည်။ လူတို့သည် အမိဝမ်းကတည်းက ပုခက်တွင်းဝယ်ခြေလက်လှုပ်ရှားကစားလာခဲ့ကြ၍ တဖြည်းဖြည်း ပြေးကာလွှားကာနှင့် ကစားတတ်လာပြီးနောက်၊ကြီးပြင်းလာသောအခါ ကစားကွင်းများ၌ စံနစ်တကျကစားကြလေတော့သည်။ ထိုသို့ကစားသွားယင်းနှင့် မိမိ၌ မည်ကဲ့သို့အကျိုးရှိလာသည်ကို သိနားလည်သောအခါလူကြီးများပင် ကိုယ်လက်လှုပ်ရှားကစားခြင်းကို အလေ့အကျင့်ပြုလုပ်ကြလေသည်။

### ကလေးစိတ်နှင့်တိရစ္ဆာန်တို့စိတ်

ကလေးသူငယ်များကို အကျိုးဖြစ်ထွန်းစေမည့် ကိုယ်လက်လှုပ်ရှားကစားခြင်း၌ ဝါသနာပါအောင်သွန်သင်ပေးရန် အထူးလိုအပ်ပေသည်။ စိတ်ပညာပါရဂူများသည် ကလေးတို့၏စိတ်ကိုမစုံစမ်းမီ တိရစ္ဆာန်ကလေးများ၏စိတ်ကိုအလျှင် လေ့လာကြည့်ကြ၏။ ထိုသို့လေ့လာကြည့်ရာတွင် ကလေးများပြုမူပုံနှင့် တိရစ္ဆာန်များပြုမူပုံသည် မခြားနားလှကြောင်းကို တွေ့ရ၏။ တိရစ္ဆာန်ငယ်ကလေးများသည်လည်း ကလေးများနည်းတူ ကစားရန်သာ စိတ်သန်ကြ၏။ သဘာဝကပင် ကလေးများအဖို့ ကစားရမည့်အခြေအနေမျိုးကို ဖန်တီးထားရာ ကလေးတိုင်း ကစားသင့်ပေသည်။

ထို့ပြင် သူတို့သည်ထိုသို့ကစားရခြင်းမှာ နောင်လူကြီးဖြစ်လာသောအခါ လူမှုကိစ္စလုပ်ငန်းအဝဝတို့၌ ကျွမ်းကျင်



**ကလေးလောက၌ မရိုးနိုင်သော ဝိုင်းကြီးပတ်ပတ်**

လက်ချင်းတွဲ၍ ဝိုင်းကြီးပတ်ပတ် ဒွေးဝေဝေဟု သီဆိုကာ ပျော်ပါးစွာ ဝိုင်းလှည့် ကစားနေကြသည့် ကလေးတစု



တပျော်တပါး လျှောစီးကစားနေကြသည့် ကလေးများ

ဟင်း ချက်တမ်း၊အရုပ်ကလေးများဖြင့် ကလေးထိန်းတမ်း၊ စသော မိန်းမမှုနှင့်ဆိုင်သည့် ကစားနည်းများကို ကစားလေ့ရှိ၏။ ယောကျ်ားကလေးများကလည်း သစ်ပင်တက်တမ်း၊ ကစားစရာ သေနတ်၊တုတ်၊ဓါးများကိုင်၍စစ်တိုက်တမ်း၊နပန်းလုံးတမ်း စသည်ဖြင့် ကစားတတ်ကြ၏။ ဤသို့ ကစားခြင်းမှာ တနည်းအားဖြင့် နောင်ရေးအတွက်လေ့ကျင့်ခြင်းဖြစ်သည်ဟု ဆိုရပေမည်။ ငယ်ရွယ်စဉ်တွင် လူကြီးများပြုမူလုပ်ကိုင်သည်တို့ကို အတုယူကာ အမျိုးမျိုးအဖုံဖုံ ကစားခြင်းဖြင့် သူတို့၌ ဉာဏ်ပွင့်လင်းခြင်း၊မြော်မြင်တတ်ခြင်း၊စိတ်ဓါတ်ပိုမိုခိုင်မာလာခြင်းစသော အကျိုးထူးများ ရနိုင်လေသည်။

## စိတ်ပျှိမှုကိုယ်နှု

ကိုယ်ခန္ဓာ ကျန်းမာသန်စွမ်းမှသာ စိတ်ဓါတ်သည် ကြည်လင် ရွှင်လန်းနိုင်၏။ ကိုယ်နှင့်စိတ်သည် ဒွန်တွဲနေသောကြောင့် ကိုယ်ကလှုပ်ရှားမှု တကိုယ်လုံးရှိသွေးသားများ ကောင်းစွာလှုပ်ပတ်သွားလာနိုင်ပြီးလျှင် ဦးနှောက်သည် အလုပ်လုပ်နိုင်ပေမည်။ ထိုကြောင့် ကစားခြင်းသည် ဦးနှောက်အလုပ်ကောင်းကောင်းလုပ်နိုင်ရန်အတွက် အထူးလိုအပ်သဖြင့် ပညာသင်ကြားရေး၌ ကစားခြင်းကိုပါ ထည့်သွင်းထားကြလေသည်။ တနည်းဆိုရသော် ကစားခြင်းကိုမှီး၍ ပညာသင်ကြားပေးလေသည်။ ကစားခြင်းကိုမှီး၍ ပညာသင် ပေးသည် ဟုဆိုရာတွင် အလုပ်သဘော မပါဘဲ အကစားသက်သက်နှင့် အချိန်ဖြုန်းခြင်းဖြစ်သည်ဟု မထင်မှတ်သင့်ပေ။ လုပ်ရမည့်အလုပ်ကို ငြီးငြီးငွေ့ငွေ့ညည်းညည်း

လိမ်မာလာစေရန်ဖြစ်သည်ဟု ဆိုနိုင်ပေသည်။ တိရစ္ဆာန်ကလေးများကိုကြည့်မည်ဆိုလျှင် ကြောင်ကလေးသည် သိုးမွေးလုံးကို တို့ကာ မြှောက်ကာ ကစားနေခြင်းသည် နောင်သူကြီးပြင်းလာသောအခါ သူ့အစာဖြစ်သော ကြွက်ကို မည်ကဲ့သို့ဖမ်းယူကာ ကျီစယ်ကစားရမည်ကို ယခုကပင် သင်နေသကဲ့သို့ဖြစ်၏။ ခွေးငယ်ကလေးများ တကောင်ပေါ်တကောင်ထပ်၍ သတ်ပုတ်တမ်း လိုက်တမ်းပြေးတမ်း ကစားခြင်းသည် နောင်ကြီးပြင်းလာ၍ ရန်သူများနှင့်ရင်ဆိုင်ရသည့်အခါ ခုခံရှောင်တိမ်းတတ်အောင် လေ့ကျင့်နေသည်နှင့် တူတော့သည်။

လူ့သဘာဝတွင်လည်း တိရစ္ဆာန်ကလေးများကဲ့သို့ပင်ဖြစ်ရာ မိန်းကလေးများသည် အိုးပုတ်ကလေးများဖြင့် ထမင်း

အမေရိကန်ကလေးတစု သစ်တုံးများဖြင့် ကစားနေခြင်း။ ဤကစားနည်းသည် လူကိုသန်စွမ်းစေ၍ စိတ်ကူးဉာဏ် ရင့်သန်စေသည်။



ညှညှနှင့် စိတ်မပါ့တပါမဟုတ်ဘဲ ပျော်ပျော်ရွှင်ရွှင်နှင့် ခပ်တွင်တွင်ပြီးအောင် ပြုလုပ်ပေးခြင်းသာ ဖြစ်လေသည်။ ရှေးခေတ်က ကလေးများကို လွတ်လပ်စွာကစားခိုင်းထားခြင်းဖြင့် ပညာတတ်မည်မဟုတ်ဟု ထင်ခဲ့ကြ၏။ ရှေးလူကြီးများက ကလေးတို့သည် အိုးခွက်များနှင့် ပမာတူ၍ 'စရည်းအိုး ခွက်၊ ကြီး စွာ လျက် လျှင်၊ တန် စက် ကျများ၊ ပြည့်သောလားသို့'၊ ဟူသောစကားအရ နေ့စဉ်နှင့်အမျှ သူတို့စိတ်ပါသည်ဖြစ်စေ၊မပါသည်ဖြစ်စေ၊ဗဟုသုတပေးရမည်။ သို့မှသာ ပညာရေအိုး ပြည့်ဖိုးလာမည် ဧကန်ဖြစ်သည်။ ကလေးတို့သည် ဘာမျှမသိတတ်သောအမိုက်အမဲများဖြစ်သည်နှင့် အညီ တံဖျာနှင့်နှက်မှ ဉာဏ်ပညာထွက်မည်ဟု ယုံကြည်ခဲ့ကြ၏။ ဤသို့ဖြင့် ကလေးများအပေါ်တွင် စာကျက်လျှင်ကျက် မကျက်လျှင်နှက်မည်ဟူသော အစမ္မစံနစ်သည် ရှေးကကြီးစိုးခဲ့လေသည်။ နောက်မှ ကလေးများ၏ စိတ်ဓါတ်အခြေအနေတို့ကို စူးစမ်းလေ့လာခဲ့သည့် ပညာရေးဆိုင်ရာ



တန်းလွဲ ကစားခြင်းကိုလည်း ကလေးများ ခုံမင်ကြသည်။



ခွေကိုယ်စီနှင့် ကျေနပ်နေကြသော ကလေးသုံးဦး

ပြုပြင်ရေးသမားများဖြစ်သောဖရားဗယ်နှင့် မွန်တက်ဆိုးရီးတို့၏ ဟောပြောချက်များကြောင့်၊ကလေးများ၏စိတ်ဓါတ်ကို ပိုမိုနားလည်လာသဖြင့် အကြင်နာဖက်ကာ အကြမ်းဝါဒများကို ပယ်ဖျောက်ပြီးလျှင်၊ကလေး၏စိတ်ဓါတ်နှင့်ညှိနှိုင်း၍ နှစ်ခြိုက်ရာကို ဖန်တီးပေးခြင်းအားဖြင့် ပညာခရီးပိုမိုတွင်ကျယ်မည်ဖြစ်ကြောင်းကို သဘောပိုက်မိကြလေသည်။ (ဖရားဗယ်၊မွန်တက်ဆိုးရီး — လည်းရှု။) ဤသို့ဖြင့် ကလေးစိတ်တိုင်းကျကစားခြင်းနှင့်ယှဉ်မှီးသော ပညာသင်နည်းကို စထွင်ခဲ့ကြ၏။ ပညာရေး၌ ကစားခြင်းသည် အလွန်အသုံးကျ အရေးကြီးကြောင်းကို ခေတ်မှီပညာရှင်များကပင် ဝန်ခံကြလေသည်။ ကလေးလူကြီးအားလုံး အကစားနှင့်အလုပ် တသဘောတည်းကျသောအခါ အားသန်၍ စိတ်ပါလက်ပါ ပြုလုပ်ဆောင်ရွက်တတ်ကြသည်။ လူကြီးပင်ဖြစ်

ကမ္ဘာ့အိုလင်းပစ်နေ့တွင် ရန်ကုန်မြို့ အောင်ဆန်းကစားကွင်း၌ အကြိတ်အနယ်နွှဲနေသည့် ဗေါ်လီ ဘောပွဲကောင်းတခုကို ဤသို့တွေ့ရ၏။



စေ သူဝါသနာပါသည့်အလုပ်တခုကို လုပ်နေရလျှင် ပင်ပန်းသည်ဟု သဘောမထားအပျော်ပြေကစားနေရသည်ဟုပင် ထင်မှတ်တတ်၏။ နှစ်ခြိုက်ရာအလုပ်ကို လုပ်နေရလျှင် ပျော်ပိုက်လာ၍ စိတ်ကူးဥာဏ်ကူးများလည်း ဆတက်ထမ်းပိုး တိုးတက်လာမည် ဖြစ်ပေသည်။ စိတ်ပါဝင်စားသောကြောင့် အလုပ်တွင်အာရုံစူးစိုက်နိုင်ပြီးလျှင် ကြံရည်ဖန်ရည်များ ထုတ်ကာ ကြီးပွားတိုးတက်ရာလမ်းကိုစထွင်နိုင်လေသည်။ ထို့ကြောင့် ကလေးများကို သူတို့စိတ်အပါဆုံးဖြစ်သည့် ကစားခြင်းဖြင့်သာ ပညာသင်ပေးလျှင် အလွန်ပင်သင့်လျော်လေသည်။ ဤသို့ စိတ်ပါမှုကို ဖန်တီးပေးနိုင်သည့် အချက်များမှာ ပြုလုပ်ရမည်ဖြစ်သော အလုပ်သည်၎င်း၊ လုပ်နည်းသည်၎င်း၊ ကလေးတို့၏ စိတ်ဓါတ်နှင့် ကိုက်ညီ



ရှေးဆန်သော်လည်း မတိမ်ကောနိုင်သည့် ရွှံ့ရုပ်များ

စေခြင်း၊ကလေးတို့၏ ဘဝနှင့် ရင်းနှီးစေခြင်း၊ရည်ရွယ်ချက်ရှိခြင်း၊အဓိပ္ပါယ်ရှိခြင်းတို့ဖြစ်လေသည်။ (မြန်မာကလေးကစားနည်းများ၊အင်္ဂလိပ်ကစားနည်းများ — ရှု)။

**ကစားစရာများ။** ။ကစားစရာများသည် လူတမျိုးနှင့်တမျိုး တနိုင်ငံနှင့်တနိုင်ငံ ကွဲလွဲကောင်း ကွဲလွဲမည်ဖြစ်သော်လည်း၊ရှေးပဝေဏီကပင် ပေါ်ပေါက်ခဲ့ပေသည်။ သို့ရာတွင် လူတို့၏ခေတ်သည် အမျိုးမျိုးပြောင်းလဲခဲ့သည့်အတိုင်း ကလေးကစားစရာများသည်လည်း ခေတ်အလိုက် အမျိုးမျိုး တိုးတက်ပြောင်းလဲလာခဲ့ကြပေသည်။ အထူးသဖြင့် စက်မှုနှင့် သိပ္ပံပညာ ထွန်းကားလာသည့်အခါမှစ၍ ကလေးကစားစရာများ၏အဆင့်အတန်းမှာ သိသိသာသာ တိုးတက်၍လာခဲ့ပေသည်။ ရှေးခေတ်လူတို့သည် ရွှံ့နှင့် ပြုလုပ်သော မြင်းရုပ် နွားရုပ်များ၊ဝါးပင် ကျူပင်မှပြုလုပ်သော ပြွေကလေးများဖြင့် မိမိတို့သားသမီးများ၏ စိတ်ပျော်ရွှင်မှုကို ဖန်တီးပေးခဲ့ကြ၏။ အဝတ်စုတ်များ၊သစ်တိုဝါးစများနှင့်ပြုလုပ်သော ကစားစရာများဖြင့်လည်း သားသမီးငယ်များကို နှစ်သိမ့်စေခဲ့ကြလေသည်။

ဂျာမနီနှင့်ဆွစ်ဇာလန်နိုင်ငံတို့သည် ရှေးနှစ်ပေါင်းများစွာကစ၍ ကလေးကစားစရာများကို ကမ္ဘာအနှံ့အပြားသို့ တင်ပို့ရောင်းချခဲ့ကြသည်။ ထိုတိုင်းပြည်များမှ ခေတ်စားသော အရုပ်များမှာ ကော်ရုပ်ကလေးများနှင့်မော်တော်ကားမီးရထား၊စက်ဘီးစသည့် အရုပ်ကလေးများဖြစ်သည်။ကလေးများတက်စီးနိုင်သော လှုပ်မြင်းရုပ်များ၊နှစ်ယောက်စီးချားရဟတ်များကို ကမ္ဘာ့အရပ်ရပ်ရှိ မည်သည့်ကလေးမျှ မနှစ်သက်ဘဲမနေနိုင်ပေ။ ဂျပန်နိုင်ငံ၊ချက်ကိုဆလိုဗါးကီးယားနိုင်ငံတို့မှလည်း စက္ကူ၊ဝါး၊ထင်းရှူးသား၊ကြွေ၊ရွှံ့၊ကျွဲကော်စသည်တို့ဖြင့် ပြုလုပ်ထားသည့် ကစားစရာမျိုးစုံကို ကမ္ဘာအနှံ့အပြားသို့ အကြီးအကျယ် တင်ပို့ရောင်းချခဲ့လေသည်။

ကစားစရာလုပ်ငန်းသည် စီးပွားရေးလုပ်ငန်းဖြစ်သည့်အတိုင်း ကစားစရာပြုလုပ်သောသူတို့သည် မိမိတို့၏ကုန်ကိုတွင်ကျယ်စွာရောင်းချနိုင်ရန်အတွက် ကစားစရာများကို ပိုမိုကောင်းမွန်အောင် တီထွင်နိုင်ရန် အမြဲကြိုးစားခဲ့ကြသည်။ ကြိုးစားသည့်အတိုင်းလည်း ယခုအခါ သိပ္ပံပညာနှင့်ယှဉ်သော စက်တပ်ကစားစရာ အဆန်းအပြားများ ပေါ်ပေါက်လာပေပြီ။ ရေထဲတွင်ခုတ်မောင်းနိုင်သော သင်္ဘောရုပ်ကလေးများ၊သံပတ်ဖြင့်သွားသော မော်တော်ကားရုပ်ကလေးများ၊သံလမ်းပေါ်တွင်ပတ်ပြေးသော မီးရထားရုပ်ကလေးများ၊လေထဲတွင်ပျံဝဲနိုင်သော လေယာဉ်ပျံရုပ်ကလေးများမှာ ကလေးသူငယ်များသာမက လူကြီးများပင် နှစ်ခြိုက်သဘောကျစရာ ဖြစ်ပေသည်။

ကလေးကစားစရာအမျိုးမျိုးရှိရာတွင် အချို့မှာ လှုပ်ရှားနိုင်ခြင်းမရှိသော အရုပ်သေများသာဖြစ်သည်။ အချို့မှာ လှုပ်ရှားနိုင်၊ခုတ်မောင်းနိုင်သော အရုပ်ရှင်များဖြစ်သည်။



အရုပ်လောက၌ အတန်းစားမြင့်သည့် သံပတ်စက်ရုပ်များ



မြန်မာ့လက်ရာဖြစ်သော ဘီလူးခေါင်း၊နတ်ခေါင်း၊ယဉ်မင်းရုပ်၊သူငယ်တော်ရုပ်၊ဖိုးဘရုပ်၊မြင်းရုပ်စသည်များ

အချိုမှာမူ ကလေးများ စိတ်ကူးဉာဏ် ထက်သန်တိုးတက်ရေးအတွက် ဖန်တီးပေး၍ ကလေးများကိုယ်တိုင် တပ်ဆင်ပြုလုပ်ရသော ကစားစရာများဖြစ်ပေသည်။

မြန်မာနိုင်ငံတွင်လည်း ကလေးကစားစရာ ပြုလုပ်ရောင်းချသူများရှိသည်။ ဦးဘရုပ် (ဖိုးဘရုပ်)၊ပစ်တိုင်းထောင်နှင့်တကွ၊ မင်းသားရုပ်၊ မင်းသမီးရုပ်၊မြင်းရုပ်၊ ကျားရုပ်များတွင် ကြိုးတပ်ထားသော ရုပ်သေးရုပ်များမှာ ယနေ့တိုင်အောင်ပင် မရိုးနိုင်သေးချေ။ အဝတ်စ၊စက္ကူစတို့ဖြင့် ပြုလုပ်ထားသော ဘီလူးခေါင်း၊ကျားခေါင်း စသည်များလည်း ရှိသည်။ အရုပ်မျိုးစုံကို များသောအားဖြင့် ဘုရားတန်



လက်ရာမြောက်လှသည့် ဂျပန်မြင်းစီးသူရဲကောင်းရုပ်



ကလေးတိုင်း မနှစ်သက်ဘဲမနေနိုင်သည့် လှုပ်မြင်းရုပ်



**ရန်ကုန်တက္ကသိုလ် အားကစားရုံအတွင်း နှစ်တန်းဗါးပေါ်၌ ကင်းမြီးကောက်ထောင်နေသော တက္ကသိုလ်ဗလမောင်တဦး**

ဆောင်းရှိဆိုင်များနှင့် ပွဲဈေးတန်းများ၌ ရောင်းချလေ့ရှိကြသည်။ ယခုခေတ်တွင်မူ ကစားစရာများကို ဆိုင်များဖွင့်လှစ်၍ပင် ရောင်းချနေကြပြီ။ ထိုဆိုင်များတွင် ကစားစရာများ အမျိုးစုံလှသည့်ပြင်၊ရှေးခေတ်ကစားစရာများထက် များစွာအဆင့်အတန်းမြင့်လာသည်ကိုလည်း တွေ့ရပေသည်။ ကလေးစီးစက်ဘီးကလေးများ၊မော်တော်ကားကလေးများနှင့် မြင်းရုပ်ကလေးများမှာ ကလေးတိုင်းလိုချင်မက်မောလောက်အောင်ပင် ကောင်းမွန်ကြပေသည်။ ထိုကဲ့သို့ ကစားစရာများ၏ အဆင့်အတန်း တိုးတက်၍လာပြီမှန်သော်လည်း နိုင်ငံခြားထုတ်ကုန်အဖြစ်သို့ကား မရောက်သေးပေ။

ကစားစရာလုပ်ငန်းတွင် များသောအားဖြင့် အလုပ်ရုံများမှ ပိုလျှံကြွင်းကျန်နေသော ပစ္စည်းအစအနများကို သုံးကြသည်။ သစ်တို သစ်စအတွက် သစ်ရုံ သစ်စက်များမှ၎င်း၊အဝတ်စများအတွက် စက်ချုပ်သောဌာနများမှ၎င်း၊ အမြောက်အမြား ဝယ်ယူရပေသည်။ ယခုပင် ဤမျှတိုးတက်နေသော ကစားစရာလုပ်ငန်းသည် အနာဂတ်ကာလတွင် ယခုထက် အဆပေါင်းများစွာ တိုးတက်လာဦးမည်မှာ ယုံမှားဖွယ်မရှိချေ။ (ပုံစံ — လည်းရှု)။

**ကစားရုံ၊အား။** ။အားကစားရုံကို အင်္ဂလိပ်လို ဂျင်မနေဇီယမ်ဟု ခေါ်သည်။ ဂျင်မနေဇီယမ် ဆိုသည့်စကားသည် ဂျင်မနော့ ဟူသော ဂရိစကားမှ ဆင်းသက်လာ၍ ကိုယ်တုံးလုံးဟု အဓိပ္ပါယ်ရသည်။ ရှေးခေတ် ဂရိလူငယ်များသည် ကိုယ်လက်ကြံ့ခိုင်ရေးသင်တန်းဆင်းချိန်တွင် မိမိတို့ဝတ်ဆင်ထားသောအဝတ်များကို ချွတ်၍ကစားကြသည်။ အားကစားရုံတွင် ကိုယ်လက်ကြံ့ခိုင်ရေး၊ပေ့ါပါးဖျတ်လတ်ရေး၊ကိုယ်အင်္ဂါအစိတ်အပိုင်းများ အချိုးအဆစ်ပြေပြစ်ရေး စသည်တို့အတွက် လေ့ကျင့်ကစားနိုင်သောပစ္စည်းများ ထားရှိရ၏။ များသောအားဖြင့် ကျောင်းများတွင် ကစားရုံများထားရှိပြီးလျှင် ကျောင်းသားလူငယ်များအား ကိုယ်လက် ကျန်းမာဖွံ့ဖြိုးလာအောင် နည်းလမ်းတကျ သင်ပြပေးလေ့ရှိပေသည်။ အားကစားရုံများတွင် လက်နှင့်ဆွဲတက်ရန်ကြိုးများနှင့် လှေကားများကို၎င်း၊ ကွင်းဗါး (ရင်းဗါး)၊တတန်းဗါး၊နှစ်တန်းဗါးများကို၎င်း၊ဒမ်ဗယ် ဗါးဗဲခေါ် အလေးများနှင့် အင်းဒီးယန်းကလပ်ခေါ် တင်းပုတ်များကို၎င်း၊ လက်သီးထိုးကျင့်စရာဘောလုံးနှင့် လက်ထောက်ခုန်ပြီးကစားရသော မြင်းဗါးများကို၎င်း၊ကစားစရာပစ္စည်းအမျိုးမျိုးကို တွေ့မြင်နိုင်ပေသည်။

အားကစားလေ့ကျင့်ရာတွင် ကိုယ်လက်အင်္ဂါအားလုံးကို တခုနှင့်တခု အဆင်ပြေအောင် လှုပ်ရှားနိုင်မှုနှင့် အံကိုက်အချက်ကျအောင် လှုပ်ရှားနိုင်မှုသည် အရေးအကြီးဆုံး



**ကျန်းမာရေးသည် အမျိုးသမီးများအတွက်လည်း အရေးကြီး၏။ ဤပုံတွင် အနောက်နိုင်ငံကျောင်းသူအချို့ ကြိုးလှေခါး ကြိုးတန်းများဖြင့် ကျန်းမာရေးလေ့ကျင့်နေစဉ် ဤသို့တွေ့ရသည်။**

ဖြစ်၏။ ဤသို့လှုပ်ရှားနိုင်ရန်မှာ သာမန်လူတို့အတွက် ခက်ခဲမည်ဖြစ်သော်လည်း၊အားကစားရုံတွင် ဆိုင်ရာပစ္စည်းကရိယာများဖြင့် စံနစ်တကျ လေ့ကျင့်ထားသူအဖို့မှာမူ မည်သို့မျှ ခက်ခဲခြင်းမရှိပေ။ အားကစားနည်းများကို လေ့ကျင့်ပေးခြင်းဖြင့် ကိုယ်၏ကျန်းမာမှုကိုသာမဟုတ်၊စိတ်ကျန်းမာမှုကိုလည်း ရစေနိုင်သည်။ ထို့ကြောင့်ပင် နိုင်ငံတိုင်းလိုလို၌ အထူးသဖြင့် ကျောင်းများတွင် အားကစားရုံများထားရှိကာ၊လူငယ်များအား အားကစားနည်းများကို စံနစ်တကျ လေ့ကျင့်သင်ပြပေးလျက်ရှိပေသည်။ (ကိုယ်လက်ကြံ့ခိုင်ရေး — လည်းရှု။)

**ကစီ**။ ။ကော်မှုန့် — ရှု။

**ကဆုန်လ**။ ။ကဆုန် ဟု ယခု အရေး အခေါ် ပြုနေသော လ၏အမည်ကို ပုဂံခေတ်ထိုး ကျောက်စာတို့တွင် ကုဆုန်ဟု အရေးများသည်။

ပုဂံခေတ်၌ အသုံးတွင်ကျယ်သော ကုဆုန်၊ကဆုန်ဟူသော အရေးနှစ်မျိုးတွင် ကုဆုန်သည် မူလဖြစ်၍၊ယင်းမှ ကဆုန်သို့ ရွေ့လျောသည်ဟု ယူဆရပေသည်။

ကု၊က၏အနက်သည် ရေဖြစ်၍၊ဆုန်၏အနက်မှာ သွန်းလောင်းသည်ဟု ဖြစ်သောကြောင့်၊ကဆုန်လကို ရေသွန်းလ၊ရေလောင်းလဟု ကောက်ယူရသည်။ ကုဆုန်၊ကဆုန်ဟူသော လ၏အခေါ်မှာ အလွန်ရှေးကျသည်ကိုထောက်သော် မြန်မာနိုင်ငံသို့ သာသနာရောက်သည့်အခါမှစ၍



လမြတ်ကဆုန်၌ ဗောဓိပင်ကို ညောင်ရေ သွန်းလောင်းနေစဉ်

ညောင်ရေသွန်းပွဲတော်ကျင်းပခြင်း အလေ့လည်း တပြိုင်တည်းဖြစ်ပေါ် လာသည်ဟု ထင်မှတ်ရလေသည်။

တန်ခူး၊ကဆုန်စသော ဆယ့်နှစ်လတို့တွင် ကဆုန်၊ဝါဆို၊ ဝါခေါင်၊ သီ တင်း ကျွတ်၊ တန် ဆောင် မုန်း၊ နတ် တော် ဟူ၍ ခြောက်မျိုးသော အခေါ် တို့မှာ သာသနာရေး ကိုးကွယ်ယုံကြည်ရေးနှင့် သက်ဆိုင်လေသည်။ ဤကဆုန်လရာသီတွင် နေအရှိန် အပြင်းထန်ဆုံးဖြစ်သောကြောင့် ရေများပင် ခန်းခြောက်လေ့ရှိရကား၊မြတ်စွာဘုရားပွင့်တော်မူရာ ဗောဓိပင်ကိုရည်မှတ်ကာ ဗောဓိပင်အပွားတော်များကို တပျော်တပါး ရေစင်သွန်းလောင်းခြင်းများ ပြုခဲ့ကြသဖြင့်၊



ရေအိုးကိုယ်စီနှင့် ကဆုန်ညောင်ရေပွဲ ဆင်နွှဲကြသူ လုံမပျိုများ


မီးထွန်းရန်နှင့် မီးမွှေးရန် အသုံးပြုရသည့် ကညင်ဆီတိုင်

လပြည့်နေ့၌ကျင်းပသော ပွဲတော်အခါကြီးကို ကဆုန် ညောင်ရေသွန်းပွဲတော်ဟုလည်း ခေါ်ဝေါ်မှတ်ပြုခဲ့ကြသည်။ (ကဆုန်လပြည့်နေ့ — ရှု။) ထိုမျှမက ခန်းခြောက်သော အင်းအိုင် ရေကန်တို့မှ ငါးများကိုပင် ရေများရာဒေသသို့ ရွှေ့ပြောင်းပေးခြင်းအားဖြင့်လည်း ဇီဝိတဒါန ငါးလွှတ်ပွဲများကို ယခုထက်တိုင် ပြုလုပ်လျက်ရှိကြသည်။

ကဆုန်လသည် မြန်မာတဆယ့်နှစ်လတွင် ဒုတိယလဖြစ်၍ ပြိဿရာသီနှင့် တူညီသည်။ မိုးဦးကျခါနီး ဖြစ်သည့်အလျောက် မိုးသံ လေသံများ စတင်ကြားရလေသည်။

**ကဆုန်လပြည့်နေ့။** ။ကဆုန်လပြည့်နေ့သည် ဗုဒ္ဓသာသနာဝင်တို့၏ နေ့ထူးနေ့မြတ်ကြီး ဖြစ်ပေသည်။ထိုနေ့၏ ထူးခြားချက်များကား

၁။ဘုရားအလောင်းတော် သုမေဓါရှင်ရသေ့သည် ဤဘဒ္ဒကမ္ဘာ၌ လေးဆူမြောက်ဖြစ်သော ဂေါတမအမည်ဖြင့် ဘုရားစင်စစ် ဧကန်ဖြစ်လိမ့်မည်ဟု ဒီပင်္ကရာမြတ်စွာဘုရားထံမှ နိယတဗျာဒိတ်ကို ကဆုန်လပြည့်နေ့တွင် ခံယူခြင်း။

၂။ မဟာသက္ကရာဇ် ၆၈ ခု ကဆုန်လပြည့်နေ့တွင် ဂေါတမဘုရား အလောင်း တော်သိဒ္ဓတ္ထမင်းသားအား ဖွားမြင်တော်မူခြင်း။

၃။ မဟာသက္ကရာဇ် ၁၀၃ ခု ကဆုန်လပြည့်နေ့ အရုဏ်တက်ချိန်တွင် ဂေါတမဘုရားအလောင်းတော်သည် သဗ္ဗညုတဉာဏ်တော်ကို ရရှိတော်မူခြင်း။

၄။ မဟာသက္ကရာဇ် ၁၄၈ ခု ကဆုန်လပြည့်နေ့တွင် မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ်၌ ဘုရားရှင် ပရိနိဗ္ဗာန်စံဝင်တော်မူခြင်း တို့ဖြစ်လေသည်။

ထိုကဲ့သို့ ဘုရားရှင်၏ အဖြစ်တော်စဉ်တွင် ထူးခြားမှတ်သားထိုက်သော ဤကဆုန်လပြည့်နေ့အား ဘုရားနေ့ဟု ဗုဒ္ဓသာသနာဝင်အပေါင်းတို့က အထွတ်အမြတ်ထားကြလျက်၊ဂေါတမဘုရားရှင်သည် ဤနေ့ ဤအခါ၌ သဗ္ဗညုတရွှေဉာဏ်တော်ကို ရတော်မူရန် အားထုတ်ရာတွင် အမှီပြုတော်မူသော ဗောဓိပင်အား ရေသွန်းလောင်းခြင်းစသော ကုသိုလ်ကောင်းမှုတို့ကို ပြုကြကုန်သည်။ (ဗောဓိပင် — လည်းရှု။) ရေသွန်းလောင်းကြသည်မှာ ကဆုန်လတွင် ရေရှားပြတ်လပ်၍ ညှိုးလျော်အံ့သော ဗောဓိပင်ကို လန်းဆန်းစိုပြည်စေရန်အတွက် ဖြစ်ပေသည်။

ထိုအလေ့အထသည် ဗုဒ္ဓသာသနာဝင်တို့တွင် ပျောက်ကွယ်သွားခြင်းမရှိဘဲ ယခုထက်တိုင် နှစ်စဉ်အမြဲ ကဆုန်လပြည့်နေ့တွင် ညောင်ရေသွန်းပွဲများ ပြုလုပ်လျက်ရှိကြလေသည်။ (ဗုဒ္ဓ — ရှု။)

**ကဇော်ပေါက်ခြင်း။** ။သကြားမှ အယ်လကိုဟော (အရက်) ဖြစ်လာခြင်း၊ အယ်လကိုဟောမှ တဖန် ရှုရကာရည် (ပုန်းရည်) ဖြစ်လာခြင်း၊သစ်သီးများ အမှည့်လွန်၍ ပုပ်သိုးသွားခြင်း၊ပေါင်မုံ့များ ပွလာခြင်း၊နွားနို့ချဉ်သွားခြင်းစသော အဖြစ်ပြောင်းလဲခြင်း မျိုးကို ကဇော်ပေါက်ခြင်းဟု ခေါ်၏။ စပျစ်သီး၊ပန်းသီးစသော အသီးများ မှုရသော သကြား၊ ကောက်နှံများ မှုရသော သကြားများထဲသို့ တဆေးထည့်လိုက်သောအခါ ကဇော်ပေါက်လာ၍ အယ်လကိုဟောနှင့် ကာဗွန်ဒိုင်အောက်ဆိုက် တို့ကို ရ၏။ သို့သော် တဆေးကြောင့် တိုက်ရိုက်အားဖြင့် ဤသို့ပြောင်း၍ အယ်လကိုဟောဖြစ်လာသည်မဟုတ်။ တဆေးမှ ဖြစ်ပေါ်လာသော အင်ဇိုင်းကြောင့် သကြားနှင့်တကွ အခြားပစ္စည်းများသည်မူလအခြေမှပျက်ပြားကာ ပစ္စည်းသစ်အဖြစ်သို့ ပြောင်းလဲသွားရသည်။ တဆေးမှာ စေး၍ အမြှုပ်တက်နေသောပစ္စည်းဖြစ်၏။ အရောင်မှာ အနည်းငယ်ဝါ၍ ဗက်တီးရီးယားများပါဝင်၏။ တဆေးကို အရက်ချက်ရာ၊ ကဇော်ပေါက်ရာ၊အချဉ်ပေါက်ရာတို့၌ များစွာအသုံးပြုကြရလေသည်။

နွားနို့ချဉ်၊ ထောပတ်၊ ဒိန်ခဲစသော ပစ္စည်းများဖြစ်လာခြင်း၏ အကြောင်းရင်းမှာလည်း အပင်လောကဆိုင်ရာပစ္စည်းများတွင်အရင်းခံသော ဗက်တီးရီးယားမျိုးအချို့မှ ဖြစ်ပေါ်လာသည့်အင်ဇိုင်းက နွားနို့ကို အခြေပြောင်းလဲ

သွားစေခြင်းပင် ဖြစ်သည်။ ထို့ကြောင့် ကဇော်ပေါက်ခြင်းသည် အင်ဇိုင်းများကတိုက်ရိုက်ဖြစ်စေ၊သွယ်ဝိုက်၍ဖြစ်စေ၊ပစ္စည်းများကို မူလအခြေမှ ပျက်ပြားစေပြီးလျှင် ကဇော်ပေါက်၍ ပစ္စည်းသစ်အဖြစ်သို့ ပြောင်းလဲစေခြင်းပင်ဖြစ်၏။ လူခန္ဓာကိုယ်တွင်း၌ လည်း ဓါတ်သဘာဝအားဖြင့် အင်ဇိုင်းများဖြစ်လာ၍ ထိုအင်ဇိုင်းများသည် လူတို့စားလိုက်သော အစားအစာများကို ကြေညက်စေသည်။ (တဆေး၊ဗက်တီးရီးယား၊အယ်လကိုဟော — ရှု။)

**ကညင်ဆီတိုင်**။ ။ကညင်ဆီတိုင်သည် မြန်မာကျေးရွာများ၌ မီးထွန်းရန်နှင့် မီးမွှေးရန်အသုံးပြုသော ပစ္စည်းဖြစ်သည်။ ကညင်ပင်မှရသော ကညင်ဆီဖြင့် ပြုလုပ်ထားသည်။

ကညင်ဆီကို ထုတ်ယူပုံမှာ တောတောင်၌ ပေါက်ရောက်သော လုံးပတ် ၅ တောင်မှ ၈ တောင်အထိ ကြီးမားသည့် ကညင်ပင်ကြီးတွင်၊အောက်ခြေအမြစ်မှ အထက် ၃ တောင်ကွာခန့်၌ ပြက် ၂ တောင် စောက် ၂ တောင်ခန့် ဓါးပုဆိန်နှင့် ထွင်းဖေါက်၍ တွင်းဂလိုင် ၁ တောင်ခန့် အကျယ်ရလျှင်၊ သစ်စ သစ်ပေါက်များကို ဖယ်ရှင်း၍ သစ်ကိုင်းခြောက်များဖြင့် မီးတိုက်ရသည်။ တနေ့နှင့်တညဉ့်တိုက်သော် မီးလောင်ပြီး တွင်းဂလိုင်ထဲသို့ ကညင်ဆီများ ယိုစီးကျသည်ကို ခပ်ယူရသည်။

အပင်ကြီးလျှင် ၅ ပိသာမှ ၇ ပိသာအထိ ရရှိ၍၊အပင်ငယ်လျှင် ၂ ပိသာမှ ၃ ပိသာ အထိရရှိသည်။ ရသောကညင်ဆီကို ကြသောင်းဝါးကျည်ဖြင့် ဖြစ်စေ၊ကျွဲချိုခွံဖြင့်ဖြစ်စေ ထည့်ရသည်။ မြေအိုးဖြင့် မထည့်ရချေ။

ထို့နောက် ညောင်သား၊ပေါက်သား၊အောက်ချင်းစာသား၊ ကျည်းသား၊ သရက်သား၊ သစ်ပင် အခြောက် အဆွေးများကို ထုချေ၍၊သစ်သားပျဉ်ပေါ် တွင် ကညင်ဆီနှင့်သမအောင်နယ်ကာ သဘော့ရွက်ခြောက်တွင် သင့်ရုံထည့်၍ အရွက်ချင်းခေါက်အုပ်ပြီးလျှင်၊ ဝါးနှီးဖြင့် လုံစွာ ၄–၅ ချက်စည်းရသည်။ ယင်းကို ကညင်ဆီတိုင်၊ကညင်ဆီထုပ်၊ကညင်ဆီချောင်းဟု ခေါ် သည်။ (တဖက်မှပုံ — ရှု။)

ကညင်ဆီတိုင်၏ အရွယ်ပမာဏမှာ အရှည်သုံးမိုက်ခန့်၊ လုံးပတ်ဒင်္ဂါးပြားခန့်ရှိသည်။ ကညင်ဆီတပိသာလျှင် အတိုင် ၅၀ ခန့် ရနိုင်သည်။ ကညင်ဆီကို နကျယ်ကောင်များကြိုက်တတ်၍ ဝါးကျည်ကို လုံစွာပိတ်ရသည်။ အဆို့မလုံသော်ခိုဝင်နေသော နကျယ်ကောင်ထွက်၍ အတုပ်ခံရလေ့ရှိသည်။

ကညင်ဆီ တတိုင်လျှင် ပြား ၄၀–၅၀ ခန့်ပေး၍ ဝယ်ယူရသည်။ ရှမ်းနှင့် ကရင်လူမျိုးတို့ အများအပြား လုပ်ကိုင်ရောင်းချလေ့ရှိသည်။



ဂလိုင်ထွင်းပြီး မီးတိုက်နည်းဖြင့် ကညင်ဆီထုတ်ယူနေစဉ်

**ကညင်ပင်**။ ။ကညင်ပင်မျိုးတွင် ကညင်နီ၊ကညင်ဖြူ၊ ကညင်ပျံ၊ ကညင်ကုပ်၊ ကညင်ကြောင်ချေး၊ကညင်ဝက်တောင်းဟူ၍ အမျိုးမျိုးကွဲပြားလျက်ရှိသောကြောင့် အပင်ကိုရင်း၊ခွဲစိတ်ပြီး ကညင်သားကိုရင်း၊မြင်ရုံမျှဖြင့် မည်သည့်ကညင်ပင်မျိုးဖြစ်သည်ကို တိကျစွာ ခွဲခြားသိနိုင်ရန် ခဲယဉ်းသည်။ အထက်မြန်မာပြည်၌ ကညင်နီပင်များကို အများအပြားတွေ့ရ၍၊အောက်မြန်မာပြည်၌ ကညင်ဖြူပင်မျိုးကို အများအပြားတွေ့နိုင်သည်။ ခြုံ၍ပြောရလျှင် ကညင်ပင်တို့သည် အလွန်ကြီးမားသော အပင်မျိုးဖြစ်သည်။ အချို့သည် အမြင့် ပေ ၁၅၀ ခန့်၊ပင်စည်လုံးပတ် ၁၅ ပေခန့်အထိရှိတတ်သည်။ ထိုကဲ့သို့မြင့်မားသော အပင်ကြီးများတွင် အရင်းပိုင်း ပေ ၇၀မှ ပေ ၁၀၀ လောက်အထိမှာ အကိုင်းအခက်များကင်းစင်ကာဖြောင့်စင်းနေတတ်သည်။ အခေါက်အပွေးမှာ အလွန်ချောမွတ်၏။ ကညင်ပင်သည် အစုလိုက်မပေါက်ဘဲ ပြောက်ကျား ပေါက် လေ့ ရှိ၍၊ မြန် မာ နိုင် ငံ၌ အမြဲစိမ်းတောများတွင် တွေ့မြင်နိုင်သည်။

ကညင်သားသည် နီညစ်ညစ်အရောင်ရှိ၍ အင်သားထက် အနည်းငယ်ညံ့သည်။ အသားကြမ်း၍ အတော်အတန် ခိုင်ခံ့သော်လည်း မြန်မာနိုင်ငံ ရာသီဥတုဒဏ်ကို ခံနိုင်ရည်မရှိချေ။ ခြလည်း အစားလွယ်သည်။ ထို့ကြောင့် အသားသေအောင် ပြုလုပ်ပြီးမှ အသုံးချသင့်သည်။ မြန်မာနိုင်ငံတွင် ကညင်သားကို လှေများနှင့် သေတ္တာများလုပ်ရာ၌ အသုံးများသည်။

ကညင်သားကို သစ်ကွက်လှခြင်းအတွက် သုံးနိုင်သည့် အပြင်ကရီအိုဇုတ်ဆီသုတ်ပေးလျှင် ကြာရှည်ခံသောကြောင့် နိုင်ငံခြားသို့ ရောင်းချနိုင်ဖွယ်ရာ အလားအလာ များစွာ ရှိပေသည်။

ကညင်ပင်မှရရှိသောဆီကို အချို့တောရပ်များ၌ ရေနံဆီအစား မီးထွန်းကြသည်။ ကညင်ဆီတိုင်အမည်ဖြင့် မီးမွှေး

ရန်ရောင်းချသော ကောက်ညင်းကျည်တောက်အရွယ်ရှိ ထန်းရွက်စသည်နှင့် ထုပ်စည်းထားသည့် အတောင့်ကို တွေ့ဘူး သုံးဘူးကြပေမည်။ ထိုကညင်ဆီတိုင်မှာ သစ်ဆွေး အစကလေးများကို ကညင်ဆီနှင့်နယ်ထားသည့် ပစ္စည်းပင် ဖြစ်သည်။ (ကညင်ဆီတိုင် — ရှူ။) ကညင်ဆီတိုင်ကို မီးရှူး မီးတိုင်အဖြစ်လည်း သုံးနိုင်သည်။ ယဉ်းနေသောအနာများ ကို သုတ်လိမ်းပေးနိုင်သဖြင့်၊ ဆေးဖက်လည်းဝင်သည်။



မိုးဦးပေါ်သည့် အရသာထူးကဲသော ဟင်းလျာကညွတ်

ထားငယ်နယ်တွင် ကညင်ဆီကို အောက်ပါနှစ်နည်း ဖြင့် ထုတ်ယူကြသည်။ ပဌမနည်းမှာ ကြက်ပေါင်စေးထုတ်ယူ သကဲ့သို့ ၃ ရက်တကြိမ် ၄ ရက်တကြိမ် ပင်စည်ကို ဓါးဖြင့် ထစ်၍ ဆီထုတ်ယူနည်းဖြစ်သည်။ တနှစ်အတွင်း ကညင်ပင် တပင်မှ လေးလခန့် ထိုကဲ့သို့ဆီထုတ်နိုင်၍၊ စုစုပေါင်း ကညင် ဆီ ပျမ်းမျှ ၁၅ ပိဿာခန့် ရနိုင်သည်။

ဒုတိယနည်းမှာ ပင်စည်ကို ဓါးဖြင့်ထစ်ပြီးသကာလ ယိုထွက်လာသော ကညင်ဆီနှင့် သစ်ရွက်ခြောက်များကို ရော၍ အပင်ရင်းကို မီးမြှိုက်ပေးရသည်။ မီးမြှိုက်ပြီး ၂ ရက် အကြာတွင် ထိုအပင်မှယိုထွက်လာသော ဆီများကို စုသိမ်း ရသည်။ ထိုနောက် ၂ ရက်မျှ အနားပေးပြီးလျှင် တဖန်မီး မြှိုက်၍ ဆီထုတ်ယူပြန်သည်။ ထိုနည်းအတိုင်း ဒီဇင်ဘာလ မှ မေလအထိ ကညင်ဆီကို ထုတ်ယူနိုင်သည်။ သို့သော် ပဌမနည်းလောက် သန့်စင်ခြင်းမရှိပေ။

**ကညွတ်ပင်။** ။တနှစ်လျှင် တကြိမ်သာ ရာသီအလိုက် ပေါ်သည့်အပြင် အရသာထူးသော ဟင်းသီးဟင်းရွက်ပင် ဖြစ်သည့် ကညွတ်ပင်ကို လူများ အမြတ်တနိုး ဝယ်ယူစားသုံး ကြသည်။ မြန်မာနိုင်ငံတွင် မိုးဦးကျစလများ၌ ကညွတ် များကို ဈေးထဲ၌ရောင်းချကြသည်။ အနောက်နိုင်ငံတို့၌ လည်း ကညွတ်ကို ကြိုက်နှစ်သက်သူများ၍၊ အစာထူး အစာ ဆန်းတရပ်အဖြစ်ဖြင့် ဈေးကြီးပေး၍ဝယ်ယူစားသုံးကြသည်။

ရေမဘုရင်များ ကြီးစိုးသည့်ခေတ်မှစ၍ ကညွတ်ကို အစာ ကောင်းတခု အဖြစ်ဖြင့် စိုက်ပျိုးခဲ့ကြ၏။ ကညွတ်မှာ နှစ် ကြာခံပင်မျိုးဖြစ်ရာ၊ ကျနစွာပြုပြင်ထားသည့် စိုက်ခင်းတွင် အစေ့များကိုစိုက်ပျိုး၍ အပင်များ နေသားတကျဖြစ်လာ လျှင် နှစ်စဉ်နှစ်စဉ် အပင်စို့များ ထွက်ပေါ်လာမည်ဖြစ်၏။ သို့သော် အပင်များ သန်စွမ်းစွာထွက်နိုင်ရန် မြေသြဇာ အစဉ်ဖြည့်လောင်းပေးရသည်။ အနောက်နိုင်ငံများတွင် ဆောင်းနှင့်နွေအကြား စပရင်းဥတု (နွေကူးဥတု) မှာ ကညွတ်ပေါ်ချိန်ဖြစ်သည်။

ကညွတ်ပင်စို့များ မြေပြင်မှပေါ်ထွက်လာ၍ ၆ လက်မ သို့မဟုတ် ၈ လက်မမြင့်လာသည့်အခါ စားသုံးရန်အတွက် ထိုအပင်ငယ်များကို ဖြတ်ယူကြသည်။ အကယ်၍ အပင်ကို ကြီးပြင်းအောင်ထားလိုက်လျှင် ငှက်မွေးငှက်တောင်ကဲ့သို့ သော အခက်အရွက်များဖြင့် အလွန်တင့်တယ်သည့်အပင် ဖြစ်လာပေမည်။ အပွင့်ကလေးများမှာ ဖြူ၍ အနီရောင် အသီးများ သီးသည်။ ထို့ကြောင့် အချို့ကညွတ်ပင်မျိုး တို့ကို ခြံဥယျာဉ်များတွင် အလှအပအတွက် သက်သက် စိုက်ပျိုးထားတတ်ကြသည်။ ကညွတ်ပင်မျိုးပေါင်း ၁၂၀




ကညွတ်ပင်လှီးဖြတ်ရန် (က) နည်းမှား (ခ) နည်းမှန်

ကျော်ရှိ၍၊ အချို့တိုင်းပြည်များတွင် ကညွတ်ရိုင်းပင်များ နှင့်ကညွတ်နွယ်ပင်များလည်း ရှိသည်။

ကညွတ်ပင်ကိုစိုက်ပျိုးရာ၌ ပျိုးခင်းတွင် ပေါင်းများပြု လုပ်၍ အတန်းလိုက် မျိုးစေ့များကို ၃ လက်မစီခွာလျက် ပျိုးကြသည်။ အတန်းတခုနှင့်တခု ၃ ပေခန့် ကွာနေစေရ သည်။ ထိုကဲ့သို့ မျိုးစေ့ကိုပျိုးပြီးတနှစ်ကြာမှ ကညွတ်ပင် စို့များကို တူးဖော်၍ အမြဲတမ်းစိုက်ထားမည့်စိုက်ခင်းသို့ ရွှေ့ပြောင်းပေးရသည်။ ထိုစိုက်ခင်းတွင် တတန်းနှင့်တတန်း ၄ ပေမှ ၅ ပေအထိ ကွာစေ၍ တပင်နှင့်တပင် ၂ ပေခန့်ခွာ

လျက် ထားရသည်။ မျိုးစေ့ကိုစိုက်ပျိုးပြီး ၅ နှစ်ကြာမှ ကညွတ်ပင်ပေါက်များကို စားသုံးရန်အလို့ငှါ ဖြတ်ယူနိုင်သည်။ ထို့ကြောင့်လည်း ကညွတ်ကို ရနိုင်ခဲသော ဟင်းသီးဟင်းရွက်အနေနှင့် လူတို့သည် အဖိုးသားနားပေး၍ ဝယ်ယူစားသုံးကြလေသည်။

**ကတိုးကောင်**။ ။ကတိုးကောင်သည် ဟိမဝန္တာတောင်ကုန်းမြင့် သစ်တောများတွင်ရှိသော ဒရယ်တမျိုးဖြစ်၍၊ယင်းကို လက်တင်ဘာသာဖြင့် မော့ချပ် မော့ချီဖါရာဟု ခေါ်သည်။ များသောအားဖြင့် တကောင်တည်းနေတတ်၏။ တခါတရံ ဖိုမတွဲ၍နေသည်ကို တွေ့ရ၏။ သို့ရာတွင် အစုအအုပ်ဖွဲ့၍ကား မနေချေ။ အရွယ်ရောက်သော အကောင်မှာ အလျား ၃ ပေခန့်ရှိ၍ ပခုံးတွင် လက်မ ၂၀ ခန့်မြင့်သည်။ အရောင်အမျိုးမျိုးရှိသော်လည်းများသောအားဖြင့် အောက်ပိုင်းဖြူ၍၊အပေါ်ပိုင်းသည် မီးခိုးရောင် သို့မဟုတ် အညိုရောင်ဖြစ်သည်။

အဖိုနှင့်အမ နှစ်ကောင်စလုံး၌ ဦးချိုမရှိချေ။ သို့သော် အဖို၏ အပေါ်မေးရိုးတွင် အောက်သို့ထိုးထွက်နေသော အစွယ်များရှိ၍ ခုခံကာကွယ်ရာ၌ ထိုအစွယ်များကို အသုံးပြုနိုင်သည်။ အလွန်မွှေးကြိုင်သော ကတိုးဆီအတွက် ထိုသတ္တဝါတို့ကို ထောင်ချောက်ဖြင့် ဖမ်းယူကြ၏။ ကတိုးဆီကို အထီးဝမ်းပိုက်အောက်တွင်ရှိသော ဂလင်းအိတ်မှရရှိသည်။ ဂလင်းအိတ်မှာ သံပုရာသီးအရွယ်ခန့်ရှိ၍ ကတိုးဆီ တအောင်စခန့် ပါရှိ၏။ ကတိုးနံ့သည် အလွန်စူးရှကာ တာရှည်ခံသောကြောင့် ကတိုးကို အလွန်အဖိုးတန်သော ပစ္စည်းတခုအဖြစ်ဖြင့် အရှေ့တိုင်းတွင် အသုံးပြုကြသည်။

**ကတွတ်ပင်**။ ။ကတွတ်ပင်သည် ညောင်ပင်မျိုးတွင်ပါဝင်၍၊အမြဲစိမ်းလန်းကာ ချုံဖုတ်အကြီးစားကဲ့သို့ တည်ရှိသည်။ အခေါက်၊အရွက်၊အသီးနှင့်တကွ တပင်လုံးတွင် အမွှေးနုများရှိသည်။ အရွက်ချင်း အညှာဆိုင်သည်။ အသီးမှာ ဆီးဖြူသီးအရွယ်ခန့်ရှိ၍၊အရောင်မှာ ဝါပြီးလျှင် အညိုရောင် အမွှေးနုများ ဖုံးလွှမ်းနေသည်။

မြန်မာနိုင်ငံရှိ သစ်တောတိုင်းလိုလိုမှာပင် ကတွတ်ပင်များကို တွေ့ရ၍၊အထူးသဖြင့် မြန်မာနိုင်ငံအောက်ပိုင်း၌ ပိုမိုတွေ့ရှိရသည်။

ကတွတ်သီးမှည့်ကို လတ်လတ်သော်၎င်း၊ယိုထိုး၍သော်၎င်း၊စားသုံးကြသည်။

**ကထိန်**။ ။ဝါတွင်း သုံးလပတ်လုံး ဝါမကျိုး မပျက်ဘဲ ပဝါရဏာပြုသော ရဟန်းရှိရာကျောင်းတိုက်၌ ကထိန်ခင်းကြသည်။ ကထိန်ခင်းရာ၌ သင်္ကန်းတထည်ကိုဖြစ်စေ၊အများကိုဖြစ်စေ၊ 'ဣမံ စီဝရံ သံဃဿ ဒေမိ၊' ဤသင်္ကန်းကို သံဃာတော်များအား လှူဒါန်းပါ၏ဟု လျှောက်ထား၍ ဆက်ကပ် လှူဒါန်းကြလေသည်။

သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူသော မြတ်စွာဘုရားသခင်အား ဖူးမြော်ရန်၊ဘဒ္ဒဝဂ္ဂီရဟန်းသုံးကျိပ်တို့သည် မိမိတို့ ဝါဆိုဝါကပ်ရာဖြစ်သော ကေတပြည်မှ ဝါကျွတ်သောအခါ ခြေလျင်ခရီးဖြင့် ကြွလာကြ၏။ ထိုအခါ မိုးကြီးသည်းထန်စွာ ရွာသွန်းသဖြင့် ရဟန်းများ မိုးရေစိုစွတ်ကြကုန်သည်။ ထိုသို့ မိုးရေစိုစွတ်သော သင်္ကန်းဖြင့်ပင် ပူဇော်ကြရသည်ကို မြတ်စွာဘုရားသခင် မြင်တွေ့ရသောအခါ၊ထိုခရီးသည်ရဟန်းတို့ကို အကြောင်းပြု၍ ပုရိမဝါကပ်ခြင်း၌ ပြည့်စုံသော ရဟန်းတို့အား ကထိန်ခင်းခွင့်ပြုကြောင်း ပညတ်တော်မူခဲ့လေသည်။

ကထိန်ပွဲတော်ကို 'မိုးလကုန်စဲကထိန်ပွဲ' ဟူသော ဆိုရိုးနှင့်အညီ၊သီတင်းကျွတ်လပြည့်ကျော် တရက်နေ့မှ တန်ဆောင်မုန်းလပြည့်နေ့အထိ ခင်းကျင်းရသည်။ မြန်မာနိုင်ငံတွင် ရှေးပုဂံခေတ်အခါကပင်လျှင် အစပြု၍ ကထိန်ခင်းပွဲကျင်းပခဲ့ကြသည်။ ယခုခေတ် ကထိန်ခင်းရာတွင် မရှိန္မ်းပါးသော ရဟန်းအားဖြစ်စေ၊အကြီးဆုံးမထေရ်အား ဖြစ်စေ၊ကပ်လှူရန် ဥတ်သင်္ကန်းအပြင် အခြံအရံ လှူဖွယ်ပစ္စည်းများကို ထည့်သွင်းလှူဒါန်းလေ့ရှိသည်။ ကထိန်ခင်းရာ၌ သံဃိကစစ်စစ် ဖြစ်သင့်သည့်အတွက်၊အလှူ့တကာများက မည်သည့်ပစ္စည်းကား သံဃိကပစ္စည်း၊မည်သည့်ပစ္စည်းကား ပုဂ္ဂလိကပစ္စည်းဖြစ်သည်ဟု ခွဲခြား လျှောက်



မိုးလကုန်စဲ ကထိန်ပွဲ၌ တွေ့ရသော ဥတ်သင်္ကန်း ပဒေသာပင်

ကြားသင့်ပေသည်။ ကထိန်ခင်း၍ ကထိန်သင်္ကန်းရရှိသော ရဟန်းတို့မှာ ကထိန်အာနိသင်ငါးပါး ခံစားရကြောင်း ကျမ်းဂန်များတွင် မိန့်ဆိုလေသည်။

**ကဒူးလူမျိုး**။ ။ကဒူးလူမျိုးမှာ ရှေးကျလှသော သက်လူမျိုးစုတွင်ပါဝင်၍၊ထိုလူမျိုးစုဝင် လူမျိုးငယ် ၅ မျိုးအနက် လူဦးရေအများဆုံးဖြစ်သည်။ ၁၉၃၁ ခုနှစ် သန်းကောင်စာရင်းအရ၊လူမျိုးအားဖြင့် လူဦးရေ ၃၆,၀၀၀ ခန့်ရှိ၍၊ကဒူးဘာသာစကားကို ပြောဆိုသူဦးရေမှာ ၂၀,၀၀၀ မျှရှိသည်။ (သက်လူမျိုး — ရှု။)

ကဒူးတို့သည် မိမိတို့ကိုယ်ကို အ—သက်၊သက် ဟူ၍ သညာတပ်ခေါ်ကြသည်။ပုဂံခေတ်ကျောက်စာတို့တွင် ထိုသူတို့ကို ကန္တူ ဟု ရေးသားပေါ်ပြ၍၊တရုပ်မှတ်တမ်းတို့တွင်ကား ချိင်တု ဟု ရေးသားသည်။ ပုဂံခေတ် ကျောက်စာများအရ၊ထိုခေတ်က ကဒူးတို့သည် တကောင်းမြို့ပတ်ဝန်းကျင်ဖြစ်သော သင်းတွဲပြည်နှင့် မူးမြစ်ဝှမ်းအထက်ပိုင်း ဒီပဲရင်းဒေသတို့တွင် နေခဲ့ကြကြောင်းသိရသည်။

၁၃ ရာစုနှစ်အဦးပိုင်း ပုဂံခေတ်အတွင်းက မြန်မာနိုင်ငံအလယ်ပိုင်းတွင် မြို့ပြပြည်ရွာ တည်ထောင်ခဲ့ပြီးသော မြန်မာတို့သည်၊မြောက်ဖက်သို့ ပျံ့နှံ့ ရွှေ့ပြောင်း နေထိုင်ကြရာ၌ ကဒူးတို့၏ဒေသကိုပါ သိမ်းသွင်းခဲ့ကြ၏။ ထိုအချိန်မှစ၍ ကဒူးတို့နှင့်ဆက်သွယ်မှု ပိုမိုများပြားလာခဲ့သည်။

မြန်မာနိုင်ငံအထက်ပိုင်းကို ဗြိတိသျှတို့ တိုက်ခိုက်သိမ်းယူပြီးသည့်နောက်၊ကဒူးတို့သည် ဝန်းသိုဒေသဆီမှ မြောက်ဖက်သို့တဖြည်းဖြည်း ရွှေ့ပြောင်းနေထိုင်လာခဲ့ကြသည်။ ယခုအခါတွင် သူတို့ကို ကသာခရိုင်တွင်းရှိ ဧရာဝတီမြစ်အနောက်ဖက်ကမ်းဒေသ၌ အများဆုံးတွေ့ရသည်။ မြောက်ဖက် ဗန်းမော်ခရိုင်၊မြစ်ကြီးနားခရိုင်နှင့် အနောက်မြောက်ဖက် အထက်ချင်းတွင်းခရိုင်တို့၌လည်း ပျံ့နှံ့ နေထိုင်လျက်ရှိကြသည်။

ကဒူးတို့သည် အားလုံးလိုလိုပင် ဗုဒ္ဓသာသနာတော်ကို သက်ဝင်ယုံကြည်ကြသည်။ မြန်မာလူမျိုး ရှမ်းလူမျိုးတို့နှင့် ရောနှောနေထိုင်ကြသဖြင့်၊ထိုလူမျိုးတို့၏ ယဉ်ကျေးမှု ထုံးစံဓလေ့အချို့ကိုရရှိထားသူများ ဖြစ်ကြသည်။

ကဒူးတို့ပြောဆိုသော ဘာသာစကားတွင် မြန်မာစကားအများပင် ပါဝင်နေသည်ကို တွေ့ရ၏။ ဈေးအသုံးအနှုန်း၊ရေတွက်မှုအသုံးအနှုန်းတို့တွင်ကား ရှမ်းဘာသာစကားကို အများဆုံးသုံးစွဲကြသည်။ သို့ရာတွင် သူတို့၏ မူရင်းဘာသာစကားမှာ မြန်မာစကား ရှမ်းစကားတို့နှင့် မတူပေ။

**ကဒိုး**။ ။ခရာတံပိုးကဒိုး — ရှု။

**ကနခိုပင်**။ ။ကနခိုပင်ကို မမြင်ဘူးသော် ရှိရမည်။ ပြင်းထန်စွာ ဓါတ်သွားစေတတ်သော ကနခိုအသီးဆန် (ဝါ) ကနခိုစေ့၏သတ္တိကိုမူ ကိုယ်တွေ့ဖြင့်သော်၎င်း၊ပြောသံကြားဖြင့်သော်၎င်း၊မြန်မာနိုင်ငံ၌ သိသူများပေသည်။

ကနခိုပင်များ မူလပေါက်ရာဒေသမှာ ပသျှူးကျွန်းစုဖြစ်၍၊မြန်မာနိုင်ငံအနှံ့အပြားရှိ တောရွာများ၌ ခြံစည်းရိုး ရွာစည်းရိုးတလျှောက်တွင် ယင်းတို့ကို စိုက်ပျိုးထားတတ်ကြသည်။ ကနခိုပင်သည် အမြဲစိမ်းသစ်ပင်ငယ်မျိုးဖြစ်၍၊အမြင့် ၁၅ ပေမှ ပေ ၂၀ ခန့်၊ပင်စည်လုံးပတ် တပေခွဲမှ ၂ ပေခွဲခန့်အထိ ရှိသည်။ ပင်စည်အခေါက် ချောမွတ်၍ မွဲပြာရောင်ရှိသည်။ သစ်သားအရောင်ဖြူ၍ မာကျော၏။အရွက်များ ရှည်လျားလျားဖြစ်သည်။ တော်သလင်းလလောက်တွင် သေးငယ်သော အပွင့်များ ပွင့်သည်။ အပြင်ခွံချောနေသော အသီးများမှာ တလက်မနီးပါးရှည်၍ သုံးမြောင့်ဖြစ်ပြီးလျှင်၊အတွင်း၌ အစေ့များပါသည်။ အစေ့များမှာ ချောမွတ်လျက် လက်မဝက်ခန့်ရှည်ကာ၊ပုံသဏ္ဌာန်အားဖြင့် မြေပဲစေ့နှင့် အလွန်တူ၏။ ထိုအစေ့များသည် အထက်တွင် ဖေါ်ပြခဲ့သည့်အတိုင်း ပြင်းပြင်းထန်ထန် ဓါတ်သွားစေတတ်သော သဘောရှိသဖြင့် ယင်းတို့ကို ဝမ်းနုတ်ဆေးများတွင် ထည့်သွင်းဖေါ်စပ်လေ့ရှိကြသည်။



ကနခို အသီး အရွက်နှင့် အစေ့များ။ ခွဲပြထားသော မြေပဲစေ့နှင့်တူသည့် အရာများမှာ ကနခိုစေ့ကလေးများဖြစ်၏။

**ကနစိုပင်၊ပင်လယ်**။ ။ပင်လယ်ကနစိုပင်ကို ရေကနစိုပင်ဟုလည်း အချို့ကခေါ်ကြသည်။ ရေချိုနှင့်ဆက်

စပ်နေသော ဧရာဝတီမြစ်ဝကျွန်းပေါ် ဒေသ၊တနင်္သာရီကမ်းရိုးနှင့် ရခိုင်ကမ်းရိုးတလျှောက်တို့တွင် ပေါက်သည်။ ထိုအပင်သည် အမြဲစိမ်းပင်မျိုးဖြစ်၍ မြန်မာနိုင်ငံ၌ ထင်းဆိုက်ရန်အကောင်းဆုံး သစ်ပင်တမျိုးဖြစ်သည်။

ပင်လယ်ကနစိုပင်ကြီးများသည် အမြင့်ပေ ၆၀ မှ ၇၀ အထိ၊ပင်စည်လုံးပတ် ၅ ပေမှ ၆ ပေအထိ ရှိတတ်သည်။ ထင်းအဖြစ်ခုတ်လှဲပြီး သောအခါ အပင်လိုက် ထုတ်ယူရန်ခဲယဉ်းသဖြင့်၊တပေခန့်စီ ဖြတ်ပြီးမှ လှေများလှည်းများဖြင့် မြို့အရောက် တင်ပို့ရောင်းချလေ့ရှိကြသည်။



ထင်းဆိုက်ရသော ကနစိုပင်၏ အရွက်နှင့်အဖူးများ

ပင်လယ်ကနစိုသားသည် ခိုင်မာ၍ အလွန်လေးသည်။ အစိမ်းလိုက်ခွဲစိတ်မှ လွယ်ကူသည်။ အသား၏အရောင်မှာ နီညစ်ညစ်ဖြစ်၏။ကနစိုသားကိုတန်တားတိုင်များနှင့်လှေကိုယ်ထည်များအဖြစ် အသုံးပြုရန်လည်း အထူးကောင်းသည်။ လှည်းဘီး၊လှော်တက်၊ရွက်တိုင် စသည်များအပြင်၊ပုဆိန်လက်ကိုင်ကဲ့သို့ ခိုင်ခံ့သောလက်ကိုင်နှင့် အရိုးများ ပြုလုပ်ရန်အတွက်လည်း အလွန်သင့်လျော်သော အသားဖြစ်သည်။

ကနစိုပင်သည် အပေါက် မြန်၍ အစေ့ကိုသော်၎င်း၊ကိုင်းပြတ်ကိုသော်၎င်း၊ စိုက်ပျိုးနိုင်သည်။

**ကနစိုးပင်။** ။ကနစိုးသီး ကို မြန်မာနိုင်ငံ၌ ကလေးလူကြီးမကျန် စားဘူးကြသဖြင့်၊ကနစိုးပင်ကို လူတိုင်းပင်သိကြပေမည်။ ကနစိုးပင်သည် အမြဲစိမ်းပင်မျိုးဖြစ်၍ အထက်နှင့် အောက်မြန်မာပြည် မိုးများသော ဒေသများတွင် ပေါက်သည်။ အရွယ်မှာ အလတ်စားမျိုးဖြစ်သဖြင့်၊ အမြင့်ပေ ၄၀ မှ ၅၀ အထိ၊ပင်စည်လုံးပတ် ၃ ပေမှ ၅ ပေအထိသာ ရှိကြသည်။ ကနစိုးသား၏ အရောင်မှာညို၍ အသင့်အတင့် မာသည်။ တပို့တွဲနှင့် တပေါင်းလများတွင် ပန်းပွင့်၍ တန်ခူးနှင့် ကဆုန်လများတွင် အသီးများမှည့်ကြသည်။ ထိုအချိန်၌ တပင်လုံး ဝါဝင်းလုမတတ် လှပစွာ တွဲရရွဲသီးနေသော ကနစိုးသီးတို့မှာ မြင်ရသူများအဖို့ သွားရည်ကျစရာ ဖြစ်တော့၏။ စပျစ်သီးခိုင်ကဲ့သို့ အပြွတ်လိုက် အခိုင်လိုက် သီးသဖြင့် အင်္ဂလိပ်လူမျိုးတို့က မြန်မာစပျစ်သီးပင်ဟူ၍ပင် အမည်ပေးထားကြသည်။

ကနစိုးသီးသည် မမှည့်သေးမီအချိန်တွင် အစိမ်းရောင်ရှိ၍ မှည့်လာသောအခါမှ ဝါလာသည်။ အခွံဝါအတွင်းရှိနှင်းဆီရောင်ဖျော့ဖျော့ အမြှာသုံးခုကို လူတို့စားသုံးကြသည်။ အမြှာများအတွင်း၌ အစေ့တစေ့စီ ပါရှိ၏။ ကနစိုးသီးတွင် အချို သို့မဟုတ် ချိုချဉ်မျိုးနှင့် အချဉ်မျိုးဟူ၍ နှစ်မျိုးထင်ရှားရှိသည်။

မြန်မာနိုင်ငံ၌အစေ့များကိုသာစိုက်ပျိုးကြသည်။ ဒပ်ချအရှေ့အိန္ဒိယကျွန်းစုတွင်မူ အကိုင်းဆက်နည်းဖြင့် မျိုးပွားစေသကဲ့သို့ မြန်မာနိုင်ငံ၌လည်း စမ်းသပ်ကြည့်သင့်ပေသည်။

မိုးဦးကျ ဥတုပြောင်းချိန်တွင်ကလေးသူငယ်များသည် ကနစိုးသီးကို အလွန်အကျွံ စားမိရာမှ ဝမ်းကိုက်ခြင်း၊ဓါတ်လျှောခြင်းများ ဖြစ်ပွားတတ်သဖြင့်၊လူကြီးမိဘလုပ်သူများ သတိထားဖို့လိုသည်။

ကနစိုးသားမှာ လူ့အဖို့အသုံးမဝင်လှသဖြင့် ဤအပင်ကို အသီး ရ ရန်အတွက်သာ စိုက်ပျိုးလေ့ရှိကြသည်။



ဝါဝါဝင်း၍ စားချင်စဖွယ်ကောင်းသည့် ကနစိုးသီးတွဲ



ကမာခွံဘဝမှ လက်မှုပညာအစွမ်းဖြင့် ကနုကမာ အလှကုန်ပစ္စည်းများအဖြစ်သို့ ပြောင်းလဲသွားသောအခါ

**ကနုကမာ။** ။ခုံး ကမာ ယောက်သွား စသော ခရုခွံများတွင် အထပ် ၃ ထပ်ရှိသည့်အနက်၊ အချို့သောခရုခွံတို့၌ အောက်ဆုံး သို့မဟုတ် အတွင်းဖက်အကျဆုံးအထပ်မှာ ချောမွတ်ပြောင်လက်၍ ပုလဲရောင်ထနေသည်ကို တွေ့ဘူးကြပေမည်။ ဤအထပ်မှာ ကနုကမာအထပ်ဖြစ်၍၊ဤအထပ်မျိုးပါရှိသည့် ခရုခွံများကို ကနုကမာဟုခေါ်ကြသည်။

ကနုကမာအထပ်တွင် ပါဝင်သောပစ္စည်းများမှာ ပုလဲတွင်ပါဝင်သော ပစ္စည်းများနှင့် အတူတူပင် ဖြစ်သည်။ ထုံးဓါတ်ပါသောပစ္စည်းနှင့် ဦးချိုကဲ့သို့မာသောပစ္စည်းတို့သည် အဆင့်ဆင့် အထပ်ထပ် တည်နေကြသည်။ ထိုအထပ်များပေါ်သို့ အလင်းကျရောက်သောအခါ၊အထပ်တို့၏ လွှတ်နေသော အစွန်းများက၊အလင်း ကို ယိုင် စေ သော ကြောင့်၊ စိမ်း၊နီ၊ဝါ၊ပြာစသော သက်တံ့ရောင်များ ဖြင့်ပေါ်လာ၍ လှပသောကနုကမာရောင် ထွက်လာသည်။

ကနုကမာအထပ်ပါသော ခရုခွံများကို ကမ္ဘာ့အပူပိုင်းဒေသများ၏ ကမ်းရိုးတန်းများတွင် တွေ့ရတတ်သည်။ တောင် ပင် လယ် ကျွန်း များ (ပစိဖိတ် တောင် ပိုင်း ကျွန်းများ)၊ ဖိလစ်ပိုင်ကျွန်းစု၊ဩစတြေးလီးယားတိုက်၊ပနားမား နိုင်ငံ၊ ကာ လီဖိုး နီး ယား ပြည် တောင် ပိုင်း၊ ဂျပန် ကျွန်း တဝိုက်နှင့် မလ္လာယုကျွန်းဆွယ် (ပသျှူးကျွန်းစွယ်)တို့တွင် အထူးပေါများသည်။ မြန်မာနိုင်ငံ ပင်လယ်ကမ်းရိုးတန်း တလျှောက်တွင်လည်း တွေ့ရသည်။ အကောင်းဆုံး ကနုကမာများ ကို ဩစတြေး လီး ယား တိုက် နှင့် သီဟိုဠ် ကျွန်းတို့မှရသည်။ ပနားမားနိုင်ငံမှရသော ကနုကမာမှာ သေးငယ်၍ အသားထူသည်။ မြောက်အမေရိကတိုက်၊မစ်စစ်စပီမြစ်နှင့် အခြားမြစ်များရှိ ရေချိုခုံးကောင်းများမှလည်း ကနုကမာများကို ရရှိတတ်ပေသည်။

ကနုကမာဖြင့် ရင်ထိုး၊ကြယ်သီး၊လည်ဆွဲစသော လက်ဝတ်တန်ဆာများကို ၎င်း၊ ဆေးလိပ်ခွက်၊ပြာပန်းကန်၊ဓါး ရိုး၊ ထီးရိုး၊ဓါတ်ပုံပေါင်စသော လူ့အသုံးအဆောင်များကို၎င်း၊ ပြုလုပ်ကြသည်။ သစ်သား၊ယွန်းထည်စသည်တို့နှင့် ဖက်စပ်၍လည်း တူရိယာနှင့်အိမ်သုံးပရိဘောဂများတွင် ပန်းကွက်များဖေါ်ရာ၌ ကနုကမာကို အသုံးပြုကြသေးသည်။ မြန်မာနိုင်ငံတွင် ကနုကမာဖြင့်ပြုလုပ်သော ပစ္စည်းအသုံးအဆောင်များကို အထူးသဖြင့် မြိတ်နယ်မှ ပြုလုပ်ရောင်းချလေ့ရှိသည်။

ယခု အခါ ပလပ် စတစ် ဖြင့် လည်း ကနုကမာ အတုကို ပြုလုပ်ကြရာ၊ကနုကမာအတုမှာ ကနုက မာ စစ် ကဲ့ သို့ ပင် လှပ၍၊ကနုကမာစစ်ထက် အဖိုးချိုသည်။ (ကမာ၊ခရုခွံ၊ ပုလဲ — လည်းရှု)။



အတွင်းသား ပုလဲရောင်ထနေသည့် ကနုကမာခွံ

# ကနေဒါနိုင်ငံ



**ကနေဒါနိုင်ငံ။** ။ကနေဒါ နိုင်ငံသည် အမေရိကန်ပြည်ထောင်စု၏ မြောက်ဖက်တွင် ရှိ၍၊ အနောက်ဖက်စွန်းရှိ အလာစကာနယ်မှတပါး၊မြောက်အမေရိကတိုက်၏ မြောက်ပိုင်းဒေသအားလုံး ပါဝင်သော နိုင်ငံဖြစ်သည်။ အရှေ့နှင့်အနောက်မှာ မိုင် ၂၇၀၀ ကျော်ရှည်လျား၍၊မြောက်ဖက်နှင့် တောင်ဖက်မှာ (အာတိတ်ကျွန်းစုများမပါ) မိုင် ၁၆၀၀ ခန့်ရှိပြီးလျှင်၊ဧရိယာအားဖြင့် စတုရန်းမိုင်ပေါင်း ၃,၈၄၃,၁၄၄ မိုင်ခန့်မျှ ကျယ်ဝန်းသည်။ ဥရောပတိုက်နှင့်အကျယ် အဝန်း တူမျှလျက်၊ကျယ်ပြန့်၍ အဖိုး ထိုက်တန်သော သစ်တောကြီးများရှိခြင်း၊မြေတွင်းမြေပတွင် သဘာဝပစ္စည်းအား ပြည့်စုံကြွယ်ဝခြင်း တို့ကြောင့်၊သန်းပေါင်း ၂၀၀ ခန့်မျှသော လူများပင် ချောင်ချိစွာ နေထိုင် အသက်မွေးနိုင်သည်။ သို့ရာတွင် ကနေဒါနိုင်ငံ၏ ယခုလက်ရှိလူဦးရေမှာ ၁၄ သန်းကျော်မျှသာဖြစ်သည်။

ကနေဒါနိုင်ငံ၏ သွင်ပြင်နေထားကို သဘာဝဒေသကြီး ၅ ခုဖြင့် ခွဲဝေပိုင်းခြားနိုင်သည်။ယင်းတို့မှာ လောရင်းရှန်း ကုန်းပြင်မြင့်၊အတ္တလန္တိတ် ကမ်းခြေဒေသ၊စိန်လောရင့်မြစ်ဝှမ်းဒေသ၊ ပရေရီလွင်ပြင် ဒေသ နှင့် အနောက်ဖက်တောင်တန်းဒေသတို့ ဖြစ်ကြ၏။

လောရင်းရှန်းကုန်းပြင်မြင့်သည် အာတိတ်သမုဒ္ဒရာကမ်းခြေနှင့် ဟဒ်ဆန်ပင်လယ်အော် ကမ်းခြေတို့မှ တဖြည်းဖြည်းမြင့်တက်လျက်၊တောင်ဖက် အိုင်ကြီးငါးအိုင်နှင့် စိန်လောရင့်မြစ်အထိ ကျယ်ပြန့်စွာတည်ရှိသည်။ အကျယ်အဝန်းအားဖြင့် ကနေဒါ၏ သုံးပုံနှစ်ပုံခန့်ရှိ၍၊သစ်တောများဖြင့် ဖုံးအုပ်လျက်ရှိသည့်ပြင်၊ရေအိုင်များလည်း အထူးပေါများသည်။ ထိုကုန်းပြင်မြင့်၏ ထက်ဝက်ခန့်မှာ ပေ ၁၀၀၀ ပင် မမြင့်တတ်ကြသော်လည်း၊အချို့နေရာတို့၌မူ ပေ ၆၀၀၀ အထိမြင့်လေသည်။ မြောက်ဖက်ဖျားမှာ ရာသီဥတုအလွန်အေး၍၊သစ်ပင်ကြီးများ မပေါက်နိုင်သည့်အတွက် ကျတ်တီးပြင်ဒေသဟု ခေါ်ကြ၏။ မြေသြဇာခေါင်းပါးသဖြင့်လယ်ယာလုပ်ငန်း မထွန်းကားသော်လည်း၊ တွင်းထွက်ပစ္စည်းအား ပြည့်စုံခြင်း၊သစ်တောများမှသစ်ပျော့ဖတ်နှင့် သားမွေးကောင်များ ရခြင်း၊ ရေအားသုံးလျှပ်စစ်ဓါတ်အား ကြွယ်ဝခြင်း တို့ကြောင့်၊ ထိုကုန်းပြင်မြင့်သည် ကနေဒါနိုင်ငံအတွက် အထူးအရေးပါလေသည်။

အတ္တလန္တိတ် ကမ်းခြေဒေသတွင် ကမ်းရိုးတန်းနယ်များဖြစ်သော နယူးဗရန်ဇွစ်၊နျူးဖေါင်းလန်း၊နိုဗါစကိုးရှားနှင့် ပရင့်အက် ဒွပ် ကျွန်းများ ပါဝင်ကြ၏။ အက်ပလက်ချီယန်တောင်၏ အဆက်ဖြစ်သော တောင်ရိုး တောင်ကုန်းများရှိသဖြင့်၊မြေမျက်နှာပြင်မှာ မညီညာလှဘဲ လှိုင်းထသကဲ့သို့ဖြစ်နေသည်။ နျူးဖေါင်းလန်းသည် လာဗရာဒေါ ရေအေးစီးကြောင်းရှိသည့်အတွက် အလွန်အေးသော်လည်း၊ကျွန်



ကနေဒါဒိုမီနီယန်နိုင်ငံ
မိုင်စကေး
၀ ၅၀ ၁၀၀ ၂၀၀ ၃၀၀
နိုင်ငံမြို့တော်
ပြည်နယ်မြို့တော်
နိုင်ငံ နယ်နိမိတ်
ပြည်နယ် နယ်နိမိတ်
ဗက်ဖင် ပင်လယ်အော်
ဒေးဗစ် ရေလက်ကြား
ဗက်ဖင် ကျွန်း
ဟဒ်ဆန် ရေလက်ကြား
ဟဒ်ဆန် ပင်လယ်အော်
ဝိတိုရိယ ကျွန်း
အာတိတ် သမုဒ္ဒရာ
အတ္တလန္တိတ် သမုဒ္ဒရာ
ကနေဒါ အနောက်မြောက် နယ်များ
ဟဒ်ဆန်
အယ်လဗါးတား
အွန်တေးရီးယိုး
ကွိဗက်
လားဗရာဒေါ
ယူးကွန်း
အလာစကာ
အမေရိကန် ပြည်ထောင်စု
ဝင်နီပက်
အော့တဝါ
ကွိဗက်
ဟယ်မီလတန်
တိုရွန်တို
ဝန်ကူးဗါး ကျွန်း

နယ်များတွင် ရာသီဥတု မျှတညီညွတ်သည်။ အဖိုးတန်သစ်တောများ ရှိသည့်ပြင်၊မြေသြဇာကောင်းသော နေရာကွက်များလည်း အနှံ့အပြားရှိသည်။ ကမ်းခြေတလျှောက်တွင် နက်ရှိုင်း ကောင်းမွန်သော သင်္ဘောဆိပ်များ ပေါများ၏။

စိန်လောရင့် မြစ်ဝှမ်းဒေသသည် ကနေဒါ၏သဘာဝဒေသတို့တွင် အငယ်ဆုံးဖြစ်သော်လည်း၊လူဦးရေအများဆုံးနေထိုင်ရာဒေသ ဖြစ်သည်။ လယ်ယာလုပ်ငန်းအတွက်ကောင်းမွန်သောဒေသ ဖြစ်သည့်ပြင်၊ရေအား ပေါများသဖြင့် စက်မှုလုပ်ငန်း ထွန်းကားသည်။ ကွီဗက်မြို့၊မွန်းထရီးအောမြို့၊အော့တဝမြို့ ကဲ့သို့သော မြို့ကြီးများသည် ထိုမြစ်ဝှမ်းဒေသ၌ ရှိကြ၏။

ပရေရီလွင်ပြင်ဒေသသည် လောရင်းရှန်း ကုန်းပြင်မြင့်ဆုံးရာ ဝင်နီပက်မြို့၏ အနောက်ဘက်နားမှ ရော့ကီးတောင်တန်းများအထိ မိုင်ပေါင်း ၈၀၀ ခန့်ကျယ်ပြန့်၏။ ထိုဒေသတွင် မနီတိုးဗါးနယ်၊ ဆက်စကက်ချီဝမ်နယ်နှင့် အယ်လဗါးတားနယ်များ ပါဝင်ကြသည်။ မြောက်ဖက်ပိုင်းတွင် သစ်တောများပေါက်ရောက်၍၊ တောင်ဖက်ပိုင်းသည် ညီညာပျံ့ပျူးလေသည်။ မြေသြဇာ ကောင်းမွန် ထက်သန်သည့်အလျောက် လယ်ယာလုပ်ငန်းထွန်းကားသည့် အချက်အခြာဒေသကြီး ဖြစ်ရာ၊ထိုဒေသသည် ကနေဒါနိုင်ငံအဖို့ မြေကြီးမှရွှေသီးရာ အရပ်ပင် ဖြစ်ပေသည်။

အနောက်ဖက် တောင်တန်းဒေသသည် ဗြိတိသျှကိုလမ္ဗီးယားနယ်၊ယူးကွန်းနယ်နှင့် အယ်လဗါးတားနယ် အနောက်ဖက် နယ်စပ်တလျှောက်တွင် ကျရောက်၍၊ တောင်စဉ်တောင်တန်းများ ယှဉ်ပြိုင်လျက် တည်ရှိသည်။ အရှေ့ဖက်ဆုံးတောင်တန်းမှာ ရော့ကီးတောင်ဖြစ်၍၊အနောက်ဖက်မှ ယှဉ်နေသော တောင်တန်းများမှာ ဆဲလကတ်တောင်နှင့် ကမ်းရိုးတန်းတောင်များ ဖြစ်သည်။ ရော့ကီးတောင်တန်းမှာ ပေ ၇၀၀၀ မှ ၁၃,၀၀၀ ကျော်အထိ မြင့်၏။ (ရော့ကီးတောင်တန်း — ရှု။) သို့ရာတွင် အမြင့်ဆုံးတောင်ထိပ်များမှာ ယူးကွန်းနယ်တွင်ရှိသော လိုဂန်တောင်ထိပ် (ပေ ၁၁၉,၈၅၀) နှင့် စိန်အီလိုင်းယက်တောင်ထိပ် (ပေ ၁၈,၀၀၀) တို့ ဖြစ်ကြ၏။ ဗြိတိသျှကိုလမ္ဗီးယားနယ်တွင် မြေသြဇာကောင်းသော ချိုင့်ဝှမ်းဒေသရှိသဖြင့် သစ်သီးပင်များ စိုက်ပျိုးကြ၍၊နို့ထွက်ပစ္စည်း ထုတ်လုပ်ကြသည်။

ပစိဖိတ်သမုဒ္ဒရာနှင့် အတ္တလန္တိတ်သမုဒ္ဒရာဖက်တွင် မိုင်ပေါင်း ၁၃,၀၀၀ ခန့်ရှည်သော ကမ်းရိုးတန်းရှိလျက်၊ အတ္တလန္တိတ်သမုဒ္ဒရာဖက်ရှိ ကမ်းရိုးတန်းမှာ အကွေ့အကောက် အလွန်များ၏။ ဟဒ်ဆန်ပင်လယ်အော်နှင့် စိန်လောရင့်ကွေ့တို့မှ ကနေဒါနိုင်ငံ၏ အလယ်ဗဟိုခန့်သို့ရောက်အောင် ရေကြောင်းခရီးဖြင့် အလွယ်တကူ သွားရောက်နိုင်သည်။ ကနေဒါနိုင်ငံတွင် အထင်ရှားဆုံးသောမြစ်မှာ စိန်လောရင့်မြစ် ဖြစ်သည်။ မိုင် ၁၉၀၀၀ ခန့်ရှိ၍ အတ္တလန္တိတ်သမုဒ္ဒရာထဲသို့ စီးဝင်၏။ နယ်လဆင်မြစ် ချာချီမြစ်နှင့် ဆက်စကက်ချီဝမ်မြစ်များသည် ဟဒ်ဆန်ပင်လယ်အော်ထဲသို့ စီးဝင်ကြ၍၊ ၂၅၁၄ မိုင်ရှည်သော မက္ကင်ဇီမြစ်သည် အာတိတ်သမုဒ္ဒရာထဲသို့ စီးဝင်၏။ အနောက်ဖက်တွင် ကိုလမ္ဗီးယားမြစ်၊ဖရေဇာမြစ်နှင့် ယူးကွန်းမြစ်တို့သည် ပစိဖိတ်သမုဒ္ဒရာထဲသို့ စီးဝင်ကြသည်။ ကနေဒါနိုင်ငံတွင် တောင်ဖက်နယ်စပ်ရှိ အိုင်ကြီးငါးအိုင်အပြင် ကုန်းတွင်းရေအိုင် အမြောက်အမြားလည်း ရှိ၏။ ထိုအိုင်များမှာ အင်းငယ် အိုင်ငယ်ကလေးများမှ မိုင်ပေါင်းများစွာကျယ်ဝန်းသည့် ရေအိုင်ကြီးများအထိ အရွယ်အစားစား ဖြစ်ကြသည်။ ထင်ရှားသော အိုင်ကြီးများမှာ မနီတိုးဗါး၊ဝင်နီပက်၊ ဂရိတ်ဗဲယါး၊ ဂရိတ်ဆလေ့စသည်တို့ ဖြစ်ကြ၏။ အတော်အတန် ကြီးမားသော ရေချိုအိုင်များစွာလည်း ရှိသေးသည်။ ကနေဒါနိုင်ငံတွင် မြစ်များ အိုင်များ၏ စုစုပေါင်းအကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၂၂၈,၀၀၀ မျှ ရှိလေသည်။ (ဂ ရိတ် လိတ်ဒေသ — ရှု)။

ကနေဒါနိုင်ငံသည် ကြီးမားကျယ်ဝန်း၍ အာတိတ်ဇုန်နှင့် သမပိုင်းဇုန်တို့တွင် ကျရောက် တည်ရှိ သည့်အလျောက်၊ ရာသီဥတုအမျိုးမျိုး ကွဲပြားသည်။ ယေဘုယျအားဖြင့် ဒေသအများတို့မှာ၊ ဆောင်းအခါတွင်အလွန်အေး၍ နွေအခါတွင် အတန်ပူပြင်းကြသည်။ မြောက်ဖက်ဖျားကျသော ယူးကွန်းနယ်၊အနောက်မြောက်နယ်နှင့် ကွီဗက်နယ်မြောက်ပိုင်းတို့သည် အာတိတ်ရာသီဥတုကို ရရှိကြ၍၊ ဟဒ်ဆန်ပင်လယ်အော်သည် တနှစ်လျှင် ကိုးလမျှ ရေခဲလေသည်။ ဤသို့ဖြင့် ကနေဒါမြောက်ပိုင်းတလျှောက်တွင် နှင်းများသာ အကျများ၍ မိုးအရွာနည်း၏။ တောင်ဖက်ကျသော ဒေသများတွင် ပူနွေးမျှတသော ရာသီဥတုကို ရရှိကြသည်။ အရှေ့ဖက်၌ရှိသော ကမ်းရိုးတန်းနယ်များမှာ နေကျဲကျဲပူသော်လည်း၊အနေတော်မျှဖြစ်သောနွေဥတုမျိုးကို ရရှိ၍ မိုးရွာသွန်းခြင်း များသည်။ ပရေရီလွင်ပြင်ဒေသတွင် အေးမြသော ဆောင်းဥတုကို ရရှိသော်လည်း၊ ရော့ကီးတောင်တန်းများဖက်မှ တိုက်ခတ်လာသော 'ချိနွတ်' ခေါ် လေပူများကြောင့် အအေးဒဏ် မပြင်းထန်လှချေ။ သို့ရာတွင် ရော့ကီးတောင်တန်းများကပင် ပစိဖိတ်ဖက်မှ တိုက်ခတ်လာသည့် ရေခိုးရေငွေ့ပါသော လေတို့ကို တားဆီးထားပြန်သဖြင့်၊ ပရေရီလွင်ပြင်ဒေသ၏ အနောက်တောင်ပိုင်းမှာ မိုးခေါင်သည်။ ပစိဖိတ်ကမ်းခြေတလျှောက်တွင်မူ မိုးများစွာ ရွာသွန်း၍၊ ပစိဖိတ်သမုဒ္ဒရာမှတိုက်ခတ်လာသည့်ပူနွေးသောလေကြောင့် အရှေ့ဖက် ကမ်းခြေဒေသတို့ထက် ပို၍ပူနွေးသည်။



ရေ့ာကီးတောင်တန်း နောက်ခံနှင့် ရှုခင်းသာသည့် မာလိုင်း အိုင်

ကနေဒါနိုင်ငံသည် စိုက်ပျိုးခြင်းနှင့် သိုးနွားမွေးမြူခြင်း လုပ်ငန်းများ အထူးထွန်းကားသဖြင့်၊လူဦးရေ လေးပုံတပုံမှာ စိုက်ပျိုးမွေးမြူသူများ ဖြစ်ကြသည်။ ပရေရီလွင်ပြင်များတွင် ဂျုံ၊ မုယောစပါး၊ မြင်းစားဂျုံ၊ ဘီသွာလျှော် (နှမ်းချပ်လျှော်) နှင့် မြက်ရေစာများကို စိုက်ပျိုးကြ၍၊သိုးနွားအမြောက်အမြား မွေးမြူကြသည်။ အရှေ့ဖက်ရှိ ကမ်းရိုးတန်းနယ်များတွင် အာလူးမုန်လာဥဝိုင်းနှင့် သကြားမုန်လာများကို အထူးစိုက်ပျိုးကြ၏။ သစ်သီးအထွက်များသော နယ်များမှာ အရှေ့ဖက်တွင် နိုဗါစကိုးရှားနယ်နှင့် အွန်တေးရီးယိုးနယ်တို့ ဖြစ်၍၊အနောက်ဖက်တွင် ဗြိတိသျှကိုလမ်ဗီးယားနယ် ဖြစ်သည်။ အွန်တေးရီးယိုးနယ် တောင်ပိုင်းနှင့် ကွီဗက်နယ်တို့တွင် ဆေးကို အကြီးအကျယ်စိုက်ကြ၏။ သိုးမွေး အများဆုံးထွက်သောနယ်မှာ အယ်လဗါးတားနယ် ဖြစ်သည်။ စိုက်ပျိုးမွေးမြူခြင်းလုပ်ငန်းကို မြှင့်တင်အားပေးသော သဘောဖြင့်၊ အစိုးရတို့သည် အအေးခါတ်သုံး ကုန်လှောင်ရုံများနှင့် ကျီမြင့်များကို ကူညီဆောက် လုပ်ပေးခဲ့သည့်ပြင်၊ စမ်းသပ်လေ့လာမှုအတွက် စိုက်ပျိုးခြံများ ဖွင့်ပေးခြင်း၊ မီးရထားလမ်းများ သွယ်ဖေါက်ပေးခြင်း များကိုလည်း ဆောင်ရွက်ခဲ့လေသည်။

အရှေ့မှအနောက်သို့ ကန့်လန့်ဖြတ်တည်ရှိလျက် နိုင်ငံအကျယ်အဝန်း၏ သုံးပုံတပုံကျော်ကို ဖုံးလွှမ်းပေါက်ရောက်နေသော သစ်တောများမှာ ကနေဒါနိုင်ငံ၏ ဒုတိယအရေးပါသော သဘာဝပစ္စည်းအားပင် ဖြစ်၏။သစ်ထုတ်လုပ်ငန်းအတွက် အသုံးပြုလျက်ရှိသော သစ်တောများ၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၄၃၅,၀၀၀ ခန့်မျှရှိ၍၊ထုတ်လုပ်ရရှိသော သစ်သားများကို စက္ကူလုပ်ရန် သစ်ပျော့ဖတ်အတွက် အသုံးချကြသည်။ ကနေဒါနိုင်ငံသည် သတင်းစာစက္ကူ ထုတ်လုပ်ရောင်းချမှု၌ ကမ္ဘာတွင် ထိပ်တန်းမှ လိုက်နေ၏။အဖိုးတန်သစ်တောများ ပျက်ပြုန်းတိမ်ကောသွားခြင်းမှ ကာကွယ်ရန် ဧကပေါင်း ၇၅ သန်းကျော်ကို သစ်တောကြိုးဝိုင်းအဖြစ် သီးသန့်ထားရှိသည်။

ကနေဒါနိုင်ငံသည်ငါးဖမ်းခြင်းလုပ်ငန်းမှ ဝင်ငွေအမြောက်အမြား ရရှိ၏။ ငါးဖမ်းရာဌာနတို့ကို ကုန်းတွင်း မြစ်ချောင်း အင်းအိုင်တို့၌ဖမ်းသော ရေချိုငါးဖမ်းရာဌာန၊ ပင်လယ်၌ဖမ်းသော အတ္တလန္တိတ်ငါးဖမ်းရာဌာနနှင့် ပစိဖိတ်ငါးဖမ်းရာဌာနဟူ၍ သုံးနေရာ ခွဲခြားထားသည်။ ရေချိုငါးဖမ်းရာဌာနမှရသော ရေချိုငါးများမှာ ပြည်တွင်းသုံး ဖြစ်သွားကြသော်လည်း၊ပင်လယ်မှရသော ငါးများမှာ ကနေဒါနိုင်ငံ၏ စီးပွားရေးကို အထူးဖွံ့ဖြိုးစေသည်။ အတ္တလန္တိတ်ငါးဖမ်းရာဌာနမှ ကော့ဒငါး၊ဗုဇွန်တုပ်ကြီးနှင့် ကမာများကိုရ၍၊ပစိဖိတ်ငါးဖမ်းရာဌာနမှ ဆာမန်းငါးကို အများအပြား ရရှိသည်။ ဗြိတိသျှကိုလမ်ဗီးယားနယ်နှင့် နိုဗါစကိုးရှားနယ်တို့တွင် ငါးသေတ္တာလုပ်ငန်းများ ထွန်းကား၏။

သားမွေးကောင်များ မွေးမြူသောလုပ်ငန်းမှာ ပရင့်



ကနေဒါနိုင်ငံ၏ ဝင်ငွေကောင်းလှသည့် ငါးဖမ်းခြင်းလုပ်ငန်း

အက်ဒ့ပ်ကျွန်း၊ အွန်တေးရီးယိုးနယ်၊ကွီဗက်နယ်နှင့် မနီတိုးဗါးနယ်တို့တွင် ထွန်းကား၍ အရေးပါသော လုပ်ငန်းတရပ်ပင် ဖြစ်၏။ မွေးမြူသော သားမွေးကောင်များမှာ မြေခွေးဖြူများ၊ မြေပါကြီးများ၊ မြေပါမွေးရှည်များ၊ မြေပါဖြူများ၊ဗီဗါဖျံများနှင့် ကြွက်ကတိုးများ ဖြစ်ကြသည်။ သားမွေးအရောင်းအဝယ်မှာ အထူးကောင်းမွန်သည့်အလျောက် ယခုအခါ ကနေဒါနိုင်ငံတွင် သားမွေးကောင်မွေးမြူသောခြံပေါင်း ခြောက်ထောင်ကျော် ခုနစ်ထောင်ခန့် ရှိနေလေပြီ။

ကနေဒါနိုင်ငံသည် သယံဇာတပစ္စည်းများလည်း ပေါများကြွယ်ဝ၏။အဓိကအရေးကြီးသော သတ္တုများမှာ ရွှေ၊ ကျောက်မီးသွေး၊ နစ်ကယ်၊ ကြေးနီ၊ သွပ်၊ ငွေ၊ ခဲ၊ ကိုဗော့နှင့် ကျောက်ဂွမ်းများ ဖြစ်၏။ ကမ္ဘာပေါ်ရှိ ရွှေထွက်သောနိုင်ငံများတွင် ကနေဒါသည် တတိယလိုက်သည့်ပြင်၊ ကမ္ဘာတွင် အသုံးပြုလျက်ရှိသော နစ်ကယ်အားလုံး၏ ၉၀ ရာခိုင်နှုန်းမှာ ကနေဒါမှထွက်လေသည်။ကမ္ဘာ၌သုံးလျက်ရှိသော ကျောက်ဂွမ်းများကိုလည်း ရာခိုင်နှုန်းအပြည့်လောက်ပင် ကနေဒါမှ ထုတ်လုပ်ဖြန့်ချိခဲ့၏။ အွန်တေးရီးယိုးနယ်သည် သတ္တုတူးဖော်ရာ အဓိကနယ်ဖြစ်လျက်၊ ထိုနယ်မှ ရွှေနှင့် ကြေးနီတို့ကို အများအပြား ရရှိလေသည်။ အနုမြူဗုံး (အက်တမ်ဗုံး) လုပ်ရာ၌ အထူးအရေးကြီးသော ယူရေးနီးယမ်းသတ္တုကို ဂရိတ်ဗဲယား ရေအိုင်ကြီးအနီး၌ တွေ့ရ၏။ ကျောက်မီးသွေးကို အရှေ့ဖက်ပိုင်းတွင် နိုဗါစကိုးရှားနယ်နှင့်နယူးဗရန်ဇွစ်နယ်တို့၌၎င်း၊ အနောက်ဖက်ပိုင်းတွင် အယ်လဗါးတားနယ်နှင့် ဗြိတိသျှကိုလမ္ဗီးယားနယ်တို့၌၎င်း တူးဖော်ရရှိ၏။ သို့ရာတွင် သံထွက်၍ သံလုပ်ငန်းထွန်းကားသော အွန်တေးရီးယိုးနယ်နှင့် ကွီဗက်နယ်တို့မှ မိုင် ၁၀၀၀ ကျော် ၂၀၀၀ နီးပါးမျှ ခရီးကွာလှမ်းသဖြင့် အရေးပါသင့်သလောက် မပါလှချေ။ ရေနံ တွေ့ရှိတူးဖော်သောနယ်များမှာ အယ်လဗါးတားနယ်၊အနောက်မြောက်နယ်၊အွန်တေးရီးယိုးနယ်နှင့် နယူးဗရန်ဇွစ်နယ်များ ဖြစ်ကြလေသည်။



ယူးကွန်းပြည်နယ် ကလွန်းဒိုက်ဒေသ၌ ရွှေကျင်နေသူတဦး

ကနေဒါနိုင်ငံသည် သဘာဝပစ္စည်းအားကြွယ်ဝသည့်ပြင်၊ ရေအားလည်း သုံးမကုန်နိုင်လောက်အောင် ပေါများ



ကနေဒါနိုင်ငံ အနောက်ပိုင်းတနေရာ၌ မြင်းဆွဲကောက်ရိတ်စက်များဖြင့် ဂျုံပင်များကို ရိတ်သိမ်းနေစဉ်

သဖြင့်စက်မှုလုပ်ငန်းဖက်၌ အလားအလာ များစွာကောင်းမွန်လှသည်။ မကြာလှသေးသော နှစ်များအတွင်းက စက်မှုလုပ်ငန်းများ သိသိသာသာ တိုးတက်လာသည့်အတွက်၊ ယခုအခါ စက်မှုလုပ်ငန်းထွက် ပစ္စည်းများ၏တန်ဖိုးမှာ လယ်ယာလုပ်ငန်းထွက် ပစ္စည်းများ၏တန်ဖိုးထက် အတန်ပင် ပိုလျက်ရှိသည်။ စက်ရုံကြီးများမှာ အများအားဖြင့် စိန်လောရင့်မြစ်ဝှမ်းတလျှောက်၊အွန်တေးရီးယိုးနယ်နှင့် ကွိဗက်နယ်တောင်ဖက် နယ်စပ်တလျှောက်၌ရှိသော မြို့ကြီးများတွင် တည်ရှိကြသည်။ စက်မှုလုပ်ငန်းမျိုးစုံရှိသော မြို့ကြီး ၂ မြို့မှာ မွန်းထရီးအောမြို့နှင့် တိုရွန်တိုမြို့တို့ ဖြစ်၍၊အခြားသောမြို့များမှာ ယေဘုယျအားဖြင့် လုပ်ငန်းတမျိုးတမျိုးအတွက်သာ ထင်ရှားကြသည်။ အွန်တေးရီးယိုးနယ်ရှိ ဝင်ဆာမြို့တွင် မော်တော်ကားလုပ်ငန်းကြီးကျယ်၍၊ဟယ်မီလတန်မြို့သည် ကနေဒါနိုင်ငံ၏ သံမဏိလုပ်ငန်းဗဟိုဌာနကြီး ဖြစ်သည်။ ကွိဗက်မြို့သည် စက္ကူစက်များအတွက် ထင်ရှား၏။ ပရေရီလွင်ပြင်ဒေသရှိ ဝင်နီပက်မြို့၊အက်ဒမန်တန်မြို့နှင့် ကယ်လဂါရီမြို့များတွင် ဂျုံမှုန့်ကြိတ်ခြင်းနှင့် အမဲသားစည်သွတ်ခြင်း လုပ်ငန်းများ ထွန်းကားလေသည်။ ငါးသေတ္တာလုပ်ငန်းအတွက် ထင်ရှားသောမြို့တို့မှာ ဗြိတိသျှကိုလမ္ဗီးယားနယ်ရှိ ဗန်ကူးဗါးမြို့နှင့် နယူးဗရန်ဇွစ်နယ်ရှိ စိန်ဂျွန်းမြို့တို့ ဖြစ်ကြသည်။

ကနေဒါနိုင်ငံတွင် နေထိုင်ကြသော လူများမှာ ဗြိတိသျှနှင့် ပြင်သစ်လူမျိုး အဆက်အနွယ်များ ဖြစ်သည်။ ဗြိတိသျှလူမျိုးတို့မှာ အမေရိကန် လွတ်လပ်ရေးစစ်ပွဲ ဖြစ်ပွား စဉ်က ကနေဒါဖက်သို့ ပြောင်းရွှေ့လာကြသော ကိုလိုနီနယ်သစ်ထူထောင်သူများ ဖြစ်၍၊ပြင်သစ်လူမျိုးတို့မှာ ၁၀ ရာစုနှစ်အတွင်းက ကနေဒါသို့ရောက်လာကြသူများ ဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီနှင့် ဖြစ်ပြီးစ အချိန်တို့တွင် ဗြိတိသျှကျွန်းစုမှဗြိတိသျှလူမျိုးများစွာတို့သည် ကနေဒါသို့ ရွှေ့ပြောင်းနေထိုင်ခဲ့ကြ၏။ ကွိဗက်နယ်မှတပါး ကျန်နယ်အားလုံးတွင် အင်္ဂလိပ်ဘာသာမှာ ရုံးသုံးဘာသာဖြစ်သော်လည်း၊ လူဦးရေ လေးပုံတပုံကျော်တို့မှာ ပြင်သစ်စကားကိုသာ ပြောဆိုသုံးစွဲကြသည်။ လူဦးရေ ၁၄ သန်းကျော် ရှိသည့်အနက်၊ တိုင်းရင်းသားများဖြစ်ကြသော အက်စကီးမိုးနှင့် ရက်အင်ဒီးယန်းတို့မှာ ၁၂၅,၀၀၀ ခန့်သာ ရှိလေသည်။

ကနေဒါနိုင်ငံ၏ ပညာရေးမှာ အထူးခေတ်မီသည့်အားလျော်စွာ ကမ္ဘာ့နိုင်ငံကြီးများနှင့် ယှဉ်ပေါင်တန်း လိုက်နိုင်သည်။ မြို့ကြီးတိုင်းတွင် အထက်တန်းကျောင်းများ၊ကောလိပ်ကျောင်းများနှင့် စီးပွားရေးကျောင်းများရှိ၍၊နယ်အသီးသီးတို့၌လည်း တက္ကသိုလ်ကျောင်းကြီးများ ရှိလေသည်။ ကနေဒါနိုင်ငံ တက္ကသိုလ်ကျောင်းအားလုံး၌ ကျောင်းသားဦးရေ တသိန်းကျော်ရှိ၏။

တိုင်းပြည် စည်ကားတိုးတက်စေရန် ရည်သန်လျက် အစိုးရတို့သည် မီးရထားလမ်းဖေါက်လုပ်ခြင်းကို အထူးအားပေးခဲ့သည်။ ကနေဒီယန်ပစိဖိတ် မီးရထားလမ်းကြီးမှာ ၁၈၈၅ ခုနှစ်တွင် ဖေါက်လုပ်ပြီးစီးခဲ့၏။ ပဌမ ကမ္ဘာစစ်ကြီးအတွင်း၌ တသီးပုဂ္ဂလပိုင် မီးရထားလမ်းအချို့ကို အစိုးရက သိမ်းယူပြီးနောက်၊ထိုမီးရထားလမ်းတို့ကို စုပေါင်းကာ ၁၉၂၃ခုနှစ်တွင် ကနေဒီယန်နေရှင်နယ် မီးရထားအဖွဲ့ဖွဲ့စည်းလိုက်သည်။ လေကြောင်း သယ်ယူပို့ဆောင်ရေး လုပ်ငန်းမှာလည်း များစွာတိုးတက်လျက်ရှိရာ အမေရိကန်ပြည်ထောင်စု၊ဥရောပနိုင်ငံများနှင့် အာတိတ်ဒေသတို့သို့ လေကြောင်းဖြင့် သွားလာနိုင်သည်။ လေယာဉ်ပျံများမှာ ပြည်တွင်းပြည်ပသယ်ယူပို့ဆောင်ရေးအတွက်သာမက၊ကနေဒါနိုင်ငံ၏ အဖိုး တန်လှသော သစ်တော ကြီးများကို မီးဘေးမှ ကာကွယ်ရာ၌လည်း များစွာအသုံးဝင်သည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ မော်တော်ကားလမ်းများကို တိုးတက်ဖေါက်လုပ်ခဲ့ကြ၏။ နယ်အသီးသီးရှိ ကုန်းလမ်းများကို ဆက်သွယ်ပေးလိုက်ခြင်းဖြင့် ကနေဒါနိုင်ငံတဖက်ဖျားမှ တဖက်ဖျားသို့ ပေါက်ရောက်သည့် မိုင် ၅၀၀၀ ခန့်ရှည်လျားသော နိုင်ငံဖြတ်မီးရထားလမ်းကြီးကို ၁၉၄၂ ခုနှစ်တွင်ဖွင့်ခဲ့၏။

ကနေဒါနိုင်ငံသည် ဗြိတိသျှဓနသဟာယအဖွဲ့ဝင် နိုင်ငံဖြစ်လျက် ကိုယ်ပိုင်အုပ်ချုပ်ရေးကို အစောဆုံးရရှိသော ဒိုမီနီယန်နိုင်ငံဖြစ်၏။ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသစ်အရ၊ယူနိုက်တက်ကင်းဒမ်းနိုင်ငံ၏ရှင်ဘုရင်သည် ကနေဒါနိုင်ငံ၏ ဘုရင်ဖြစ်သည်။ ထိုဘုရင်၏ကိုယ်စား ကနေဒါဒိုမီနီယန်ကို တာဝန်ခံရသူမှာ ဘုရင်ခံချုပ်ဖြစ်၍၊နယ်အသီးသီးတွင်လည်း ဘုရင်ခံများ ထားရှိလေသည်။ ကနေဒါပါလီမန်မှာ အောတဝမြို့တော်၌ရှိပြီးလျှင် အထက်လွှတ်တော်နှင့် အောက်လွှတ်တော်တို့ ပါဝင်ကြ၏။ အထက်လွှတ်တော်တွင် အမတ် ၉၆ ယောက်ရှိ၍၊အောက်လွှတ်တော်တွင် အမတ်ပေါင်း ၂၄၅ ယောက်ရှိသည်။ ဒိုမီနီယန်တွင် ဘုရင်ခံချုပ်မှာ အကြီးအကဲဖြစ်သော်လည်း၊အုပ်ချုပ်မှုရေးရာတွင်မူ ပါလီမန်မှတင်မြှောက်သော ဝန်ကြီးချုပ်ကသာလျှင် ကြိုးကိုင်ခြယ်လှယ်လေသည်။

လူမျိုးအသီးသီးတွင် အမျိုးသားအထိမ်းအမှတ် ရှိကြသည့်နည်းတူ၊ကနေဒါနိုင်ငံတွင် 'မေပယ်ရွက်' မှာ အမျိုးသားအထိမ်းအမှတ် ဖြစ်လေသည်။

# ကနေဒါ၏ စိတ်ဝင်စားဖွယ် အတိတ်ဘဝ

**လွန်ခဲ့သော အနှစ်တထောင်ခန့်က ဥရောပတိုက်သားများ စတင်တွေ့ရှိခဲ့၍ တခါက အင်္ဂလိပ်နှင့်ပြင်သစ်တို့ စားကျက်လုခဲ့သည့် ကနေဒါနိုင်ငံသည် ဒိုမီနီယန်အုပ်ချုပ်ရေးကို ဤသို့ တဆင့်ပြီးတဆင့် ကြိုးပမ်းခဲ့ရပေသည်။**

**ကနေဒါနိုင်ငံသမိုင်း နှင့် အုပ်ချုပ်ရေး။** ။ကနေဒါနိုင်ငံ၏ သမိုင်းကားစင်စစ်အားဖြင့် ကမ္ဘာသစ်တွင် အင်္ဂလိပ်နှင့် ပြင်သစ်တို့ အင်အားပြိုင်ကြသည်မှ စတင်၍၊ ကနေဒါနိုင်ငံသည် နောက်ဆုံး၌ မည်သို့မည်ပုံ လွတ်လပ်သည့်နိုင်ငံတခု ဖြစ်လာသည့်အကြောင်းဖြစ်သည်။ ကနေဒါနိုင်ငံ တိုးတက်လာပုံမှာ၊ အချက်အလက်များစွာတို့တွင် အမေရိကန်နယ်သစ်များ လွတ်မြောက်ရေးအတွက် ကြိုးပမ်းပုံနှင့် ဆင်တူသည်။ သို့သော် မတူသည့်အချက်မှာ၊ အမေရိကန်ပြည်ထောင်စုနိုင်ငံသည် တော်လှန်ပုန်ကန်ခြင်းဖြင့် လွတ်လပ်ရေးကိုရခဲ့၍၊ ကနေဒါနိုင်ငံမှာ ကိုယ်ပိုင်အုပ်ချုပ်ရေးကို တဆင့်ပြီးတဆင့် တိုးတက်ရရှိခဲ့ခြင်း ဖြစ်ပေသည်။ ကနေဒါနိုင်ငံကား ဗြိတိသျှဓနသဟာယနိုင်ငံများထဲတွင် ပဌမဆုံး ဒိုမီနီယန် ကိုယ်ပိုင်အုပ်ချုပ်ရေး ရခဲ့သည့်နိုင်ငံဖြစ်၏။

**ကနေဒါသို့ စတင်ရောက်ရှိလာသူများ**

မြောက်အမေရိကတိုက်တွင် လူဖြူများ ပဌမဆုံး စတင်ရောက်ရှိလာရာဒေသမှာ ကနေဒါဖြစ်သည်။ ထိုဒေသသို့ အေဒီ ၁၀ ရာစုနှစ် မတိုင်မီက၊ နော့စမန် လူမျိုးများသည် ဂရင်းလန်းကျွန်းမှတဆင့် ရောက်ရှိလာခဲ့သည်ဟု ဆိုကြသည်။ သို့သော် သက်သေခံအထောက်အထားဟူ၍ အခိုင်အမာ မတွေ့ရသေးချေ။ သို့ဖြစ်၍ အင်္ဂလန်ပြည့်ရှင် သတ္တမ ဟင်နရီဘုရင်၏လက်အောက်တွင် အမှုထမ်းသော ဗ္ဗီနီသလုံ (?) သဘော်သား ဂျွန်ကဲဗော့သာလျှင် ကနေဒါနိုင်ငံကို ရှေးဦးစွာတွေ့ရှိခဲ့သည်ဟု ဆိုရပေမည်။ (ကဲဗော့၊ဂျေ—လည်းရှု။) ၁၄၉၇ ခုနှစ်တွင် အာရှတိုက်သို့ အရှေ့မြောက်ဖက်မှ သွားနိုင်သည့်လမ်းပေါက်ရှာဖွေရန် အင်္ဂလန်ပြည်မှထွက်ခဲ့သော ဂျွန်ကဲဗော့သည်၊ ငါးပေါများရာ ကနေဒါကမ်းခြေတလျှောက်သို့ ရောက်ရှိခဲ့ပြီးနောက်၊နျူးဖေါင်းလန်းနှင့် ကိပ်ဗရက်တန်ကျွန်းများကို အင်္ဂလိပ်အစိုးရပိုင်အဖြစ် သိမ်းပိုက်ခဲ့သော်လည်း၊ထိုနယ်သစ်များကို အင်္ဂလိပ်အစိုးရသည် အရေးမယူခဲ့ချေ။ ကနေဒါနိုင်ငံ၏ အတွင်းဖက်ဒေသများကိုမူ ပြင်သစ်လူမျိုးများကသာ လှည့်လည်သွားလာ စူးစမ်းရှာဖွေခဲ့ကြသည်။



ဂျွန်ကဲဗော့သည် ကနေဒါနိုင်ငံကို ဤသို့ ဦးစွာတွေ့ရှိခဲ့၏။

ဂျွန်ကဲဗော့၏နောက်တွင် ကနေဒါနိုင်ငံသို့ ရောက်ရှိလာသူမှာ ပြင်သစ်လူမျိုး ဇက်ကာတီယေးဆိုသူဖြစ်၏။ (ကာတီယေး — လည်းရှု။) ကာတီယေးသည် ၁၅၃၄ ခုနှစ်တွင် စိန်လောရင့်ပင်လယ်ကွေ့ကို တွေ့ရှိခဲ့၍၊ နောက်တနှစ်တွင် စိန်လောရင့်မြစ်ရိုးတလျှောက်ကို ဆန်တက်လှည့်လည်ကာ ထိုဒေသတဝိုက်ကို ပြင်သစ်ပိုင်အဖြစ် နယ်သစ်တခု ထူထောင်ခဲ့သော်လည်း၊ ၁၅၄၂ ခုနှစ်တွင် ပျက်သွားလေသည်။ ထိုနောက် အနှစ် ၇၀ ခန့်ကြာသည့်တိုင် အောင် ပြင်သစ်တို့မှာ ပြည်တွင်းစစ်များ ဖြစ်ပွားနေသဖြင့်၊နယ်သစ်များ ဆက်လက်ရှာဖွေခြင်း မပြုနိုင်ခဲ့ကြချေ။ သို့သော် ပြင်သစ်တံငါသည်များသည် နျူးဖေါင်းလန်းကျွန်းအနီးသို့ ငါးဖမ်းလာမြဲ လာနေခဲ့ရာမှ၊ သားမွေးအရောင်းအဝယ်လုပ်ငန်းသည် အကျိုးအမြတ်ရှိသော လုပ်ငန်းတခုဖြစ်ကြောင်း သိရှိလာပြီးနောက်၊နယ်သစ်များ

ထူထောင်ကာ ရောင်းဝယ်ဖေါက်ကား၍ နေထိုင်ကြပြီးလျှင် အိုးအိမ်သစ်တည်ခဲ့ကြသည်။

## အခြေစိုက်ရာဒေသ ဖြစ်လာခြင်း

ကနေဒါတွင် နယ်သစ်များ အခြေတကျ စတင်တည်ထောင်ခဲ့သူကား ပြင်သစ်လူမျိုး ဆမ်မျူယယ် ဒါ ရှမ်ပလိန် ဆိုသူဖြစ်၍၊သူ့ကို ကနေဒါနိုင်ငံ၏ဖခင်ဟုလည်း ခေါ်စမှတ်ပြုကြသည်။ ထိုပုဂ္ဂိုလ်ကြီးသည် ၁၆ဝ၄ ခုနှစ်၌ ယခုနိုဗါစကိုးရှားခေါ်သည့် အာကေးဒီးယားတွင် နယ်သစ်တခုကိုင်ငး၊ ၁၆ဝ၈ ခုနှစ်တွင်ကား ကွီဗက်မြို့ကိုင်ငး၊စတင်တည်ထောင်ခဲ့သည်။ ထို့ပြင် ရှမ်ပလိန်သည် စိန်လောရင့်နှင့် အော့တဝမြစ်များကို ဆန်တက်ခဲ့ရာ ဟျူရွန်နှင့် အွန်တေးရီးယိုးအိုင်ကြီးများကိုတွေ့ရှိခဲ့သည်။ ထို့ပြင် သူ့ကိုအစွဲပြု၍ မှည့်ခေါ်ခဲ့သော ရှမ်ပလိန်ရေအိုင်ကြီးကိုလည်းတွေ့ခဲ့၏။

ရှမ်ပလိန်၏နောက်တွင် ကနေဒါသို့ ရောက်ရှိလာခဲ့သူမှာ အင်္ဂလိပ်လူမျိုး ဟင်နရီ ဟဒ်ဆန် ဖြစ်၏။ ဟဒ်ဆန်သည် အနောက်မြောက်လမ်းကို ရှာဖွေယင်း၊ ဟဒ်ဆန်မြစ်နှင့် ဟဒ်ဆန်ပင်လယ်အော်တို့ကို တွေ့ရှိခဲ့သည်။ ၁၆၂၉ ခုနှစ်တွင် ပြင်သစ်ကိုလိုနီနယ်သစ် ကွီဗက်ကို အင်္ဂလိပ်တို့က တိုက်ခိုက်သိမ်းယူခဲ့သော်လည်း၊မကြာမီ ပြင်သစ်တို့လက်သို့ ပြန်၍ပေးအပ်လိုက်ရသည်။

ထိုနောက်တွင်ကား မစ်စစ်စပီ၊အော့တဝ၊အိုဟိုင်းအိုး၊စိန်လောရင့် စသည့်မြစ်များသို့ သွားရောက်စုံစမ်းကြသည့် ပုဂ္ဂိုလ်များမှာ၊ပြင်သစ်လူမျိုး ရက်ဒီဆန်၊ ဇိုးလယေးနှင့် သာသနာပြုဘုန်းကြီး မာကက်၊ စပိန်လူမျိုး ဒီဆိုးတိုးနှင့် ပြင်သစ်လူမျိုး လာဆဲ တို့ဖြစ်ကြသည်။

၁၆၄၂ ခုနှစ်တွင် မွန်းထရီးအောမြို့ကို သာသနာပြုဗဟိုစခန်းအဖြစ် တည်ထောင်ခဲ့သည်။ ပြင်သစ်ဘုရင် ၁၄ ဆက်မြောက် လူဝီသည် ကနေဒါနိုင်ငံကို ပြင်သစ်ပြည်သစ်အဖြစ် ၁၆၆၃ ခုနှစ်တွင် သိမ်းပိုက်အုပ်ချုပ်သည်။ ပြင်သစ်လူမျိုး အများအပြားကိုလည်း ထိုဒေသများ၌သွားရောက်အခြေစိုက်နေထိုင်ရန် စေလွှတ်ခဲ့ရာမှ၊ ယခုပြင်သစ်ကနေဒီယန်လူမျိုးများ ဆင်းသက်ပေါက်ပွားလာသည်။

## ပြင်သစ်လက်အောက်တွင်

ပြင်သစ်ပြည်သစ်ကိုအုပ်ချုပ်ရန် ပြင်သစ်ဘုရင်က ဘုရင်ခံတဦး၊ကြီးကြပ်အုပ်ချုပ်သူတဦးနှင့် ခရစ်ယန်ဂိုဏ်းချုပ်တဦးတို့ကို ခန့်ထားခဲ့သည်။ ဘုရင်ခံ၏ အထူးဆောင်ရွက်ရသောတာဝန်မှာ နယ်သစ်တွင်နေထိုင်သူများကို တိုင်းရင်းသားလူရိုင်းများဖြစ်သော အီရိုကွိုင်တို့၏ဘေးရန်မှ ကာကွယ်ပေးရခြင်း ဖြစ်ပေသည်။ သို့သော် ကောင့် ဒါ ဖရွန်တာနက်သည် ၁၆၇၂ ခုနှစ်မှစ၍ ဘုရင်ခံအဖြစ် အုပ်ချုပ်သောအခါ ထိုလူရိုင်းတို့၏ရန်မှာ အေးငြိမ်းသွားလေသည်။ ဖရွန်တာနက်မှာ ပြင်သစ်ပြည်သစ်သို့ လာရောက်အုပ်ချုပ်ရသော



ကွီဗက်တိုက်ပွဲမှ ဗြိတိသျှဗိုလ်ချုပ်မှူး ဂျိမ်းဝုဖ်၏ နောက်ဆုံးအချိန်။ဤတိုက်ပွဲ၌ နှစ်ဖက်စလုံးမှ ဗိုလ်ချုပ်မှူးများ ကျဆုံးကြ၏။

ဘုရင်ခံများထဲတွင် အတော်ဆုံး ပုဂ္ဂိုလ်တဦး ဖြစ်၏။ ထိုပုဂ္ဂိုလ်ကြီးသည် ကနေဒါအတွင်းဖက်သို လှည့်လည်သွားလာ စူးစမ်းရှာဖွေစေပြီးနောက်၊နယ်သစ်များတည်ထောင်စေ၍ အကွက်ကျသောနေရာများတွင် ခံတပ်စခန်းများ တည်ထောင်ကာ၊ ပြင်သစ်နိုင်ငံတော် ပိုမိုကျယ်ပြန့်အောင် ပြုခဲ့သည်။ ဖရွန်တာနက်သည် ပြင်သစ်ပြည်သစ်၏ဘုရင်ခံအဖြစ် ၂ ကြိမ်တိုင်တိုင် ဆောင်ရွက်ခဲ့သည်။

ဖရွန်တာနက် ပဌမအကြိမ် ဘုရင်ခံအဖြစ် ဆောင်ရွက်ခဲ့စဉ်ကပင် အင်္ဂလိပ်တို့နှင့် နယ်လုသည့်အားပြိုင်မှုကြီး ပေါ်ပေါက်ခဲ့သည်။ အင်္ဂလိပ်တို့သည် အီရိုကွိုင်လူရိုင်းများကို ပြင်သစ်တို့အား တိုက်ခိုက်ရန်မြှောက်ပေးသည်။ ၁၆၉၀ ပြည့်နှစ်တွင် အင်္ဂလိပ်တို့ဖက်မှ ဆာဝီလျံဖစ်သည် နိုဗါစကိုးရှားသို့ ချီတက်တိုက်ခိုက် သိမ်းပိုက်ခဲ့ပြီးနောက်၊ ကွီဗက်မြို့ကို ချီတက်တိုက်ခိုက်ခဲ့သော်လည်း မအောင်မြင်ခဲ့ချေ။ နောင်သောအခါ၌ နိုဗါစကိုးရှားကို ပြင်သစ်တို့သို့ ပြန်လည်ပေးအပ်ရလေသည်။

ကနေဒါ၌ ထိုအခါက အင်္ဂလိပ်တို့၏နယ်သစ်များမှာ နည်းပါး၍၊ ပြင်သစ်နယ်သစ်များသာ ပိုမို များပြားပြီးလျှင် အုပ်ချုပ်ရေးလည်း သေချာကျနပြီးဖြစ်သည်။ ပြင်သစ်တို့သည်သတ္တိရှိသူများဖြစ်၍၊အီရိုကွိုင်တို့မှတပါး အခြားသောလူရိုင်းများနှင့် ခင်မင်ရင်းနှီးကြ၏။ သို့သော် အင်္ဂလိပ်တို့က လူဦးရေများသည်။ ၁၇၁၁ ခုနှစ်တွင် အင်္ဂလိပ်တို့သည် နိုဗါစကိုးရှားနယ်ကို သိမ်းယူခဲ့၏။ ယူးထရက်စာချုပ် (၁၇၁၃ ခုနှစ်) အရ၊ နျူးဖေါင်းလန်း၊ နိုဗါစကိုးရှားနှင့် ဟဒ်ဆန်ပင်လယ်ကွေ့တဝိုက်ရှိ ဒေသများကို အင်္ဂလိပ်တို့ရကြသည်။ ပြင်သစ်တို့သည် တဖြည်းဖြည်းနယ်ချဲ့လာခဲ့ကြရာ အနောက်ဖက်ရှိ ရေခဲကီးတောင်ခြေသို့ပင် ရောက်ခဲ့လေသည်။ အိုင်ကြီးများဒေသတဝိုက်နှင့် အိုဟိုင်းအိုမြစ်ဝှမ်းတလျှောက် လူဝီးဇီယန္နားနယ်သို့တိုင်အောင် ပြင်သစ်တို့သည် ခံတပ်များကို ဆောက်လုပ်ခဲ့ကြသည်။

သို့သော် ဖရွန်တာနက်၏နေရာကို ဆက်ခံကြသော ပြင်သစ်ဘုရင်ခံများကား အရည်အချင်းနှင့် မပြည့်စုံကြသည့်ပြင်၊ ပြင်သစ်တို့လည်း အကြောင်းကြောင်းကြောင့် ကနေဒါတွင် အခြေစိုက်နေထိုင်ရန် လာရောက်ခြင်း မရှိတော့ချေ။ ထိုကြောင့် ပြင်သစ်တို့အင်အားမှာ တဖြည်းဖြည်း လျော့ပါးလာတော့သည်။ ဥရောပတိုက်၌ ဩစတြီးယန်းထီးနန်းဆက်ခံရေးစစ်ပွဲ ဖြစ်ပွားသောအခါ၊ အင်္ဂလိပ်နယ်သစ်ဖြစ်သော နယူးအင်္ဂလန်နယ်သားတို့သည် ပြင်သစ်တို့၏ အခိုင်မာဆုံးခံတပ်ဖြစ်သည့် လွှစ္စဗတ်မြို့ကို တိုက်ခိုက်သိမ်းပိုက်ကြ၏။ သို့သော် ထိုစစ်ပွဲအပြီးတွင် ပြင်သစ်တို့သို့ ပြန်အပ်ရလေသည်။

ထိုနောက် ၁၇၅၄ ခုနှစ်မှစ၍ တိုက်ခိုက်မှုများ ဖြစ်ပွားခဲ့ပြန်ရာ ဥရောပတိုက်၌ ခုနစ်နှစ်စစ်ပွဲ ဖြစ်ပွားလာသောအခါ၊ကနေဒါရှိ အင်္ဂလိပ်နှင့်ပြင်သစ်တို့၏ အခြေအနေမှာ ပိုမိုဆိုးရွားလာခဲ့သည်။ ဤအကြိမ်မှာ ကနေဒါတွင် အင်္ဂလိပ်တို့ နောက်ဆုံးအကြိမ် အားပြိုင်မှုကြီးဖြစ်၍ ပြင်သစ်နှင့်အင်းဒီးယန်းလူရိုင်းစစ်ပွဲဟု ခေါ်လေသည်။ အစတွင် ပြင်သစ်တို့ အရေးသာခဲ့သော်လည်း၊ ၁၇၅၀ ပြည့်နှစ်မှစ၍ စစ်ပွဲမှာ တမျိုးတဖုံပြောင်းလဲသွားသည်။ အင်္ဂလိပ်တို့သည် အတွင်းဖက်ရှိ ပြင်သစ်တို့၏ အချက်အခြာဌာနများကိုဎင်း၊လွှစ္စဗတ်မြို့ကိုဎင်း သိမ်းယူခဲ့၏။ ၁၇၅၉ ခုနှစ်တွင် ဗိုလ်ချုပ်မှူး ဝု သည် ပြင်သစ်စစ်ဗိုလ်ချုပ်မွန်းကမ်း ဦးစီးခုခံကာကွယ်နေသော ကွီဗက်မြို့သို့ ချီတက်တိုက်ခိုက်ရာ၊ မြို့အနီးရှိ အေဗရာဟမ်လွင်ပြင်ကြီးတွင် တိုက်ပွဲဖြစ်ပွားလေသည်။ တိုက်ပွဲတွင် စစ်ဗိုလ်နှစ်ဦးစလုံး ကျဆုံးသွားသော်လည်း၊အင်္ဂလိပ်တို့အောင်ပွဲရကာ ကွီဗက်ကိုသိမ်းပိုက်နိုင်ခဲ့၏။ ၁၇၆၀ ပြည့်နှစ်တွင် မွန်းထရီးအောမြို့ကို သိမ်းပိုက်ရရှိခဲ့သည်။ ထိုနောက် ပါရစ်စာချုပ် (၁၇၆၃ ခုနှစ်) အရ ပြင်သစ်တို့က ကနေဒါကို အင်္ဂလိပ်တို့လက်သို့ ပေးအပ်ရလေသည်။

ပြင်သစ်တို့သည် ကနေဒါတွင် ဆက်လက်နေထိုင်ကြရာ၊ ထိုစဉ်က လူဦးရေမှာ ၆၀,၀၀၀ ကျော်ရှိသည်။ ပဌမဆုံး ဗြိတိသျှကနေဒါကို တာဝန်ခံအုပ်ချုပ်ရသူမှာ ဗိုလ်ချုပ်မှူး ဂျိမ်းမာရေး ဖြစ်၏။ မာရေးသည် ပြင်သစ်တို့ကို တရားမျှတစွာ အုပ်ချုပ်ခဲ့သည်။ ထို့ပြင် ပြင်သစ်တို့အား သာသနာရေးလွတ်လပ်ခွင့်ကို ပေးခဲ့၏။ ပြင်သစ်တရားမဥပဒေများကိုလည်းလေးစားခဲ့သည်။ သူ့နောက်တွင်ဘုရင်ခံရာထူးကိုဆက်ခံသော ဂိုင်းကာလတန်သည်လည်း မာရေး၏စံနစ်အတိုင်း အုပ်ချုပ်ခဲ့၏။ ထိုစံနစ်ကိုပင် ဗြိတိသျှအစိုးရသည် ၁၇၇၄ ခုနှစ် ကွီဗက်အက်ဥပဒေဖြင့် လက်ခံခဲ့လေသည်။ ဂိုင်းကာလတန်သည် ကနေဒါကို နှစ်ပေါင်း ၃၀ မျှ လိမ်မာရေးခြားစွာ အုပ်ချုပ်ခဲ့သောကြောင့်၊အမေရိကန်လွတ်လပ်ရေးစစ်ပွဲအတွင်း၌ ကနေဒါသည် ဗြိတိသျှနိုင်ငံတော်၏ သစ္စာတော်ကို စောင့်သိရိုသေခဲ့ပေသည်။ ထိုကြောင့် ရှမ်ပလိန်ကိုပြင်သစ်ကနေဒါ၏ဖခင်ဟု ခေါ်ဆိုကြသကဲ့သို့၊ ကာလတန်အားလည်း ဗြိတိသျှကနေဒါ၏ဖခင်ဟု ခေါ်ဆိုကြသည်။

## အုပ်ချုပ်ရေး တိုးတက်လာခြင်း

အမေရိကန်လွတ်လပ်ရေးစစ်ပွဲ ဖြစ်ပွားသောအခါ၊ အမေရိကန်ပြည်နယ်များမှ ဗြိတိသျှအစိုးရအား သစ္စာမဖေါက်လိုသူ အင်္ဂလိပ်လူမျိုး အများအပြား ပင်ကနေဒါသို့ ပြောင်းရွှေ့လာကြသည်။ ထိုသူများသည် အွန်တေးရီးယိုးနယ် တောင်ပိုင်းတွင် ၎င်း၊ ကမ်းရိုးတန်း

ဒေသများတွင်ငင်း နေထိုင်ကြသည်။ ထိုသူတို့ကား အုပ်ချုပ်ရေးတွင် လူထုကိုယ်စားလှယ် ပါဝင်ဆောင်ရွက်နိုင်သည့် အခွင့်အရေးမျိုးကို လိုလားသူများဖြစ်၏။ ထို့ကြောင့် ယခင်ကရရှိခဲ့သော အခွင့်အရေးမျိုးများကို မကြာခဏ တောင်းဆိုခဲ့ရာဗြိတိသျှအစိုးရက ၁၇၉၁ ခုနှစ် ကနေဒါ အက်ဥပဒေကို ပြဋ္ဌာန်းပေးခဲ့ရသည်။ ထိုအက်ဥပဒေ အရ၊ ကနေဒါနိုင်ငံမှာ အထက်ကနေဒါနှင့် အောက်ကနေဒါဟူ၍ နှစ်ပိုင်းကွဲသွားသည်။ အထက်ကနေဒါမှာ အင်္ဂလိပ်လူမျိုးများသည့် ပြည်နယ်ဖြစ်၍ ယခု အွန်တေးရီးယိုးနယ် ဖြစ်လာသည်။ ထိုစဉ်ကမူ တောကြီးမြက်မဲဒေသဖြစ်၏။ အောက်ကနေဒါတွင် ပြင်သစ်လူမျိုးများ၍ ယခုကွီဗက်နယ် ဖြစ်လာသည်။ ထိုအက်ဥပဒေအရ၊အရှေ့ဖက် ပင်လယ်ကမ်းရိုးတန်းတလျှောက်တွင် ကမ်းရိုးတန်းနယ်များဟုခေါ်သည့် နိုဗါစကိုးရှား၊ နယူးဗရန်ဇွစ်၊ ပရင့်အက်ဒွပ် ကျွန်းနှင့် ကိပ်ဗရက်တန်တို့ကို နယ်သစ်များအဖြစ် အသိအမှတ်ပြုခဲ့သည်။

နယ်သစ်များကို ဘုရင်ခံချုပ်လက်အောက်ခံ ဘုရင်ခံတဦးစီ အုပ်ချုပ်သည်။လွှတ်တော်နှစ်ရပ်ပါဝင်သော ဥပဒေပြုအဖွဲ့များ လည်းရှိကြ၍၊ အောက်လွှတ်တော်များသို့ လူထုကကိုယ်စားလှယ်များ ရွေးကောက်တင်မြှောက်ခွင့် ရလေသည်။ သို့သော် ထို ဥပဒေပြုအဖွဲ့များ၏ အခွင့်အာဏာမှာ အလွန် နည်းပါး လှပေသည်။ အထက်ကနေဒါဘုရင်ခံမှာ ဂျော်ဂျီဆင်မကိုး ဖြစ်၍၊ အောက်ကနေဒါဘုရင်ခံမှာ ဂိုင်းကာလတန်ပင် ဖြစ်လေသည်။ တောကြီးမြက်မဲနေရာ အများအစား ပါဝင်သော အထက်ကနေဒါကို ဘုရင်ခံဆင်မကိုးသည် အခက်အခဲများ အကြားမှ ထူထောင်ခဲ့သည်။ သူသည်နယ်သစ်များတည်ထောင်ပေး၍ တရားရုံးများ ဖွင့်လှစ်ပေးခဲ့၏။ လမ်းများ ဖေါက်ကာ တန်တားများ ဆောက်လုပ်ပေးခဲ့၏။ ယခုတိုရွန်တို ဟုတွင်ရှိသောယော့မြို့ကိုတည်ထောင်ခဲ့၏။ အမေရိကန်ပြည်ထောင်စုနိုင်ငံမှလူအများ ပြောင်းရွှေ့နေထိုင်ရန် လှုံ့ဆော်အားပေးခဲ့လေသည်။



ကွီဗက်မြို့ကို ရှမ်ပလိန် လက်နက်ချ ပေးအပ်ရစဉ်

ထိုအတောအတွင်း ကနေဒါအနောက်ပိုင်းသို့လည်း စွန့်စားသွားရောက်၍ နယ်မြေသစ်များ ဆက်လက်ရှာဖွေခဲ့ရာ၊ အနောက်ဖက်တွင် ပစိဖိတ်သမုဒ္ဒရာအထိငင်း၊မြောက်ဖက်တွင် အာတိတ်ဒေသများအထိငင်း ခရီးပေါက်ခဲ့ကြသည်။ ဤသို့ဖြင့် ၁၈၁၁ ခုနှစ်အစသို့ရောက်လျှင်၊အနောက်ပိုင်းနှင့် မြောက်ပိုင်းကနေဒါတို့မှာ လူအများ လှည့်လည်စူးစမ်းရှာဖွေပေါက်ရောက်ပြီးဒေသများ ဖြစ်နေလေပြီ။ သို့သော် ထိုဒေသများတွင် သားမွေးလုပ်ငန်းအတွက် ရောင်းဝယ်ရေးဌာနများသာ ရှိနေပေသေးသည်။

## ၁၈၁၂ ခုနှစ်စစ်ပွဲ

အမေရိကန်လွတ်လပ်ရေးစစ်ပွဲ ပြီးသည်မှစ၍၊အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါတို့သည် နယ်စပ်တွင် မကြာခဏ တိုက်ခိုက်မှုများ ဖြစ်ပွားခဲ့သည်။ ထိုမှတပါး ကနေဒါသည် လူရိုင်းများအား လက်နက်ပေး၍ မြှောက်ပေးနေသည်ဟု အမေရိကန်ပြည်ထောင်စုက ထင်မြင်ခဲ့သည့်ပြင်၊ ဝပြောသာယာသည့် ကနေဒါကို အမေရိကန်ကွန်ဂရက်လွှတ်တော်မှ စစ်လိုလားသူတစုက သိမ်းသွင်းလိုခဲ့၏။ ထို့ကြောင့် ၁၈၁၂ ခုနှစ်၌ ဥရောပတိုက်တွင် နပိုလီယန်စစ်ပွဲများ ဖြစ်ပွားနေသည့်အခိုက်၊ကနေဒါနှင့် အမေရိကန်တို့ စစ်ဖြစ်ပွားကြသည်။ ကနေဒါမှာ အမေရိကန်ပြည်ထောင်စုထက် လူအင်အား အလွန်နည်းပါးသော်လည်း၊ဗြိတိသျှအစိုးရနှင့် တိုင်းရင်းသားတို့၏ ကူညီမှုကြောင့် အမေရိကန်တို့ကို ခုခံနိုင်ခဲ့သည်။ ထိုစစ်ပွဲအပြီးတွင် ကနေဒါရှိ အင်္ဂလိပ်နှင့်ပြင်သစ်တို့မှာ သွေးစည်းသွားပြီးလျှင်၊ ရန်သူကိုနိုင်ခဲ့သဖြင့် မိမိတို့၏အစွမ်းအစကို ယုံကြည်လာကြသည်။

## ကိုယ်ပိုင်အုပ်ချုပ်ရေးရရှိရန် ကြိုးပမ်းမှု

ကနေဒါနိုင်ငံ၏အုပ်ချုပ်ရေးမှာ တစတစ တိုးတက်လာသည်ဟု ဆိုရသော်လည်း၊ ကနေဒါပြည်သားများကား ထိုမျှဖြင့် မကျေနပ်ကြသေးချေ။ အကြောင်းမှာ သူတို့

သည် ကိုယ်စားလှယ်ပါဝင်ခွင့်အုပ်ချုပ်ရေးမျိုးကိုသာရရှိ၍ တာဝန်ခံအုပ်ချုပ်ရေးမျိုး မရရှိသေးသောကြောင့်ဖြစ်၏။ ထိုကြောင့် ၁၈၁၂ ခုနှစ်စစ်ပွဲအပြီးတွင် အုပ်ချုပ်ရေးတိုးတက်ရရှိရန် ယခင်ကထက် ကြိုးပမ်းကြလေသည်။ ၁၇၉၁ ခုနှစ်ကနေဒါအက်ဥပဒေအရ ဗြိတိသျှဘုရင်ကခန့်ထားသောဘုရင်ခံချုပ်သည် ကနေဒါကို အုပ်ချုပ်ရလေသည်။ ဘုရင်ခံချုပ် တိုင်ပင်ဆွေးနွေးရန်အတွက် အထက်လွှတ်တော်မှ ရွေးချယ်ထားသော ပုဂ္ဂိုလ်များပါဝင်သည့် အမှုဆောင်ကောင်စီအဖွဲ့ တခုရှိသည်။ အထက်လွှတ်တော်အဖွဲ့ဝင်များမှာလည်း ဘုရင်ခံချုပ်အဆက်ဆက်က ရွေးချယ်ခန့်ထားသူများဖြစ်၍၊ဥပဒေပြုအဖွဲ့လည်းမည်သော ထိုအမှုဆောင်ကောင်စီအဖွဲ့သည် ဘုရင်ခံချုပ်သို့ တာဝန်ခံရလေသည်။ ဘုရင်ခံချုပ်သည် ဗြိတိန်ရှိအာဏာပိုင်များသို့ တဆင့်တာဝန်ခံရပြန်ရာ၊အုပ်ချုပ်သူများနှင့်လူထုမှာ အဆက်ကင်းကွာလျက်ရှိ၏။ ထို့ပြင် ဘုရင်ခံချုပ်များမှာ မျက်နှာစိမ်းများဖြစ်သည့်ပြင် နှစ်အနည်းငယ်မျှသာ အမှုထမ်းရသဖြင့်၊ အုပ်ချုပ်ရေးအာဏာကို အမှုဆောင်အဖွဲ့ကသာ ကြိုးကိုင်လာတော့သည်။ ထိုအခါ အဖွဲ့ဝင်များသည် သူတို့၏အပေါင်းအသင်းနှင့် ဆွေမျိုးသားချင်းတို့ကို အရေးပါသောအစိုးရ ရာထူးများတွင် ခန့်ထားကြ၏။ သို့ဖြစ်၍ ထိုစဉ်က အထက်ကနေဒါတွင် အုပ်ချုပ်ရေးမှာ လက်သင့်ရာ ရာထူးပေး၍အုပ်ချုပ်သည့် သားတူညီများအုပ်ချုပ်ရေးမျိုး ဟူ၍ ၎င်း၊အောက်ကနေဒါ၌ကား အိမ်တော်ဂိုဏ်းသားအုပ်ချုပ်ရေး ဟူ၍၎င်း၊မကျေနပ်မှုများ ပေါ်ပေါက်လာခဲ့၏။ ထိုကြောင့် ၁၈၃၇ ခုနှစ်တွင် အထက်ကနေဒါ၌ မက်ကင်ဇီ ခေါင်းဆောင်၍၎င်း၊အောက်ကနေဒါ၌ ပါပီနို ခေါင်းဆောင်၍၎င်း၊သူပုန်ထလေသည်။ ထိုအချိန်တွင် ကမ်းရိုးတန်းနယ်များကလည်း အနုနည်းဖြင့် အုပ်ချုပ်ရေးကိုပြုပြင်ပေးရန် တောင်းဆိုခဲ့သည်။

သူပုန်များကို ဗြိတိသျှအစိုးရက နှိမ်နင်းနိုင်သော်လည်း ကနေဒါအုပ်ချုပ်ရေးကို တိုးတက်ပေးရန် စဉ်းစားစပြုလာသည်။ ထိုကြောင့် အခြေအနေကို ထောက်လှမ်းအစီရင်ခံရန်ညွှန်ကြားချက်နှင့်တကွ လော့ဒါရမ်ကို ဘုရင်ခံချုပ်အဖြစ်ခန့်ထားစေလွှတ်လိုက်၏။ လော့ဒါရမ်သည် ငါးလမျှသာဘုရင်ခံချုပ်အဖြစ် ဆောင်ရွက်ခဲ့ပြီးနောက်၊ဗြိတိသျှ မြောက်အမေရိကအရေး များ ဆိုင်ရာ အစီရင် ခံစာကို ရေးဆွဲ၍ဗြိတိသျှအစိုးရသို့ တင်ပြခဲ့သည်။ ထိုအစီရင်ခံစာတွင် ကနေဒါကို တာဝန်ခံအုပ်ချုပ်ရေးမျိုး ပေးအပ်ရန်နှင့် အထက်နှင့် အောက်ကနေဒါကို ပူးပေါင်းရန် သင့်လျော်ကြောင်း ပါဝင်သည်။ တာဝန်ခံအုပ်ချုပ်ရေးမျိုး ပေးအပ်ရာတွင် အောက်လွှတ်တော်အမတ်များရာ၏ ထောက်ခံချက်ကိုရသော ကက်ဗိနက်အဖွဲ့ ထားရှိရန်နှင့် အထက်လွှတ်တော်မှာ အောက်လွှတ်တော်ကို ထိန်းသိမ်း ရသောအဖွဲ့မျှသာဖြစ်စေရန် ဖော်ပြထားသည်။ ထို့ပြင် နယ်သစ်ဘုရင်ခံများသည် ဥပဒေပြုလွှတ်တော်တွင် အင်အားအတောင့်ဆုံး ပါတီနှင့် သင့်မြတ်စွာဆောင်ရွက်သွားရန်နှင့် ထိုပါတီမျိုးမှ အကြံပေးပုဂ္ဂိုလ်များကို ရွေးချယ်ခန့်ထားရန်ကိုလည်း ထောက်ခံခဲ့သည်။

၎င်းထောက်ခံချက်တို့ကို အချိန်ကြာမြင့်မှ လက်တွေ့ဆောင်ရွက်ခဲ့၏။အထက်နှင့်အောက်ကနေဒါတို့ကို အုပ်ချုပ်ရေးတခုတည်းအောက်တွင် ပူးပေါင်းရန်ဟူသော ဒုတိယထောက်ခံချက်ကို ၁၈၄၀ ပြည့်နှစ် ပူးပေါင်းရေး အက်ဥပဒေအရ ဆောင်ရွက်ခဲ့သည်။ ၁၈၄၁ ခုနှစ်မှစ၍ ထိုပြည်နယ်များမှာ အရှေ့ကနေဒါ အနောက်ကနေဒါဟူ၍ တွင်ခဲ့သည်။ သို့သော် ကမ်းရိုးတန်းနယ်များကား တသီးတခြားစီ ရှိနေသေးသည်။ ပူးပေါင်းရေးအက်ဥပဒေ ပြဋ္ဌာန်းပြီးနောက် ၆ နှစ်ကြာမှ တာဝန်ခံအုပ်ချုပ်ရေးမှာ အကောင်အထည်ပေါ်ခဲ့သည်။ ထိုအချိန်တွင် လော့ဒါရမ်၏သားမက်လော့အယ်လဂျင်သည် ဘုရင်ခံချုပ်ဖြစ်လေသည်။ အယ်လဂျင်သည် ကနေဒီယန်တို့အား တာဝန်ခံအုပ်ချုပ်ရေးကို ဆောင်ရွက်နိုင်အောင် စွမ်းဆောင်ခဲ့သည်။ အုပ်ချုပ်ရေးတွင် ပြင်သစ်တို့ကိုလည်း ပါဝင်ခွင့်ပေးခဲ့သည်။ လွှတ်တော်၏ ထောက်ခံချက်ရသော မည်သည့် ပါတီဝင်ဝန်ကြီးများနှင့်မဆိုတွဲဖက်၍ တိုင်းပြည်ကို အုပ်ချုပ်ခဲ့၏။ သူ၏ဆောင်ရွက်ချက်များကြောင့် ကနေဒါနိုင်ငံအုပ်ချုပ်ရေးမှာ အင်္ဂလန်ပြည်အုပ်ချုပ်ရေးမျိုး ဖြစ်လာခဲ့သည်။

## ပြည်ထောင်စု ဖြစ်လာခြင်း

တာဝန်ခံအုပ်ချုပ်ရေးကို ကမ်းရိုးတန်းနယ်များတွင်သာ ချောမောစွာဆောင်ရွက်နိုင်ခဲ့သည်။ ပူးပေါင်းထားသည့် ကနေဒါတွင်ကား တာဝန်ခံအုပ်ချုပ်ရေးသည် မချောမောခဲ့ချေ။ ပြင်သစ်နှင့် အင်္ဂလိပ်တို့သည် ဒေသဆိုင်ရာအရေးကိစ္စကလေးများ၌ပင် အငြင်းပွားမှုများ ပေါ်ပေါက်ခဲ့သည့်ပြင်၊ဥပဒေပြုလွှတ်တော်၌ အင်္ဂလိပ်နှင့်ပြင်သစ် ကိုယ်စားလှယ်ဦးရေမှာ ညီတူညီမျှခန့်ပင် ရှိနေသည်။ လူဦးရေများသော အထက်ကနေဒါကို လူဦးရေနည်းသည့် အောက်ကနေဒါနှင့် ကိုယ်စားလှယ် တန်းတူပေးသည်ကိုလည်း မကျေနပ်ကြချေ။ သို့ဖြစ်ရာ ကနေဒါကို ပြန်လည်၍ နှစ်ပိုင်းခွဲရမည်ကဲ့သို့ ရှိနေ၏။ ထိုသို့ခွဲလိုက်ပြန်လျှင်လည်း ပြည်နယ်နှစ်ခုလုံးအတွက် အကျိုးတူကိစ္စများ ဆောင်ရွက်ရာတွင် အခက်အခဲများ တွေ့ရအကြောင်းရှိသည်။ အချို့က ပြည်နယ်နှစ်ခုလုံးတွင် ပြည်နယ်အသီးသီးနှင့်ဆိုင်ရာ ကိစ္စများအတွက် အစိုးရသီးခြားထားရှိကာ၊ နှစ်ခုလုံးနှင့်သက်ဆိုင်သောကိစ္စများအတွက် ဗဟိုအစိုးရတခု ထားရှိအုပ်ချုပ်

ရန် အကြံပေးကြသည်။ ထိုပြင် အမေရိကန်ပြည်တွင်းစစ်ပွဲကြောင့် ကနေဒါပြည်နယ်များသည် တသီးတခြားစီနေခြင်းထက် စည်းလုံးညီညွတ်စွာရှိလျှင် အင်အားပိုမိုတောင့်တင်းမည်၊ဘေးရန်ပေါ် ပေါက်သော် စည်းလုံးညီညွတ်စွာ ခုခံနိုင်မည်ဟု အချို့က ယုံကြည်ကြ၏။ ထိုသို့ တစည်းတလုံးတည်းရှိမှ ရွှေအဖို့တွင် များစွာတိုးတက်ကြီးပွားနိုင်မည်ဟုလည်း ယုံကြည်ကြလေသည်။

ထိုအတောအတွင်း ၁၈၆၄ ခုနှစ်တွင် ကမ်းရိုးတန်းနယ်များသည် မိမိတို့အချင်းချင်းပူးပေါင်း ရန် အစည်းအဝေးတရပ် ကျင်းပခဲ့၏။ ထိုအစည်းအဝေးသို့ အထက်နှင့်အောက်ကနေဒါပြည်နယ်များမှ ကိုယ်စားလှယ် များ လည်း တက်ရောက်ခဲ့သည်။ထိုကိုယ်စားလှယ်များက ကမ်းရိုးတန်းနယ်များ၏ပူးပေါင်းရေးတွင် မိမိတို့နယ်များ ပါဝင်ပူးပေါင်းလိုကြောင်း ပြောဆိုကြ၏။ထိုကြောင့် ပူးပေါင်းရေးအစည်းအဝေးကို ကွိဗက်မြို့၌ ထပ်မံကျင်းပကာ ကနေဒါရှိနယ်များအားလုံးကို ပူးပေါင်း၍ ပြည်ထောင်စုအဖွဲ့ ဖွဲ့စည်းရန် ဥပဒေတရပ် ရေးဆွဲခဲ့ကြ၏။ ပြည်ထောင်စုအဖွဲ့ အစည်းကိုလည်း ကနေဒါဒိုမီနီယန်နိုင်ငံဟု အမည်ပေးရန် ရွေးချယ်ခဲ့သည်။ သို့သော်ထိုသို့စီစဉ်ချက်ကို နျူးဖေါင်းလန်းနှင့် ပရင့်အက်ဒွပ်နယ်များက သဘောမတူခဲ့ပေ။ နိုဗါစကိုးရှားနှင့် နယူးဗရန်ဇွစ်နယ်များကလည်း နှစ်နှစ်မျှ စဉ်းစားပြီးမှ သဘောတူခဲ့၏။ ၁၈၆၇ ခုနှစ်တွင် ထိုစီစဉ်ချက်ကို အပြီး သတ်စေရန် ဗြိတိသျှပါလီမန်က ဗြိတိသျှမြောက်အမေရိကအက်ဥပဒေကို ပြဋ္ဌာန်း လိုက်၏။ ကနေဒါဒိုမီနီယန်နိုင်ငံ၏ ပဌမဆုံးဝန်ကြီးချုပ်မှာ ဆာဂျေ၊အေ၊မက္ကဒေါ်နယ်ဖြစ်သည်။

## အုပ်ချုပ်ရေး

ကနေဒါသည် ဗြိတိသျှနေသဟာယနိုင်ငံများတွင် ပါဝင်၍၊ ဂရိတ်ဗြိတိန်နှင့် ၎င်း၊ အခြား သော ဒိုမီနီ ယန် နိုင်ငံ များ နှင့် ၎င်း၊တန်းတူ ကိုယ်ပိုင်အုပ်ချုပ်ရေးရရှိသော နိုင်ငံဖြစ်သည်။ သို့သော် ၁၈၆၇ ခုနှစ် ဗြိတိသျှမြောက်အမေရိက အက်ဥပဒေတွင် ပါဝင်သော အခြေခံဥပဒေကို ကနေဒါပါလီမန်က ထပ်မံပြင်နိုင်သည့်ပြင်၊ ကနေဒါနိုင်ငံအတွက် အပြီးသတ် အယူခံတရားရုံးတော်မှာ ပရီဗီကောင်စီပင် ဖြစ်နေသေးသည်။ မည်သို့ဖြစ်စေ အထက်ပါကိစ္စနှစ်ရပ်လုံးကို ကနေဒါပါလီမန်၏ ထောက်ခံချက် ရ မှ သာ သက်ဆိုင်ရာတို့က ဆောင်ရွက်ကြလေသည်။

ကနေဒါဒိုမီနီယန်နိုင်ငံအတွင်း၌ ပြည်နယ်ကိုးခုနှင့် နယ်ကြီးနှစ်ခုရှိ၍၊အမေရိကန်ပြည်ထောင်စုနိုင်ငံကဲ့သို့ ပြည်နယ်များကို စုပေါင်းထား၏။သို့သော် အခြေခံဥပဒေတွင် ပြည်နယ်များအတွက်အာဏာများ ကို ဖေါ် ပြ၍ ကြွင်း သော အာဏာများကို ဗဟိုအစိုးရသို့အပ်နှင်းသည်ဟု ဆိုထားရာ၊ ကနေဒါအစိုးရသည် အမေရိကန်ပြည်ထောင်စု ဗဟိုအစိုးရထက်အာဏာပို၍ရရှိလေသည်။ အုပ်ချုပ်ပုံစံနစ်မှာ ဗြိတိသျှစံနစ်အတိုင်းပင် ဖြစ်သည်။ ဗြိတိသျှဘုရင်က ထိုနိုင်ငံအားအုပ်ချုပ်ရန် ဘုရင်ခံချုပ် ခန့်ထားသော်လည်း ဘုရင်ခံချုပ်မှာ တန်ခိုးအာဏာမရှိပေ။ ကနေဒါအစိုးရဝန်ကြီးများ၏ အကြံပေးချက်အတိုင်း ဆောင်ရွက်ရသူဖြစ်သည်။ ကနေဒါနိုင်ငံအုပ်ချုပ်ရေးတွင် အကယ်ပင် တန်ခိုးအာဏာအရှိဆုံးမှာ ဝန်ကြီးချုပ်ဖြစ်၏။အစိုးရအဖွဲ့တွင် ဝန်ကြီး ၂၀ ထက်မနည်းရှိ၍ ထိုသူတို့သည် အုပ်ချုပ်ရေး ဆိုင် ရာဌာနများ၏ အကြီးအကဲ တာဝန်ခံများ ဖြစ်ကြသည်။ ပြည်ပရေးရာဌာနကို ဝန်ကြီးချုပ်ကသာ ကိုင်လေ့ရှိသည်။

ကနေဒါပါလီမန်တွင် လွှတ်တော်နှစ်ရပ်ရှိသည်။ အထက်လွှတ်တော်တွင် ရာသက်ပန်ကိုယ်စားလှယ် ၁၀၂ ဦးပါဝင်၍၊ ယင်းတို့ကို ကနေဒါပရီဗီကောင်စီ၏ အကြံ ပေး ချက် အရ ဘုရင်ခံချုပ်က ခန့်ထားသည်။ အောက်လွှတ်တော်မှ အတည်ပြုပြဋ္ဌာန်း တင်ပို့လိုက်သော ဥပဒေကြမ်းများကို အထက်လွှတ်တော်က ပယ်ချနိုင်ခွင့် တချက်လွှတ်အာဏာ



**ကနေဒါနိုင်ငံ၏ မြို့တော်ဖြစ်သော အော့တဝါမြို့ရှိ ပြည်ထောင်စု ပါလီမန် အဆောက်အအုံကြီး**

ရှိသော်လည်း၊အထက်လွှတ်တော်တွင် နိုင်ငံရေးအာဏာ အနည်းငယ်မျှသာရှိသည်။

အောက်လွှတ်တော်မှာ ပြည်သူတို့က ရွေးကောက်တင်မြှောက်လိုက်သော ကိုယ်စားလှယ်များပါဝင်သည်။ သာမန်အားဖြင့် သက်တမ်းမှာ ၅ နှစ်ဖြစ်၏။ ၁၈၆၇ ခုနှစ် ဗြိတိသျှမြောက်အမေရိက အက် ဥပဒေ အရ ကွိဗက် နယ် ၏ ကိုယ်စားလှယ်ဦးရေကို ၆၅ ဦးသတ်မှတ်ထားသည်။ အခြားပြည်နယ်များမှာ လူဦးရေအလိုက် ကိုယ်စားလှယ်များ စေလွှတ်ခွင့်ရလေသည်။

ဒိုမီနီယန်နိုင်ငံတွင်းရှိ ပြည်နယ်တိုင်း၌ ဘုရင်ခံအသီးသီး ရှိ၍ ဥပဒေပြုလွှတ်တော်များလည်းရှိသည်။ ဥပဒေပြုလွှတ်တော်နှစ်ရပ်ရှိသော ကွီဗက်ပြည်နယ်မှတပါး အခြားပြည်နယ်များတွင် ဥပဒေပြုလွှတ်တော် တရပ်စီသာရှိသည်။ ထို့ပြင် ပြည်နယ်ဥပဒေပြုလွှတ်တော်သို့ တာဝန်ခံရသော ပြည်နယ်အစိုးရအဖွဲ့ခေါင်းဆောင် ဝန်ကြီးချုပ်သည်အကယ်ပင် ပြည်နယ်အုပ်ချုပ်ရေးအကြီးအကဲ ဖြစ်လေသည်။ အထက်တွင်ဆိုခဲ့သည့်အတိုင်း ပြည်နယ်များ၏အာဏာများကို ကန့်သတ်ထားသည်။ ဗဟိုအစိုးရက ပြည်နယ်ဥပဒေပြုလွှတ်တော်က ပြဋ္ဌာန်းသောအက်ဥပဒေများကို ပယ်ဖျက်နိုင်သည်။ သို့သော် ထိုသို့ကား ပြုခဲလှသည်။ ပြည်နယ်ဆိုင်ရာကိစ္စများကို သက်ဆိုင်ရာ ပြည်နယ်အစိုးရအဖွဲ့များက ဆောင်ရွက်၍၊ တနိုင်ငံလုံးနှင့်ဆိုင်သော ကိစ္စများကို ဒိုမီနီယန်အစိုးရအဖွဲ့က ဆောင်ရွက်သည်။ ထိုအစိုးရအဖွဲ့နှင့် ဘုရင်ခံချုပ်ရုံးထိုင်ရာဌာနမှာ ကနေဒါနိုင်ငံ၏မြို့တော် အော့တဝမြို့ဖြစ်၍၊ထိုမြို့တော်တွင် ကနေဒါနိုင်ငံ ပါလီမန် အဆောက်အအုံ ရှိလေသည်။

**ကနေဒါစာပေ။** ။ကနေဒါနိုင်ငံသည် မြောက်အမေရိကတိုက်၏ မြောက်ဖက်ပိုင်းတွင် တည်ရှိသည်။ ၁၆ ရာစုနှစ်အတွင်း ဥရောပတိုက်သားများ ပြည်သစ်နယ်သစ် ရှာဖွေထူထောင်ကြသောအခါကစ၍ တိုင်းသစ်ပြည်သစ် တခု ဖြစ်ခဲ့သည်။ သို့ရာတွင် ဥရောပတိုက်သားတို့ ရောက်ရှိပြီး၍ နှစ်ပေါင်းနှစ်ရာနီးပါးအထိ၊ပြည်သစ်ထူထောင်ရေးနှင့် ရှုပ်ထွေးနေသောကြောင့် စာပေဖက်တွင်တိုးတက်မှုမရှိခဲ့ချေ။ ၁၈ ရာစုနှစ်သို့ ရောက်သောအခါမှ၊တိုင်းသူပြည်သားများသည် အခြေတကျရှိလာကြသဖြင့် စာပေကို စတင်လေ့လာနိုင်သည်။ ကနေဒါနိုင်ငံရှိလူများသည် တောရိုင်းများကိုခုတ်ထွင်လျက် မြို့ပြတည်ထောင်သည့်အကြောင်းများကို စတင်ရေးသားကြ၏။

ကနေဒါနိုင်ငံ၏ စာပေကိုကြည့်လျှင်၊ပြင်သစ်ယဉ်ကျေးမှုဆိုင်ရာ အတတ်ပညာများကတဖက်၊အင်္ဂလန်ပြည်၏ အစဉ်အလာ ပညာရပ်များကတဖက် ဟူ၍ နှစ်မျိုးတွေ့ရသည်။ သို့ရာတွင် ကာလကြာမြင့်သော်၊ကနေဒါယဉ်ကျေးမှု အတတ်ပညာများ သက်သက်သာလျှင် ဖြစ်လာလေသည်။ ကနေဒါစာပေသက်သက် ဟူ၍မရှိ၊ ကနေဒါစာပေဟုခေါ်ဆိုရသောစာများမှာ ကနေဒါနိုင်ငံရှိ ပြင်သစ်နှင့် အင်္ဂလိပ်တို့ ရေးသားသောစာများသာ ဖြစ်သည်ဟုလည်း အချို့ကဆိုကြသည်။ မည်သို့ပင်ဖြစ်စေ၊ထိုစာများကား ဂုဏ်အင်္ဂါ လက္ခဏာများနှင့် အတွေးအခေါ် အယူအဆများတွင် ကနေဒါဆန်၏။ ကနေဒါနိုင်ငံကို နောက်ခံကားပြုထား၍၊ကနေဒါပြည်သားတို့၏ဘဝနှင့် သူတို့၏စိတ်ထားသူတို့၏ဇာတိမာန်များကို ဖော်ထားသည်။ ကနေဒါစာပေတွင် တိုင်းပြည်၏သဘာဝ၊နိုင်ငံရေးအခြေနှင့်၊နယ်သစ်တည်ထောင်ရသည့်အဖြစ်၊ဤသုံးချက်ကို အထူးသဖြင့် အသားပေး၍ ရေးသားထားလေသည်။ သဘာဝမှာ သူတို့ အဓိကထား၍ ရေးသားသောအချက်တချက်ဖြစ်၏။ တိုင်းပြည်ရာသီဥတုနှင့် ပထဝီဝင်ကို အခြေခံ၍ ရေးကြသည်။ နိုင်ငံရေးရာများကို ပြင်သစ်တို့က များစွာရေးသား၍၊နယ်သစ်တည်ထောင်ရေးကိုအင်္ဂလိပ်တို့က များသောအားဖြင့် ရေးကြသည်။ ကနေဒါစာပေ၌ပြင်သစ်တို့သည်ပြင်သစ်ဘာသာနှင့် ရေး၍၊အင်္ဂလိပ်တို့ကလည်း အင်္ဂလိပ်ဘာသာနှင့် ရေးကြရာ၊ ဘာသာစကား ကွဲပြားမှုကြောင့် စာပေချင်းလည်း တသီးတခြား ဖြစ်နေတော့သည်။

ကနေဒါနိုင်ငံရှိ ပြင်သစ်စာပေမှာ ပြင်သစ်နိုင်ငံနှင့် များစွာဆက်သွယ်နေလေသည်။ အတော်ဆုံး အထူးချွန်ဆုံးသော ကနေဒါပြည်သား ပြင်သစ်စာရေးဆရာများသည် ပြင်သစ်နိုင်ငံရှိ ပြင်သစ်အကက်ဒမီ၏ ပန်းနွယ်သရဖူကို ရရှိကြ၏။ ကနေဒါနိုင်ငံရှိ ပြင်သစ်စာပေမှာ ၁၇၆၃ ခုနှစ်မတိုင်မီက တိုးတက်ခြင်း များစွာမရှိလှသေးချေ။ ထိုစဉ်က ပြင်သစ်လူမျိုးများသည် နယ်သစ်ရှာဖွေရေး၊နေသားတကျရှိအောင် ပြုပြင်စီမံရေး၊သာသနာပြုလုပ်ငန်းကို ကြိုးပမ်းထမ်းဆောင်ရေး၊ သားမွေးကုန်ကူး၍ စီးပွားရှာရေးတို့ကြောင့် အချိန်မအားလပ်အောင် ရှိနေကြ၏။ စာပေလိုက်စားရန် အချိန်မရကြချေ။ထိုအခါက ကာတီယေးနှင့် ရှမ်ပလိန်တို့ နယ်သစ်ရှာဖွေရာ၌ တွေ့ကြုံရသော အဖြစ်အပျက်များနှင့် ခရစ်ယန် သာသနာပြုပုဂ္ဂိုလ်အချို့၏ မှတ်တမ်းများကိုသာ စာပေအဖြစ်ဖြင့် တွေ့ရလေသည်။ (ကာတီယေး။ရှမ်ပလိန် — လည်းရှု။) ၁၇၆၃ ခုနှစ်တွင် ကနေဒါနိုင်ငံသည် ဗြိတိသျှတို့လက်အောက်သို့ ကျရောက်ခဲ့ရာ၊အယူဝါဒနှင့် ဘာသာစကား ကွဲပြားမှုကြောင့် ပြင်သစ်တို့သည် များစွာ စိတ်မချမ်းသာခဲ့ကြချေ။ ထို့ကြောင့် ၁၈၀၀ ပြည့်နှစ်သို့ရောက်မှ ကနေဒါနိုင်ငံရှိပြင်သစ်စာပေသည် ထွန်းကားလာလေသည်။ ပြင်သစ်တို့သည် ပြင်သစ်ယဉ်ကျေးမှုနှင့် အယူဝါဒ စသည်တို့ကိုပြင်သစ်စာပေဖြင့်သာ မော်ကွန်း တည်ရစ်အောင် ကြိုးစား ပြုစုကြလေသည်။

ကနေဒါနိုင်ငံ၏ ပြင်သစ်စာပေနယ်တွင် သမိုင်းအရေးအသားမှာ အဓိကစာပေ ဖြစ်သည်။ ၁၇၆၀ ပြည့်နှစ်မတိုင်မီကပင် သမိုင်းအရေးအသားများ ရှိခဲ့၏။သို့ရာတွင် ၁၈၃၀ နှင့် ၁၈၄၀ ပြည့်နှစ်များ အကြားတွင် အထူးတိုးတက်လာခဲ့သည်။ ကနေဒါနိုင်ငံရှိ ပြင်သစ်လူမျိုးတို့၏ မျိုးချစ်စိတ်ထက်သန်ပုံ၊ဇာတိမာန်တက်ကြွပုံတို့မှာ သူတို့၏သမိုင်း၌ ထင်ရှားစွာ တွေ့ရလေသည်။ သမိုင်းကိုမှုတည်၍ စာပေအရေးအသား စခြင်းမှာ၊ပြင်သစ်တို့သည် သူတို့၏ဆောင်

ရှက်ချက် သူတို့၏စွမ်းရည်တို့ကို ကမ္ဘာသိအောင် ဂုဏ်ယူဖော်ပြလိုသော ဆန္ဒအာသီသကြောင့်ဖြစ်၏။ ပြင်သစ်လူမျိုးအက် (ဖ)၊ အိပ် (စ)၊ ဂါနိုး ရေးသားသော ကနေဒါနိုင်ငံသမိုင်းမှာ အကောင်းဆုံးနှင့် အမှန်ဆုံးဖြစ်၍၊ယခုထက်တိုင် ပြင်သစ်တို့ စံထားရသော သမိုင်းဖြစ်၏။ ထို့ပြင် နိုင်ငံရေးသမားများနှင့် စစ်မှုထမ်းပုဂ္ဂိုလ်တို့၏ အတ္ထုပတ္တိများကို ရေးသားသော ဗင်ဂျမင်ရှုနှင့် အက်ဗေး ကက်စဂရိန်းစသော စာရေးဆရာတို့လည်း ထွန်းကားသေးသည်။

ပြင်သစ်တို့၏ ရှေးအကျဆုံးစာပေသည် လက်ဦးအစတွင် သတင်းစာမဂ္ဂဇင်းများ၌ အတိုအထွာပါတတ်သည်။ ၁၇၀၀ ပြည့်နှစ်တိုင်အောင် သတင်းစာဂျာနယ်များသည် စာပေ၏ ရှေ့တော်ပြေးအဖြစ်နှင့် ရှိနေခဲ့၏။ ယခုအခါတွင် ကနေဒါနိုင်ငံ၌ စာနယ်ဇင်းများသည် ပြင်သစ်လူထု၏ အားကိုးရာလက်နက်သဖွယ် အသုံးကျ အဖိုးတန်နေလေသည်။

ပြင်သစ်စာပေအရေးအသားတွင် လူတို့အနှစ်သက်ဆုံးနှင့် အကောင်းဆုံး လက်ရာများကို ဝတ္ထုတိုကလေးများ၌ တွေ့ရ၏။ ဤပြင်သစ်ဝတ္ထုတိုကလေးများမှာ ရှေးမူဟောင်းကို ပြန်ပြောင်းအောက်မေ့ သတိရစေပြီးလျှင်၊တခါတရံ ငြိမ့်ငြောင်းသာယာ၍ တခါတရံ၌ ရုန့်ရင်းကြမ်းတမ်းသော ရယ်ရွှင်ဖွယ်အခန်းကလေးများဖြင့် စာဖတ်သူတို့စိတ်နှလုံးကို ရွှင်ပြုံးစေလေသည်။သို့ရာတွင် ဝတ္ထုတိုရေးရာ၌ ပြင်သစ်တို့၏ဉာဏ်အမြင်မှာ မကျယ်ဝန်းလှချေ။ ဝတ္ထုကြောင်းခံရာ၌ အသစ်အဆန်းမထွင်ဘဲ ရေးရိုးရေးစဉ်အတိုင်းသာရေးသားလေသည်။အများအားဖြင့် ထုံးဟောင်းပုံပြင်များနှင့် တိုင်းရင်းသားလူရိုင်းစစ်ပွဲများ အကြောင်းကိုသာ မှီငြမ်းပြု၍ ရေးကြ၏။ တခါတရံ သာသနာပြုပုဂ္ဂိုလ်များနှင့် ခရီးထွက်နယ်သစ်ရှာဖွေသူများ၏ စွန့်စား ခန်း များ ကို ရေးကြ၏။ အချို့ ဝတ္ထုတိုကလေးများမှာ ကနေဒါ နိုင်ငံရှိ ပြင်သစ်လူမျိုးတို့၏ သဘာဝ အလေ့အထနှင့် တောင်သူယာလုပ်တို့၏ အကြောင်းများကို သရုပ်ဖော် ထားသည်။ အချို့ပုံဝတ္ထုတိုကလေးများမှာ ကလေးများအတွက် သက်သက်ဖြစ်သည်။

၁၇၀၀ ပြည့်နှစ် မတိုင်မီ ပြင်သစ်တို့ရေးသားသော ဝတ္ထုရှည်ကြီးများမှာ၊အများအားဖြင့် ဝေါလတာစကော့ ရေးသော သမိုင်းဝတ္ထုမျိုးသာဖြစ်၏။ ၁၉၀၀ ပြည့်နှစ်အထိ ဝတ္ထုရှည်အရေးအသားသည် များစွာတိုးတက်ခြင်း မရှိလှသေးချေ။ သမိုင်းကြောင်းကို နောက်ခံထား၍ရေးသားသောအလေ့မှာ ကနေဒါနိုင်ငံ ပြင်သစ်လူမျိုးတို့၏ ဝါသနာတရပ်ပင် ဖြစ်လေသည်။ သို့ရာတွင် ယခုအခါ အမြင်ကျယ်လာပြီဖြစ်၍၊သမိုင်းကြောင်းမှအပ အခြားနည်းများဖြင့် ပြောင်းလဲ၍ ရေးသားလာကြ၏။ဝတ္ထု၌ ဇာတ်ကောင်များကို ထင်ရှားစွာ သရုပ်ဖော်ခြင်း၊ ဇာတ်ကွက်ကို မိမိ ရရေးခြင်းတို့၌ များစွာ တိုးတက်လာလေသည်။ပြင်သစ်ဝတ္ထုရေးဆရာများမှာ 'မရီယာချက်ပဒါလိန်း' ဝတ္ထုကိုရေးသူ လူဝီဟေးမွန်အပြင်၊ဖိလစ် ဒါ ဂက်စပေးနှင့် ဂေရင် လာဂျိုင်တို့ဖြစ်ကြ၏။

ကနေဒါနိုင်ငံရှိ ပြင်သစ်လူမျိုးတို့ စပ်ဆိုသောကဗျာများတွင် မျိုးချစ်စိတ်ဓါတ်နှင့် သာသနာရေးမှာ အဓိကမဏ္ဍိုင်ဖြစ်လေသည်။ ၁၇၉၀ ပြည့်နှစ်အထိ ဤအကြောင်းအရာနှစ်ခုကို ဖွဲ့ဆိုသောကဗျာများသာ ခေတ်စားခဲ့လေသည်။ အော့တေ့ ကရေးမက်ဇီ၏ သီချင်းတပုဒ်မှာ ပြင်သစ်များ ယခုထက်တိုင် နှစ်ခြိုက်နေသေးသော အကောင်းဆုံးလက်ရာပင်ဖြစ်၏။ သဘာဝအကြောင်းကို ဖွဲ့နွဲ့သည့်ကဗျာပင်ဖြစ်လင့်ကစား လူမျိုးရေးနှင့် သာသနာရေးကိုကား လက်မလွှတ်ကြချေ။

၁၈၆၀ မှ ၁၉၀၀ ပြည့်နှစ်အတွင်း ကဗျာအရေးအသားတိုးတက်မှုအတွက် လှုံ့ဆော်ကြသော ပုဂ္ဂိုလ်များမှာ၊ကွီဗက်စာပေဂိုဏ်းမှ ကရေးမက်ဇီနှင့် အဲလဖရက်ဂါနိုး တို့ဖြစ်လေသည်။သူတို့နှစ်ဦး ခေါင်းဆောင်၍ စာရေးဆရာ အများအပြားပင် ကဗျာဖွဲ့ဆိုကြ၏။ ထူးချွန်သော ကဗျာဆရာများမှာ၊ပမ်းဖီး လေးမေနှင့် လူဝီ ဖရေးချက် တို့ဖြစ်သည်။ လေးမေသည် မြေအကြောင်းကို ကဗျာဖွဲ့ဆို၍၊ဖရေးချက်က မိတ်ဆွေအကြောင်း၊သဘာဝနှင့် မျိုးချစ်စိတ်ဓါတ်များကို ဖွဲ့ဆိုသည်။ အချစ်နှင့်ဆိုင်သော ကဗျာများမှာ အလွန်နည်းပါးလေသည်။ ဤခေတ်တွင် မျိုးချစ်စိတ် ထက်သန်မှု၊သာသနာရေးကို လေးစားမှုတို့ကိုတိုက်တွန်းလှုံ့ဆော်သော ကဗျာများထွန်းကား၏။ မွန်းထရီးအောစာပေဂိုဏ်းမှ စာဆိုများကမူ မျိုးချစ်စိတ် ရင့်သန်မှုနှင့် အယူဝါဒ ကို ကဗျာရေးရာ၌ အဓိကမထားတော့ဘဲ၊ လောကကြောင်းဆိုင်ရာများကိုသာ အခြေခံ၍ ဖွဲ့ဆိုသွားကြ၏။ ထိုသူများမှာ အေမီး နယ်လီဂန်၊အဲလဗတ် လိုဇိုးနှင့် ပေါမိုရင် တို့ဖြစ်သည်။ထိုသူများသည် လူ့လောက ပြဿနာအမျိုးမျိုးကို ဖြေရှင်းရန်နှင့် လူတို့စိတ်ဓါတ်နှင့်ဆိုင်သည့် အကြောင်းရပ်များကို ဖွဲ့ဆိုကြလေသည်။

အေမီးနယ်လီဂန်သည် သူ၏အတွေးအဆ အယူဝါဒများကို ကဗျာဖြင့် သရုပ်ဖော် ရေးသားရာ ထိုခေတ် စာဆိုများ၏ ရှေ့ဆောင်ဖြစ်ခဲ့သည်။ထိုခေတ်မှာပင် ပေါ်ပေါက်သောစာဆိုတော် အဲလဗတ်လိုဇိုး၏လက်ရာမှာ အလွန်သိမ်မွေ့နူးညံ့၏။ ပေါမိုရင်သည် အရှေ့နိုင်ငံ၏ ယဉ်ကျေးမှုကို မှုတည်၍ ကဗျာဉာဏ်ကွန့်မြူးခဲ့သည်။အမျိုးသမီးစာဆို ဗလန့်လာမွန်တန့်သည် ကနေဒါပြည်သူပြည်သားတို့၏ နေပုံထိုင်ပုံ စိတ်နေစိတ်ထားကို နှစ်သက်ဖွယ်ရာ သရုပ်ဖော်ခဲ့၏။

ကနေဒါနိုင်ငံ ပြင်သစ်စာပေ အရေးအသားမှာ ဤမျှလောက်သာ ထွန်းကားခဲ့၏။

ကနေဒါနိုင်ငံ အင်္ဂလိပ်စာပေ အရေးအသားကိုကြည့်လျှင်၊ အင်္ဂလိပ်နှင့် စကော့တို့၏ အရေးအသားမှုနောက်သို့ များစွာနွယ်သည်ကို တွေ့ရ၏။ ထိုနောက် တဖြည်းဖြည်း အိမ်နီးချင်း ဖြစ်သော အမေရိကန် ပြည်ထောင်စု၏ အရေးအသားဖက်သို့ ယိမ်းသွားလေသည်။ ပြင်သစ်စာပေကဲ့သို့ အင်္ဂလိပ်စာပေမှာလည်း ရှေးဦးစွာ သမိုင်းကြောင်းများ၊စွန့်စားမှုများနှင့် တောတောင် နေထိုင်ရေးတို့ကိုသာ ရေးသားကြ၏။

သာသနာ့ဝန်ထမ်းတဦး၏ဇနီး မစ္စစ်ဗရွတ်သည် ထိုအခါက မြို့သစ်ရွာသစ် တည်ထောင်နေထိုင်ပုံများကို ဝတ္ထုသွားအဖြစ် ရေးသားခဲ့၏။ ထိုဝတ္ထုတွင် တဦးနှင့်တဦး စာပေးစာယူပြုရာမှ ဇာတ်လမ်းဖေါ်သွားလေသည်။ ဆာအယ်လက်ဇန္ဒာ မက္ကင်ဇီသည် မြောက်ပိုင်း အာတိတ်သမုဒ္ဒရာ ရေပြင်ကျယ်ကို စွန့်စားသွားရောက် ရှာဖွေခဲ့ရာ၌ တွေ့ကြုံခဲ့သမျှတို့ကို မှတ်တမ်းတင်ခဲ့သည်။ အယ်လက်ဇန္ဒာဟင်နရီသည် တိုင်းရင်းသားလူရိုင်းများ နေထိုင်သော ဒေသများ၌ လှည့်လည်၍ တွေ့မြင်ရသမျှကို စာအုပ်ရေးသားခဲ့၏။

တိုင်းသစ်ပြည်သစ် အခြေတကျရှိသောအခါ ဥရောပတိုက်သားတို့မှ ပေါက်ပွားဆင်းသက်သူများသည် ကနေဒီယန်လူမျိုး ဖြစ်လာကြသည်။ ကနေဒီယန်ထဲမှ ရှေးဦးစွာဝတ္ထုရေးခဲ့သူမှာ ဂျွန်ရစ်ချတ်ဆန်ဖြစ်၏။ သူ၏ဝတ္ထုများမှာ တိုင်းပြည်၏ထုံးစံဓလေ့ အနေအထိုင်များကို ပေါ်လွင်စေသည်။ အမျိုးသမီး ဝတ္ထုရေးဆရာ မစ္စစ် ဆူဆန်နာ မူဒီ၏ ဝတ္ထုများမှာ တိုင်းသစ်ပြည်သစ် တည်ထောင်ခါစက တွေ့ရသည့် အခက်အခဲ ကြောက်မက်ဖွယ်စွန့်စားခန်း ဝတ္ထုများဖြစ်သည်။

၁၈၀၀ ပြည့်နှစ်ခန့်တွင် ပေါ်ပေါက်သော စာရေးဆရာတဦးမှာ သောမတ် ချန်ဒလာ ဟယ်လီဗါးတန် ဖြစ်၏။ ဟယ်လီဗါးတန်သည် လူတို့၏ချတ်ယွင်းချက်ကိုရင်း၊ သာသနာရေးကိုရင်း၊ စာများဖြင့် သရော်ထား၏။ သူသည်လူ့သဘာဝ၌ တွေ့ရသော အပြစ်များကို ရုပ်လုံးဖေါ်၍ပြခဲ့သည်။

၁၉ ရာစုနှစ်တွင် ကနေဒါနိုင်ငံ၌ အင်္ဂလိပ်ကဗျာ အရေးအသားများ စတင်ထွန်းကားခဲ့လေသည်။ ချားဆန်းစတား၏ ကဗျာများမှာ မျိုးချစ်စိတ်ကို လှုံ့ဆော်ပေး၍ ကနေဒါနိုင်ငံ၏ တောတောင်ရေမြေ သာယာပုံကို ဖွဲ့ဆိုထားလေသည်။ ချားဟဲဗီးဆက်နှင့် သောမတ် ဒါစီ မက်ကီးတို့၏ ကဗျာများမှာ အလင်္ကာ ရသနှင့် ပြည့်စုံသည်။ သို့သော် သူတို့၏ကဗျာများကို ကနေဒါနိုင်ငံဖြစ်ဟု မခေါ်နိုင်ချေ။ ဟဲဗီးဆက်၏ ကဗျာများမှာ အင်္ဂလိပ်ဆန်၍ ဒါစီမက်ကီး၏ ကဗျာများမှာ အိုင်ရစ်ဆန်လေသည်။

ကနေဒါနိုင်ငံသည်ဒိုမီနီယန်အဆင့်အတန်းကို ရရှိသောအခါ၊သီးခြားသော ယဉ်ကျေးမှုနှင့် လူမျိုး၏ထုံးစံဓလေ့များကို ထူထောင်လာကြသည်။ ချားရောဗတ်နှင့် အာချီဗေါ လင့်ပမန်တို့သည် ကနေဒါနိုင်ငံ၏သာယာပုံကို ဖွဲ့ဆိုရာတွင်ရှေးက ဖွဲ့ဆိုခဲ့ဘူးသည်နှင့် မတူ၊ ထူးခြား ကောင်းမွန် လေသည်။ လင့်ပမန်၏ ကဗျာများမှာ အင်္ဂလိပ်စာဆို ဂျွန်ကိ၏ ကဗျာများကဲ့သို့ပင် ကောင်းလှသည်ဟု ချီးကျူးခံရလေသည်။ ဗလစ်ကာမန်သည် ကျေးလက်တောရွာ တောတောင်ရေမြေ မြစ်ချောင်းများအကြောင်းကို ကဗျာဖွဲ့ဆိုခဲ့၏။ အမျိုးသမီးစာဆို မာဂျော်ရီ ပစ်သေသသည် စာပေလောကတွင် မကြုံဘူးအောင်ထူးကဲသော အနှစ်သာရနှင့်ပြည့်စုံသည့် လင်္ကာများကိုရေးခဲ့၏။ လောက၏ သာယာကြည်နူးဖွယ်တို့ကို ဝီလဆန် မက္ကဒေါ်နယ်က သရုပ်ဖေါ် မှတ်တမ်းတင်ခဲ့သည်။ ကနေဒါနိုင်ငံမြောက်ပိုင်း ဓါတ်သတ္တု တူးဖေါ်လုပ်ကိုင်သောဒေသ၏ တောတောင်သာယာပုံ၊ထိုဒေသ၌ နေထိုင်သောသူများ စွန့်စားရဲရင့်ကြပုံတို့ကို ရောဗတ် ဝီလျံဆားဗစ်သည် ကဗျာသီချင်းများဖြင့် အသက်သွင်းခဲ့သည်။ စစ်အတွင်း သူနာပြုတပ်တွင် အမှုထမ်းခဲ့စဉ်က အတွေ့အကြုံများကိုလည်း ကဗျာစပ်ခဲ့၏။ ဂျွန်မက္ကရေး၏ စစ်ကဗျာများမှာ အလွန်ကောင်းမွန်၍ စာပေနယ်တွင် ကျော်စောလေသည်။

၂၀ ရာစုခေတ်၌ စကားပြေအရေးအသား မြောက်မြားစွာ ထွန်းကားခဲ့သည်။ ၁၉၀၀ ပြည့်နှစ်ခန့်ကပင် ကနေဒါနိုင်ငံတွင် သမိုင်းနှင့်အတ္ထုပ္ပတ္တိစာပေများ ပေါ်ထွန်းခဲ့ရာ၊ ဂျေစီဒင့်ရေးသော ကနေဒါနိုင်ငံအထက်ပိုင်းသမိုင်းမှာ အဖိုးအတန်ဆုံးဖြစ်သည်။ ကနေဒါစာပေသည် ပြင်သစ်စာပေအဖြစ်ဖြင့်၎င်း၊ အင်္ဂလိပ်စာပေအဖြစ်ဖြင့်၎င်း၊ တိုးတက်လျက်ရှိလေသည်။

**ကနေဒါအနောက်မြောက်နယ်များ။** ။ကနေဒါနိုင်ငံ အနောက်မြောက်ဖက်ရှိ နယ်များကိုစုရုံး၍ အနောက်မြောက်နယ်များဟု ခေါ်သည်။ယင်းသည် ပရေရီခေါ် မြက်ခင်းလွင်ပြင်ဒေသများမှ အာတိတ်သမုဒ္ဒရာအထိ ကျယ်ပြန့်၍၊ အနီးအနားတဝိုက်ရှိ ကျွန်းစုကြီးများပါဝင်သည်။ ထိုနယ်များမှာ ကနေဒါတပြည်လုံး၏ သုံးပုံတပုံခန့်ရှိ၍၊ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁,၃၀၄,၉၀၃ ခန့်ရှိသည်။ အနောက်မြောက်နယ်များကို ကီဝါတင်၊ မက္ကင်ဇီနှင့် ဖရန်ကလင်ဟူ၍ နယ်သုံးနယ် ခွဲခြားထားသည်။ ထိုဒေသအားလုံးကို ၁၈၇၀ ပြည့်နှစ်အထိ ဟဒ်ဆန်ဗေးကုမ္ပဏီက ပိုင်ဆိုင်ခဲ့သော်လည်း၊ယခုအခါ ကနေဒါအစိုးရက ခန့်ထားသော တိုင်းမင်းကြီးက စီမံအုပ်ချုပ်သည်။

အနောက်မြောက်နယ်များ၏ လူဦးရေမှာ ၁၉၅၁ ခုနှစ်က ၁၆,၀၀၄ ခန့်ရှိ၍ အများအားဖြင့် အက်စကီးမိုးနှင့် ရက်အင်ဒီးယန်းများဖြစ်ကြ၏။ ဤဒေသ၌ နေထိုင်ကြသော

လူတို့သည်အမဲလိုက်ခြင်း၊သားမွေးရောင်းဝယ် ခြင်း၊ ငါး ဖမ်း ခြင်း စသည်ဖြင့် အသက်မွေးကြသည်။

အနောက်မြောက်နယ်များရှိ အချို့ဒေသများမှာ လွန်စွာခေတ်နောက်ကျ၍၊ရာသီဥတု ဆိုးရွားလှသည့် လွင်တီးခေါင် လဟာပြင်များသာ ဖြစ်သဖြင့်၊မြို့ကြီး ပြကြီးများဟူ၍မရှိဘဲ ကုန်သည်စခန်းများသာ ရှိသည်။ အနောက်မြောက်နယ်များတွင်ပါဝင်သော ကျွန်းများအနက် ဗက်ဖင်ကျွန်း မှာ အကြီး ဆုံး ဖြစ် ၍၊ အ ခြား ကျွန်း များ မှာ အဲလဇမီယာနှင့် ဝိတိုရိယကျွန်း တို့ဖြစ် သည်။ အနောက် မြောက် နယ် များ ၏ မြောက် ဖက် တွင် ကား မြောက် ဝင် ရိုး စွန်း သာ ရှိတော့သည်။

ထိုနယ်များသည် သဘာဝပစ္စည်းတို့ဖြင့် ပေါများကြွယ်ဝသော်လည်း ယင်းတို့ကို တွင်ကျယ်စွာ ထုတ်ယူသုံးစွဲခြင်း မပြုလုပ်နိုင်ခဲ့ကြသေးချေ။ အာတိတ်သမုဒ္ဒရာ၊ဟဒ်ဆန်ပင်လယ်အော်၊ဂရိတ် ဗဲ ယား ရေ အိုင် စသည်တို့၌ ငါးအမြောက်အမြား ဖမ်းယူနိုင်သည်။ရေနံတူးဖော် ခြင်းကို ၁၉၁၄ ခုနှစ်က စတင်ပြုလုပ်ခဲ့ကြ၏။ သို့ရာတွင် သယ်ယူပို့ဆောင်ရာ၌ စရိတ်အကုန်အကျ များပြားလှသောကြောင့် ရေနံလုပ်ငန်းမှာခရီးတွင်ကျယ်သင့်သလောက် မတွင်ကျယ်ခဲ့ပေ။ အခြား တွင်းထွက်သတ္တုများမှာ ငွေ၊ကြေးနီ၊ခဲ၊ရေဒီယမ်၊ယူရေးနီးယမ်းနှင့် ရွှေအနည်းငယ်ဖြစ်သည်။

**ကနေရီကျွန်းစု**။ ။ကနေရီ ကျွန်း စု သည် စ ပိန် ပိုင် ကျွန်းစုဖြစ်၍ အတ္တလန္တိတ်သမုဒ္ဒရာအတွင်း တည်ရှိသည်။ အာဖရိကတိုက် အနောက်မြောက်ကမ်းခြေမှ မိုင် ၆၀ ခန့် ကွာဝေး၏။ ကျွန်း အားလုံး၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၂၈၀၇ ရှိ၍၊အရှေ့မှ အနောက်သို့ ၂၈၀ မိုင်ခန့် ရှည်လျားသည်။ ထိုကျွန်းစုတွင် ကျွန်းငယ်ကလေးများစွာနှင့် ကျွန်းကြီးခုနစ်ကျွန်း ပါဝင်ရာ၊ကျွန်းကြီးခုနစ်ကျွန်းမှာ တင်း နား ရစ်၊ ဂရင်း ကနေရီ၊ ပါးလမား၊ ယားရိုး၊ ဂိုမေးရား၊ လန်သာရိုးတေးနှင့် ဖွာတေဗင်တူးရား တို့ဖြစ်ကြသည်။

ကနေရီကျွန်းများ အားလုံးလိုလိုမှာပင် ကမ်းပါးစောက်များရှိကြ၍ ချိုင့်ဝှမ်းများဖြင့် ပြည့်နှက်နေသည်။ ကျွန်းများပေါ် တွင်အမြဲတမ်းစီးနေသည့် မြစ်ချောင်းများမရှိချေ။ အရှေ့ဖက်တွင်ကား ရေရှားလှ၏။ရေများသော ကျွန်းများ၌ပင် ဆည်မြောင်းများ ပြုလုပ်ပေးရသည်။

ရာသီဥတုမှာ ခြောက်သွေ့သော်လည်း မပူလွန်းသဖြင့် နေသာထိုင်သာရှိသည်။ အနောက်ဖက်ကမ်းခြေများတွင် မိုးရေချိန် ပျမ်းမျှ ၁၆ လက်မမှ ၁၈ လက်မအထိရရှိ၍၊ခြောက်သွေ့သော အလယ်ပိုင်းများတွင် ၉ လက်မမှ ၁၂ လက်မခန့်အထိ ရရှိသည်။

ကျွန်းများပေါ် တွင် နေထိုင်ကျက်စားသော နို့တိုက်သတ္တဝါများမှာ နည်းပါးလှသည်။ သို့ရာတွင် ငှက်မျိုးစုံလင်၍ စိတ်ဝင်စားဖွယ်ကောင်းသည်။ ဆည်မြောင်းမရှိသော နေရာများတွင် စိုက်ပျိုးရေးမဖွံ့ဖြိုးချေ။ အလေ့ကျပေါက်သော အပင်ငယ်မျိုး များစွာအနက် ရာခိုင်နှုန်း ၃၀ ခန့်မှာ ကနေရီကျွန်း၌သာ ပေါက်ရောက်သော အပင်မျိုးဖြစ်သည်။

ကနေရီကျွန်းစုသို့ ပဌမဆုံးရောက်လာသော ဥရောပတိုက်သားများမှာ စပိန်လူမျိုးများဖြစ်သည်။ ထိုစဉ်က နေထိုင်လျက်ရှိသော တိုင်းရင်းသားဂွမ်ချေး သို့မဟုတ် ဂွမ်ချီလူမျိုးများမှာ ယခုအခါ လူမျိုးတမျိုးအနေဖြင့် မရှိတော့ချေ။ယခု နေထိုင်လျက်ရှိသော ကျွန်းသူ ကျွန်းသားများမှာ စပိန်လူမျိုးများထက် အနည်းငယ် အသားမည်းသည်မှအပ များစွာ မခြားနားလှချေ။ ယောကျ်ားများမှာ အယပ်အမောင်း အနေတော်ရှိ၍ သန်မာတောင့်တင်းသော ကိုယ်လုံးကိုယ်ပေါက် ရှိလေသည်။ စပိန်ဘာသာစကားကိုသာ အသုံးပြုကြသည်။

ကနေရီကျွန်းစု၏ အဓိကထွက်ကုန်မှာ ငှက်ပျောနှင့် ခရမ်းချဉ်သီးဖြစ်သည်။ ကြက်သွန်၊အာလူး၊ဆေးနှင့်ငါးလည်း အသင့်အတင့်ထွက်သည်။ ဆိပ်ကမ်းမြို့ကြီး များမှာ လာပါးလမားနှင့် ဆန်တာကရု တို့ဖြစ်လေသည်။

ကျွန်းများ ပေါ် တွင် လူဦး ရေစုစု ပေါင်း ၇၄၅,၀၀၀ (၁၉၄၆ ခုနှစ်) ခန့်ရှိ၍ ငါးဖမ်းခြင်း အသီးအနှံစိုက်ပျိုးခြင်း တို့ ဖြင့် အသက် မွေး ကြ သည်။ အုပ်ချုပ်ရေးလွယ်ကူစေရန် ကျွန်းစုတွင် မြို့တော်နှစ်မြို့ ထားရှိလေသည်။

**ကနေရီငှက်**။ ။ကနေရီဟု အ မည် တွင် သည့် ငှက် ကို စပိန်အပိုင်ဖြစ်သော ကနေရီကျွန်းစုတွင် မူလပဌမတွေ့ရသည်။ ၁၆ ရာစုနှစ်လောက်တွင် ထိုငှက်များကို လှောင်အိမ်ငှက်များအဖြစ်ဖြင့် ကနေရီကျွန်းမှ ဣတလီနိုင်ငံသို့ စတင်ယူဆောင်လာကြသည်။ ယခုအခါတွင် တကမ္ဘာလုံးမှာပင် ကနေရီငှက်များကို လှောင်အိမ်သွင်း၍ အလှမွေးကြ၏။ ကနေရီငှက်သည် ဖင့်စာကလေးမျိုးရင်းတွင် ပါဝင်သည်။ အရိုင်းဘဝတွင် သူတို့၏အရောင်မှာ ညိုဝါဝါ သို့မဟုတ် ဝါစိမ်းစိမ်းဖြစ်သည်။ ကနေရီငှက်မကြီးသည် အသိုက်ဆောက်လုပ်၍၊ဥများကို ဝပ်ပေးသည်။ ဥများမှာ အပြာရောင်ဖြစ်၍၊တမြုံလျှင် ဥလေးငါးလုံး ရှိတတ်သည်။ ငှက်ဖိုကမူ ငှက်ပေါက်စကလေးများကို အစာရှာကျွေးသည်။

ကနေရီငှက်သည် သဘာဝအလျောက် သီချင်းအဆိုကောင်းသော ငှက်ဖြစ်သည်။ သီချင်းများကို ကြည်လင်ပြတ်သားစွာ ဆိုတတ်သည်။ အခြားငှက်များ၏ အသံများကိုလည်း အလွယ်တကူ အတုခိုးနိုင်၏။ ချိုလွင်စွာ တေးဆိုတတ်သောကြောင့် ကနေရီငှက်ကို လူသိများသည်။

အချို့ ကနေရီငှက်များကိုမူ သူတို့၏ လှပသော အတောင်

များကြောင့်ဂရုတစိုက်မွေးမြူကြသည်။ထို သို့မွေးမြူကြရာ၌ မှန်မှန်ဂရုစိုက်ဖို့လိုသည်။ လှောင်အိမ်ကိုလည်း အမြဲတမ်း သန့်ရှင်း အောင် ပြုလုပ်ထား ရ သည်။ ကနေရီငှက် များ အတွက်အသင့်တော်ဆုံးအစာမှာ မြက်ပင်မျိုးစေ့၊ ပိုက်ဆံပင်မျိုးစေ့နှင့် စိမ်းစိုသော အစားအစာများပင်ဖြစ်သည်။ လှောင်အိမ်တွင်းရှိ သောက်ရေနှင့်ချိုးရေများကို မကြာခဏလဲပေးရ၏။

ကနေရီငှက်များသည် အရိုင်းဘဝတွင် အဆင်အသွေး အမျိုးမျိုးဆောင်၍ လှောင်အိမ်၌မွေးမြူသောအခါ အနည်းငယ်ပြောင်းလဲသွားတတ်သည်။

# ခေတ်ဟောင်းကိုတော်လှန်သော မြန်မာမင်းသားကြီး

**မြန်မာနိုင်ငံသည် ကိုယ်မင်းကိုယ်ချင်းဘဝနှင့် နေစဉ်ကပင် နိုင်ငံတော်ကို ခေတ်သစ်နိုင်ငံတခု ဖြစ်မြောက်အောင် ကိုယ်ထိလက်ရောက် ကြိုးပမ်းခဲ့သည့် မြန်မာမင်းသားကြီးတပါး ပေါ်ထွန်းခဲ့၏။ သူကား ကနောင်မင်းသားကြီးဖြစ်ရာ၊ထိုမင်းသားကြီးသာ ရေတိမ်တွင် မနစ်ခဲ့သော် မြန်မာနိုင်ငံသမိုင်းသည် ယခုနှင့် တူသော်မှတူပေမည်။**

**ကနောင်မင်းသား** (မြန်မာ ၁၁၈၁–၁၂၂၈)။ ။လူသုံးကုန်ပစ္စည်းထုတ် လုပ်မှု နည်းစံနစ် ပြောင်းလဲခြင်းကို အကြောင်းပြု၍ လူ့သမိုင်းတွင် ခေတ်တခေတ်မှ အခြားခေတ်တခေတ်သို့ ပြောင်းလဲ လာခဲ့ရသည် ဖြစ်ရာ၊ မြန်မာနိုင်ငံတွင်လည်း ၁၉ ရာစုနှစ်များအလယ်လောက်က ခေတ်ပြောင်းလဲခြင်းကို ဖန်တီးပေးသည့် အဖြစ်အပျက်များ ပေါ်ပေါက်ခဲ့လေသည်။

အောက်မြန်မာပြည်တွင် ဗြိတိသျှတို့ ရောက်ရှိ ကြီးစိုးလာခြင်း၊ကိုယ့်မင်းကိုယ့်ချင်းနေသော မြန်မာနိုင်ငံအထက်ပိုင်းသည် ထိုစဉ်အခါက တိုးတက်လျက်ရှိသော ဥရောပနိုင်ငံအချို့နှင့် ဆက်သွယ်မှုများ ရရှိလာခြင်းတို့ကြောင့်၊လူသုံးကုန်ပစ္စည်း ထုတ်လုပ်မှုနည်းစံနစ်တို့၏ အခြေခံဖြစ်သော အသစ်အဆန်းထွင်မှု ပြောင်းလဲမှုတို့သည် အထက်မြန်မာပြည်သို့ ရောက်ရှိလာကာ၊ခေတ်ကိုပြောင်းလဲစေနိုင်မည့် အခွင့်အလမ်းများ ပေါ်ပေါက်ခဲ့လေသည်။ထိုအခွင့်အလမ်းများကို အမြင်ကျယ်စွာနှင့် အသုံးပြုကြသော ထိုခေတ် မြန်မာခေါင်းဆောင်တို့တွင်၊အရေးပိုမိုပါဝင်ခဲ့သူကို ရှာဖွေလျှင် ကနောင်မင်းသားကြီးကိုပင် တွေ့ရပေမည်။

ကုန်းဘောင်ခေတ် အမရပူရ ဒုတိယ မြို့တည် သာယာဝတီမင်း(၁၇၃၇–၁၇၄၆) နှင့် သီရိသုစန္ဒာမလ္လာမဟေ တောင်ဆောင် ကျောက်မော်မြို့စား မိဖုရားတို့တွင် သားတော်နှစ်ပါး ထွန်းကားခဲ့ရာ၊သားအကြီးမှာ ပဥ္စမသင်္ဂါယနာ တင် မင်းတုန်းမင်းဖြစ်၍၊အငယ်မှာ သတိုးမင်းရဲကျော်ထင်ဘွဲ့ခံ ကနောင်မင်းသားဖြစ်လေသည်။ (မင်းတုန်းမင်း — ရှု။) ကနောင်မင်းသားသည် သက္ကရာဇ် ၁၁၈၁ ခု တော်သလင်းလပြည့်ကျော် ၂ ရက် တနင်္ဂနွေ နေ့တွင် ဖွားမြင်၏။ ဖွားစဉ်က မီးနေဆောင်သို့မရောက်မီ တောင်ဆောင်၌ ဖွားမြင်သဖြင့်၊ခမည်းတော်က မောင်တောင်မင်းဟု ကိုယ်တိုင်မှည့်ခေါ်ခဲ့၏။ မင်းသားလတ်အဆင့်တွင် မင်းတပ်မြို့ကို စားခဲ့ပြီးနောက် နောင်တော်ပုဂံမင်း (၁၇၄၆–၁၇၅၃)ထီးနန်းဆက်ခံတော်မူသောအခါ၊ ကနောင်မြို့ကိုစားရသည်။

၁၇၅၂ ခု ဒီဇင်ဘာလအတွင်းတွင် ပုဂံမင်း၏အထိန်းတော် ဟသ်ာတမြို့စား မိရွှေ၏ညီမ မိဖဲ၏အိမ်ကိုဓါးပြတိုက်ရာတွင် ကနောင်မင်းနှင့် မင်းတုန်းမင်းတို့၏လူများ ပါဝင်သည်ဟု စွပ်စွဲကာ ကနောင်မင်းသားကြီး၏ အကြီး စာရေး စသည်တို့ကို တောင်းဆိုစစ်မေး၏။ ထိုပြင် ညီတော် နောင်တော် နှစ်ပါး ခိုးသားဓါးပြမွေးသည်ဟု ပုဂံမင်း၏လူများဖြစ်သော တောင်ထားဝယ်ဗိုလ် တေတုတ်၊ပုဏ္ဏားဝန် ကေုလားတို့က အမှုရှာသဖြင့်ညီနောင်နှစ်ပါးတို့သည် လူသူစုရုံး၍ ၁၇၅၂ ခု ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် တော်လှန်ပုန်ကန်ကြသည်။ ရွှေဦးစွာ ရွှေဘိုကိုသိမ်းယူ အခြေစိုက်ပြီး နောက်၊ နောက်ထပ် လူအင်အားစုဆောင်းကာ အမရပူရမြို့ကို လုပ်ကြံရာတွင် ကနောင်မင်းသားပင်ဦးစီးဦးဆောင်ပြု၏။

ဤသို့ တော်လှန်ပုန်ကန်မှု ဖြစ်ရခြင်း၏ အကြောင်းရင်းမှာ ပုဂံမင်း၏ စီမံအုပ်ချုပ်မှု ညံ့ဖျင်းသောကြောင့်ဖြစ်သည်။ သို့ဖြစ်၍လည်း အမရပူရမြို့ကို ကနောင်မင်းသားတို့ လုပ်ကြံနေစဉ် ပုဂံမင်းအား ခစားကြသော မကွေးမင်းကြီးအမှူးရှိသည့် မှူးမတ်များက လုပ်ကြံတိုက်ခိုက်သူတို့ဖက်မှ ကူညီကြသဖြင့်၊ကနောင်မင်းတို့ ၁၇၅၃ ခု ဖေဖွာရီလ ၁၈ ရက်နေ့တွင် အောင်ပွဲရခဲ့သည်။

ထိုနောက် ပဥ္စမသင်္ဂါယနာတင် မင်းတုန်းမင်း အထွတ်အထိပ်သို့ ရောက်သောအခါ ကနောင်မင်းသားအား သီရိပဝရမဟာသုဓမ္မရာဇာဘွဲ့ဖြင့်အိမ်ရှေ့မင်းသားအရာ အပ်နှင်းလေသည်။ ထို့မှတပါး ဒီပဲရင်း၊တောင်တွင်းကြီး၊ပဥ္စငါးမြို့၊ စလေမြို့များကိုလည်း စားစေသည်။ သာယာဝတီမင်း၏အနောက်နန်းမတော်တွင်မြင်သည့် သမီးတော် လှိုင်မြို့စား သီရိသုမြတ်စွာရတနာဒေဝီနှင့်လည်း ထိမ်းမြားလက်ဆက်ပေးသည်။ (လှိုင်ထိပ်ခေါင်တင် — လည်းရှု။)

အိမ်ရှေ့စံပင် ဖြစ်လင့်ကစား ကနောင်မင်းသားကြီးမှာ သြဇာတိက္ကမပြည့်စုံ၍ တန်ခိုးအာဏာ ထက်မြက်လှသည်။ ပြည်ရေးပြည်ရာ စီမံခန့်ခွဲရာတွင်လည်း ဦးစီးဦးဆောင်ပြုရ၏။ နောင်တော် မင်းတုန်းမင်းတွင် သားတော် သမီး

တော် အရှယ်ရောက်သူများရှိရကား၊ကနောင်မင်းသား ရှိနေသောကြောင့် ထီးနန်းဆက်ခံခွင့် ရတော့မည်မဟုတ်ဟု စိုးရိမ်ကြသော သားတော်များသည် မကျေမနပ် ဖြစ်ကြလေသည်။

သို့ဖြစ်၍ သက္ကရာဇ် ၁၂၂၈ခု ဒုတိယဝါဆိုလပြည့်ကျော် ၇ ရက်နေ့တွင် (၁၈၆၆ခု ဇွန်လ ၁၈ ရက်နေ့တွင်) နန်းတော်၏ အပြင်ပ ယာယီတဲနန်း၌ မင်းတုန်းမင်းနှင့်တကွ အိမ်ရှေ့မင်း လွှတ်တော်ဝန်ကြီးများ ယာယီ စံနေခိုက် မင်းတုန်းမင်း၏ သားတော်များဖြစ်သော မြင်ကွန်းနှင့်မြင်း



ရှေ့ရေးမြင်သည့် ကနောင်မင်းသားကြီး
ခေတ်သစ်နိုင်ငံ ထူထောင်ရန် စွမ်းစွမ်းတမံ ကြိုးပမ်းနေဆဲ ဤမင်းသားကြီး တိမ်းပါးခဲ့ရခြင်းမှာ နှမြောဖွယ်ကောင်းလှ၏။

ခုံတိုင်မင်းသားတို့ အလစ်ဝင်ရောက်၍ တိုက်ခိုက်ကြသောကြောင့် ကနောင်မင်းသား တိမ်းပါးခဲ့လေသည်။

ဤသို့အားဖြင့် ခေတ်ကိုအမှီလိုက်ရန် ကြိုးစား တာစူလျက်ရှိသော ထိုခေတ်မြန်မာတို့မှာ 'လှေလှော်ကောင်းဆဲ တက်ကျိုး' ဖြစ်ကာ ဆုံးရှုံးနစ်နာခဲ့လေသည်။ အကြောင်းမှာ ကနောင်မင်းသားသည် ပညာလွန်စွာထက်မြက်လိမ်မာ၍ နိုင်ငံခြားသားများနှင့် ဆက်ဆံရာတွင် ကျွမ်းကျင်ပါးနပ်လှသော ခေါင်းဆောင်တဦးဖြစ်၏။ ခေတ်မှီနိုင်ငံ ထူထောင်နိုင်ခြင်းငှါ အခြားနိုင်ငံကြီးများတွင် တိုးတက်ထွန်းကားလျက်ရှိသော ခေတ်ပညာအရပ်ရပ်ကို လေ့လာဆည်းပူးရန် ပညာတော်သင်ပေါင်း ၈၀ ကျော်ကို နိုင်ငံကြီးများသို့ လစာငွေ အလုံအလောက်ပေး၍ စေလွှတ်ခဲ့သူဖြစ်၏။ ထိုပညာတော်သင်တို့တွင် ဒီပဲရင်းဝန်ထောက် ဦးမြနှင့် ညီဦးခဲ၊ဖန်ချက်ဝန် ဦးဖန်၊ကျောက်မြောင်းအတွင်းဝန် ဦးရွှေအိုး၊ မြင်းဝန် ဦးအောင်သူတို့ ပါဝင်ခဲ့၏။

ခေတ်မှီလက်နက်ရှိမှ နိုင်ငံအင်အားရှိမည်ကို ယုံကြည်သည့်အတိုင်း၊စစ်ကိုင်းဖက်၌ လက်နက်စက်ရုံကြီးနှစ်ရုံ တည်ဆောက်ခဲ့၏။ ရွှေမြို့တော် အနောက်မြောက် ရွှေတချောင်းအနီးတွင် စက်ရုံတခု တည်ဆောက်ခဲ့၏။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်မှု ပြောင်းလဲရေးကို မြန်မာနိုင်ငံတွင် ဖြစ်မြောက်စေရန် ရက်ကန်းစက်၊ ကော်ဇောစက်၊ စပါးစက်၊ လွှစက်၊ ပန်းကန်စက်၊ သကြားစက် စသည်များကိုလည်း နိုင်ငံခြားမှ ဝယ်ယူထူထောင်ခဲ့၏။ ထိုစက်များကို ကြီးကြပ်အုပ်ချုပ်ရန် မိမိကိုယ်တိုင် အလုပ်ဝန်၊ပညာဝန်၊အလုပ်ဌာနဝန်ကြီး၊အတွင်းဝန်တို့ကို စီမံခန့်ခွဲသည်။ဤသို့ ပညာတော်သင်များ လွှတ်ခြင်း၊စက်ရုံအသစ်အဆန်းများကို ဝယ်ယူတည်ထောင်ခြင်းတို့အတွက် ကုန်ကျသောငွေကို အိမ်ရှေ့မင်းအဖြစ်ရသော ဝေပုံကျမြို့ရွာနယ်ပယ်များမှခန့် ခွဲ ရရှိသည့် အခွန်တော်ငွေများမှ သုံးစွဲခဲ့သည်။

ကာကွယ် ရေး ဖက် တွင် လည်း စစ်ဖက်ဆိုင်ရာပြုပြင်မှုအမြောက်အမြားကို ဆောင်ရွက်ခဲ့သေး၏။ ထာဝစဉ်စစ်မှုထမ်းများရှိသည့် အခြေသို့ရောက်စေခြင်းငှါ လိုမှဖွဲ့စည်းသော မြန်မာစစ်တပ်ကို ပြုပြင်ပေးခဲ့၏။စစ်ပညာ လေ့ကျင့်သင်ကြားပေးရာတွင်လည်း နိုင်ငံခြားသား ပြင်သစ်၊ ဣတာလျံလူမျိုးတို့၏ အကူအညီဖြင့် ကိုယ်တိုင် ကြပ်မလုပ်ကိုင်ခဲ့၏။ နိုင်ငံတွင်း၌ ဆက်သွယ်ရေး ပိုမိုလျင်မြန်ကောင်းမွန်စေရန်အတွက်လည်း၊မြန်မာအက္ခရာဖြင့် ကြေးနန်းရိုက်နည်းကို ယောအတွင်းဝန်နှင့် တိုင်ပင်လျက် တီထွင်အသုံးပြုခဲ့လေသည်။

ဤကဲ့သို့ လုပ်ရည်ကိုင်ရည်နှင့် ပြည့်စုံလှသော နိုင်ငံခေါင်းဆောင်ကြီးတဦး တိမ်းပါးဆုံးရှုံးခဲ့ရသည်မှာ ထိုစဉ်က နိုင်ငံအတွင်း ကလေးလူကြီးများ ဆိုစမှတ်ဖြစ်သည့် 'ဆင်ပြောင်ကြီးကို ဖြုတ်ကိုက်၍သေ' ဟူသော တပေါင်စကားနှင့် များစွာကိုက်ညီလေတော့သတည်း။ ဦးဘရှင်။

**ကနုတ်**။ ။မြန်မာပန်းချီ — ရှု။

**ကနန်း**။ ။ကျွန်ုပ်တို့သိသလောက် ရေသတ္တဝါများ၌ ခြေထောက်ပါသည်ကို အလွန်တွေ့ရခဲသည်။ များသောအားဖြင့် ခြေထောက် အတုအယောင်များသာ ပါရှိကြ

သည်။ ကနန်း (ပုဇွန်လုံး) တွင်ကား ထူးခြားစွာ ခြေထောက် ၁၀ ချောင်း ပါရှိသည်ကို တွေ့ရ၏။ ယင်းတို့အနက် ၈ ချောင်းကိုသာ လမ်းလျှောက်သွားလာရန်အသုံးချ၍၊ ကနန်းလက်မခေါ် ကြီးမားသန်စွမ်းသည့် ပဌမအစုံကိုမူ လက်သဖွယ် အသုံးချသည်။ ထိုလက်မကြီးများသည် ကနန်းအတွက် အကာအကွယ် လက်နက်လည်းဖြစ်၏။ ကနန်း၏ ကျောကုန်းမှာ အံ့ဖွယ်ကောင်းလောက်အောင် မာကျောသော အခွံထူဖြစ်နေ၍၊ဤအခွံကြီးက သူ၏ကိုယ်ခန္ဓာကို ကာကွယ်ထားသည်။ ကိုယ်ရှေ့ပိုင်းတွင် ရင်အုပ်ကာသံချပ်သဖွယ် အကာအကွယ်ပါရှိ၍၊ခြေထောက် ၁၀ ချောင်းစလုံးမှာလည်း မာကျောသော အခွံများဖြင့် အသီးသီး ဖုံးအုပ်လျက်ရှိပေသည်။ ကနန်းသည် ရန်သူကို လက်မဖြင့် မြဲမြံစွာ ညှပ်တတ်သောကြောင့် ယင်းတို့ကို သတိနှင့် ကိုင်တွယ်ရသည်။ ကနန်း၏ မျက်လုံးများတွင် အညှာတံပါရှိ၍၊ယင်းတို့သည် ဝင်လိုက် ထွက်လိုက် လုပ်တတ် သောကြောင့် တနည်းအားဖြင့် ရယ်ဖွယ်ကောင်းသည်။ သူ၏ ပါးစပ်မှာလည်း အလွန်အံ့သြဖွယ်ကောင်းသည်ဟု ဆိုရပေမည်။ အဘယ်ကြောင့်ဆိုသော် ယင်းတွင် စမ်းသပ်ရန် ကိုက်ဖဲ့ရန်နှင့် အစာကိုဝါးချေရန် အင်္ဂါအစိတ်အပိုင်းများ ပေါင်းစုပါဝင်သောကြောင့် ဖြစ်၏။

ကနန်းသည် မိမိနှင့်အမျိုးတော်စပ်သော ကျောက်ပုဇွန်၊ ပုဇွန်တုပ်ကြီးများနှင့် ဆင်တူသည်။ ဆင်တူပုံမှာ အဆိုပါ ရေသတ္တဝါများကဲ့သို့ပင် ကနန်း၌ အာရုံမှင်၊မျက်စိနှာတံ၊မေးရိုး၊ထူးဆန်းသောပါးစပ်၊ကိုယ်ဖုံးအခွံမာနှင့် ခြေထောက် ၅စုံစီ ပါရှိကြသည်။ သို့သော်ပုဇွန်တို့ကဲ့သို့ဝမ်းပိုက်မကြီးချေ။

ကနန်းသည် ရေသတ္တဝါပင် ဖြစ်သော်လည်း ကုန်းပေါ်၌ဟိုမှ သည်မှ လျှောက်သွားရန် နှစ်သက်သည်။ အခြား



ခရုခွံလွတ်အတွင်း နေထိုင်ရရှာသော ဝင်ကစွပ်ကောင်

ရေသတ္တဝါများနည်းတူ ပါးဟက်ဖြင့် ရေထဲ၌ အသက်ရှူသော်လည်း ကုန်းပေါ်တွင် အတန်ကြာကြာ နေနိုင်သည်။



လူတို့ဟင်းလျာအတွက် ဖမ်းဆီးကြသည့် ပင်လယ်ကနန်း

နေနိုင်ခြင်းမှာ ယင်းတို့၏ ပါးဟက်များကို စွတ်စိုမြဲစွတ်စိုအောင် ပူလုပ်ထားနိုင်သောကြောင့်ဖြစ်၏။ ရေကျသွားသည့်အချိန်တွင် ကမ်းပါး သဲသောင်ပြင်ပေါ်တွင် လျှောက်သွားကာ အစာရှာဖွေနေသော ကနန်းအုပ်ကို မြင်ရသည်မှာ အလွန် ရယ်စရာကောင်းသည်။ သောင်ပြင်ပေါ်တွင် ငါးသေ တကောင်ကောင်ရှိလျှင်၊ကနန်းသည် အလွန် အနံ့ခံကောင်းသည့်အတိုင်း၊ထိုနေရာသို့ ချက်ခြင်း ရောက်သွားသည်။ ပြိုင်ဖက်နှင့် တွေ့ပါက၊အလုအယက် ဝေစုခွဲကြရာမှ တခါတရံ ကနန်းငယ်များမှာ အားကြီးသော ကနန်းတို့၏ ကိုက်သတ် စားသောက်ခြင်းကိုပင် ခံကြရရှာသည်။

ကနန်းတွင် အမျိုးပေါင်း များစွာရှိ၍၊အသေးငယ်ဆုံးသော ကနန်းကလေးမျိုးမှာ ခရုခွံ ကမာခွံထဲတွင် ဝင်နေနိုင်လောက်အောင် သေးငယ်သည်။ ဂျပန်ပင်လယ်၌ တွေ့ရသော ပင့်ကူကနန်းကြီးများမှာမူ၊ကိုယ်အရှည် ၁၈ လက်မ ပြက်အကျယ် ၁၂ လက်မခန့်အထိပင် ရှိတတ်သည်။ အမျိုးအစားအလိုက် ပြုမူ ကျင့်ကြံကြပုံချင်းလည်း မတူကြပေ။ အချို့ ကနန်း မျိုးသည် လူရိပ်လူရောင် တွေ့ရသည်နှင့်တပြိုင်နက် ကပျာကသီ တွင်းထဲသို့ ဝင်ရောက်ပုန်းအောင်း၍ နေတတ်သည်။ အချို့ကား နောက်ခြေထောက်များပေါ်တွင် မာန်ပါပါ ရပ်ပြီးသော် ယင်းတို့၏ သန်မာလှသော လက်မကြီးများဖြင့် ရန်သူကို အပြင်းအထန် ခုခံတတ်သည်။

ကနန်းတို့သည် များသောအားဖြင့် ရေထဲတွင်သာ နေလေ့ရှိကြသည်။ ကုန်းပေါ်၌ နေထိုင်ကျက်စားသော ကုန်းကနန်းများပင်လျှင် ဥအုချိန်တွင် ပင်လယ်သို့ ထွက်ကြသည်။ ရေနေကနန်းမျိုးသည် ပါးဟက်ဖြင့် အသက်ရှူကြ၍၊ ကုန်းကနန်းမျိုးတွင် ပါးဟက်အစား အသက်ရှူရန် အဆုတ်နှင့်တူညီသော အင်္ဂါတမျိုးပါရှိသည်။ အချို့ကနန်းမျိုးမှာမူ

ကုန်း ရေ နှစ်ဌာနစလုံးမှာပင် လွယ်ကူစွာနေနိုင်ကြသည်။

ကနန်းပေါက်စကလေးများမှာ အမိအဖဖြစ်သော ကနန်းကြီးများနှင့် ပုံပန်းလုံးဝ မတူကြချေ။ မိခင်ကနန်းမကြီးသည်မိမိကိုယ်အောက်တွင် ဥများကိုကပ်၍ လုံခြုံစွာ သယ်ယူသွားလေ့ရှိ၏။ သို့သော် ဥမှပေါက်ဖွားလာသော သားငယ်အပေါ်၌ တစုံတရာ စိတ်ဝင်စားခြင်း မရှိတော့ဘဲပင်လယ်အောက်ခင်းပေါ်တွင် ထိုအတိုင်းပင် ပစ်ထားလေ့ရှိ



လက်မဖျားအထိ ၈ ပေရှိနိုင်သော ပင့်ကူကနန်း

သည်။ ကနန်းပေါက်စတို့၏ အရှယ်မှာ မီးခြစ်ဆံခေါင်းမျှလောက်သာရှိ၍ ယင်းတကောင်စီကို အလင်းပေါက် အရေခွံတမျိုးဖြင့် ရစ်ပတ် ဖုံးအုပ်လျက်ရှိသည်။ ထိုအရေခွံကိုကနန်းပေါက်စကလေးများသည် ချက်ခြင်းလိုလိုပင် ဆောင့်ကန် ရုန်းထွက်ပြီးနောက် ရေအောက်မြေပြင်မှ ရေပေါ်သို့တက်လာကြသည်။

ကနန်းပေါက်စကလေးတို့သည် ကျယ်ဝန်းလှသော ရေလောကတွင် ပျော်မဆုံးအောင် ကူးခတ်သွားလာလျက်ရှိစဉ်၊များသောအားဖြင့် ငါးတို့၏ပါးစပ်တွင်းသို့ သက်ဆင်းသွားကြသည်။ ငါးမစားဘဲ အသက်ရှင်ကျန်နေသောကနန်းကလေးများမှာ အကြိမ်ကြိမ် အရေလဲခြင်းဖြင့် တဖြည်းဖြည်း ကြီးမားလာကြသည်။ အတန်ငယ် ကြီးလာသောအခါ ကနန်းကြီးများနှင့် သဏ္ဍာန်တူလာ၍၊ထိုအချိန်တွင် ရေမကူးတော့ဘဲ ရေတိမ်ရာအရပ်နှင့် ရေစပ်ကမ်းပါးသို့ချဉ်းကပ်လာကြသည်။ ထိုအချိန်ကား ယင်းတို့အတွက်ဘေးအန္တရာယ်အများဆုံးအချိန် ဖြစ်တော့၏။ အချို့မှာဇင်ယော်၊ဗျိုင်း၊လင်းဝက်စသော ငှက်အမျိုးမျိုးတို့၏ ထိုးသတ်ခြင်းကိုခံရ၏။ အချို့မှာ ငါးနှင့်တကွ အခြားရေသတ္တဝါ အမျိုးမျိုးတို့၏ အစားကိုခံကြရ၏။ ယင်းတို့အနက်ဇာတ်တူသားချင်း မရှောင်သော ကနန်းကြီးတို့၏ စားသောက်ခြင်းကို ခံရသည်မှာလည်း မနည်းပေ။

ကနန်းတို့သည် ငယ်ငယ်ကတည်းက အတိုက်အခိုက် ဝါသနာ ပါလာသည့်အတိုင်း၊မကြာခဏပင် ဒဏ်ရာများရတတ်သည်။ သို့သော် ခြေလက်တို့တွင် ဒဏ်ရာရပါက၊ထိုခြေလက်တခုလုံးကို ဖြုတ်ပစ်လိုက်၍၊ထိုနေရာတွင် မကြာမီပင် ခြေလက်အသစ် ပေါက်လာပြန်သည်။ ကနန်း၏ သွားပုံလာပုံမှာလည်း အတော်ထူးဆန်း၏။ တွားသွားခြင်းလည်းမဟုတ်၊ပြေးသွားခြင်းလည်းမဟုတ်ဘဲ၊ဘေးတိုက် ဂွကျကျသွားတတ်သည်။ အချို့ကနန်းမျိုးတွင် လှေတက်နှင့်တူသော ခြေထောက်အပြားများပါရှိ၍၊ယင်းတို့ဖြင့် ရေကောင်းစွာကူးနိုင်သည်။ အချို့ကနန်းမျိုးသည်ဟင်းသီးဟင်းရွက်ကို စားသောက်ခြင်းဖြင့် အသက်မွေးသည်။ အချို့က အခြား သတ္တဝါငယ်ကလေးများကို စားသောက်ခြင်းဖြင့် အသက်မွေးမှုကြသည်။ များသောအားဖြင့်ကားဆွေးမြည့်နေသော အရာဝတ္ထုများကို စားသောက်ခြင်းဖြင့်အညစ်အကြေး အမှိုက်သရိုက်များကို သန့်ရှင်းစေသည်။

အချို့သော ကနန်းမျိုးတို့သည် မျိုးခြား သတ္တဝါတဦးဦးနှင့် အတူတကွ နေထိုင်လေ့ရှိသည်။ လူသိအများဆုံးအမျိုးမှာ ယောက်သွားခုံး၏ အခွံကြားထဲ၌ ဝင်ရောက်နေထိုင်ခြင်းဖြင့် ရန်သူ့ဘေးမှ အကာအကွယ်ရယူသည်။ ခုံးကောင်ကို အန္တရာယ်ဖြစ်စေမည့်သတ္တဝါများကိုတဖန် အဆိုပါကနန်းက ကာကွယ်ပေးသည်။ အချို့ကနန်းမျိုးမှာ သန္တာကောင်အုပ်စုတွင် ဝင်ရောက်နေထိုင်၏။ ပင့်ကူကနန်းကြီးမျိုးကမူ မိမိတို့၏ ကိုယ်ပေါ်တွင် ရေညှိ ရေမြှုပ် စသည်တို့



ပစိဖိတ်ကျွန်းများတွင် တွေ့ရသည့် အုန်းကနန်း

ပေါက်ရောက်နေရန် တမင် ကြံဆောင် ပြုလုပ် ပြီးလျှင်၊ မိမိနဂိုရုပ် မပေါ်အောင် ရုပ်ဖျက်ထားတတ်ကြသည်။ ဝင်ကစွပ်ကောင် (ဖင်နီဖင်စွပ်) ခေါ် ကနန်းတမျိုးမှာ ငယ်ရွယ်စဉ်က အခြားကနန်းများနည်းတူ ကြီးပြင်းလာကြသော်လည်း၊နောင်သော် ခရုခွံလွတ်များကို တခုပြီးတခု စမ်းသပ်ပြီးနောက် မိမိကိုယ်နှင့်အံကိုက်သည့် အခွံကို တွေ့သော

အခါ ကိုယ်နောက်ပိုင်းကို ထိုးသွင်း၍ နေထိုင်လေ့ရှိသည်။ ထိုသို့ ကိုယ်တပိုင်းကို အခွံထဲသို့ ထိုးသွင်းနေထိုင်သည့် အလျောက်၊ကြာသော် ကနန်း၏ဝမ်းပိုက်မှာ ပျော့ပျောင်းနူးညံ့လာကာ အခွံနှင့်အလိုက်သင့် ဝက်အူရစ်ပုံ ဖြစ်သွားလေသည်။

ကုန်းပေါ်၌ လှည့်လည်ကျက်စားလေ့ရှိသော ကုန်းကနန်းမျိုးကို ပူအိုက်သော ဒေသတွင် တွေ့ရတတ်သည်။ ပစိဖိတ်သမုဒ္ဒရာ တောင်ပိုင်းကျွန်းများတွင် ထူးဆန်းသော ကနန်းတမျိုးရှိသည်။ ယင်းမှာ ဓါးပြကနန်း သို့မဟုတ် အုန်းကနန်းဟုခေါ်သော ကနန်းမျိုးဖြစ်၏။ အုန်းကနန်းတို့သည် အုန်းသီးကို စားသောက်၍ အုန်းပင်အတက်လည်း အလွန်ကျင်လျှင်သည်။ အနောက် အိန္ဒိယ ကျွန်းစု တွင် ပင်လယ်မှ ၃ မိုင်ခန့်ဝေးသောအရပ်၌ နေထိုင်သည့် ကနန်းတမျိုးမှာ နှစ်စဉ်နှစ်တိုင်း နွေကူးဥတု ရောက်လာသောအခါ၊ဥအုရန်အတွက် အုပ်စုဖွဲ့၍ ပင်လယ်သို့ ထွက်လေ့ရှိကြသည်။ ထိုအချိန်တွင် အထီးများက ရှေ့ဆောင်လာသော ကနန်းအုပ်ကြီးမှာ တခါတရံ ပေ ၁၂၀ မျှကျယ်၍ အလျားတမိုင်ခန့် ရှည်လျားသည်ဆို၏။ ယင်းတို့ချီတက်ရာလမ်းတွင် လျှိုမြောင် ချောက် ကမ်းပါး အိမ်ယာ စသော အဆီးအတားများ ရှိစေကာမူ ဂရုမစိုက်ဘဲ၊လိုရာခရီးအရောက် ဖြစ်မြောက်အောင် သွားတတ်သည်ဟုသိရ၏။

ဗုဇွန်၊ကနန်းစသည်တို့မှာ 'ကရပ်စတေးစီး' ခေါ် မျိုးပေါင်းတွင်ပါဝင်သည်။ ထိုမျိုးပေါင်းတွင် အခွံမာဖုံးကာ အဆက်ပါသော ခြေလက်များပါရှိသည့် ကျောရိုးမဲ့သတ္တဝါများ ပါဝင်ပြီးလျှင်၊ယင်းတို့သည် များသောအားဖြင့် ရေသတ္တဝါများဖြစ်၍ ပါးဟက်များဖြင့် အသက်ရှုကြသည်။

**ကနွတ်ဘုရင်** (ခရစ် ၉၉၅ ခန့်-၁၀၃၅)။ ။ကနွတ်ဘုရင်သည် ဒိန်းမတ်ပြည့်ရှင် ဆွိန်းဘုရင်၏ သားတော်ဖြစ်၍ ၉၉၅ ခုနှစ်ခန့်က ဖွားမြင်သည်။ ၁၀၁၃ ခုနှစ်တွင် ခမည်းတော်နှင့်အတူ အင်္ဂလန်ပြည်သို့ သွားရောက်၍ ဝက်ဆက်နယ်ကို တိုက်ခိုက်သိမ်းယူသည်။ ၁၀၁၄ ခုနှစ်တွင် ဆွိန်းဘုရင် ကွယ်လွန်သည့်အခါ ကနွတ်မင်းသားသည် ခမည်းတော်၏ အရိုက်အရာကို ဆက်ခံ၍ အင်္ဂလန် ပြည်ကို တိုက်ခိုက်သိမ်းယူသည်။ ခမည်းတော်လက်ထက်က စစ်ရှုံး၍ ပြည်နှင်ခံရသော ဆက်ဇုန်ဘုရင် အက်သဲရက် ပြန်လာသဖြင့် တိုက်ခိုက် နှိမ်နင်းရလေရာ၊ လန်ဒန် မြို့မှ တပါး အင်္ဂလန်ပြည်အလုံးကို အလိုပြည့်လေသည်။ အက်သဲရက်ဘုရင်သည် လန်ဒန်မြို့တွင် အခိုင်အလုံ တပ်စွဲ၍နေလေသည်။ ၁၀၁၆ ခုနှစ်၌ အက်သဲရက် ကွယ်လွန်လေသော် သူ၏သားတော် အက်ဒမန် အိုင်းယန်းဆိုက်သည် လန်ဒန်မြို့မှနေ၍ ကနွတ်ဘုရင်အား ဆက်လက် အပြင်းအထန် ခုခံတိုက်ခိုက်၏။ ထိုသို့ခုခံတိုက်ခိုက်ရာတွင် အက်ဒမန်သည် မအောင်မြင်သော်လည်း အင်္ဂလန်ပြည်ကို နှစ်ပိုင်းခွဲ၍ အုပ်ချုပ်ရန် ကနွတ်ဘုရင်၏ သဘောတူညီချက် ရရှိခဲ့လေသည်။ သို့သော် ၁၀၁၆ ခုနှစ်တွင်ပင် အက်ဒမန်ဘုရင် ကွယ်လွန်သောအခါ၊ကနွတ်ဘုရင်သည် အက်ဒမန်၏ သားများကို ဆွီဒင်နိုင်ငံသို့ ပို့လိုက်ပြီးလျှင် အက်သဲရက်၏ မိဖုရားကို သိမ်းယူကာ အင်္ဂလန်ပြည်အလုံးကိုကနွတ်ဘုရင်ကြီး ဟူသော အမည်ဖြင့် အုပ်စိုးလေသည်။

ကနွတ်ဘုရင်သည် တန်ခိုးအာဏာရှိသော မင်းတပါးဖြစ်၍ တပြည်ထောင်လုံးကို ငြိမ်ဝပ်ပိပြားအောင် အုပ်ချုပ်နိုင်၏။ သူသည် တရားမျှတ၍ လိမ်မာစွာ အုပ်ချုပ်သည်။ ထို့ပြင် ရှေးခေတ် ဆက်ဇုန်ဥပဒေများကို အခြေခံသည့် ဥပဒေတရပ်ကိုလည်း ပြုစုပြဋ္ဌာန်းခဲ့၏။ အင်္ဂလန်ပြည် အုပ်ချုပ်ရေးတွင် ဒိန်းနှင့် နော်ဝေး လူမျိုးများကို ရာထူးရာခံမပေးဘဲမိမိတို့နိုင်ငံသို့ ပြန်ပို့၍ ဆက်ဇုန်များကိုသာ ခန့်အပ်သောကြောင့် တိုင်းသူပြည်သားများက သူ့အား ကြည်ညိုလေးစားကြသည်။ ဆွီဒင်နှင့် နော်ဝေးနိုင်ငံများသို့ သွားရောက်သော အခါများ၌ပင် ဆက်ဇုန် မှူးမတ် စစ်သည်များဖြင့် ခြံရံ၍ထွက်လေသည်။ ၁၀၁၈ ခုနှစ်တွင် ဒိန်းမတ် ထီးနန်းကိုရ၍ ၁၀၂၈ ခုနှစ်တွင် နော်ဝေး ထီးနန်းကို ရပြန်



ကနွတ်ဘုရင်၏ လက်တွေ့ဆုံးမခန်းမှ 'ဘုရင့်ဘုန်းနှင့် ဒီရေ'

သည်။ သို့သော် ၁၀၃၅ ခုနှစ်တွင် သူကွယ်လွန်သောအခါ နိုင်ငံတော်မှာ အစိတ်စိတ် အမြွာမြွာ ကွဲသွားလေသည်။

ကန္တတ်ဘုရင်နှင့် စပ်လျဉ်း၍ ဒဏ္ဍာရီပုံပြင် အများအပြား တွေ့ရသည့်အနက်တခုမှာ ဤသို့ဖြစ်၏။ အခါတပါး ကန္တတ်ဘုရင်အား မှူးမတ်များက ဘုန်းကြီးသော အရှင်ဖြစ်၍ မည်သည့်အရာကိုမဆို ပြုက ဖြစ်နိုင်ကြောင်း လျှောက်ထားကြသည်။ ထိုအခါ တနေ့နေ့တွင် ထိုသို့ မြှောက်ပင့်တတ်သော မှူးမတ်များအား ဆုံးမမည်ဟု ကြံစည်ထားသော ကန္တတ်ဘုရင်သည် ပင်လယ်ကမ်းစပ်တွင် ချထားအပ်သော ရာဇပလ္လင်ပေါ်တွင် ထိုင်လျက် တဖြည်းဖြည်း တက်လာသော ဒီရေကိုမတက်ရန် အမိန့်ပေး၏။ သို့သော်ဒီရေကား တက်မြဲတက်၍ ကန္တတ်ဘုရင်၏ ခြေများပင် ရေစိုလေတော့သည်။ ဤတွင် သူ၏ အခြွေအရံများဖက်သို့ လှည့်၍ ဘုရင်တို့၏ အာဏာမှာ မည်သို့မျှ အဖိုးမတန်ကြောင်း၊ သူ့အား မည်သည်ကိုမဆို ပြုက ဖြစ်နိုင်ကြောင်းဖြင့် လျှောက်ထားသူများမှာလည်း မိုက်မဲစွာ မြှောက်ပင့်နေသူများသာ ဖြစ်ကြောင်း မိန့်ဆိုလေသည်။

**ကပိလဝတ်ပြည်။** ။ကပိလဝတ်ပြည်သည် ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသား၏ခမည်းတော် သုဒ္ဓေါဒနမင်းကြီး စိုးစံတော်မူသောပြည်ဖြစ်၏။ အိန္ဒိယနိုင်ငံတွင် ရှေးအခါက တိုင်းကြီး ၁၆ တိုင်း၊ ပြည်ကြီး ၂၀ ဟု ကျော်စောခဲ့သည့် အနက်၊ သက္က တိုင်း ကပိလဝတ်ပြည်တွင် သာကီဝင်တို့ ကြီးစိုးခဲ့သည်။

ဥက္ကာကရာဇ်မင်းကြီးသည် သားတော်နှင့် သမီးတော်များကို ဟိမဝန္တာတောသို့ သွားရောက်နေထိုင်ရန် အမိန့်ရှိခဲ့ရာမှ၊ သားတော်သမီးတော်တို့သည် ကပိလရသေ့ကြီး၏ ကျောင်းသင်္ခမ်းအနီးတွင် ရသေ့ကြီး၏ အဆုံးအမကို ခံယူကာ တိုင်းပြည်တည်ထောင်ခဲ့ကြသည်။ ထိုအချက်ကို အစွဲပြု၍ ကပိလဝတ်ပြည်ဟု ခေါ်တွင်သည်။ ကပိလဝတ်ပြည်ကို မြန်မာစာပေများ၌ ကပ္ပိလဝတ်၊ပြည်ကပိုလ်ဟူ၍လည်း သုံးစွဲကြသည်။

သာကီဝင်မင်းတို့၏ ပြည်ထောင်ချင်းဖြစ်သော ကပိလဝတ်ပြည်နှင့် ကောလိယပြည်စပ်ကြားတွင် ရောဟိဏီမြစ်ဖြတ်သန်းစီးဆင်းသည်။ ခရစ်တော်မပေါ်မီ ၆ ရာစုနှစ်ခန့်က ကပိလဝတ်ပြည်တွင် မင်းများအလှည့်ကျအုပ်စိုးခဲ့၍၊ မြတ်စွာဘုရား အလောင်းတော် မွေးဖွားခိုက်တွင် ခမည်းတော် သုဒ္ဓေါဒနမင်းကြီး ကြီးစိုးခိုက်ဖြစ်၏။ နေပြည်တော်၏မြို့ရိုးမှာ ၁၈ တောင်မြင့်ကြောင်း အမှတ်အသားများရှိသည်။ သိဒ္ဓတ္ထမင်းသားသည် တောထွက်တော်မူပြီးနောက် သစ္စာလေးပါးကိုသိမြင်၍ ဘုရားဖြစ်သည်တွင်၊ ခမည်းတော်မင်းကြီးက အကြိမ်ကြိမ်ပင့်ဖိတ်သဖြင့် ကပိလဝတ်ပြည်သို့ ရာဇဂြိုလ်ပြည်မှ ကြွလာပြီးသော်၊ ဆွေတော်မျိုးတော် အပေါင်းကို တရားရေအေး အမြိုက် ဆေးတိုက်ကျွေးတော်မူသည်။

မြတ်စွာဘုရားအား ကပိလဝတ်နေပြည်တော်သို့ ကြွပါမည့်အကြောင်း ဖွားဖက်တော် ကာဠုဒါယီအမတ်က ဂါထာ ၆၀ ဖြင့် သီကုံးလျှောက်ထားကြောင်း ကျမ်းဂန်များတွင် အခိုင်အမာဆိုသည်။ ထိုသို့ပင့်လျှောက်ပုံကို အင်းဝခေတ်တွင် သျှင်အုန်းညိုက ဂါထာခြောက်ဆယ်ပျို့တွင် အသေးစိတ် ဖတ်ရှုနာပျော်ဖွယ်ရှိအောင် စပ်ဆိုခဲ့သည်။ ထိုနည်းတူ သျှင်ဥတ္တမကျော်ကလည်း မြတ်စွာဘုရားသခင် ရာဇဂြိုလ်ပြည်မှ ကပိလဝတ်ပြည်သို့ကြွခန်းကို 'စက်ဆဲ့နှစ်လီ၊ဒွါဒသီဝယ်' ချီသော တောလားရတုဖြင့် သီကုံးခဲ့သေးသည်။ ထို့ပြင်လည်း ဂါထာခြောက်ဆယ်ဝတ္ထု ရှိလေသေးသည်။

ဗုဒ္ဓမြတ်စွာသည် ကပိလဝတ်ပြည်သို့ ရောက်မဆိုက်၌ပင်၊ မာနတံခွန်ထူလှသော ဆွေတော်မျိုးတော်များအား ရေအစုံ မီးအစုံ ယမိုက်ပြာဋိဟာကိုပြသ၍၊ ဇာတ်ကြီးဆယ်စောင် အဝင်အပါ ဝေဿန္တရာဇာတ်တော်ကို ဟောတော်မူသည်။ ထို့ပြင် နန္ဒမင်းသားဟု ခေါ်တွင်သော ညီတော်မင်းနန်နှင့် သားတော်ရာဟုလာတို့အား သာသနာ့အမွေအနှစ် ပေးတော်မူသည်။

ထိုပဌမအကြိမ် ဘုရားမြတ်စွာသည် ကပိလဝတ်ပြည်သို့ ရောက်တော်မူသည့်အလား၊နောက်ထပ်၍ အကြိမ်ကြိမ် ကြွရောက်ဘူးကြောင်း ကျမ်းဂန်များအရ သိရသည်။ တကြိမ်၌ ကပိလဝတ်ပြည်သားများနှင့် ကောလိယပြည်သားတို့သည် ရောဟိဏီမြစ်ရေကို လယ်ရေသောက်အဖြစ် အတူတကွ သုံးစွဲကြရာမှ အချင်းဖြစ်ပွားကြရာ၊ မြတ်စွာဘုရားသည်ကြွရောက်လာ၍ ငြိမ်းချမ်းရေးကို ဟောပြောကြောင်း၊ နောက်တကြိမ်၌ကား ဝိဋ္ဋူဘမင်း၏ရန်စွယ်ကို တားမြစ်အံ့သောငှါ မြတ်စွာဘုရား နေပြည်တော်သို့ ဒေသစာရီဖြန့်ချီကြောင်း၊ ကျမ်းဂန်များအရ သိရသည်။

ခရစ် ၄ ရာစုနှင့် ၇ ရာစုနှစ်များအတွင်း အိန္ဒိယနိုင်ငံသို့ ရောက်ရှိလာသော တရုပ်အမျိုးသား ဖါဟီယန်နှင့် ဟူအင်စန်တို့သည် ကပိလဝတ်ပြည်နှင့် သာသနာတော်ဆိုင်ရာ ဌာနများအကြောင်းကိုယ်တွေ့ မှတ်တမ်းတင်ခဲ့ကြသည်။

ကပိလဝတ်ပြည် အနီး လုမ္ဗိနီအရပ်တွင် သီရိဓမ္မာသောကမင်းကြီးသည် လုမ္ဗိနီကျောက်တိုင်ကို စိုက်ထူခဲ့သည်။ (သီရိဓမ္မာသောကမင်းကြီး — ရှု။) ကပိလဝတ်ပြည် မြို့တော်ဟောင်းနေရာကို အတိအကျ မပြောသာသေးသော်လည်း နီပေါနိုင်ငံအတွင်းရှိ ပိပရာဝါ အမည်တွင်သော ရွာနေရာပင်ဖြစ်မည်ဟု ဆိုကြသည်။ ထိုအရပ်တွင် ကပိလဝတ် အမည်ပါသော မြို့တာအိုးများကို တူးဖော်တွေ့ရှိရလေသည်။

**ကပိုင်ပင်။** ။ကပိုင်ပင်သည် မြန်မာနိုင်ငံ ပင်လယ်ကမ်းပါး တောချုံများတွင် ပေါက်လေ့ရှိသော သစ်ပင်ငယ်တမျိုးဖြစ်သည်။ အထူးသဖြင့် တနင်္သာရီတိုင်း တောင်ပိုင်းတွင် လမုတော လမဲ့တောများ အကြား၌ အတွေ့ရများသည်။ အသားမှာ လိမ်မော်ရင့်ရောင် နီ၍ မာပြီးလျှင် အသင့်အတင့် တာရှည်ခံသည်။ ကုဗ တပေလျှင် အလေးချိန် ၁၆ ပိသာခန့်စီးသည်။ အိမ်တိုင်၊ထုပ်၊လှေ့ဘက်၊ဒိုင်း၊ မြှား၊ထွန်တုံး လုပ်ရန်အတွက်၎င်း၊မီးသွေးဖုတ်ရန်နှင့် ထင်းမီးအဖြစ် အသုံးပြုရန်အတွက်၎င်း၊အသုံးဝင်သည်။ အခေါက်ကိုမူ ဆိုးဆေးအဖြစ် အသုံးပြုရ၏။

ကပိုင်ပင်ကို ကပြိုင်၊ကမြိုင်၊ကြပိုင်ဟူ၍၎င်း၊ပိုင်းတောင့်၊ မဓမဟူ၍၎င်း၊အမည်အမျိုးမျိုးဖြင့်ခေါ် ဝေါ် ကြသည်။

**ကမ္ဘီးပင်။** ။ကမ္ဘီးပင်သည် မြန်မာနိုင်ငံ ရခိုင်နှင့် တနင်္သာရီ ပင်လယ်ကမ်းရိုးတလျှောက်၌ ပေါက်သဖြင့် ပင်လယ်ကမ္ဘီးပင်၊ပင်လယ်ထင်းရှူးပင်ဟူ၍လည်း အမည်တွင်သည်။ ကမ္ဘီးမှာ ထားဝယ်အမည်ဖြစ်၏။

ကမ္ဘီးပင်သည် သစ်ပင်ကြီးမျိုးဖြစ်၍ အမြင့်ပေ ၁၀၀၊ ပင်စည်လုံးပတ် ၆ ပေမျှရှိသည်။ ကမ္ဘီးသား၏ အရောင်မှာ နီညိုရောင်ရှိ၍ အလွန်မာသောကြောင့် ပွုပြင်ရခက်သည်။ သို့ရာတွင် ထင်းအတွက် အလွန်ကောင်းသဖြင့် အိန္ဒိယနိုင်ငံ တောင်ပိုင်း၌ အကြီးအကျယ် စိုက်ပျိုးထားကြသည်။

ခိုင်ခံ့ခြင်း၊ ဖြောင့်စင်းခြင်း၊ နွဲ့ပျောင်းခြင်း၊ ပေါ့ပါးခြင်း စသော ဂုဏ်သတ္တိများ ရှိခြင်းကြောင့်၊ကမ္ဘီးသားကို လှေရွက်တိုင်၊ ရွက်ပေါင်လက်၊ လှော်တက်၊ တက်မစသည်များ ပြုလုပ်နိုင်သည်။ အခေါက်ကိုမူ ဝမ်းကိုက်ပျောက်ဆေး အဖြစ် အသုံးပြုကြသည်။

ကမ္ဘီးပင်သည် ဘန့်ပွေးပင်နှင့် ဆင်တူသည်။သို့သော် ပဲခူးနယ်ဖက်၌ တွေ့ရသော ဘန့်ပွေးပင်နှင့် နေရာတကာတွင် တူသည်မဟုတ်ချေ။ ဘန့်ပွေးမျိုးဝင် သစ်ပင်တမျိုးကား ဖြစ်နိုင်စရာ အကြောင်းရှိသည်။

**ကဗူး၊ စီ၊ဗီ** (ခရစ် ၁၈၁၀–၁၈၆၁)။ ။ဣတလီနိုင်ငံ သမိုင်းတွင် ထင်ရှားသော မျိုးချစ်ပုဂ္ဂိုလ်ကြီး ကောင့်ကဗူးသည် ဆာဒင်းနီးယားနိုင်ငံ ပီးဒမွန့်ပြည်နယ် မှူးမတ်မျိုးရိုးမှ ဆင်းသက်ခဲ့သူဖြစ်၍၊တျူးရင်းမြို့၌ ၁၈၁၀ ပြည့်နှစ်တွင် ဖွားမြင်ခဲ့သည်။ တျူးရင်းမြို့ စစ်အတတ်သင်ကျောင်းတွင် ပညာသင်ကြား တတ်မြောက်ခဲ့ပြီးနောက်၊ ၁၈၂၆ ခုနှစ်တွင် အင်ဂျင်နီယာတပ်ဗိုလ်တဦး ဖြစ်လာ၍ ခံတပ်များစွာကို တည်ဆောက်ခဲ့လေသည်။ သို့သော် သူသည် လူထုကို နိုင်ငံရေးလွတ်လပ်မှုပေးရန် ကြံရွယ်ခဲ့သူ ဖြစ်၍၊အချိန်အားများတွင် အင်္ဂလိပ်နိုင်ငံရေး သဘောတရားများကို လေ့လာလိုက်စားခဲ့၏။ ၁၈၃၁ ခုနှစ်တွင် စစ်တပ်မှနုတ်ထွက်ကာ တောနယ်ရှိ မိဖများပိုင် ခြံကြီးတွင် နေထိုင်ပြီးသော် ပြည်သူ့အရေးများကို စတင်ဆောင်ရွက်လေသည်။ ထို့ပြင် ပါရစ်မြို့၊လန်ဒန်မြို့များသို့ မကြာခဏ သွားရောက်၍ ဥရောပနိုင်ငံရေးရာ ဗဟုသုတများကို ရှာမှီးခဲ့သည်။ ထိုအခါ စည်းမျဉ်းခံ ဘုရင့်အုပ်ချုပ်ရေးမျိုးကို သဘောကျခဲ့သည့်ပြင်၊ နိုင်ငံရေးလွတ်လပ်မှုသည် စီးပွားရေးဖွံ့ဖြိုးမှုပေါ်တွင် အခြေပြုမှသာ တည်မြဲနိုင်ကြောင်း သဘောပေါက်ခဲ့လေသည်။ ထို့ကြောင့် လယ်ယာစိုက်ပျိုးရေးလုပ်ငန်း ပြုပြင်ရေးကို၎င်း၊ မီးရထားလမ်းများ ဖေါက်လုပ်ရေးကို၎င်း၊ကြိုးပမ်းခဲ့ပေသည်။ သူသည် နိုင်ငံခြားများမှ ဆည်းပူးရရှိခဲ့သော လက်တွေ့စိုက်ပျိုးရေးဗဟုသုတများကို အသုံးပြု၍ သူ့ဖခင်၏ လုပ်ငန်းများကို အုပ်ချုပ်လုပ်ကိုင်လျက် ပီးဒမွန့်နယ် လယ်ယာစိုက်ပျိုးရေးအသင်းကြီးကိုလည်း တည်ထောင်ခဲ့သည်။ထို့ပြင် ပြည်နယ်တွင်း မီးရထားလမ်းများ ဖေါက်လုပ်ရေးနှင့်တကွ စက်ရုံများ ဆောက်လုပ်ရေးကိုလည်း ဆော်ဩခဲ့လေသည်။ ထိုသို့



ဣတလီနိုင်ငံ စည်းလုံးရေးကို ပြုစုပျိုးထောင်ခဲ့သူ ကောင့် ကဗူး

ကူးသန်းသွားလာရေးလွယ်ကူခဲ့လျှင် ဣတလီမှာ စည်းလုံးမိဖွယ်ရာ အကြောင်းရှိသည်ကိုလည်း သိမြင်ခဲ့၏။ ၁၈၄၇ ခုနှစ်တွင် တျူးရင်းမြို့၌ လူထုအား အုပ်ချုပ်ရေးဆိုင်ရာ ပြုပြင်ရေးအယူအဆများကို ထုတ်ဖော်ညွှန်ပြရန်အတွက် သတင်းစာတစောင်ကို ထုတ်ဝေခဲ့၏။ ၁၈၄၈ ခု ဇန်နဝါရီလတွင် ဆစ္စလီကျွန်း၌ တော်လှန်ရေးကြီး ပေါ်ပေါက်ခဲ့ရာ၊ကဗူးသည် စည်းမျဉ်းခံ ဘုရင့်အုပ်ချုပ်ရေးကို တီထွင်ရန် အချိန်တော်ပြီဖြစ်ကြောင်းနှင့် ဟောပြောခဲ့လေသည်။ သူ၏ဟောပြောချက်များမှာ အချက်ကျလှသဖြင့် လူထုကသာမက ဆာဒင်းနီးယားဘုရင် ချားအဲလဗတ်ပင်လျှင် သဘောပေါက်လာပြီးနောက် လွတ်လပ်မှုအခွင့်အရေးများကို ပေးအပ်ခဲ့လေသည်။ သို့ရာတွင် ကဗူးသည် ထိုသို့ရရှိခဲ့သော အခွင့်အရေးများအရ ပဌမဆုံး ဖွဲ့စည်းခဲ့သော အစိုးရအဖွဲ့၌ မပါဝင်ခဲ့ချေ။ ထိုအချိန်က ဣတလီနိုင်ငံမှာ ပြည်ငယ်ကလေးပေါင်းများစွာ ကွဲပြားလျက်၊ ဘုရင်အဆူဆူတို့၏ ဆိုးရွားသော အုပ်ချုပ်မှုကို ခံနေရ၍၊သြစတြီးယား၏ အနှောင့်အယှက်လည်းကောင်းဝွာမကင်းသေးသောအခါဖြစ်၏။

ကောင့်ကဗူးသည် အစိတ်စိတ် ကွဲပြို လျက်ရှိသော ဣတလီနိုင်ငံကို စည်းလုံးမိစေလိုသော စိတ်ဓါတ်ရှိသူ ဖြစ်သည့် အားလျော်စွာ၊ထိုအရေးကို စိတ်ပါလက်ပါ စတင်ဆောင်ရွက်လေသည်။ ထိုနှစ် (၁၈၄၈) မတ်လတွင် မီလန်နယ်သားတို့သည် သြစတြီးယားကို တော်လှန်သောအခါ၊ သူ၏သတင်းစာမှနေ၍ သြစတြီးယားကို စစ်ကျေညာရန် လှုံ့ဆော်ခဲ့သည်။ မကြာမီ စစ်ကျေညာတိုက်ခိုက်ခဲ့၏။ စစ်အတွင်း ကဗူးသည် ဆာဒင်းနီးယားမှ ပါလီမန်အမတ်အဖြစ် အရွေးခံခဲ့ရလေသည်။ သို့သော် ထိုစစ်ပွဲတွင် ဆာဒင်းနီးယားနိုင်ငံသည် အရေးနိမ့်၍ အဲလဗတ်ဘုရင်လည်း ထီးနန်းစွန့်ခဲ့ရလေသည်။ ထိုအခါ သူ၏သားတော် ဒုတိယ ဗစ်တာ အီမန်နျူအယ် နန်းတက်ပြီးလျှင်၊ငြိမ်းချမ်းရေး ဖြစ်မြောက်အောင် စေ့စပ်လျက် စာချုပ်ချုပ်ဆိုခဲ့ရ၏။ မည်သို့ပင်ဖြစ်စေ ကောင့်ကဗူးသည် စိတ်မပျက်ဘဲ ဣတလီနိုင်ငံ၏ လွတ်မြောက်ရေး စည်းလုံးရေးတို့ကို ဆက်လက်ဆောင်ရွက်လေသည်။

၁၈၅၀ ပြည့်နှစ်တွင် ကောင့်ကဗူးသည် စိုက်ပျိုးရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီး ဖြစ်လာလေသည်။ ထိုနောက် ဝန်ကြီးချုပ်နှင့် သဘောကွဲလွဲမှုကြောင့် ရာထူးမှ နုတ်ထွက်၍၊ဣတလီအရေးတွင် နိုင်ငံခြားတို့ သဘောထားကို သိရှိရန်အတွက် ပြင်သစ်နှင့် အင်္ဂလန်ပြည်တို့သို့ လှည့်လည်ခဲ့သည်။ ထိုသို့လှည့်လည်ရာမှ အပြန်တွင် ဝန်ကြီးချုပ်ရာထူး ခန့်အပ်ခြင်းခံရ၏။ ထိုအချိန်မှစ၍ ကောင့်ကဗူးသည် နိုင်ငံတွင်း ပြုပြင်ရေးလုပ်ငန်းများကို ဆောင်ရွက်ခဲ့၍၊ နိုင်ငံ၏အင်အား တောင့်တင်းပြီးလျှင် နိုင်ငံကြီးများက အသိအမှတ်ပြုခြင်းခံရအောင် အနည်းနည်းအဖုံဖုံ ဆောင်ရွက်ခဲ့လေသည်။ ထို့ပြင် ၁၈၅၅ ခုနှစ်တွင် ကရိုင်းမီးယားစစ်မြေပြင်သို့ ဆာဒင်းနီးယားနိုင်ငံမှ စစ်တပ်များ စေလွှတ်ကူညီခဲ့သောကြောင့်၊ အင်္ဂလိပ်နှင့် ပြင်သစ်တို့၏ ချစ်ကြည်မှုကို ရရှိခဲ့လေသည်။ ထိုနောက် ဥရောပနိုင်ငံကြီးများက အသိအမှတ်ပြုခဲ့သဖြင့် ဣတလီနိုင်ငံ စည်းလုံးရေးတွင်လည်း များစွာ အထောက်အပံ့ ဖြစ်စေခဲ့လေသည်။ ၁၈၅၈ ခုနှစ်တွင် ပြင်သစ်နိုင်ငံ တတိယ နပိုလီယန်ဘုရင်နှင့် တိတ်တဆိတ် တွေ့ဆုံအချိန်းအချက်ပြု၍ ၁၈၅၉ ခုနှစ်၌ သြစတြီးယားကို စစ်ကျေညာခဲ့သည်။ ထိုစစ်ပွဲတွင် အောင်မြင်မှုကြောင့် ဆာဒင်းနီးယားနှင့် လောင်ဗါဒီနယ်များ ပေါင်းမိ၍၊ ကျန် ဣတလီနယ်များလည်း တဖြည်းဖြည်း စည်းလုံးလာခဲ့လေသည်။

ထိုနောက် ၁၈၆၁ ခုနှစ်တွင် ဂယ်ရီဗောလဒီးနှင့် အခြားပုဂ္ဂိုလ်များ၏ အကူအညီဖြင့် ဗင်းနစ်မြို့နှင့် ရောမမြို့မှတပါး ဣတလီတနိုင်ငံလုံး စည်းလုံးမိလေတော့သည်။ (ဂယ်ရီဗောလဒီး, ဂျီ — ရှု။) ယင်းသို့ ဣတလီနိုင်ငံကို စည်းလုံးမိစေရန် မနေမနား ကြိုးပမ်းခဲ့သော မျိုးချစ်ပုဂ္ဂိုလ်ကြီး ကဗူးသည် ပဌမဆုံး ဣတလီပါလီမန်က ဣတလီနိုင်ငံတော်တည်ထောင်ကြောင်း ကျေညာပြီးနောက်၊သုံးလခန့်အကြာ ၁၈၆၁ ခု ဇွန်လ ၆ ရက်နေ့တွင် ဇာတိရပ်ဖြစ်သော တျူးရင်းမြို့၌ ကွယ်လွန်ခဲ့လေသည်။

**ကဗင်ထရီမြို့။** ။ကဗင်ထရီမြို့သည် အင်္ဂလန်ပြည် ဝါဝစ်ရှိုင်ယာနယ်တွင် ထင်ရှားသော မြို့တမြို့ဖြစ်၏။ ဗာမင်ဂမ်မြို့၏ အရှေ့ဖက် ၁၈ မိုင်ခန့်အကွာ ရှာဗွန်းမြစ်ပေါ်တွင် တည်ရှိသည်။ ယခင်က သိုးမွေးထည်များ ရက်လုပ်ခြင်းကြောင့် ထင်ရှားခဲ့သော်လည်း၊ ယခုအခါတွင် ခေတ်သစ်စက်မှုလုပ်ငန်းနှင့် လျှပ်စစ်အလုပ်ရုံကြီးများ ဖွံ့ဖြိုးနေလေသည်။ ထင်ရှားသော ထွက်ကုန်များမှာ မော်တော်ကား၊ လေယာဉ်ပျံ၊ စက်ဘီး၊ အပ်ချုပ်စက်၊ လျှပ်စစ်ဓါတ်မီးကရိယာ၊ရေတပ်အသုံးအဆောင်၊နာရီ၊ပိုးတုနှင့် ကော်ဇောစသော ကုန်ပစ္စည်းများဖြစ်၏။

ကဗင်ထရီမြို့သည် ရှေးမြို့တမြို့ဖြစ်၍ ယခင်ကမြို့ရိုးများပင် ရှိခဲ့လေသည်။ သမိုင်းပုံပြင်များနှင့် ဆက်စပ်လျက်ရှိသည့်ပြင်၊ရှေးကျသော အဆောက်အအုံများလည်း ပေါများသည်။ ၁၁ ရာစုနှစ်အတွင်း၌ ဗင်နီဒစ်တင်း ဘုန်းကြီးကျောင်းကို အား လီယိုဖရစ် ဆောက်လုပ်လှူဒါန်းခဲ့သည့် အချိန်ကပင် ထိုမြို့ကို တည်ခဲ့လေသည်။ ရှေးဘုရားရှိခိုးကျောင်းများအနက် ၁၄ ရာစုနှစ်အတွင်း၌ ဆောက်လုပ်ခဲ့သော စိန်မိုက်ကယ် ဘုရားရှိခိုးကျောင်းကြီးမှာ



ဒုတိယကမ္ဘာစစ်အပြီး၌ တွေ့ရသော ကဗင်ထရီမြို့လယ်ပိုင်း။စိန့်မိုက်ကယ် ဘုရားရှိခိုးကျောင်း၏ အမိုးချွန်ကို ပုံတွင်တွေ့နိုင်၏။

အထူးထင်ရှား၏။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ဂျာမန်တို့ ဗုံးကြဲတိုက်ခိုက်သဖြင့်မြို့လယ်ပိုင်းမှာ အကြီးအကျယ် ပျက်စီးသွားရာ၊ထို စိန့်မိုက်ကယ် ဘုရားရှိခိုးကျောင်းကြီးမှာလည်း များစွာ ထိခိုက်ခဲ့လေသည်။ ယခုအခါတွင် အမိုးချွန်နှင့် မျှော်စင်ကြီးသာလျှင် မပျက်မစီးဘဲ ကျန်ရှိတော့သည်။

၁၇ ရာစုနှစ်အတွင်း အင်္ဂလန်ပြည်တွင်းစစ် ဖြစ်ပွားခဲ့စဉ်က၊ဘုရင့်ဂိုဏ်းသားများအား ထိုမြို့၌ အချုပ်ချထားခဲ့သည်ကို အကြောင်းပြု၍ 'ကဗင်ထရီသို့ပို့သည်' ဟူသော စကားကို မြန်မာလူမျိုးတို့၏ 'မဲဇာကိုပို့သည်' ဟူသော ပညတ်စကားကဲ့သို့ပင် အဓိပ္ပါယ်ကောက်ယူကာ သုံးစွဲလျက် ရှိကြလေသည်။

ကဗင်ထရီမြို့၏ လူဦးရေမှာ ၂၄၀,၀၀၀ ခန့်ရှိ၏။

**ကဗင်းဒစ်, အိပ်** (ခရစ် ၁၇၃၁-၁၈၁၀)။ ။ကမ္ဘာမြေ၏ သိပ်သည်းခြင်းကို အဦးဆုံး စူးစမ်းရှာဖွေခဲ့သူဟု ထင်ပေါ်ကျော်စောသော ဟင်နရီ ကဗင်းဒစ်သည် တတိယ ဒျုဘ့်ခ် ဒက်ဗွန်ရှိုင်ယာမြို့စား၏ တူတော်သည်။ ၁၇၃၁ ခု အောက်တိုဘာလ ၁၀ ရက်နေ့တွင် နီးစ်မြို့၌ ဖွားမြင်၍၊ ကိမ်းဗရစ်တက္ကသိုလ်၌ သင်္ချာနှင့် ရူပဗေဒ ပညာရပ်များကို ၃ နှစ်မျှ သင်ကြားခဲ့လေသည်။

၁၇၅၃ ခုနှစ်တွင် ဟင်နရီ ကဗင်းဒစ်သည် ကိမ်းဗရစ် တက္ကသိုလ်မှ ဒီဂရီဘွဲ့ မယူဘဲ ကျောင်းထွက်ပြီးနောက်၊ဝါသနာ အလျောက် ဓါတုဗေဒ၊ရူပဗေဒ စသော သိပ္ပံပညာရပ်များကိုသာ စူးစမ်း လေ့လာနေခဲ့၏။ အသက် ၄၀ လောက်အထိ သူ၏ဖခင်ထံမှ ရသမျှ ထောက်ပံ့ကြေးဖြင့်သာ မရှိမရှား နေထိုင်ခဲ့လေသည်။အသက် ၄၀ ကျော်တွင် ကဗင်းဒစ်သည် အမွေပစ္စည်း အမြောက်အမြား ဆက်ခံရရှိသဖြင့် ဓနအင်အား တောင့်တင်းသူတယောက် ဖြစ်လာသည်။ သို့သော် ကဗင်းဒစ်သည် ဆင်းရဲသည်ဖြစ်စေ၊ချမ်းသာသည် ဖြစ်စေ၊သူ၏ နေပုံထိုင်ပုံကိုကား မပြောင်းခဲ့ချေ။

ကဗင်းဒစ် နေထိုင်ပုံမှာ အလွန်ထူးဆန်းသည်။ သူသည် လူများများနှင့် ရောနှော၍ မနေလိုချေ။ တကိုယ်တည်း မိမိဝါသနာ စူးစိုက်ရာ သိပ္ပံပညာရပ်များကိုသာ စူးစမ်း ရှာဖွေနေလေ့ရှိသည်။ သိပ္ပံပညာရပ်နှင့် စပ်လျဉ်း၍ ကဗင်းဒစ် စမ်းသပ်တွေ့ရှိခဲ့သည့် ဗဟုသုတများမှာ ယခုခေတ် ဓါတုဗေဒပညာ၏ အခြေခံများ ဖြစ်ပေသည်။ ကဗင်းဒစ်အား အမှတ်တရ ဖြစ်စေရန် ကိမ်းဗရစ် တက္ကသိုလ်ကျောင်းတွင် ကဗင်းဒစ် ရူပဗေဒ လက်တွေ့စမ်းသပ်ရုံကြီးကို ဆောက်လုပ်ထားလေသည်။

သူ၏ စမ်းသပ် တွေ့ရှိချက်များထဲတွင်၊ရေ၌ပါဝင်သော ဓါတ်များ၏ အတိုင်းအဆကို လက်တွေ့ ရှာဖွေတွေ့ရှိခြင်းမှာ ဓါတုဗေဒ ပညာရပ်သမိုင်းတွင် ထူးကဲသော တိုးတက်မှုတရပ် ဖြစ်သည်။ ကဗင်းဒစ်သည် ဖန်ပူးတခုထဲတွင် ဟိုက်ဒရိုဂျင်ဓါတ်ငွေ့နှင့် အောက်ဆီဂျင်ဓါတ်ငွေ့များကို ထည့်၍

ဖန်ဗူးကို ချိန်တွယ်မှတ်သားထားသည်။ ထိုနောက် ထိုဓါတ်ငွေ့များကို လျှပ်စစ်ဓါတ်ဖြင့် မီးလောင်စေသည်။ယင်းသို့ ဓါတ်ငွေ့များကို လျှပ်စစ်ဓါတ်ဖြင့် မီးလောင်စေသည့် အခါ၊ဖန်ဗူးထဲမှ ဓါတ်ငွေ့များသည် အရည်အဖြစ်သို့ ပြောင်းသွားကြောင်း တွေ့ရှိရ၏။ ထိုအရည်မှာ ပကတိ ရေကဲ့သို့ အနံ့အရသာမရှိ၊အရောင်အဆင်းမရှိဘဲ ဖန်ဗူး၏ အလေးချိန်လည်း ယခင်ကအတိုင်း ရှိသည်ကို ကဗင်းဒစ် တွေ့ရှိရလေသည်။ ထိုသို့အားဖြင့် ကဗင်းဒစ်သည် ရေ၌ ဟိုက်ဒရိုဂျင်ဓါတ်ငွေ့နှင့် အောက်ဆီဂျင်ဓါတ်ငွေ့များ ပါရှိကြောင်းနှင့်၊ ထိုဓါတ်ငွေ့တို့၏ အတိုင်းအဆကို လက်တွေ့ တွက်ချက်၍ ပြနိုင်ခဲ့ပေသည်။ ထိုမှတပါး နိုက်ထရစ်အက်ဆစ် ဆိုသည်မှာ မည်သည့်အရာ ဖြစ်ကြောင်းကိုင်း၊လေထဲတွင် ပါဝင်သည့် ဓါတ်များအကြောင်းကိုင်း၊ရှာဖွေတွေ့ရှိခဲ့လေသည်။

ကဗင်းဒစ်သည် ဓါတုဗေဒပညာ ဖက်တွင်သာ ထင်ရှားကျော်စောသည်မဟုတ်၊ ရူပဗေဒပညာ ဖက်တွင်လည်း အတော်ပင် ထင်ရှား ကျော်စောလေသည်။ ၁၈ ရာစုနှစ်ကုန်ခါနီးတွင် သူသည် ကမ္ဘာမြေ၏ သိပ်သည်းခြင်းကို စမ်းသပ် ရှာဖွေကြည့်ရာ ၅.၄၄၈ ဖြစ်ကြောင်း တွေ့ရှိခဲ့သည်။ ယခုခေတ်တွင် စူးစမ်းရှာဖွေ တွေ့ရှိပြီးဖြစ်သော ကမ္ဘာမြေ၏ သိပ်သည်းခြင်းမှာ ၅.၅ ဖြစ်၏။ ခေတ်မှီ ကရိယာတန်ဆာပလာများမရှိဘဲနှင့် ထိုမျှမှန်ကန်အောင် ကဗင်းဒစ်တွက်ချက်နိုင်ခြင်းမှာ များစွာ ချီးမွမ်းဖွယ် ကောင်းပေသည်။

ကဗင်းဒစ်သည် အလွန် ရှက်ကြောက်တတ်၍ မိန်းမများကို အလွန် မုန်းတီးသူ ဖြစ်သဖြင့်၊အိမ်တွင် ခိုင်းစေသော မိန်းမ အစေခံများကို စာရွက်ပေါ်တွင် စာရေး၍သာ မှာကြားလေ့ရှိသည်။ မည်သည့်အခါမျှ မျက်နှာချင်းမဆိုင်ရချေ။ လူပျိုကြီးဘဝနှင့်ပင် ကွယ်လွန်ရရှာလေသည်။

ထို့ပြင် သူသည် စကားအလွန်နည်းသူ ဖြစ်၏။ ဆွေမျိုးများနှင့်လည်း ဆက်ဆံမှု နည်းသည်။ သူ၏ အမွေခံ အမွေစားဖြစ်သူ လော့ ဂျော့ ကဗင်းဒစ်ကိုပင် တနှစ်လျှင် တခါသာ မိနစ်အနည်းငယ် တွေ့ဆုံခွင့်ပေးသည်။သို့သော် သူသည် တော်ဝင်အသင်း၏ အစည်းအဝေးများသို့ မှန်မှန်တက်ရောက်ခဲ့သည်။ ၁၇၆၀ ပြည့်နှစ်တွင် တော်ဝင်အသင်းဝင် လူကြီးတဦး ဖြစ်လာ၍ ကြာသပတေးနေ့တိုင်း အသင်းဝင်လူကြီးများနှင့် ညစာစားလေ့ရှိ၏။

မလွှဲမကင်းသာ၍ တခါတရံ ဧည့်သည်များကို ဖိတ်ခေါ် ကျွေးမွေးရသည့် အခါမှာလည်း ဧည့်သည်များအတွက် အစားအသောက် ဖွယ်ဖွယ်ရာရာရှိအောင် စီမံပေးရန် အခိုင်းအစေတို့အား မပြောဆိုတတ်ချေ။ တခါ၌ သူသည် တော်ဝင်အသင်းမှ အသင်းသားများအား မိမိအိမ်၌ ထမင်းစားရန် ဖိတ်ခေါ်ခဲ့လေသည်။ ထိုဧည့်သည်များအတွက် မည်သည့်ဟင်းလျာကို ချက်ပြုတ်ကျွေးမွေးရန် သင့်မည်ကို ထမင်းချက်က မေးသောအခါ၊ ကဗင်းဒစ်က သိုးခြေတချောင်းဆိုလျှင် တော်ပြီဟု ပြောသည်။ ထမင်းချက်က ဧည့်သည်လေးယောက် လာမည်ဆိုလျှင် သိုးခြေ တချောင်းတည်းနှင့် လုံလောက်မည်မထင်ပါဟု ပြန်ပြောသောအခါ၊ ဒါဖြင့်နှစ်ချောင်းဝယ်ဟု ဖြေလိုက်လေသည်။ကဗင်းဒစ်သည် လိုသည်ထက်ပို၍ ပြောဆိုလေ့ မရှိချေ။

လန်ဒန်မြို့ ကလက်ဟမ် ကွန်မွန်း ရပ်ကွက်ရှိ အိမ်တွင်နေထိုင်သော်လည်း လန်ဒန်မြို့ထဲရှိ ဗလွန်းစဗါရီ ရပ်ကွက်၌ အိမ်တဆောင် ထားလေသည်။ သူ၏စာကြည့်တိုက်ကို ဆိုဟိုးရပ်ကွက်၌ ထားရှိ၍၊တကယ့်စာပေ လေ့လာလိုသူတို့အား မိမိစာအုပ်များကို ထုတ်ငှါးလေ့ရှိသည်။ ကဗင်းဒစ်သည် စည်းကမ်းကြီးသူ ဖြစ်သဖြင့် စာကြည့်တိုက်မှ သူကိုယ်တိုင် စာအုပ်ထုတ်ယူသည့် အခါ၌ပင်၊စာအုပ်ယူကြောင်း လက်မှတ်ဖြတ်ပိုင်းကို အမြဲ ရေးသားထားခဲ့လေသည်။

ကဗင်းဒစ်သည် အသက်ရှင်စဉ် တကိုယ်တည်းသာ နေလိုသကဲ့သို့၊သေသည့်အချိန်၌လည်း တယောက်တည်း ဆိတ်ငြိမ်စွာ သေလိုသူဖြစ်၏။ သေခါနီးတွင် အစေခံကို အခန်းတွင်းမှထွက်စေ၏။ နာရီဝက်အကြာ အခန်းတွင်း ပြန်ဝင်လာသည့်အခါ ကဗင်းဒစ်မှာ သေဆုံးနေလေပြီ။ ထိုနေ့မှာ ၁၈၁၀ ပြည့်နှစ် ဖေဖွာရီလ ၂၄ ရက်နေ့ ဖြစ်ပေသည်။



ကမ္ဘာကျော် သိပ္ပံဆရာကြီး ဟင်နရီ ကဗင်းဒစ်

# တေးဂီတပမာ ဖွဲ့သီထားသော စာပန်းကုံးများ

စာဆိုကဝိတို့သည် မိမိတို့စိတ်၌ ထိတွေ့ခံစားရသော အရသာကို သူတပါးတို့အား ကဗျာလင်္ကာဖြင့် ကူးဆက်ပေး၏။ ထိုကဗျာလင်္ကာကို အဘယ်ပုံ ဖန်တီးကြသနည်း။

**ကဗျာလင်္ကာ**။ ။ကဗျာလင်္ကာ ဟူသည်ကား လူတို့နေ့စဉ်သုံးစွဲ ပြောဆိုနေသော သာမန်စကားများကို တေးဂီတပမာ ပြေပြစ်ချောမောစွာ ချိုသာငြိမ့်ငြောင်းအောင် စီကုံးရေးသားထားသော စာဖြစ်သည်။ ထို့ပြင် ပဒဒေါသ၊ ဝါကျဒေါသစသော ဒေါသတို့မှ ကင်းလွတ်၍ပသာဒဂုဏ် ဩဇဂုဏ် စသော ဂုဏ်တို့နှင့် ပြည့်စုံအောင် ဖွဲ့စီ သီကုံးသမျှသော သက္ကဋဘာသာ မာဂဓဘာသာတွင် ဂါထာ၊မြန်မာဘာသာတွင် လင်္ကာသီချင်းများကို ကဗျာလင်္ကာဟု ခေါ်ဝေါ်ကြသည်။

ကဗျာလင်္ကာကို မြန်မာဘာသာ စာပေသာမဟုတ်၊ ကမ္ဘာပေါ်ရှိ ဘာသာစာပေ အသီးသီးတို့၌လည်း တွေ့ရှိနိုင်သည်။ ထိုသို့ဖြစ်သော် ကဗျာလင်္ကာသည် မည်ကဲ့သို့ စတင်ပေါ်ပေါက်လာသနည်းဟု စဉ်းစားဖွယ်ရှိသည်။ ကဗျာလင်္ကာကို မည်သူကစ၍ ရေးလိုက်သည်ကို ကျွန်ုပ်တို့ အတိအကျ မပြောနိုင်ချေ။ သို့သော် ကဗျာလင်္ကာ မည်သို့စတင်ဖြစ်ပေါ်လာသည်ကိုမူ ခန့်မှန်းချိန်ဆနိုင်ပေသည်။ ကဗျာလင်္ကာဟူသည် တေးဂီတပမာ ချိုသာငြိမ့်ငြောင်းအောင် စီကုံးထားသော စာဖြစ်သည်ဟု အထက်ကဆိုခဲ့ပြီ။ ထို့ကြောင့် ကဗျာလင်္ကာ၏ ရေသောက်မြစ်ဖြစ်သော တေးဂီတများကို ပြန်လည် စဉ်းစားသင့်ပေသည်။ တေးဂီတများ မည်ကဲ့သို့ စတင်ပေါ်ပေါက်လာသနည်း။

ကမ္ဘာလောကကြီး၌ သာယာသောအသံ ဆိတ်သုဉ်းနေသည့်အချိန်ဟူ၍ မည်သည့်အခါကမျှ မရှိခဲ့ချေ။ သတ္တလောကကြီး မဖြစ်တည်မီ၊လောကဓါတ်ကြီး တခွင်လုံး ရေပြင်အတိ ဖုံးလွှမ်းနေသော ကမ္ဘာပျက်နေချိန်၌ပင် ရေယဉ်လှိုင်းတို့ခွပ်သံ၊ လျှပ်စစ်ပြက်၍ မိုးကြိုးထစ်သံ စသောအသံများ ရှိခဲ့ပေသည်။ ထိုနောက် ရေများ ခန်းခြောက်၍မြေပြင် ပေါ်ထွန်းလာသောအခါ၊ လေဖြင့် တိုက်ခတ်အပ်သော ရေလှိုင်းသံသည်၎င်း၊ ပင်ထက်မှ သစ်ရွက် သစ်ခက်ကလေးများလှုပ်ရှားသံသည်၎င်း၊ချောင်းမြောင်း အင်းအိုင်တို့မှ ရေပွက်သံသည်၎င်း၊ပိုးမွှားတိရစ္ဆာန်တို့၏ အော်မြည်သံသည်၎င်း၊ ကျေးငှက်သာရကာတို့၏ ရင့်ရှသံသည်၎င်း၊ အသီးသီး ရှိခဲ့ကြပေသည်။ ထိုအသံများမှာ စင်စစ် သဘာဝ၏ တေးဂီတပင်ဖြစ်လေသည်။ ဂီတသံနှယ်သည့် သာယာငြိမ့်ငြောင်းသော ထိုသဘာဝသံကို ကမ္ဘာဦးသူတို့ အာရုံပြုမိကြသည်။ ကလေးသူငယ်များသည် အိမ်၌မွေးထားသော ကြောင်ကလေး ခွေးကလေးတို့၏အသံကို အတုယူအော်ကြည့်ကြသကဲ့သို့၊ကမ္ဘာဦးသူတို့သည်လည်း ထိုသဘာဝဂီတသံများကို အတုယူကြကုန်သည်။ ဦးစွာ သူတို့အနီးပတ်ဝန်းကျင်ရှိ တိရစ္ဆာန်များအော်သံကို အတုယူသည်။ အထူးသဖြင့် ငှက်ကလေးများ၏အသံကို မတူ တူအောင် လေ့ကျင့်ကြည့်ကြ၏။ ငှက်မြည်သံမှာ လူတို့အတုယူရန် အလွယ်ဆုံးသော အသံဖြစ်လေသည်။

ကမ္ဘာဦးသူတို့သည် တနေ့လုံး အမဲလိုက် ငါးများ စသည်ဖြင့် အစာရှာဖွေခဲ့ရ၍ ပင်ပန်းနွမ်းလျကြသည့်အလျောက်၊ ညချမ်းအချိန်ဝယ် စုဝေးလျက် ကျေးငှက်အသံ၊မိုးသံ၊ လေသံ၊သစ်ပင်သစ်ရွက် လှုပ်ရှားသံစသော သဘာဝ ဂီတသံတို့ကို တယောက်တလှည့်စီ အတုယူအော်မြည်၍ ဖျော်ဖြေကြပေလိမ့်မည်။ အချို့သော သူများကလည်း အနားယူချိန်တွင် မိမိတို့တနေ့တာ ကြုံတွေ့ခဲ့ရသော အဖြစ်အပျက် ဇာတ်လမ်းတို့ကို တဆင့်စကား တဆင့်နားရောက်အောင် ပြောကြားကြပေမည်။ ယင်းသို့ ပြောကြားရာတွင် ပတ်ဝန်းကျင် သဘာဝ ဂီတသံကိုအားကျ၍ ရိုးရိုးစကားနှင့်မပြောဘဲ ဂီတသံနှော‌သည့် စကားလုံးတို့ဖြင့် ကြုံဖန်ပြောသည့်အလေ့ ဖြစ်လာခဲ့ဟန် တူသည်။ ဝိုင်းဖွဲ့ စကားပြောကြရာတွင် ပျော်ရွှင် မြူးတူး ကြသည့်အလျောက်၊ လက်ခုပ်တီးခြင်း၊ခြေဆောင့်ခြင်း၊ စည်းလိုက်ခြင်း၊လေချွန်ခြင်းစသော အမှုတို့ကို ပြုလျက် စကားပြောသူကလည်း ဂီတသံနှယ်သည့် ချိုသာသောစကားများကို ပြောပေလိမ့်မည်။ဤသို့ စကားရိုးရိုးမှ ဂီတသံကိုမှီးလျက် သာယာနာပျော်ဖွယ်ဖြစ်အောင် စီကာပတ်ကုံး ပြောခြင်းသည်ပင်လျှင် ကဗျာလင်္ကာ သန္ဓေစွဲလာနေပြီဟု ဆိုရပေမည်။ သို့သော် ဤသည်ကား နှုတ်ကဗျာသာလျှင် ဖြစ်သေး၏။ စာအက္ခရာ မပေါ်ပေါက်မီကပင်လျှင် လူတို့သည် မိမိတို့စိတ်နှလုံး၌တွေ့ကြုံခံစားမှုတို့ကို ထုတ်ဖော်ပြောဆိုကြသော ကဗျာတေးများရှိခဲ့ကြသည်။ ထို့ကြောင့် အက္ခရာစာများ ပေါ်ပေါက်လာသောအခါ ကဗျာလင်္ကာ အရေးအသားဟူ၍ ပေါ်ထွန်းလာ မည်မှာ ကျိုးကြောင်း ဆက်စပ်ကြည့်က သိနိုင်ပေသည်။

မိမိစိတ်၌ ခံစားမှု၊လှုပ်ရှားမှု၊တွေးကြံမှုတို့ကို သူတပါးစိတ်၌ ထိုနည်းနှင်နှင် တွေ့ကြုံခံစား လှုပ်ရှားလာနိုင်အောင် ကူးဆက်ပေးသောအရာကား ကဗျာလင်္ကာပင်ဖြစ်သည်။ ယင်းသို့ မိမိခံစားရမှုကို သူတပါးကိုယ်တွေ့ခံစားမှုဖြစ်သွားအောင် ကူးပြောင်းပေးရသည်မှာ မလွယ်ကူချေ။

မိမိသိသလို သူတပါးသိအောင်၊မိမိမြင်သလို သူတပါးမြင်အောင်၊ပြစားဖို့ရာ လက်နက်ကောင်းလိုပေသည်။ ထိုလက်နက်ကောင်းကား ကဗျာလင်္ကာတည်းဟူသော တန်ဆာဖြစ်မြောက်အောင် ထောက်မကူညီပေသော အသံကာရန်၊ စပ်ပုံဟပ်ပုံ၊စပုံချပုံ၊အနက်အဓိပ္ပါယ် စသည်တို့ဖြစ်ကြ၏။

ကဗျာလင်္ကာဟူသည် ကာရန်ကလေးများ ဟပ်ထားရုံနှင့် ကဗျာလင်္ကာမြောက်ပြီဟု မဆိုသာချေ။ သဒ္ဒလင်္ကာရ၊ အတ္တလင်္ကာရစသော တန်ဆာများဖြင့် ဝေဝေဆာဆာ ဆင်မြန်းပေးဖို့လိုသေးသည်။ မည်သည့် ဘာသာစာပေ၌ မဆို၊ကာရန်ချိတ်ဆက်ပုံ၊ အသံနေအသံထားယူပုံ၊ အလင်္ကာရသပေါ်အောင်ဖွဲ့ပုံစသော ကဗျာ့ ဥပဒေစည်းကမ်းများရှိပေသည်။ ထိုစည်းကမ်းများဖြင့် စံနစ်တကျ ကုံလုံပြည့်ဝအောင် ဖွဲ့စီသီကုံးတတ်မှသာ ကဗျာလင်္ကာဖြစ်ပေမည်။ ကဗျာစာဆိုသည် ထိုထို လက်နက်ကရိယာများကို မှန်ကန်အောင်သုံးတတ်ပါမှ စာဆိုကိုယ်တိုင် သိရှိခံစားရသော အရသာကို စာဖတ်သူသည် တင်းပြည့်ကျပ်ပြည့် ခံစားနိုင်ပေမည်။ ကာရန်သာညီ၍ ကဗျာ့အရသာမထိမိသော ကဗျာကလေးတပိုဒ်ကို ပုံစံပြလိုသည်။

တို့ကျောင်းတောင်က စိန်ပန်းတော၊

အပျိုလေးတွေ လက်နဲ့ခေါ်လို့၊

ရွှေမုဋ္ဌောတဲ့ တင်ကြရှာ။

ဤ၌ကာရန်ကိုသာ ညီအောင်စပ်ထား၍ အနက်အဓိပ္ပါယ်လုံးဝမပေါ်ခဲ့ချေ။ တော၊ခေါ်နှင့်၊ဌောတို့မှာ ကာရန်ဟပ်မိသော်လည်း လက်နဲ့ခေါ်ဆိုသော စကားမှာ အဓိပ္ပါယ်မရှိချေ။ အတ္တလင်္ကာရ မပေါ်သောစာဖြစ်၏။ ဤသို့ အဓိပ္ပါယ်မရှိသည့် စကားလုံးကိုသုံးခြင်းဖြင့် ဘာသာစကားကို များစွာထိခိုက်ပေသည်။ ကဗျာလင်္ကာသို့လည်း မကျရောက်သည်ကို သတိပြုဖွယ်ဖြစ်သည်။ကာရန်လည်းမိ၊သဒ္ဒလင်္ကာရ၊ အတ္တ လင်္ကာရတို့နှင့် လည်း ပြည့်စုံ၊ ကဗျာ့ အရသာလည်း မြောက်လှသော ကဗျာတပိုဒ်ကို ပုံစံပြဦးအံ့။

လနေအစွန်၊မြေမြေမွန်ဝယ်၊လေသွန်ပင့်မှုတ်၊

ရွက်ရင့်ပြုတ်က၊ကျေးနှုတ်ဖူးဆင့်၊လွတ်ကျူးတင့်သည်၊

နူးခွင့်ခါမှီ၊သရဖီလည်း၊ရာသီသိဆုံး၊စီဘိကုံးသို့၊

တောလုံးလျှမ်းမောက်၊ပန်းပိတောက်မူ၊

နွမ်းခြောက်ကြွေ ရော်၊မချွေသော်လည်း၊

မြေပေါ်အတိ၊ပုံလျက်ရှိ၏။

ဤ၌ ကာရန်များမှာ နှစ်ချက်သုံးချက်ပင် မိအောင် စပ်ဆိုထား၏။ လနှင့်မြ၊နေနှင့်မြေ၊စွန်နှင့်မွန်၊သုံးချက်စလုံးမိ၏။ အနက်အဓိပ္ပါယ်ကား ရှင်းလှ၏။ အခါရာသီအလျောက် လူကမချွေရဘဲနှင့် အလိုလို ပင်ထက်မှ နွမ်းခြောက်ကြွေကျလာသော သရဖီပန်းနှင့် ပိတောက်ပန်းပွင့်တို့မှာ မြေပြင်ပေါ်ဝယ် တပုံတခေါင်းကြီး ပုံလျက်သားဖြစ်နေသည်ကို ကွက်ကွက်ကွင်းကွင်း သိမြင်နိုင်သည်။ ဤ၌ စာဆို ပြသ လိုသော သူ၏ပန်းကမ္ဘာ မြေမွေ့ရာကို စာဖတ်သူသည် စာဆို၏ လက်နက်ကောင်းဖြစ်သော ကဗျာ့အရာမြောက်သည့် စာလုံးကလေးများကို သုံးသပ်ရုံနှင့် စာဆိုမြင်သကဲ့သို့ မြင်နိုင်ပေသည်။

ကဗျာလင်္ကာစပ်ဆိုရာ၌ ကာရန်သာမက မတြာ (မီတာ) ဟုခေါ်သည့် အသံကိုလည်း သတိမူရပေသေးသည်။ ရှည်သော ဒီဃသံ၊ တိုသော ရဿသံ၊ လေးသော ဂရုသံ၊ ပေါ့သော လဟုသံစသည်များကို ညီညာပြေပြစ်အောင် ထည့်သွင်းစပ်ဆိုမှလည်း ကဗျာလင်္ကာမည်ပေမည်။ စာဆိုတို့သည် ကဗျာလင်္ကာဖွဲ့ရာ၌ ကာရန်ရွေးသကဲ့သို့ပင် အသံကိုလည်း ရွေးချယ်ရလေသည်။ ရှည်သောဒီဃသံဖြင့်ဖွဲ့နွဲ့၍ အနက်ပေါ်အောင် ဖေါ်ထားသော အောက်ပါကဗျာလင်္ကာကို ကြည့်နိုင်ပေသည်။

ကြည့်၍မမြင်၊ခေါ်လျှင်မကြား၊အိမ်ရှေ့ဖျားကြောင့်၊

သနားစရာငိုကြွေးရှာ၏။

ဤစာကြောင်း၌ ကာရန်သာ ညီသည်မဟုတ်၊အသံအားဖြင့်လည်း သိမ်မွေ့သည့်အနက်ကို ဖေါ်ထားလေသည်။မြင်၊လျှင်၊ကြား၊ဖျား၊သနား၊စရာ၊ရှာဟူသော ကာရန်များမှာ အသံရှည် အသံလေးများချည်းဖြစ်သဖြင့် ရွတ်ဆိုရာတွင် ဆွဲငင်ရှည်တွဲ၍ စာဆိုပြလိုသော သနားဖွယ်အဖြစ်နှင့် သိမ်မွေ့သည့်အနက်ကို ရှင်းလင်းစွာ မြင်သိနိုင်လေသည်။

အဖန်ဖန်လျှင်၊တသန္ဓေဓေ၊တပေလျှဉ်းလျှဉ်း

တည့်ဦးဆိုးဆိုး၊တည်းလျှလျှ၊တတလွှမ်းလွှမ်း၊တသမ်း

ဟယ်ဟယ်၊တတွယ်တာတာ၊တဟာလှိုက်လှိုက်၊တရှိုက်

ငင်ငင်၊တပင်ပန်းပန်း၊တဝန်းလျှားလျှား။

ဤကဗျာပိုဒ်မှာ သဒ္ဒလင်္ကာရနှင့်ပြည့်စုံလှ၍ အထူးသဖြင့်အသံများကို မဝှရတာဂုဏ်မြောက်အောင် ချိုသာစွာ ဖွဲ့စီထားပေသည်။ အနက်အားဖြင့်လည်းမချို့တဲ့၊ဘာသာစကားလုံးများကိုလည်း ရေလဲနှင့် ဆင့်ထက်ကဲ လှလှကြီးသုံးထားပေသည်။ ကဗျာတွင် ကာရန်ငြိရုံသာ မဟုတ်ဘဲ အသံများကို ဆိုလိုသည့်အဓိပ္ပါယ်နှင့် ညီညွတ်အောင် ရွေးချယ်သုံးထားပုံကို အောက်ပါပုံစံ၌တွေ့ရ၏။

ငါ၏ခွန်အား၊တန်းခိုးများကို၊ထင်ရှားကြည့်ကြ၊
ကေသရသို့၊မဒ္ဒနန်းလုံး၊ရွံကြောက်ချုံးအောင်၊
လက်ရုံးနှစ်ရပ်၊ဖြောင်းဖြောင်းခတ်လျက်၊
ဆင်မြတ်ယဉ်သာ၊ကျောက်ကုန်းမှာလျှင်၊
ပဘာကိုတင်၊မြေပြင်တလင်း၊စစ်ပွဲကျင်းသည်၊
ငါမင်းကုသ လာပြီတည်း။

ဤစာပိုဒ်၏ ကာရန်အသံများကိုကြည့်လျှင် ရှေးဦးစွာ အား၊များ၊ရှားဟူသော ဒီဃသံရှည်ဖြင့်အစပြု၍ ရုတ်ခြည်းပင် ကြ၊ရ၊ဒဟူသော လဟုသံပေါ့တို့သို့ပြောင်းကာ လုံး၊ချုံး၊ ရုံး၊ရပ်၊ခတ်၊မြတ်ဟူသော အသံလေးများဖြင့် သယ်ယူသွားပြီးသော် အသံရှည် သာ၊မှာ၊ကာတို့ထည့်သွင်းလျက် တဖန် ဂရုအသံလေးဖြစ်သော လင်း၊ကျင်း၊မင်းတို့ဖြင့် အဆုံးသတ်ထားလေသည်။ဤတွင် ဂရုသံအသံလေးများ၊ပြတ်တောင်းသော ရဿအသံတိုများ၊ဒီဃသံရှည်များ မျှတစွာအနက်ပေါ်အောင် ဖေါ်စပ်သွားသဖြင့်၊ကုသမင်း၏ ရဲရင့်သော ကြုံးဝါးသံကို စာဖတ်သူတို့၏နားထဲ၌ စာဆိုကြားစေလိုသကဲ့သို့ ထင်ထင်ရှားရှား ကြားနေဘိ၏။ ဤသို့ခံစားရပေသည်။

စာဆို၏စိတ်နှလုံး၌ ခံစားရသော အာရုံများကို သူ၏စကားလုံးအသံများက အဓိပ္ပါယ်ဖေါ်ပေးစေမှသာ ကဗျာလင်္ကာအစစ် ဖြစ်နိုင်ပေသည်။ ကဗျာလင်္ကာ အမျိုးအစားများမှာ ဘာသာစာပေအသီးသီးကိုလိုက်၍ အမျိုးမျိုးကွဲပြားလေသည်။ မြန်မာစာပေတွင် ကဗျာလင်္ကာကို လင်္ကာနှင့်သီချင်းဟူ၍ နှစ်မျိုး ခွဲခြားထားသည်။ လင်္ကာမှာ (၁) လင်္ကာ (၂) ပျို့ (၃)မော်ကွန်း (၄) သံပိုင်း (၅) သမိုင်း (၆) ရဲတင်း (၇) တမ်းချင်း (၈) ဧချင်းသံတိုင် (၉) ဧချင်းသံပေါက် (၁၀) ရတု (၁၁) လူးတား (၁၂) အန် (၁၃) သံပေါက် (၁၄) ဝဲရိုက်ဝဲသွင်းဟူ၍ ၁၄ မျိုးရှိ၏။ သီချင်းတွင် (၁) ရကန် (၂) ဟောစာ (၃) သာချင်း (၄) ကာချင်း (၅) အဲချင်း (၆) အိုင်ချင်း (၇) လေးချိုး (၈) သံချို (၉) ယိုးဒယား (၁၀) ပတ်ပျိုး (၁၁) ကြိုး (၁၂) ဘွဲ့ (၁၃) ဘောလယ်အရိုး (၁၄) တေးအရိုးအဆန်း (၁၅) သဖြန်အရိုးအဆန်း (၁၆) ငိုချင်းအရိုးအဆန်း (၁၇) တုံးချင်းအရိုးအဆန်း (၁၈) ဟန်ချင်းအရိုးအဆန်း (၁၉) လှေချင်းအရိုးအဆန်း (၂၀) နတ်သံ (၂၁) မှာတမ်း (၂၂) ဇာတ်စကားစပ်ပုံဟူ၍ ၂၂ မျိုးပါဝင်သည်။

ကမ္ဘာပေါ်တွင် ပြောဆိုသုံးစွဲကြသော ဘာသာစကားများ ကွဲပြားသော်လည်း ကဗျာ့ဥာဏ် အာဘော်များမှာ မူအားဖြင့် ခပ်ဆင်ဆင်တူသည်ကိုတွေ့ရသည်။ အနောက်နိုင်ငံ၏ ကဗျာလင်္ကာများကိုကြည့်လျှင် အနောက်လောကယဉ်ကျေးမှု၏ဖိုးအေဟု ခေါ်ဆိုရသော ဂရိနှင့်ရောမနိုင်ငံများ၏ အဆက်အနွယ် များကို တွေ့ရပေသည်။ ဂရိစာပေတွင် အော့ဒိဆီခေါ် လင်္ကာကြီးမှာ ရှေးစစ်တိုက်ခန်း၊ စွန့်စားခန်းများကို ဖွဲ့ဆိုထားသဖြင့်၊ထိုလင်္ကာကြီးမျိုးကို အက်ပစ် ရဲတင်းလင်္ကာဟူ၍ ခေါ်ဆိုထားလေသည်။ ထိုလင်္ကာကြီးကို ဥရောပ စာပေတွင် ဘာသာမပြန်ရသေးသော ဘာသာဟူ၍ မရှိချေ။ စာပေ အမွေအနှစ်အဖြစ် ခံယူကြလေသည်။ ကျွန်ုပ်တို့ အရှေ့နိုင်ငံ၌ သက္ကတဘာသာဖြင့် ရေးစပ်ထားသော ရာမယနလင်္ကာကြီးမှာလည်း အက်ပစ်လင်္ကာ အမျိုးအစားပင်ဖြစ်သည်။အော့ဒိဆီနှင့် ရာမယနလင်္ကာကြီးများမှာ ကမ္ဘာတွင် ယခုတိုင် ကျော်ကြားလျက်ရှိလေသည်။

ရာသီဥတု တောတောင် ရေမြေတို့ကို ဖွဲ့ဆိုကြရာ၌ နတ်များပင် ဖန်ဆင်းသကဲ့သို့ရင်း၊မိုးနတ်သား လေနတ်သားစသည်တို့ ထင်ရှားစွာ ရှိသကဲ့သို့ရင်း၊ဖွဲ့ဆိုကြကုန်၏။ ရှေးဂရိလူမျိုးများသည် မိုးဦးကျရာသီ ပန်းများပွင့်သည်ကို ဘုမ္မစိုးနတ်သမီး၏ချစ်သမီး သေမင်းထံမှပြန်လာ၍ ပျော်ရွှင်သော အထိမ်းအမှတ်ဖြင့် ပွင့်လေဟန် ဖွဲ့ဆိုခဲ့လေသည်။ အရှေ့တိုင်းနိုင်ငံ၌လည်း အသူရာနှင့်သိကြားတို့ စစ်တိုက်ကြ၍ မိုးရွာလေဟန် ဖွဲ့ဆိုကြသည်။ ရာသီဘွဲ့၊တောဘွဲ့၊ တောင်ဘွဲ့၊မယ်ဘွဲ့၊မောင်ဘွဲ့စသော အဖွဲ့အမျိုးမျိုးတို့ မြန်မာစာပေ၌ရှိသကဲ့သို့၊အခြားစာပေများ၌လည်း ရှိပေသည်။ထိုထိုအဖွဲ့မျိုးကို ဂရိတိုင်းသားတို့က လစ်ရစ်ဟူ၍ အမည်တပ်ထား၏။ မြန်မာစာပေ၌ တေးထပ်ဟူသော ကဗျာအမျိုးအစားမျိုးကို အနောက်တိုင်းစာပေ၌ ဆွန်းနက်ဟူ၍ တွေ့ရ၏။ ဆွန်းနက်မှာ စာကြောင်းရေ ၁၄ ကြောင်းဖြင့် ကာရန်၊အသံ၊စည်းမှန်အောင် စပ်ဆိုရသော ကဗျာမျိုးဖြစ်၏။ မြန်မာတေးထပ်တွင်လည်း ၁၈ ပိုဒ်ပြည့်အောင် အခံအအုပ် ကာရန်များဖြင့် စံနစ်ကျအောင် ဖွဲ့ဆိုရပေသည်။ ထို့အပြင် မြန်မာအဲချင်း၊အိုင်ချင်း၊တေးအရိုးအဆန်းများနှင့် ခပ်ဆင်ဆင်တူသော အနောက်တိုင်း ကဗျာတမျိုးကို ဗဲလက်ဟုခေါ်ထားကြောင်း တွေ့ရလေသည်။ ဤသို့လျှင် ဘာသာစာပေအမျိုးမျိုး၌ ကဗျာအမျိုးအမည် အမျိုးမျိုးရှိလေသည်။ စပ်ပုံဟပ်ပုံ စည်းစံနစ်နှင့် အမျိုးအမည်များ ကွဲပြားခြားနားသော်လည်း၊ဘာသာစာပေတိုင်း၏ ကဗျာလင်္ကာမှာ သာယာနာပျော်ဖွယ်ဖြစ်အောင် ပညာရှိတို့ ဖွဲ့စီသီကုံးထားသော စာဟုပင် အဓိပ္ပါယ် တညီတည်းရလေသည်။

ပညာရှိများ ဖွဲ့စည်းထားသော ကဗျာလင်္ကာ၏အရသာကို ခံစားနိုင်သောနည်း ရှိပါသလောဟု စဉ်းစားစရာဖြစ်ပေသည်။ ဘာသာစာပေမရွေး ကဗျာလင်္ကာဟူသော အရသာကို သိနိုင်ရန် ခံစားနိုင်ရန် နည်းရှိကြောင်း တွေ့

ရသည်။ချိုချဉ်ခါးဖွယ်တို့၏ အရသာသည် လျှာ၌ထင်၏။ အဆင်းသည် မျက်စိ၌ထင်၏။ ထိုနည်းနှင်နှင့် ကဗျာလင်္ကာ အရသာသည် နား၌ထင်၏။ ဂီတသံများကို နားလည်နိုင်ရန်၊ဂီတအရသာကို ခံစားနိုင်ရန်၊နားကို လေ့ကျင့်ထားရသကဲ့သို့၊ကဗျာအရသာကို သိနိုင်ရန်လည်း နားကိုပင် လေ့ကျင့်ထားရပေမည်။ထို့ကြောင့်လည်း ကဗျာစပ်ဆိုရာ၌ သဒ္ဒလင်္ကာရဂုဏ်ကို ထည့်သွင်းထားပေသည်။ကဗျာဟူသည် စိတ်ထဲကဖတ်ရုံနှင့် အရသာမပြည့်စုံချေ။ သူတပါး အသံထုတ်၍ဖတ်ကြားခြင်းကို နားထောင်ခြင်း၊ကိုယ်တိုင် အသံထွက်၍ဖတ်ခြင်းတို့ကို ပြုမှသာလျှင် ပြည့်စုံသော အရသာ ပေါ်နိုင်လေသည်။ ကဗျာလင်္ကာ အသံများသည် မည်မျှခရီးရောက်သည်ကို အထက်၌ဖေါ်ပြခဲ့ပြီးလေပြီ။ထို့နောက် ကဗျာလင်္ကာဟူသည် စာလုံးစကားများထက် စိတ်အပေါ်တွင် ပို၍တည်သည်ဟုဆိုကြသည်။ စိတ်ကူးသည် ကဗျာလင်္ကာဖြစ်၍ စာ၊စကားစသည်တို့မှာ ထိုစိတ်ကူးကို အကောင်အထည်ဖြစ်စေသော လက်နက်မျှသာ ဖြစ်လေသည်။ ထို့ကြောင့် ဘာသာစကား ကွဲပြားကြစေကာမူ ကဗျာဉာဏ်စိတ်ကူးမှာ အတူတူဖြစ်သည်ကို တွေ့ခဲ့ကြရသည်။ ကျွန်ုပ်တို့၏ မြန်မာစာပေ အလင်္ကာကျမ်းများ၌ ပါရှိသော ဥပစာ၊ရသဂုဏ်တို့မှာ မဂဓဘာသာများမှ ဆင်းသက်ရရှိသကဲ့သို့၊အနောက်တိုင်း ကဗျာစာပေများတွင် ဂရိ ရောမဘာသာတို့မှ ဆင်းသက်လာသော ဥပစာတင်စားနည်း အသုံးအနှုန်းတို့ ရရှိကြလေသည်။ စာပေအမျိုးမျိုးကို နှိုင်းရှည့် လေ့လာ သော အခါ၊ ကဗျာ ဉာဏ် စိတ်ကူး များတူပုံကို တွေ့ရှိကြရသည်။ မြန်မာစာပေသမိုင်းတွင် ရတုအရေး အသား၌ တံခွန်စိုက်ခဲ့သော တောင်ငူဘုရင် နတ်ရှင်နောင်၏ ရတုတပိုဒ်တွင်။

နှစ်ပြိုင်ဖက်ရှာ၊ဝတိံ သာမှ၊စံရာစံထား၊
ရွေးခဲ့ခြား၍၊သိကြားတမျှ၊ပြိုင်လှာသလည်း၊
သော်တာ့ရောင်သွင်၊ကြယ်နှယ်ထင်ဟု၊
သခင်ကကို၊များမိန့်ဆိုလိမ့်။

ဟူ၍တွေ့ရ၏။ ဤနေရာတွင် မိန်းမတဦး၏အလှကို မျက်လုံး၊မျက်ခုံး၊နှာတံ၊ကိုယ်နေကိုယ်ထားစသော အင်္ဂါ အစိတ်အပိုင်းတို့ကို တိုက်ရိုက်ခြီး ကျူးခြင်း မပြု ဘဲ ထို မိန်းကလေး၏ အလှရုပကာကိုဂုဏ်တင်၍ တနည်းလည်း တင်စား၍ သိကြား မင်းစံရာ၊ ဝတိံ သာမှ၊နတ်ကညာ၏ အလှနှင့် နှိုင်းရှည့်လျှင် မိန်းကလေးအလှကပင် သာပေလိမ့်မည်ဟု ဖွဲ့ဆိုထားသည်ကို တွေ့ရသည်။ ဤကား တင်စား ဖွဲ့ဆိုသော နည်းဖြစ်၏။

ရှေးဂရိစာဆို ဟိုးမား ဖွဲ့ဆိုသေါ အော့ဒိဆီ လင်္ကာကြီးတွင်လည်း ဟယ်လင်မိဖုရား လှပပုံကို သင်္ဘောတထောင်ကို စစ်တိုက်ရန် လွှင့်စေသောမျက်နှာဟု တင်စားထားသည်ကို တွေ့ရသည်။ မိန်းကလေးတယောက်၏အလှဂုဏ်မှာ စာဆို၏စိတ်ကူးပေါ်၌ တည်နေပေသည်။ မည်သည့်စာဆိုမဆို စာဆိုသူတို့၏ စိတ်ကူးချင်းမှာ ဆင်ဆင်ပင်ဖြစ်သည်။ သူတို့၏ အတွေးနှင့်အမြင်မှာ သာမန်လူများနှင့်မတူ ထူးခြားနေပေသည်။နံနက်ချိန်ခါ ထွက်ပြူလာသော နေမင်းကြီးကို သာမန်လူ၏မျက်စိတွင် အဝိုင်းသဏ္ဍာန်မှ ဝါဝါ



ရွှေဘိုခရိုင် ကဘိုရွာအနီးမှ မူးမြစ်ရေကိုလွှဲယူထား၍ တခရိုင်လုံး၏ စိုက်ပျိုးရေးအတွက် ဖူလုံစေသော ကဘိုရေလွှဲဆည်

အရောင်များထွက်နေသည်ဟုပင်သာမန်မြင်ပေမည်။ကဗျာ့စာဆို၏မျက်စိ၌ကား ဤသို့ရုန့်ရင်းစွာမမြင်၊ယုက္ကန္ဒိရ်တောင်ထိပ်ဖျားမှ နေရထားစကြာသည် ရောင်မျိုးထွေဖြာ ထွက်ပေါ်လာ၍ ကမ္ဘာသူကမ္ဘာသား အများအား နှုတ်ဆက်သည့်အလားကဲ့သို့ရှိသည်ဟု မြင်ပေမည်။ထို့ကြောင့် ကဗျာကိုကြားနာလေ့လာခြင်းဖြင့် မိမိတို့ကြားဘူးနေကျ စကားလုံးများ၊အသံများနှင့် မြင်ဘူးနေကျ ပုံသဏ္ဌာန်များသည် အသွင်တမျိုးပြောင်း၍ အမြင်သစ်တမျိုး မြင်လာနိုင်ပေသည်။

ကဗျာလင်္ကာ စာပိုဒ်များမှာ လူ၏စိတ်ကို စစ်ခရာသံ တံပိုးသံကဲ့သို့ တက်ကြွလှုံ့ဆော်နိုင်သော သတ္တိလည်းရှိသည်။ လူ၏စိတ်ကို ယိုဖိတ်အောင် ညွတ်နူးစေနိုင်သော သတ္တိလည်းရှိသည်။ ဤသတ္တိတို့မှာ စာဆို၏စိတ်ကူးများသာဖြစ်လေသည်။ ကဗျာလင်္ကာသည် တခမ်းတနား ရှည်လျားစွာဖွဲ့ဆိုထားမှသာ ကဗျာလင်္ကာဖြစ်သည်ဟု မဆိုရချေ။ မည်မျှပင် တိုစေကာမူ၊ကဗျာဂုဏ်မြောက်အောင်ဖွဲ့ဆိုလျှင် ကဗျာလင်္ကာဖြစ်နိုင်သည်။ ကဗျာလင်္ကာမှာ အရသာရှိသော စာပေမျိုးဖြစ်၍ လူ၏စိတ်ကို သူကြိုက်သည့်ဖက်သို့ ယိမ်းယိုင်လာအောင် ဆွဲငင်နိုင်သော သတ္တိထူးလည်းရှိပေသည်။ယင်းသို့ အရသာတွေ့နိုင်သော စာပေ၏ အမျိုးမျိုးသော အရသာတို့ကို ကျွန်ုပ်တို့သိထားဖို့ကောင်း၏။ သာယာမှုမှာ လူ့သဘာဝ၏ အကြိုက်ပင်ဖြစ်ရာ၊သာယာစွာ ဖွဲ့နွဲ့စီကုံးထားသော ကဗျာလင်္ကာကိုလည်း လူတို့ ကြိုက်နှစ်သက် စွဲလမ်းကြပေသည်။ ထို့ကြောင့်ပင်လျှင်

**စာ ပေ ဝတ္ထု၊ ရတုကဗျာ၊ ပျို့လင်္ကာ နှင့်၊ သာသည့် သီချင်း၊**

**အဲစောင်းငြင်းနှင့်၊မကင်းမပြတ်၊ဖတ်ရွတ်လေ့ကျက်၊**

**တ်းမှတ်လျက်သာ၊နေကောင်းစွာ။**

ဟု ဝန်ကြီးပဒေသရာဇာသည် မြွက်ဆိုခဲ့လေသည်။

**ကဘိုရေလွှဲဆည်**။ ။ရွှေဘိုမြို့ မြောက်ဖက်တွင် ရှိသော ထန်းတပင်ဘူတာမှ အနောက်ဖက် ၅ မိုင်ခန့်အကွာတွင် ကဘိုရွာ တည်ရှိသည်။ထိုရွာအနီး၌ မူးမြစ်ရေကို လွှဲယူသော ရေလွှဲဆည်ကို ကဘိုရေလွှဲဆည်ဟု ခေါ်သည်။ ထိုရေလွှဲဆည်မှ အရှေ့ဖက်တွင် ရွှေဘိုတူးမြောင်းသို့ရင်း၊အနောက်ဖက်တွင် ရေဦး တူးမြောင်းသို့ရင်း၊ရေ ပေးသွင်းလေသည်။ တူးမြောင်းများအပေါ် တွင် အမှီပြုနေသည့် ရေသောက်ဧရိယာ ဧကပေါင်း ၃၁၃,၀၀၀ ကို စုစုပေါင်း မိုင် ၃၈၀ မျှ ရှည်လျားသော မြောင်းခွဲ အသွယ်သွယ်တို့ဖြင့် ရေဖြန့်ဖြူး ပေးဝေသည်။

ကဘိုရေလွှဲဆည်၏ ဆည်ထိပ်ကြီးမှာ ရေတံခါးရှင် ၉၁ ခု ရှိသော ၄၅၅ ပေရှည်သည့် ကျောက်ဆည်အပြင်၊တဖက်တချက်တွင် အကျယ် ပေ ၄၀ ရှိသော ရေထုတ်ပေါက်တံခါးကြီး ၄ ခုနှင့် အကျယ် ပေ ၃၀ ရှိသော ရေထုတ်ပေါက်တံခါးကြီး ၂ ခု ပါဝင်သည်။

၁၉၀၆ ခုနှစ်ခန့်က စတင် အသုံးပြုခဲ့သော ရွှေဘိုတူးမြောင်းသို့ ၅ ပေစီမျှကျယ်သည့် အပေါက် ၂၀ ရှိသော ဆည်ထိပ်ရေတံခါးကြီးမှ ရေပေးသွင်းလေသည်။ ၁၉၁၁ ခုနှစ်ခန့်က ဆောက်လုပ်ခဲ့သော ရေဦးတူးမြောင်းကိုမူ ၁၈ ပေ ၄ လက်မစီရှိသော ဝေါလတန်တံခါး ၃ ခုဖြင့် ရေပေးသွင်းလေသည်။ ရွှေဘို၊ရေဦးတူးမြောင်း လုပ်ငန်းကိုကျပ်ပေါင်း ၁,၅၃,၇၈,၀၀၀ အကုန်အကျခံကာ ဆောင်ရွက်ခဲ့သည့်အတိုင်း၊ မြောက်ပိုင်းဒေသ အနည်းငယ်မှတပါး ရွှေဘိုတခရိုင်လုံးတွင် စိုက်ပျိုးရေးအတွက် ရေဖူလုံလေသည်။



**နဂိုအတိုင်း တွေ့ရသော ပုလဲထွက်သည့် ကမာတမျိုး**

**ကမာ**။ ။ကမာသည် အခွံနှစ်ခြမ်းရှိသော ခရုမျိုးဖြစ်၍ ထိုအခွံနှစ်ခြမ်းကို ရုန်းနိုင် ကြံ့ နိုင်သော အကြောတခုက တနေရာတွင် ပတ္တာသဖွယ် ဆိုင်းထားသည်။ယေဘုယျအားဖြင့် အပေါ်ဖက်အခွံသည် ပြား၍၊အောက်ဖက်အခွံသည် ခွက်ပြီးလျှင် ထိုအခွက်ထဲ၌ ကမာ၏ကိုယ်ခန္ဓာတည်ရှိသည်။ ကမာသည် အပူပိုင်းဇုန်နှင့် သမပိုင်း ဇုန်ရှိ ပင်လယ်ကမ်းခြေတလျှောက် ရေတိမ်ရာ အရပ်များတွင် နေထိုင်သည်။ အေးလွန်းသော ဝင်ရိုးစွန်းဒေသရှိ ပင်လယ်ကမ်းခြေများတွင်မူ မတွေ့ရချေ။

ကမာတွင် အရွယ်၊ ပုံသဏ္ဌာန်၊ အလေ့အထ၊ အရသာ၊ အာဟာရဓါတ်အနည်းအများ စသည်တို့ကိုလိုက်၍ အမျိုးပေါင်း တရာကျော်မျှရှိ၏။ (ခရုမျိုး—ရှု။) သို့သော် စီးပွားရေးအရ အရေးအကြီးဆုံးသော အမျိုးများမှာ အမေရိကန်၊

ဥရောပ၊ သြစတြေးလီးယား၊ ဂျပန်၊ ပေါ်တူဂီ၊ တရုပ်၊ပစိဖိတ် ကမ်းခြေနှင့် အိန္ဒိယကမာမျိုးများသာ ဖြစ်သည်။ ပုလဲထွက်သည့် ကမာများမှာ တမျိုးဖြစ်၍၊ရေငန်ကမာမျိုးအပြင် ရေချိုကမာမျိုးလည်း ရှိသေးသည်။ ပုလဲငုပ်သည့် လုပ်ငန်းကို အချို့နိုင်ငံများတွင် အကြီးအကျယ် ပြုလုပ်ကြသည့် အနက်၊မြန်မာနိုင်ငံ၌ မြိတ်နယ်တွင် အတော်အတန် ပြုလုပ်ပေသည်။ ထားဝယ်နယ်တွင်လည်း ဒုတိယကမ္ဘာစစ် မဖြစ်မီက အနည်းအကျဉ်း ပြုလုပ်ခဲ့ဘူး၏။ မြိတ်နှင့် ထားဝယ်ဖက်တွင် ပုလဲငုပ်ခြင်းကို မုတ်ငုပ်သည်ဟူ၍လည်း ဆိုလေ့ရှိကြလေသည်။

ကမာကို လိင်အားဖြင့် နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။ ပဌမအမျိုးမှာ အဖိုနှင့်အမ တလှည့်စီဖြစ်သွားသော အမျိုးဖြစ်၍ ဤအမျိုးတွင် ဥရောပ၊ပစိဖိတ်၊ဂျပန်နှင့် သြစတြေးလီးယားကမာမျိုးတို့ ပါဝင်၏။ဤအမျိုးဝင် ကမာတို့သည် ယေဘုယျအားဖြင့် ရှေးဦးစွာ အဖိုဖြစ်တတ်ရာမှ၊နောင်သော် တနှစ်ပြီးတနှစ် အဖိုနှင့်အမ တလှည့်စီ ဖြစ်သွားတတ်သည်။အချို့မှာ တနှစ်အတွင်း သုံးကြိမ်မျှ လိင်ပြောင်းလဲတတ်သည်လည်း ရှိ၏။ နောက်တမျိုးမှာ ပဌမပေါက်ဖွားချိန်တွင် အများအားဖြင့် အဖိုများဖြစ်ကြရာမှ၊နောက်ပေါက်ဖွားချိန် လွန်မြောက်သောအခါ အဖိုဘဝမှ အချို့လိင်ပြောင်းကာ အမဘဝသို့ ကူးပြောင်းသွားတတ်သည့် အမျိုး ဖြစ်လေသည်။ ဤအမျိုးတွင် အမေရိကန် ကမာတမျိုး၊သြစတြေးလီးယား ကမာတမျိုးနှင့် ဂျပန်မှ ကမာကြီးမျိုးတို့ ပါဝင်ကြ၏။

တဖန် ပေါက်ဖွားကြီးပြင်းပုံကို လိုက်၍လည်း ကမာကို နှစ်မျိုးနှစ်စား ခွဲခြားနိုင်ပြန်သည်။ တမျိုးတွင် ဥနှင့်တကွ ဥမှပေါက်ခါစ သားငယ်များကို မိခင်ကမာ၏ အခွံအတွင်း၌ အတန်ကြာအောင် ထိန်းထားပြီးမှ သားငယ်များကို ရေ၌လွှတ်၍ ကြီးပြင်းစေသည်။ အခြားတမျိုးမှာမူ ဥများကို ရေထဲ၌ တိုက်ရိုက်အုချသော အမျိုးဖြစ်သည်။

ဥမှပေါက်ခါစ သားငယ်များတွင် အခွံမှာ ပါမလာချေ။ သားငယ်တို့သည် ဥမှပေါက်ပြီးနောက်၊နာရီအနည်းငယ်အတွင်း၌ ဟိုဟိုသည်သည် ကူးခတ်ပြီးသော် ထိုနေ့မှာပင် ကိုယ်ပေါ်၌ နှစ်ခြမ်းစပ်အခွံမှာ ဖြစ်ပေါ်လာသည်။ ထိုအချိန်တွင် ဒီရေကြောင့်ဖြစ်စေ၊ ပင်လယ်ရေကြောင်းကြောင့်ဖြစ်စေ၊ကမာပေါက်စတို့သည် တခါတရံ ခရီးဝေးသို့ပါသွားတတ်ကြသည်။ သို့သော်များသောအားဖြင့်ကား ရေအောက်ရှိ အခြား သတ္တဝါများ အစားခံရ၍ သော်၎င်း၊ ညွန်တွင်နစ်၍ သေဆုံးခြင်းကြောင့် သော်၎င်း၊ အနည်းငယ်သာ အသက်ရှင်ကျန် ရစ်လေ့ရှိပေသည်။ အသက်မသေကျန်နေခဲ့သော သားငယ်အချို့သည် ရက်သတ္တပတ် အနည်းငယ် ကြာသောအခါ ရေအောက်ရှိကျောက်ဆောင်ကျောက်တုံး စသည်တို့၌ ထာဝစဉ် တွယ်ကပ်ကြတော့၏။ ထိုသို့ တွယ်ကပ်မိပြီးနောက် မကြာမီပင် ရေထဲ၌ ကူးခတ်သွားလာနိုင်သော အင်္ဂါအစိတ်အပိုင်းများနှင့် ခြေထောက်များလည်း ပျောက်ကွယ်သွားလေသည်။ ကမာတကောင်သည် ပေါက်ပွားချိန်တချိန်အတွင်း၌ အကောင်ကလေးများကို သိန်းသန်းနှင့်ချီ၍ ပေါက်ဖွားနိုင်သည်။ အရွယ်ကြီးသော



မြန်မာနိုင်ငံ မြိတ်ပင်လယ်ကမ်းခြေတွင် ဆလုံအမျိုးသမီးတဦး အသားစားရသည့်ကမာကိုထုခွဲ၍ အသားထုတ်နေစဉ်

အမျိုးဖြစ်က ပိုမိုများပြားစွာ ပေါက်ဖွားနိုင်၍၊သားငယ်တို့သည် နွေးသောဒေသများ၌ ပို၍လျင်မြန်စွာ ကြီးပြင်းလွယ်လေသည်။

ကမာတို့၏ အစာမှာ ရေအောက်ရှိ မျက်စိဖြင့် မမြင်နိုင်လောက်အောင် သေးငယ်သည့် အပင်နှင့် ရေပိုးရေမွှားများဖြစ်ကြ၍၊ပတ်ဝန်းကျင် ရေနွေးလျက်ရှိချိန်တွင် အစာကိုအများဆုံးစားနိုင်ကြသည်။ ဆောင်းတွင်း၌ ရေ၏အပူချိန်အလွန်လျော့သွားသောအခါ အချို့မှာ အစာအစားရပ်၍မလှုပ်မရှက် ဆောင်းအောင်းသွားတတ်ကြသည်။

ကမာတို့၏ အစာတွင် အာဟာရဖြစ်စေတတ်သော သံဓါတ်နှင့် ကြေးနီဓါတ် မြောက်မြားစွာ ပါဝင်၏။ ထို့ကြောင့်လည်း သွေးအားနည်းသူများအား ကမာကောင်များကို ကျွေးမွေးခြင်းဖြစ်ပေသည်။ ကမာတွင် အိုင်အိုဒင်း၊ ပရိုတင်း၊ကာဗိုဟိုက်ဒရိတ်၊ဖော့စဖေါရပ်နှင့် ကယ်လဆီယမ်ဓါတ်များအပြင်၊အရေးကြီးသော ဗီတာမင်ဓါတ်များလည်းပါဝင်သည်။

ကမာတို့၏ ကြီးထွားမှုသည် အဓိကအားဖြင့် မိမိတို့နေထိုင်ရာ ရေ၏အပူချိန်၊အစာအနည်းအများနှင့် ရာသီ




**ဟင်းလျာကမာ၏ အသားတွင်ပါရှိသော ပစ္စည်းများနှင့် ယင်းတို့၏ အချိုးအစားများ**

ဥတုတို့အပေါ်တွင် တည်ပေသည်။အများအားဖြင့် နွေးသောဒေသများတွင် ကြီးလွယ်ကြ၏။ ကမာကောင်တို့၏ အရွယ်မှာ အမျိုးကိုလိုက်၍ ၂ နှစ် ၃ နှစ်အတွင်း တလက်မခွဲမှ ၅ လက်မအရွယ်ခန့်အထိ ရှိသည်။ ဖမ်းဆီး စားသောက်ခြင်း မပြုဘဲထားလျှင် ထိုထက်ကြီးထွားနိုင်၍၊အမေရိကန်ကမာမျိုးထဲ၌ ၁၄ လက်မအထိ ကြီးထွားသည်ပင် ရှိဘူးသည်။ ကမာတို့၏ သက်တမ်းကိုလည်း အတိအကျ မပြောနိုင်ပေ။ သို့သော် အမေရိကန်ကမာမျိုးထဲ၌ ၂၅ နှစ်ကျော်အသက်ရှင်ဆဲဖြစ်သော ကမာများကိုတွေ့ရသည်။



**သဘာဝပုလဲသည် ကမာကောင်အတွင်း၌ ဤသို့တည်ရှိ၏။**

ကမာတို့တွင် အသက်ရှင်နေသမျှ ကာလပတ်လုံး ရန်သူပေါင်းများစွာနှင့် အမြဲတွေ့ကြုံနေကြရပေသည်။အခွံမာမဖုံးမီ ရေထဲ၌ ကူးခတ်သွားလာနေဆဲ သားငယ်ဘဝတွင်သာ ရန်သူရှိသည် မဟုတ်၊အခွံမာဖုံးပြီးနောက် ကြီးပြင်းသည့် အရွယ်တွင်လည်း ရန်သူများရှိသည်။ သားငယ်ဘဝတွင် ငါးနှင့်တကွ အခြားရေသတ္တဝါများအပြင် ကမာကြီးတို့၏ အစားကိုခံရ၏။ ကြီးပြင်းသည့်အရွယ်တွင်မူ အချို့ငါးမျိုးက ကမာခွံကို ဟ၍သော်၎င်း၊အချို့က အခွံကိုကိုက်ဖေါက်၍သော်၎င်း၊ကမာ၏အသားကို စားသောက်တတ်ကြ၏။ ထိုသို့ အစားခံရသဖြင့် တနှစ်တနှစ်တွင် ရောင်းဝယ်ဖေါက်ကားနိုင်သည့် ကမာပေါင်း များစွာပင် ဆုံးရှုံးရသည်။

ကမ္ဘာ့အရပ်ရပ်၌ ငွေအားလူအားဖြင့် ကမာလုပ်ငန်းကို အကြီးအကျယ် ပြုလုပ်နေကြရာတွင် ပုလဲရရှိရေးထက်၊ လူတို့စားသုံးရန် ဟင်းလျာအတွက် လုပ်ခြင်းက ပို၍ကြီးကျယ်သည်။ ကမာလုပ်ငန်းကို နိုင်ငံပေါင်း ၃၀ ကျော်တွင် လုပ် ကိုင် လျက်ရှိကြသည့်အနက်၊အမေရိကန်ပြည်ထောင်စု၊ ပြင်သစ်၊ ဟော်လန်၊ ဗြိတိသျှ ကျွန်း စု၊ ဩစတြေး လီး ယား၊ ဒိန်း မတ်၊ ဂျပန်၊ နယူး ဇီလန်၊ က နေဒါ နှင့် မက္ကဆီကို တို့မှာ အကြီးကျယ်ဆုံးဖြစ်၍၊အများဆုံးထွက်သောနိုင်ငံမှာ အမေရိကန်ပြည်ထောင်စုဖြစ်သည်။ တနှစ် တနှစ် တွင် တကမ္ဘာလုံးမှ ကမာပေါင်းချိန် ၁၂ ကုဋေမျှထွက်၍၊အမေရိကန်ပြည်ထောင်စု တနိုင်ငံတည်းမှထွက်သည့် ပေါင်ချိန်မှာ ၁၀ ကုဋေကျော်သည်။

ကမာလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်သည့် နိုင်ငံများမှာပင် ကမာကောင်များကို အကြီးအကျယ် စံနစ်တကျမွေးမြူကြသည်။ ဤသို့မွေးမြူရာတွင် အဓိကအားဖြင့် လေးဆင့်ရှိ၍၊ ထိုအဆင့်လေးဆင့်မှာ ကမာများ ပေါက်ပွားနေထိုင်ရန် အောက်ခံမြေကို မာကျောအောင်အပြင် အမှိုက်သရိုက်နှင့် ရန်သူများကင်းရှင်းအောင် ပြုပြင်စီမံပေး

ရခြင်း၊ကမာကောင်များ စွဲကပ်ရန်အတွက် သန့်ရှင်းသော ကမာခွံများ ကျောက်တုံးများ သစ်ခက်များကို ချပေးရခြင်း၊ကြီးပြင်းလွယ်အောင် ပြုပြင်ထားသော နေရာသစ်သို့ ပြောင်းရွှေ့ပေးရခြင်းနှင့် ဖွံ့ဖြိုး၍ ရောင်းပန်းလှအောင် ပြုစုပေးရခြင်းတို့ ဖြစ်သည်။

ကမာမွေးမြူသည့် လုပ်ငန်းကို ယခုမှမဟုတ်၊ရှေးပဝေဏီကပင် စတင်ခဲ့ကြသည်။ တရုပ်နိုင်ငံ၌ အလွန်ရှေးကျသော အခါတပါးက၊ဤလုပ်ငန်း ထွန်းကားခဲ့ဘူး၍ ဣတလီနိုင်ငံ၌ ဘီစီ ၁၀၀ လောက်တွင် စတင်ခဲ့လေသည်။

တခုသတိပြုရန်မှာ ကမာတို့သည် ရေအောက်၌နေစဉ် ကမာကောင်တို့၏ အတွင်းသား၌ လူတို့အား ရောဂါဖြစ်စေနိုင်သည့် ဗက်တီးရီးယားများ စွဲကပ်ပါလာတတ်ရာ၊ ထိုကမာမျိုးကို စားသုံးမိသူများ ရောဂါရတတ်သည်။ထို့ကြောင့် ကမာကို ရောင်းကုန်ဟင်းလျာအဖြစ်နှင့် အကြီးအကျယ် မွေးမြူရောင်းချသော နိုင်ငံတို့တွင် ကမာကောင်များနေထိုင်ရာ ရေမှအစပြု၍ ကမာကောင်များကို အခွံမှခွာယူသည်အထိ ကျန်းမာရေးဌာနမှ အမြဲတစေ ကျပ်တည်းစွာ စမ်းသပ်စစ်ဆေးလျက် ရှိပေသည်။

**ကမီယိုပန်းပြောက်။** ။လူတို့ အဆင်အယင်တန်ဆာအဖြစ် အသုံးပြုကြသော ပစ္စည်းအမျိုးမျိုးတွင်၊မိမိတို့ နှစ်သက်ရာ ကိုးကွယ်ရာ အထိမ်းအမှတ်ပြုရာ ရုပ်ပုံများကို အကြွထွင်းထုထားသော ကျောက်မျက်ဖြင့် ပြုလုပ်သည့် ပစ္စည်းများလည်း ပါဝင်လေသည်။ ထိုကျောက်မျက်များကို 'ကမီယို' ဟု ခေါ်၍၊အချိုင့်ထွင်း ကျောက်မျက်များကို 'အင်တဲလယို' ဟု ခေါ်သည်။

ကမီယိုပန်းပြောက်ကို သုံးသော အလေ့အထသည် လူတို့တွင် ရှေးအခါမှစ၍ ရှိခဲ့၏။ ရှေးက ကျောက်မျက်များတွင်သာမက ယောက်သွားခွံများ၊ခရုခွံများ၊ကနုကမာများပေါ်တွင်လည်း ပုံကြွများ ဖော်၍ဝတ်ဆင်ခဲ့ကြသည်။ ကျောက်မျက်များကို ပုံကြွ ဖော်ရာတွင် အရောင် နှစ်မျိုးသုံးမျိုးထပ်လျက်ရှိသောကျောက်မျက်များသည်အလွန်ကောင်း၏။အပေါ်ယံ အရောင်တွင် လိုရာပုံစံကိုထုလုပ်၍မလိုသော အပိုင်းကို ထွင်းပစ်လိုက်သောအခါ၊အောက်ထပ်ရှိ အရောင်သည် နောက်ခံကားသဖွယ် ဖြစ်နေပေသည်။ အရောင်တမျိုးတည်းရှိသော ကျောက်မျက်များပေါ်တွင် ပြုပြင်ဖန်တီးထားသော ကမီယိုပန်းပြောက်သည် ရောင်ကွဲ ကျောက်မျက်များမှာကဲ့သို့ မလှပချေ။

ရှေးဟောင်းဆူမာလူမျိုးတို့၏ခေတ်မှရောမနိုင်ငံတော်ကြီးယိမ်းယိုင် ပြိုကွဲချိန်အထိ ကမီယို ပန်းပြောက်များသည် များစွာ ခေတ်စားခဲ့သည်။ ထိုနောက် အတတ်ပညာပြန်လည်ဆန်းသစ်ခေတ် ဖြစ်သော ခေတ်ဆန်းချိန်မှ ယနေ့တိုင်အောင် ကမီယိုပန်းပြောက်ကို အသုံးပြုလာကြသည်။



မဟူရာကျောက်တမျိုးပေါ်တွင် ကမီယိုပန်းပြောက်အတတ်ဖြင့် အကြွထွင်းထုထားသည့် လက်ရာကောင်းတခု

ကမီယိုပန်းပြောက်အတတ်မှာ ပန်းပု ရုပ်လုံးထွင်းခြင်းအတတ်၌ အကျုံးဝင်သော်လည်း၊ သေးငယ်သော ကျောက်မျက်တို့အပေါ်တွင် အလွန် နုနယ်စွာ ပုံဖော်ယူရသဖြင့် သီးသန့် အနုပညာရပ်ဖြစ်ပေသည်။

**ကမဲလီယားပင်။** ။ကမဲလီယားပင်သည် လက်ဖက်ပင်မျိုးဖြစ်သော 'သီယေးစီး' မျိုးရင်းတွင် ပါဝင်သည်။ မျိုးစိတ်ပေါင်း ၁၀ မျိုးခန့်ရှိသည်။ ထိုအပင်မျိုးမှာ တရုပ်၊ ဂျပန်နှင့် အိန္ဒိယနိုင်ငံတို့တွင် ကနဦးပေါက်၍၊ ၁၇၃၉ ခုနှစ်တွင်မှ အင်္ဂလန်ပြည်သို့ မျိုးယူ စိုက်ပျိုးလေသည်။ ထိုအချိန်က ခရစ်ယန်ဘုန်းကြီးတပါးဖြစ်သူ ဂျိုးဇက် ကမဲကထိုအပင်အကြောင်းကို စတင် ဖော်ပြသဖြင့်၊ထိုဘုန်းကြီးကိုအစွဲပြု၍ ကမဲလီယား ဟုအမည်ပေးထားသည်။

ကမဲလီယားပန်းမှာ ချစ်စဖွယ်ကောင်းသော ပန်းမျိုးဖြစ်သည်။ ထိုပန်းကို 'ဂျပန်နှင်းဆီ' ဟူ၍လည်း ခေါ်၏။ သို့ရာတွင် အင်္ဂလိပ်နှင်းဆီကဲ့သို့ အနံ့မရှိချေ။ ထိုပန်းပင်များသည် အမြဲစိမ်းလန်းသောချုံဖုတ် သို့မဟုတ် သစ်ပင်များပေါ်တွင် ပေါက်ရောက် ကြသည်။ အရွက်များမှာ ထူ၍ နက်ပြောင်သည်။ အပင်ရိုင်းအဖြစ်နှင့်ရှိစဉ်တွင် နှင်းဆီရိုင်းများကဲ့သို့ အနီရောင်အပွင့်များပွင့်သည်။ စိုက်ပျိုးသော အမျိုးအစားမှာ အရေအတွက် ၂ ဆ ၃ ဆခန့် ပို၍ပွင့်ကြသည်။ အထူးသဖြင့် ပွင့်ဖြူများသာ ဖြစ်သော်လည်း၊ပွင့်ဝါမှစ၍ အနီရင့်ရောင်များအထိ အရောင်အမျိုးမျိုးကွဲပြားသည်။

အချို့အမျိုးအစားမှ ရသောအစေ့တွင် ဆီမြောက်မြားစွာပါရှိ၍၊အရှေ့နိုင်ငံများ၌ ရောင်းဝယ်လေ့ရှိသည်။

# သုခနေ ဒွေးမယ်နော်တို့ စံပျော်ရာဒေသ

လူသူ အရောက်အပေါက် နည်းသော်လည်း မြန်မာစာပေတွင် ငွေတောင်ပြည်ဟု ထင်ရှားခဲ့သည့် ကယားပြည်နယ်ကို မြန်မာနိုင်ငံ လွတ်လပ်ရေး မရခင်က ကရင်နီနယ်ဟု ခေါ်တွင်ခဲ့သည်။ ကယားပြည်နယ်သည် မြေပေါ် မြေအောက် သယံဇာတ ပစ္စည်းများဖြင့် ပြည့်ဝသည့်အလျောက် ရှေ့သို့ တိုးတက်ကြီးပွားမည့် အရိပ်အရောင်များ တဖွားဖွား ပေါ်ပေါက်လျက် ရှိလေသည်။

**ကယားပြည်နယ်။** ။ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင်ပါဝင်သော ကယားပြည်နယ်သည် ရှမ်းပြည်နယ် တောင်ဖက်၊ကရင်ပြည်နယ်၏ အရှေ့ဖက်နှင့် မြောက်ဖက်၊ မြောက်ဖက် လတ္တီတွဒ် ၁၈.၅၀ ဒီဂရီနှင့် ၁၉.၅၅ ဒီဂရီ နှင့် အရှေ့ဖက် လောင်ဂျီတွဒ် ၉၇.၁၀ ဒီဂရီနှင့် ၉၇.၅၀ ဒီဂရီ တို့၏ အကြားတွင် တည်ရှိ၏။ မြောက်ဖက်တွင် ရှမ်းပြည်နယ်၏ မိုးဗြဲ၊သထုံ၊မောက်မယ်နယ်များ၊ အနောက်ဖက်တွင် မိုးဗြဲနယ်နှင့် ကရင်ပြည်နယ်၏ သံတောင်နယ်၊ တောင်ဖက်တွင် ကရင်ပြည်နယ်၏ သံလွင်ခရိုင်နှင့် အရှေ့ဖက်တွင် ယိုးဒယားနိုင်ငံတို့ ရှိသည်။ကယားပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၄,၈၂၀ ခန့် ဖြစ်၏။

## လူဦးရေနှင့် လူမျိုးများ

၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ ကယားပြည်နယ်၏ လူဦးရေမှာ ၇၀,၄၉၃ ရှိ၏။ စတုရန်းတမိုင်လျှင် ၁၅ ယောက်မျှသာ ရှိသည်။ ရှမ်းပြည်နယ်၊ကရင်ပြည်နယ်နှင့် ယိုးဒယားနိုင်ငံတို့ ရံလျက်ရှိသည့်ပြင်၊ပြည်မနှင့် နီးစပ် ဆက်သွယ်နေသောကြောင့်၊ ကယားပြည်နယ်နေ ပြည်နယ်သား တို့တွင် လူမျိုးအသီးအသီး ပါဝင်သည်ကို တွေ့ရသည်။ ထိုလူဦးရေအနက် ကယားအမျိုးသား ဦးရေမှာ အများဆုံး ဖြစ်သည်။ ရှမ်းအမျိုးသား၊အင်းသား၊ ပအိုဝ်အမျိုး သားနှင့် အခြား တောင်ပေါ်သားများဖြစ်သော ပရဲ၊ဂေခိုး၊မနုမနော၊ ဘွဲ၊ပဒေါင်၊ယင်းဘော်၊ယင်းတလဲ၊ပကူး စသော လူမျိုးများ အပြင် မြန်မာနှင့် ယိုးဒယားလူမျိုးများလည်း ရှိသေးသည်။

## မြေမျက်နှာသွင်ပြင်

ကယားပြည်နယ်မှာ ကန္တာရဝတီနယ် (စတုရန်းမိုင် ၃,၀၀၀)၊ ကြယ်ဖိုးကြီးနယ် (စတုရန်းမိုင် ၇၀၀)၊ ဘောလခဲနယ် (စတုရန်းမိုင် ၃၀၀)၊ နန်းမယ်ခုံနယ်နှင့် နောင်ပုလဲနယ်တို့ကို စုပေါင်းဖွဲ့စည်းထားသော ပြည်နယ်ဖြစ်သည်။ သာမန် အားဖြင့် ပြည်နယ်ကို အရှေ့ပိုင်းနှင့် အနောက်ပိုင်းဟု နှစ်ပိုင်းခွဲနိုင်သည်။ အရှေ့ပိုင်းတွင် ကန္တာရဝတီနယ်ရှိ၍ အနောက်ပိုင်းတွင် ကျန်နယ်များရှိသည်။

ပထဝီဝင်အားဖြင့်ဆိုသော် ကယားပြည်နယ်မှာ ရှမ်းကုန်းပြင်မြင့်၏ တောင်ဖက်အဆွယ်ပင် ဖြစ်သည်။ မြင့်မားသော တောင်ကုန်း တောင်တန်းတို့က များပြား၍ မြစ်ဝှမ်းမြေပြန့်တို့က နည်းပါးပေသည်။

ကယားပြည်နယ်၏ အရှေ့ပိုင်းတွင် သံလွင်မြစ်ဝှမ်းနှင့် ပွန်ချောင်းဝှမ်းတို့ ရှိ၏။ အနောက်ပိုင်းမှာ ဘီလူးချောင်း၏ တောင်ဖက် ချောင်းဝှမ်းဒေသဖြစ်သည်။ အရှေ့ပိုင်းတွင် မြင့်မောက်သော တောင်တန်းကြီးများ၊ နက်ရှိုင်းသော ချောက်များ၊ချိုင့်ဝှမ်းများ၊လျှိုမြောင်များရှိသည်။ မယ်စဲ့၊ ရွာသစ်၊ရှားတော၊စောလုံ စသော ကွက်၍ပေါ်ပေါက်နေသည့် မြေပြန့်တို့မှတပါး ကျန်ဒေသအားလုံးမှာ တောတောင် ချောက်မြောင် များသာ ဖြစ်ကြ၏။

အနောက်ပိုင်းဖြစ်သော ဘီလူးချောင်း တောင်ဖက်ဒေသမှာ အတော်အတန် ပြန့်ပြူး၍ ရေမိုးပေါများသည်။ အချို့ဒေသမှာ ညွန့်ပြင်များပင် ဖြစ်နေသည်။ ဤမြစ်ဝှမ်း၏ အရှေ့ဖက်ဒေသတွင် လွယ်ကော်နှင့် ငွေတောင်ဒေသတို့ တည်ရှိ၍ အနောက်ဖက်ပိုင်းတွင်မူ နောင်ပုလဲ၊နန်းမယ်ခုံနယ်များ ရှိသည်။ ဤဒေသ၏ တောင်ဖက် တဆက်တည်းဖြစ်သော ပွန်ချောင်းနှင့် ယင်း၏ လက်တက်ဖြစ်သော



ကယားပြည်နယ် ကန္တာရဝတီမြို့ဦး မော်ကွန်းတိုင်



ရှေးက ငွေတောင်ပြည်ဟု အမည်တွင်ခဲ့သော ကယားပြည်ရှိ ထင်ရှားကျော်ကြားသည့် ငွေတောင်စေတီ

ထူးချောင်းတို့ စပ်ကြားဒေသတွင် ပြန့်ပြူးသော ကုန်းမြင့်များရှိလေသည်။

ပြည်နယ်မှာ တောင်ထူထပ်လှသည်။ ပွန်ချောင်းနှင့် သံလွင်မြစ် စပ်ကြားရှိ တောင်တန်းတို့မှာ ပျမ်းမျှခြင်းအားဖြင့် ပင်လယ်ရေပြင်ထက် ပေ ၅,၀၀၀ မျှ မြင့်သည်။ သံလွင်မြစ် အရှေ့ဖက်ရှိ လွယ်လင်တောင်တန်းမှာမူ အမြင့်ဆုံးနေရာ၌ ပေ ၇,၀၀၀ ကျော်ရှိ၍ ပြည်နယ်ကို ယိုးဒယားနိုင်ငံနှင့် ခွဲခြားထားသည့် တံတိုင်းကြီးသဖွယ် တည်နေပေသည်။

ဘီလူးချောင်း၏ အနောက်ဖက်တွင် တောင်မြင့်တန်းတခု ရှိသေးသည်။ ဤတောင်မြင့်တန်းမှာ မြေလတ်ဒေသကုန်းမြင့်၏ အဆက်ပင်ဖြစ်သည်။ ထိုတောင်မြင့်တန်းတွင် မင်းသမီးတောင်ဟု အမိပ္ပါယ်ရသော ပေ ၅,၀၀၀ မျှမြင့်သည့် လွယ်နန်ဖ တောင်ထိပ်ရှိသည်။ ရှေးမြန်မာစာပေနယ်တွင် ထင်ရှားသော ငွေတောင်ပြည်အနီး၌ ငွေတောင်နှင့် ရွှေတောင်တို့ ရှိသည်။ ထိုတောင်တို့မှာ ကယားပြည်နယ်သူတို့ အထူး ကိုင်းရှိုင်း လေးစားကာ အမြတ်တနိုးထားသော တောင်များပေတည်း။

ပြည်နယ်အတွင်း ဖြတ်စီးသော မြစ်တို့တွင် သံလွင်မြစ်မှာ အကြီးဆုံးဖြစ်သည်။ မြောက်ဖက် မောက်မယ်နယ်မှ စီးလာ၍ ပြည်နယ်အရှေ့ပိုင်း ကန္တာရဝတီနယ်ကို မိုင် ၁၀၀ မျှ ဖြတ်သန်းကာ တောင်ဖက် ဖါပွန်ခရိုင်အတွင်းသို့ စီးဆင်းသည်။ သံလွင်မြစ်၏ ဤအပိုင်းတွင် လှေကြီးများပင် သွားလာနိုင်၏။ ပြည်နယ်အတွင်း စီးဝင်သော သံလွင်မြစ်၏ လက်တက်တို့မှာ လက်ဝဲဖက်တွင် မယ်စတယ်၊မယ်လယု၊ မယ်ပိုင်၊ မယ်ဖ၊ မယ်စဲ့ချောင်းများဖြစ်၍ ယိုးဒယားနိုင်ငံမြောက်ပိုင်းတွင် မြစ်ဖျားခံကြသည်။ လက်ျာဖက်တွင် ပွန်ချောင်း၊ ခဲမဖြူချောင်း၊ နန်းငနှင့် နန်းဖဲချောင်းများ စီးဝင်ကြသည်။

ဘီလူးချောင်းမှာ အင်းလေးကန်တွင် မြစ်ဖျားခံ၍ ရှမ်းပြည်တောင်ပိုင်း ညောင်ရွှေမိုးဖြစ်သော နယ်များကို ဖြတ်ကာ ပြည်နယ်တွင်းသို့ အနောက်မြောက် ဒေသဆီမှ စီးဝင်လာသည်။ ဤချောင်းပေါ်တွင် လွယ်ကော်မြို့ တည်ရှိသည်။ တောင်ဖက်သို့ ရောက်သော် မြေအောက်တွင် ချောင်းရိုးပျောက်သွားသော်လည်း ပွန်ချောင်းတွင်းသို့ စီးဝင်လေသည်။ ဤချောင်းမှာ ကိုက် ၅၀ မျှကျယ်၍ ၁၀၀–၁၅၀ ဝင် လှေများ သွားလာနိုင်သည်။ ပွန်ချောင်းမှာ ရှမ်းပြည်တောင်ပိုင်း သထုံနှင့် မောက်မယ်နယ်တို့၏ စပ်ကြားမှ ကန္တာရဝတီနယ်အတွင်းသို့ စီးဝင်သည်။ မိုင် ၈၀ မျှ စီးပြီးသော် ဖါးစောင်း၏ အထက်တွင် သံလွင်မြစ်တွင်းသို့ စီးဝင်သည်။ ဤချောင်းမှာ ကျောက်ဆောင် ကျောက်တုံးကြီးများဖြင့် ပြည့်နှက်နေရကား ရေစီးမသာပေ။ လှေများ သွားလာခြင်း မပြုနိုင်သည်သာမက သစ်မျောရာ၌ပင် ကျောက်ဆောင်များတွင်တင်နေတတ်၍ ဆင်များဖြင့်ဆွဲချရသည်။ ဤချောင်းမှာ ကိုက် ၁၀၀ မျှကျယ်၍ မိုးပ ကာလတို့တွင် ခြေလျင်ဖြတ်ကူးနိုင်သည်။ ယင်း၏ လက်တက်မှာ ထူးချောင်းဖြစ်၏။

ကယားပြည်နယ်၏ ဆိုရိုးစကားတခုမှာ ' ဖါးအော်မှ မိုးရွာ၊မိုးရွာမှ ငါးမော့၊ငါးမော့မှ ရေကြီး၊ရေကြီးမှ ဆင်ဆွဲ၊

ဆင်ဆွဲမှ သစ်ကျ၊သစ်ကျမှ ပြည်ဝ ' ဖြစ်သည်။ ဤစကားအရပင် ကယားပြည်နယ်၏ အရေးအပါဆုံးသော စီးပွားရေးလုပ်ငန်းမှာ သစ်လုပ်ငန်း ဖြစ်ပေသည်။ အဖိုးအတန်ဆုံးသော သစ်တောတို့မှာ သံလွင်မြစ်၏ အရှေ့ဖက်ကမ်းတွင် ရှိသည်။ ပွန်ချောင်း ကမ်းတဖက်တချက်ဒေသ၊ထူးချောင်းဝှမ်း၊ကြယ်ဖိုးကြီးနှင့် ဘောလခဲနယ်တို့တွင်လည်း အနည်းနှင့်အများ သစ်တောများ ရှိသေး၏။ ကန္တာရဝတီနယ် သံလွင်မြစ် အရှေ့ဖက်ကမ်းဒေသရှိ သစ်တောတို့မှာ တနှစ်လျှင် သစ်လုံးရေ ၂၀,၀၀၀ မျှပင် ထွက်နိုင်သည်ဟု ခန့်မှန်းရ၏။ နှစ်စဉ် သစ်လုံး ၉,၀၀၀ မျှသာ ထုတ်ယူပါမူ သစ်တောကို မည်သို့မျှ ဆုတ်ယုတ် ထိခိုက်စေမည်မဟုတ်ဟု သစ်တောကျွမ်းကျင်သူတို့က ခန့်မှန်းကြ၏။ နှစ်ရှည်လများ နှစ်စဉ်ဆက်၍ ထုတ်သွားနိုင်မည်ဟု ဆိုလိုပေသည်။ ကျန်သစ်တောများမှ ထုတ်ယူနိုင်မည့် သစ်လုံးဦးရေမှာ မဆိုစလောက်ပေ။ ဗြိတိသျှတို့ လက်ထက်ကပင် ကယားပြည်နယ်သည် လွတ်လပ်ခဲ့သဖြင့် အစိုးရအနေဖြင့် သီးသန့်ထားသော ကြိုးဝိုင်းသစ်တောများ မရှိပေ။ ကျွန်းသစ်အပြင် ပျဉ်းကတိုး၊ သစ်ကတိုး၊ အင်၊ သစ်ယာ၊ အင်ကြင်း၊ ထင်းရှူးနှင့် အခြားသစ်ရိုင်းများ ပေါက်ရောက်သည်။

သစ်တောများမှ သစ်အပြင် ရှားနှင့် ချိပ်တို့ကိုလည်း ထုတ်ယူကြသေးသည်။ ရှားပင်တို့မှာ ပွန်ချောင်းဝှမ်းတွင် အများအပြား ပေါက်ရောက်၏။ သံလွင်မြစ် အရှေ့ဖက်မြစ်ကမ်းနှင့် နီးကပ်သောဒေသတို့တွင်လည်း အများအပြား ရှိသည်။

ချိပ်များကို ပေါက်၊ကြို့နှင့် ညောင်ပင်များတွင်တင်၍ မွေးမြူထုတ်ယူကြသည်။ ဤချိပ်များဖြင့် မိမိတို့၏ အဝတ်အထည်များကို အနီဆိုးကြသဖြင့် ကယားပြည်နယ်သားတို့ကို ရှေးက ကရင်နီလူမျိုးဟု ခေါ်ဝေါ်ခဲ့ခြင်းဖြစ်သည်။ ချိပ်ကို ထွက်ကုန်ပစ္စည်းအဖြစ်လည်း ရောင်းချကြသည်။

ကယားပြည်နယ်တွင်းရှိ မော်ချီသတ္တုတွင်းများမှာ ကမ္ဘာကျော် သတ္တုတွင်းများ ဖြစ်ကြသည်။ ပြည်နယ်မှ ခဲမဖြူ၊ဝုဖရမ်၊ခနောက်စိမ်းနှင့် သံရိုင်းများ ထွက်သည်။ ကျောက်မီးသွေး အနုများကို ပြည်နယ်အတွင်း တွေ့ရှိသော်လည်း စီးပွားရေး လုပ်နိုင်လောက်အောင် အရေးမပါလှပေ။

## လမ်းပန်းဆက်သွယ်ရေး

ပြည်နယ်အတွင်းသို့ တောင်ငူမှ သံတောင်နယ်ကိုဖြတ်၍ ဖေါက်လုပ်ထားသော မော်တော်ကားလမ်း ရှိသည်။ ထိုမော်တော်ကားလမ်းမှာ မော်ချီသတ္တုတွင်းများကို ဖြတ်၍ သံလွင်မြစ်ကမ်းပေါ်ရှိ ခဲမဖြူအထိရင်း၊ ခဲမဖြူမှ မြောက်ဖက် လမ်းမကြီးတခုရှိ၍ ဘောလခဲမြို့မှ လွယ်ကော်ကိုဖြတ်ကာ ပြည်နယ်အပြင်ပ ရှမ်းပြည်တောင်ပိုင်း တောင်ကြီးမြို့အထိရင်း လမ်းများရှိသည်။ တဖန်လွယ်ကော်မှ မိုးဗြဲကို



ကယားပြည်နယ် ကန္တာရဝတီမြို့ရှိ စောဖျစ်မြန်းသည့် ဟော်နန်း



လွယ်ကော်မြို့ တောင်ဖက်ရှိ တောင်ကွဲစေတီတော်

ဖြတ်ကာ ကလော၊အောင်ပန်းအထိ လမ်းရှိသည်။ လွယ်ကော်မြို့တွင် လေဆိပ်ရှိ၍ ပြည်တွင်း လေကြောင်းသယ်ယူပို့ဆောင်ရေး လေယာဉ်ပျံများဖြင့် သွားလာနိုင်သည်။

## သမိုင်းအကျဉ်း

ပြည်ထောင်စုမြန်မာနိုင်ငံ အစောပိုင်းသမိုင်းမှာ နိုင်ငံအတွင်းသို့ တိုင်းရင်းသားများ ရွှေ့ပြောင်း နေထိုင်လာပုံနှင့် ဆက်စပ်နေသကဲ့သို့ပင် ကယားပြည်နယ်၏ ရှေးအကျဆုံး သမိုင်းမှာလည်း ကယားပြည်နယ်အတွင်းသို့ တိုင်းရင်းသားများ ရွှေ့ပြောင်းလာကာ အခြေစိုက် နေထိုင်ကြသည့်အကြောင်း နှင့်သာ ဆက်စပ်နေပေသည်။ ကယား တိုင်းရင်းသားတို့၏ အစဉ်အလာ မှတ်သားထားချက်များအရ ပဋ္ဌမမြောက် အကြီးအကဲဖြစ်သော ဖိုးဖြူလှ လက်ထက်တွင် ဘောလခဲနယ်သည် ကယားပြည်နယ် တခုလုံးကို လွှမ်းမိုးအုပ်ချုပ်ခဲ့သည်။ ဖိုးဖြူလှလက်ထက် မောင်မောင်ဖုန်းဆိုသူ မွန်အမျိုးသားတဦးသည် ကယားပြည်နယ်အတွင်းသို့ ဝင်ရောက်နေထိုင်လာကာ တပည့်လက်သား တဖြည်းဖြည်းတိုးတက်များပြားလာ၍ သြဇာအာဏာ ရရှိခဲ့သည်။ ပြည်တပြည်တွင် အကြီးအကဲနှစ်ဦး မရှိသင့်ဟု သဘောပိုက်မိသည်နှင့် ဖိုးဖြူလှသည် ပွန်ချောင်းအရှေ့ဖက် ဒေသကို အုပ်ချုပ်ရန် မောင်မောင်ဖုန်းအား ပေးခဲ့၏။ ထိုအချိန်မှစ၍ ကန္တာရဝတီနယ် ပေါ်ပေါက်လာခဲ့၏။ မောင်မောင်ဖုန်းသည် ဖဖေါ်ကြီး ဘွဲ့အမည်ကို ခံယူကာ စောလုံမြို့တွင် ဟော်နန်းစိုက်ထူ၍ အရှေ့ကရင်နီနယ်ကို အုပ်ချုပ်လာခဲ့လေသည်။ ထိုအချိန်မှစ၍ ကန္တာရဝတီ၊ကြယ်ဖိုးကြီး၊ နောင်ပုလဲ၊ နန်းမယ်ခုံ၊ ငွေတောင်ပြည် စသည်ဖြင့် နယ်များ အစိတ်စိတ်ကွဲကာ ပေါ်ပေါက်ခဲ့သည်။ (ကန္တာရဝတီနယ်၊ကြယ်ဖိုးကြီးနယ် — လည်းရှု။)

ဖဖေါ်ကြီးကို ဆက်ခံသော ဖဖေါ်ကလေး လက်ထက်တွင် အင်းဝ မြန်မာဘုရင်များထံ ဝင်ရောက်ခစား၍ သံလွင်မြစ်အနောက်ဖက်နယ်များကို စိုးမိုးစားပိုင်ခွင့် တောင်းယူရရှိခဲ့သည် ဆို၏။ ကယားအမျိုးသားတို့မှာ တဖြည်းဖြည်း အင်အား များပြားလာသဖြင့် ကယားပြည်နယ် အပဖြစ်သော ရှမ်းပြည်နယ်များကို ဝင်ရောက်တိုက်ခိုက်ခဲ့ကြရာ ၁၈၄၅ ခုနှစ်က မြန်မာဘုရင် စေလွှတ်သော မြန်မာတပ် ရှမ်းတပ်များနှင့် တိုက်ခိုက်မှု ဖြစ်ပွားခဲ့သည်။ ထိုနောက်သော် ကယားပြည်နယ် အနောက်ပိုင်းဒေသရှိ အကြီးအကဲတို့သည် မြန်မာဘုရင်များထံမှ တံဆိပ်ဘွဲ့ထူးများကို ခံယူရရှိခဲ့ကြသည်။

ဖဖေါ်ကလေးကို ဆက်ခံသော အကြီးအကဲတို့အနက် စောလဖေါ် လက်ထက်တွင် မင်းတုန်းဘုရင်အား ပုန်ကန်သွားသည့် မြင်ကွန်းမင်းသားသည် ကယားပြည်နယ်သို့ ခိုလှုံလာကာ နန်းမယ်ခုံကို ဗဟိုပြု၍ လူအင်အား စုဆောင်းလေသည်။ မြင်ကွန်းမင်းသားကို နှိမ်နင်းရန် ၁၈၆၆ ခုနှစ်တွင် မြန်မာဘုရင်၏ သီပေါနယ်မှတပ်များ စောလုံမြို့သို့ ချီတက်လာသည်။ စောလဖေါ်သည် မြန်မာဘုရင်ဖက်မှ လိုအပ်သော အကူအညီများကို ပေးသည်သာမက မိမိ၏ ကယားတပ်များကိုပင် ပူးပေါင်းတိုက်ခိုက်စေသည်။ ဤသို့ ကူညီသောကြောင့် မြင်ကွန်းမင်းသားနှင့် သူ၏နောက်လိုက်များမှာ မခံမရပ်နိုင်တော့ဘဲ ကယားပြည်နယ်မှ ထွက်ခွာသွားရသည်။ ၁၈၆၈ ခုနှစ်တွင် စောလဖေါ်ကိုယ်တိုင် မန္တလေးသို့ သွားရောက်၍ မင်းတုန်းဘုရင်ထံ ညီလာခံဝင်ခဲ့သည်။ ထိုအချိန်မှစ၍ စောလဖေါ်သည် ကန္တာရဝတီ မြို့စားအဖြစ် အသိအမှတ်ပြုခြင်းကို ခံရ သည်။

ထိုနောက်သော် စောလဖေါ်သည် မိမိသြဇာအာဏာကို ကယားပြည်နယ်အနောက်ပိုင်းတွင်လွှမ်းမိုးနိုင်ရန် ကြိုးစားခဲ့၏။ ဤကြိုးစားခိုက်၌ ဘောလခဲ၊ ငွေတောင်နယ် စသည်တို့နှင့် အရေးအခင်း ဖြစ်ပွားခဲ့သည်။ နောက်ဆုံး၌ ၁၈၈၀ ပြည့်နှစ်တွင် စောလဝီဆိုသူအား သီပေါဘုရင်ထံ အခစားဝင်စေ၍ မြန်မာဘုရင်၏ အသိအမှတ်ကို ခံယူလေသည်။ ၁၈၇၂ ခုနှစ်တွင် လွယ်ကော်၌ရင်း၊နန်းမယ်ခုံ၌ရင်း၊ မြန်မာဘုရင်၏ တပ်များကို ချထားခဲ့၏။ အောက်မြန်မာနိုင်ငံကို အုပ်စိုးနေကြသော ဗြိတိသျှတို့၏ ကန့်ကွက်ချက်ကြောင့် လွယ်ကော်နှင့် နန်းမယ်ခုံတွင်ရှိသော တပ်တို့ကို ၁၈၇၆ ခုနှစ်တွင် ရုပ်သိမ်းခဲ့ရလေသည်။

## ကယားပြည်နယ်၏ လွတ်လပ်ရေး

ကယားပြည်နယ် အနောက်ပိုင်းရှိ နယ်တို့၏ လွတ်လပ်ရေးကို အသိအမှတ်ပြုရန်၊ လေးစားရန်နှင့် နယ်များတွင် ဝင်ရောက်စွက်ဖက်ခြင်း မပြုကြရန် မင်းတုန်းဘုရင်နှင့် ဗြိတိသျှတို့ ၁၈၇၅ ခုနှစ်တွင် စာချုပ်ချုပ်ဆိုကြသည်။ ထိုစာချုပ်တွင် ဗြိတိသျှတို့ဖက်မှ ဆာ ဒေါက်ဂလပ်ဖေါဆိုက်က လက်မှတ်ထိုး၍ မြန်မာဘုရင်ဖက်မှ ကင်းဝန်မင်းကြီးက လက်မှတ်ရေးထိုးသည်။ ထိုအချိန်မှစ၍ ကယားပြည်နယ်မှာ သာမန်အားဖြင့် လွတ်လပ်သော ပြည်နယ်တခုအဖြစ် တည်လာခဲ့လေသည်။ သို့ရာတွင် ထိုလွတ်လပ်မှုမှာ အမည်မျှသာ ဖြစ်၏။ အကြောင်းမှာ ဗြိတိသျှတို့သည် ကယားပြည်နယ်ရှိ အကြီးအကဲတို့အား ဆာနဒ် အမိန့်စာချွန်တို့ဖြင့် ချုပ်နှောင်ထားသဖြင့် ကယားပြည်နယ် အကြီးအကဲတို့မှာ ရုပ်သေးရုပ်မျှသာ အခွင့်အာဏာ ရှိခဲ့သည်။ ထိုအမိန့်စာချွန် ၁၂ ရပ်တို့တွင် ကယားပြည်နယ်က ပဏ္ဏာတော် ဆက်သွင်းရခြင်း၊ပြင်ပပြည်နယ်များနှင့် အခွင့်မရဘဲ ဆက်သွယ်ခွင့်မရရှိခြင်း၊အရှေ့ကယားပြည်နယ်ကိစ္စတွင်၎င်း၊ နယ်စပ် အရေးကိစ္စတို့တွင်၎င်း၊ ဗြိတိသျှတို့ ညွှန်ကြားချက်အတိုင်းသာ ဆောင်ရွက်ရခြင်း၊ ဗြိတိသျှတို့ အခွင့်မရဘဲ ကယားပြည်နယ်သား မဟုတ်သူများကို ကယားပြည်နယ်တွင် အမှုထမ်းခွင့် မပြုရခြင်း စသည်တို့ ပါဝင်ခဲ့သည်သာမက ဗြိတိသျှအရင်းရှင်တို့ ကြီးစိုးသော မော်ချီးသတ္တုတွင်းကုမ္ပဏီနှင့် မက္ကရီကာ၊ဘုံဘေဘားမား စသည့် သစ်ကုမ္ပဏီများ၏ လက်ဝါးကြီးအုပ်ခြင်းကိုလည်း လူချင်းမတူ သူချင်းမမျှ ဘဝရောက်အောင် ခံခဲ့ရသည်။

ဒုတိယကမ္ဘာစစ် ကမ္ဘာ့အရှေ့ဖျားသို့ ကူးစက်လာသောအချိန်တွင် မျိုးချစ်ပုဂ္ဂိုလ် ကယားအမျိုးသားတို့သည် ဗြိတိသျှတို့၏ ချုပ်ချယ်မှုမှ လွတ်ကင်းနိုင်ရန် တော်လှန်ရေးတပ်များအား ကူညီခဲ့ကြ သည်သာမက ဆိုးသွမ်းသော ဂျပန် ဖက်ဆစ်အုပ်ချုပ်မှုကို တော်လှန်ရာတွင်လည်း ရဲဝံ့စွန့်စားစွာ ပါဝင်ဆင်နွှဲ တိုက်ခိုက်ခဲ့ကြလေသည်။

ထိုတော်လှန်ရေး၏ နောက်ပိုင်းတွင် ဖိနှိပ်ချုပ်ချယ်ခြင်းခံရသောအမျိုးသားတို့မှာပိုမိုနိုးကြားလာကာ ဇာတိသွေး ဇာတိမာန် ထက်သန်လာကြသည်။ ဒုတိယကမ္ဘာစစ်ပြီးသည့် နောက်တခေတ်တွင် ကယားအမျိုးသားတို့ကို ခေါင်းဆောင်လာခဲ့ကြသော စပ်ဝဏ္ဏ၊ ဦးစိန်၊ အေမြလေး၊ သိုင်းဗဟန်၊ ဦးကျော်ဝင်း၊ စောလဝီ၊ စောငယ်ဒူး စသော ခေါင်းဆောင်တို့၏ လုံးပန်းမှုကြောင့် ကယားပြည်နယ်သားတို့မှာ ဗိုလ်ချုပ်အောင်ဆန်း၏ စီစဉ်မှုအတိုင်း၊ဗြိတိသျှတို့၏ တောင်တန်းဒေသကို မြန်မာနိုင်ငံမှ ခွဲထုတ်ရန် လုံးပန်းခဲ့ခြင်းကို၎င်း၊ မြေပြန့် ကရင်အမျိုးသားအချို့တို့၏ သွေးခွဲဆောင်မှုကို တော်လှန်ပယ်ဖျက်ရန်၎င်း၊အောင်မြင်စွာ ကြိုးစားဆောင်ရွက်ကြ၍ ပြည်ထောင်စု သမတ မြန်မာနိုင်ငံနှင့် ပူးပေါင်းဆောင်ရွက်ခဲ့ကြသည်။

သို့ရာတွင် ကယားပြည်နယ်ကို ပြည်နယ်သီးခြားအဖြစ် ထားရှိရန်ထက် ကယားပြည်နယ်၊ သံလွင်ခရိုင်တို့နှင့် နိုင်ငံတော်သမတက ခန့်ထားသည့် အထူးကော်မရှင်အဖွဲ့က ဆုံးဖြတ်သတ်မှတ်သော ကရင်အမျိုးသားများ နေထိုင်ရာ ဆက်စပ်နေသော ဒေသတို့တွင် နေထိုင်သူများနှင့် ထိုဒေသ အပဖြစ်သော မြန်မာနိုင်ငံ၌ နေထိုင်ကြသော ကရင်အမျိုးသားများအနက် များရာက အလိုရှိခဲ့သော် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်းတွင် ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်တခုအဖြစ် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စုအဖွဲ့ဝင်ကို ကရင်ပြည်နယ်ဟု ခေါ်ရမည်ဟု နိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေက သတ်မှတ်ထားခဲ့ပေသည်။ ကယားပြည်နယ်သား တို့သည် ကရင်ပြည်နယ် အတွင်း သွတ်သွင်းခြင်းမခံလိုကြသဖြင့် ပါလီမန်စံနစ်အရကြိုးစားဆောင်ရွက်ခဲ့ရာ ၁၉၅၀ ပြည့်နှစ်တွင် ကရင်လူမျိုး အထူးစုံစမ်းရေး ကော်မရှင်တခုကို နိုင်ငံတော်သမတက ဖွဲ့စည်းခန့်ထားလိုက်ပြီးလျှင် ထိုကော်မရှင်၏ အစီရင်ခံစာကို အခြေပြု၍ ပါလီမန်က ၁၉၅၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ပြင်ဆင်ချက် အက်ဥပဒေကို ပြုလုပ်ကာ ကယားပြည်နယ်ကိုသီးသန့်တည်ခဲ့စေလေသည်။ ထိုဥပဒေ



ကယားအလံတော်၊ မဂ်လာပါးစည်နှင့် ခေတ်သစ်အမျိုးသမီး

မထုတ်ပြန်မီကသော် ကယားပြည်နယ်မှာ ကရင်ပြည်နယ်တွင် ပါမည်ကဲ့သို့ ရှိခဲ့၏။ ကယားအမျိုးသားတို့မှာလည်း ကရင်အမျိုးသားတို့တွင် ကရင်နီလူမျိုးများအဖြစ် ပါဝင်ခဲ့ကြလေသည်။ သို့ရာတွင် ဖေါ်ပြပါ ကော်မရှင်ထောက်ခံချက်များအရ ပဒေါင်၊ဇယိန်း၊ ယင်းဘော်၊ ဂဲခို၊ ယင်းတလဲနှင့် မနုမနော လူမျိုးများကို ကရင်လူမျိုးစုတွင် ထည့်သွင်းခြင်းမပြုရန်ဆုံးဖြတ်လေသည်။ ထိုမှတပါး အထက်ဖေါ်ပြပါ ၁၉၅၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ပြင်ဆင်ချက် အမှတ် (၆၂) အရ ကရင်နီဟူသောဝေါဟာရအစား ကယားဟူသောဝေါဟာရကိုသုံးစွဲခဲ့သည်။

## နောင်တခေတ် ကယားပြည်နယ်

ကယားပြည်နယ်မှာ မြေပေါ်မြေအောက် သယံဇာတပစ္စည်းတို့ရှိသော ပြည်နယ်ဖြစ်သည့်အတိုင်း၊ပြည်ထောင်စုမြန်မာနိုင်ငံ၏ စီးပွားရေး တိုးတက်မှု ဆောင်ရွက်ချက်တို့အားဖြင့် အရေးပါအရာရောက်သည့် ပြည်နယ်တခု ဖြစ်လာနိုင်ရန် အခွင့်လမ်း များစွာရှိ၏။ အထူးသဖြင့် ရေအားကို အသုံးပြုကာ လျှပ်စစ်ဓါတ် ထုတ်ယူရေးအတွက် အသုံးဝင်မည့် ရေတံခွန်များ ရှိသောကြောင့် စီးပွားရေးလုပ်ငန်းတွင် လွယ်ကူသော အထောက်အပံ့များ ရနိုင်မည်မှာ မလွဲပေ။ ဘီလူးချောင်းဝှမ်းတွင် လယ်ယာစိုက်ပျိုးမှု ရှိခဲ့သော်လည်း ရာသီဥတု မမှန်မှုကြောင့် တိုးတက်သင့်သလောက် မတိုးတက်ပေ။ သို့ရာတွင် ဘီလူးချောင်းတွင် သာမက အခြား စိမ့်စမ်း ချောင်းမြောင်းများကိုဆည်၍ တူးမြောင်းဖေါက်ကာ ရေသွယ်ပေးခြင်းအားဖြင့် စိုက်ပျိုးမှုလုပ်ငန်း တိုးတက်နိုင်ဖွယ်ရာ ရှိပေသည်။ ကျွဲနွားမွေးမြူရေး၊သင်ပင်၊ ဂုံလျှော်ပင်၊လက်ဖက်၊ကော်ဖီ၊ဇာဒိပ္ဖိုလ်၊ရှပ်ကောင်း စိုက်ပျိုးရေးတို့အတွက် လျော်ကန်သင့်မြတ်သော မြေသြဇာနှင့် ရာသီဥတု ရှိလေသည်။ စားသုံးကုန် ပစ္စည်းများဖြစ်သော ကွမ်း၊ ကွမ်းသီး၊ ဆေး၊ လက်ဖက်ခြောက်၊ အုန်း၊ ကြံနှင့် သစ်သီး သစ်ပင်များကိုလည်း တိုးတက်စိုက်ပျိုးနိုင်ရန် အခွင့်အလမ်းများ ရှိပေသည်။

လက်မှုပညာဖက်တွင် ကယားလူမျိုးတို့သည် ရက်ကန်းလုပ်ငန်း(အထူးသဖြင့်ငွေတောင်နယ်တွင်)၊ငွေထည်လုပ်ငန်း ဖါးစည်မှုစ၍ ခြူ၊ ခေါင်းလောင်း၊ မောင်း၊ ပဒေါင်အမျိုးသမီးများ လည်တွင်ဆွဲပတ်သည့် ကြေးခွေများ စသည်တို့ပြုလုပ်သော ကြေးလုပ်ငန်းတို့တွင် ကျွမ်းကျင်ကြသည်။

ထိုလုပ်ငန်းများအပြင် စပါးစိုက်ပျိုးမှု၊သစ်လုပ်ငန်း၊ချိပ်လုပ်ငန်း၊သတ္တုတွင်းလုပ်ငန်း၊စသည်တို့လည်း လုပ်ကိုင်ကြသည်။ ပြည်ထောင်စု ကာကွယ်ရေးနှင့် ငြိမ်းချမ်းရေးအတွက် ကယားပြည်နယ်သားတို့သည် မြန်မာတပ်မတော်တွင်၎င်း၊ အခြား ကာကွယ်ရေးတပ်များတွင်၎င်း၊ စိတ်အားထက်သန်စွာ ပါဝင်ဆင်နွှဲလျက်ရှိကြသည်။ ရှေးခေတ် ယဉ်ကျေးမှုများကို မပျောက်စေဘဲခေတ်ပေါ်ယဉ်ကျေးမှု အချက်အလက်တို့ကိုလည်း လက်ခံတီထွင်လျက်ရှိကြပေသည်။

**မှတ်ချက်။** ။မိုးဗြဲနယ်၏ အုပ်ချုပ်ရေးကိစ္စ အဝဝတို့ကို ကယားပြည်နယ် အစိုးရက တာဝန်ခံ အုပ်ချုပ်လျက်ရှိသော်လည်း မိုးဗြဲနယ်ကို ကယားပြည်နယ်အတွင်းသို့ တရားဥပဒေအရ ပြောင်းလွှဲခြင်း မပြုရသေးချေ။ ယင်းကဲ့သို့ ပြောင်းလွှဲသင့် မသင့်မှာ မိုးဗြဲနယ်လူထု၏ ဆန္ဒအပေါ်တွင် တည်နေသဖြင့် လူထု၏ဆန္ဒကို စုံစမ်းရန် စိုင်းပြင်းလျက်ရှိသည်။ ထို့ကြောင့် ကယားပြည်နယ်မြေပုံတွင် ထည့်သွင်းထားသော မိုးဗြဲနယ်ကို ခြားနားသိသာစေရန် ဖြတ်မျဉ်းများဖြင့်ဖေါ်ပြထားခြင်း ဖြစ်လေသည်။ ဦးဘရှင်။

ကယားပြည်နယ် ဖါးလိုင်ရွာမှ ပဒေါင်အမျိုးသမီးများ



ကယားတို့၏ ရှေးမပြေးနိမိတ်ဟောသည့် ကြက်ရိုး





ကယားအမျိုး သားနှင့်အမျိုးသမီး

**ကယားလူမျိုး။** ။ကယားလူမျိုးတို့မှာ ပြည်ထောင်စု မြန်မာနိုင်ငံတွင် အပါအဝင်ဖြစ်သော ကယားပြည်နယ်တွင် လူများစုအဖြစ် နေထိုင်ကြသူများ ဖြစ်သည်။ ယခင်က သူတို့အား ကရင်နီဟု ခေါ်ဝေါ်ခဲ့ကြ၏။ ပြောဆိုသော ဘာသာစကားတို့၏ နီးစပ်မှုကို ထောက်ထား၍ ကယား လူမျိုးတို့မှာ တိဗက်မြန်မာ အစုဝင် ကရင်အစုခွဲ၌ ပါဝင်သောလူမျိုး တမျိုးဖြစ်သည်ဟု ဘာသန္တရ ပါရဂူတို့က ဆုံးဖြတ်ကြ၏။

ကရင်လူမျိုးတို့တွင် ကွင်းကရင်၊ တောင်ပေါ်ကရင်ဟု အကြမ်းအားဖြင့် နှစ်မျိုး ကွဲပြားရာ၊ တောင်ပေါ်ကရင် တို့ကို စိစစ်ခွဲခြားရာ၌ မစ္စတာ တေလာက ဘွဲပရှဲ အစုငယ်၊ ပဒေါင် အစုငယ်နှင့် ကရင် အစုငယ်ဟု ၃ စုခွဲထားသည်။

တောင်ပေါ်ကရင်တို့၏ သွင်ပြင်သဏ္ဌာန် ကိုယ်လက် အင်္ဂါတို့မှာ ကွင်းကရင်များဖြစ်သော စကောကရင်၊ ပိုး ကရင်တို့နှင့် မတူဘဲ တမူခြားလျက်ရှိသည်ကို တွေ့ရသည်။ သို့ဖြစ်၍လည်း မေဂျာ ဂရင်းက တောင်ပေါ်ကရင်တို့မှာ လဝတို့မှ ဆင်းသက်သည်ဟု ယူဆရသော ယန်ဆက်၊ယန် လမ်တို့နှင့် အနွယ်တူသည်ဟု ဆိုခြင်းဖြစ်သည်။ ကွင်းကရင် တို့နှင့် ပြောဆိုသည့် ဘာသာစကားတွင် နီးစပ်မှုရှိသည် မှတပါး တောင်ပေါ်ကရင်တို့မှာ မွန်ခမာအစုဝင်ဖြစ်သော ပလောင်ဝ အစုခွဲနှင့် ပိုမိုနီးစပ်သည် ထင်ကြောင်းနှင့် မစ္စတာ တေလာကပင် ယူဆပြန်သည်။

မည်သည့်ယူဆချက်ပင်မှန်သည်ဖြစ်စေ၊ မိမိတို့နှင့်ဆက်ဆံ ရသည့် အခြားအခြား လူမျိုးများကိုလိုက်၍ လူနည်းစု ဖြစ်သော ကွင်းကရင်နှင့် တောင်ပေါ်ကရင်တို့မှာ ပုံပန်း သဏ္ဌာန်တွင်ရင်း၊ ပြောဆိုသည့် ဘာသာစကားတွင်ရင်း၊ ထုံးတမ်းဓလေ့တွင်ရင်း၊ ကာလ ကြာမြင့်သည်နှင့် အညီ ကွဲ ပြားပြောင်းလဲ လာရသည်မှာ၊ဓမ္မတာပင် ,ဖြစ်သည်။ သို့ ဖြစ်သောကြောင့်လည်း ကွင်းကရင်တို့မှာ နောက်မှ ဝင် ရောက်လာကြသော မွန်ဂိုအနွယ်ဝင် လူမျိုးများနှင့် နီးစပ် အသွင်တူကြ၍ တောင်ပေါ်ကရင်တို့မှာမူ၊အလွန် ရှေးကျ လှသော သြစတြစ် အစုဝင် စကားများကို ပြောဆိုသည့် မွန်ဂိုမဟုတ်သော လူမျိုးအစုတို့နှင့် နီးစပ်ကြသည်မှာ ထင် ရှားလှပေသည်။ ထို့ကြောင့် တောင်ပေါ်ကရင်တမျိုးဟု ဆိုရမည့် ရှေးက ကရင်နီဟု တွင်ခဲ့သော ကယားလူမျိုးတို့ မှာ ကွင်းကရင်တို့နှင့် အသွင်အားဖြင့် မတူသော ပြည် ထောင်စုသားများဖြစ်သည်ဟု စိတ်ချစွာ ဆိုနိုင်သည်။ (ကရင်လူမျိုး — လည်းရှု။)

ဝတ်ဆင်သော အဝတ်အထည်တို့၏ နီသော အရောင် အသွေးကိုလိုက်၍ မြန်မာတို့က ကယားပြည်နယ်သားတို့ကို ရှေးအခါက ကရင်နီဟု ခေါ်ဝေါ်ကြသည်။သူတို့ကမူ မိမိ တို့ကိုယ်ကိုကယား သို့မဟုတ် ကယားလိ ဟု ခေါ်ဝေါ်ကြသည်။ ကယား ဟူသော ဝေါဟာရမှာ သူတို့ဘာသာ အရ လူဟု အဓိပ္ပါယ်ရ၍၊ကယားလိ ဟူသော ဝေါဟာရမှာ လူနီဟု အဓိပ္ပါယ်ရ၏။ ကွင်းကရင်တို့ကမူ သူတို့အား အရှေ့ စွန်းကရင်ဟု အဓိပ္ပါယ်ရသော ဘွဲမနော ဟူသော အမည် ဖြင့် ခေါ်ဝေါ်ကြသည်။

## ကရင်နီမှ ကယားသို့

ပြည်ထောင်စု မြန်မာနိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံ အ ခြေခံဥပဒေတွင် ကရင်ပြည်နယ်ဖွဲ့စည်းသောအခါ၌ ကရင်နီ ပြည်နယ်ကိုထည့်သွင်းရန် ရည်မှန်းချက် ရှိသည်ဖြစ်ရာ၊ ထိုသို့ ထည့်သွင်းခြင်းကို မလိုလားကြ သောကြောင့် တ ကြောင်း၊ကရင်နီ အမျိုးသားတို့သည် ကရင်နီဟူသော အမည်မှ ကယားဟူသော အမည်သို့ ပြောင်းလဲရန် ကြိုး စားခဲ့ကြရာ ၁၉၅၁ ခုနှစ်အတွင်းက ထိုအမည်ပြောင်းလဲ ရေးနှင့် ကယားပြည်နယ် သီးသန့် တည်ရှိရေးတို့အတွက် ပါလီမန်မှ အက်ဥပဒေ ပြုလုပ်ကာ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေတွင်လိုအပ်သောပုဒ်မများကိုပြင်ဆင်ခွင့်ရရှိခဲ့သည်။

## နေထိုင်ရာဒေသနှင့် လူဦးရေ

ကယား ပြည်နယ်တွင် ကယား လူမျိုးများနှင့် အတူ ပဒေါင်၊ ပရှဲ၊မနုမနော၊ ယင်းတလဲ၊ ဂဲခိုးစသောအခြားလူမျိုး များလည်း နေထိုင်ကြသည်။ ကယားတို့ကိုမူ ပြည်နယ် အရှေ့ပိုင်း လွယ်ကော်မြို့ အရှေ့တောင်ဖက်ဒေသ၊ကန္တာ ရဝတီနယ်၊သံလွင်မြစ်ကမ်း နှစ်ဖက်တို့၌ အများဆုံး တွေ့ရ သည်။ ပဒေါင်၊ပရှဲစသော လူမျိုးများကိုမူ ပြည်နယ်အ နောက်ပိုင်းတွင် အများဆုံး တွေ့ရသည်။ ကယားပြည် အတွင်း အခြားဒေသများတွင်လည်း ပျံ့နှံ့နေထိုင်ကြသည်။ ၁၉၃၁ ခုနှစ် သန်းကောင်စာရင်းအရ ကယားအမျိုးသား ဦးရေမှာ ၃၁,၅၀၀ ကျော်မျှ ရှိလေသည်။ သို့ရာတွင် ကယား ပြည်နယ် အစိုးရက၊ကယားခေါ်တွင်နေသော ကရင်နီလူ မျိုး တို့တွင်၊ ယင်း တလဲ၊ ယင်းဘော်၊ ပဒေါင်၊ ပရှဲ၊ မနုမနော၊ ဂဲခိုး၊ဂဲပါးများ ပါဝင်သည်ဟု ဆုံးဖြတ်ထားသည်ဖြစ်ရာ အဆိုပါ လူမျိုးများ ပါဝင်မည်ဆိုပါက လူဦးရေ ၄၇,၀၀၀ နီးပါးမျှ ရှိပေမည်။ (ကယားပြည်နယ် — ရှု။)

## ယဉ်ကျေးမှုနှင့် ထုံးတမ်းစဉ်လာ

အလွန်ရှေးကျသော ထုံးတမ်းစဉ်လာ အလေ့အထများကို ကယားလူမျိုးတို့၏ ယဉ်ကျေးမှုတွင် တွေ့ရှိနိုင်ပေသည်။ ယခုအခါတွင် ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်သူ တိုး တက် များပြားလာသော်လည်း၊ရှေးအစဉ်အလာအရ နတ် ကိုးကွယ်ခြင်း၊ကြက်ရိုးထိုး၍ ဆောင်ရွက်ဖွယ်ရာ ကိစ္စများ ကို ဆုံးဖြတ်ခြင်း စသည့် အလေ့အထများ ရှိပေသေးသည်။



ကယားအနွယ်ဝင် ပဒေါင်လူမျိုးတစု ဝိုင်း၍ကခုံနေကြစဉ်

ရှေးကျသော ကယားတို့ ဖြစ်စဉ်ဘဝမှာ နတ်ကိုးကွယ်ခြင်း၊နတ်ပသခြင်း၊ရိုးရာအလိုက် တစုတရုံး စားသောက်ပျော်ရွှင်ကြခြင်းတို့ဖြင့် ဆက်စပ်လျက်ရှိသည်ကို တွေ့ရ၏။ ကယားလူမျိုးတို့၏မွေးဖွားချိန်၊နားထွင်းချိန်၊ကြောင်းလမ်းစေ့စပ်ချိန်၊ လက်ထပ်ချိန်၊ ကွယ်လွန်ချိန် ကဲ့သို့သော အရေးကြီးချိန်တိုင်း၌ လိုပင်၊ရိုးရာအလိုက် ပသ စားသောက်ကြခြင်း၊လက်ဆောင်ပစ္စည်း ပေးကြခြင်း၊အထူးသဖြင့် ကွယ်လွန်ချိန်တွင် နောက်ဆုံး အလေးပြုသောအားဖြင့် သေနတ်များ ပစ်ဖေါက်ခြင်း၊မောင်းများတီးခြင်း စသည်တို့ကို ပြုလုပ်ကြလေသည်။

ကယားတို့သည် လူနှင့်ငှက် အမျိုးအနွယ် ဖြစ်သော ကိန္နရာ၊ကိန္နရီတို့မှ ဆင်းသက် ပေါက်ဖွားလာသော လူမျိုးဖြစ်သည်ဟု ယုံကြည်ကြသည့်အတိုင်း ကိန္နရာ ကိန္နရီတို့ ပျော်မွေ့ရာ ဒေသဖြစ်သည့် ငွေတောင်ပြည်သို့ ရောက်ရှိရန် ဆုတောင်းကြသည်။ ပြည်နယ်၏ အလံတွင်လည်း ကိန္နရာပုံကို ထည့်သွင်းထားလေသည်။ ကွယ်လွန်သူ၏ ဦးခေါင်းကိုလည်း ငွေတောင်ပြည်သို့ လှည့်၍ ထားကြသည်။

အမျိုးသား အမျိုးသမီး ဆက်ဆံရေးတွင် ကိုယ်ကျင့်တရားကို များစွာ အလေးဂရု ပြုကြသည်။ ဖေါက်ပြန်မှုသည် ကွာရှင်းရေး၏ အရေးကြီး အချက်တချက် ဖြစ်၏။ ဖေါက်ပြန်မှုကို ပြုလုပ်သူက လျော်ကြေးပေးရမည် ဖြစ်၏။ သယောက်ထားသော အမျိုးသမီးများကို နားဖြတ်၍ အပြစ်ပေးလေ့ရှိ၏။ သို့ရာတွင် နားပြတ်နေသော အမျိုးသမီးများကို တွေ့ရခဲ၏။ သို့ဖြစ်၍ ကယားအမျိုးသမီးတို့မှာသစ္စာရှိသော၊ ကိုယ်ကျင့်တရားကောင်းသော အမျိုးသမီးများ ဖြစ်သည်ဟု ဆိုစမှတ်ရှိကြသည်။

လွတ်လပ်ရေး မရမီက၊ကယားအမျိုးသားတို့ ကျင်းပသော ပွဲကြီးလမ်းကြီးများမှာ ၂ ခုသာ ရှိ၏။ တခုမှာ နှစ်စဉ် ပြေလလောက်တွင် ကျင်းပသော ကူထိုးပိုးခေါ် တံခွန်တိုင်ပွဲတော်နှင့်ဩဂုတ်လလောက်တွင် ကျင်းပသော ပေါ်မီ သို့မဟုတ် ဒီးကူခေါ် ကောက်ညှင်းထုပ်ပွဲတော်များ ဖြစ်ကြသည်။ ပဌမပွဲ ကျင်းပရာ၌ ပေ ၂၀–၃၀ မျှရှည်သော တိုင်တတိုင်ကို ထိပ်တွင် ပန်းပုထု၍ တိုင်ထောင်သည့်ပွဲဖြစ်သည်။ တိုင်ထောင်ပြီးနောက် တိုင်ပတ်ပတ်လည်တွင် ဖါးစည်မောင်းများ တီး၍ ပျော်ရွှင်စွာ ကခုန်ကြသည်။ ထိုပွဲတွင် အသား၊အရက်များကို ဝလင်စွာ စားသောက် ပျော်ပါးလေ့ရှိကြ၏။

ပေါ်မီ သို့မဟုတ် ဒီးကူပွဲမှာ စပါးစိုက်ပြီးချိန်တွင် အရွာရွာမှ မိတ်ဆွေ သင်္ဂဟများ စုရုံးကျင်းပသော ပွဲဖြစ်သည်။ ၄ လက်မမျှမြင့်သော တိုင်ပေါ်တွင် မြင်း သို့မဟုတ် ဆင်ရုပ်ပုံကြီးထု၍ တင်ထားသည်။ဆန်၊အရက်၊သစ်သီး၊ပန်းများဖြင့် အရုပ်ရှေ့တွင် ပသပြီးနောက် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ကြသည်။ယုံကြည်မှုမှာ တိရစ္ဆာန်ရုပ်တို့သည် ကယားအမျိုးသားတို့ အပေါ်၌ ကျရောက်သော ဘေးအန္တရာယ်များကို ကယားပြည်နယ်အပသို့ ယူဆောင်သွားသည် ဟူသော အချက်ပင်ဖြစ်၏။လွတ်လပ်ရေး ရပြီးသည့်နောက်သော် တိုးတက်လျက်ရှိသော ကယားအမျိုးသားတို့နှင့် ကိုက်ညီသော နှစ်သစ် ကလူမင်္ဂလာပွဲတော်ကို ၁၉၅၁ ခုနှစ်မှစ၍ ပြေလတိုင်း ကျင်းပလာခဲ့သည်။ဤပွဲမှာ ကယားပြည်နယ် တပြည်လုံး စုရုံးကျင်းပသော ပွဲတော်ဖြစ်သည်။ကလူပွဲတော် ဆိုသော စကားအဓိပ္ပါယ်မှာ ဖါးစည်ပွဲတော်သဘော သက်ရောက်သည်။အိမ်သစ် ဆောက်လုပ်ပြီးစီးသောအခါ အစဉ်အလာအရ မိုးမကျမီ နှစ်စဉ်နှစ်တိုင်း ကျင်းပပြုလုပ်လေ့ရှိသော အိမ်တက်မင်္ဂလာဖြစ်သည့် ဖါးစည်ပွဲတော်ဟု ဆိုရပေမည်။ (ကလူမင်္ဂလာပွဲတော် — ရှု။)

ဤပွဲတော်သို့ ကယားပြည်နယ်သူ ပြည်နယ်သားအားလုံး လူမျိုးမရွေး တက်ရောက်ကြသည်။ထို့မှတပါး ကယားအမျိုးသားတို့ လိုလားအပ်သော အမည်ပြောင်းခြင်း၊ကရင်ပြည်နယ်တွင်းသို့ မဝင်ရတော့ဘဲ သီးသန့်နေကြခြင်းတို့ရရှိပြီးနောက် နိုင်ငံတော်ဝန်ကြီးချုပ်က သတ်မှတ်ပေးသည့်အတိုင်း ဇန္နဝါရီလ ၁၅ ရက်နေ့ကို ကယားပြည်နယ်နေ့ဟု ရွေးချယ်၍ ထိုနေ့ထူးနေ့မြတ်တွင်လည်း ကယားပြည်နယ်နာမကရဏ မင်္ဂလာပွဲတော်သစ်အဖြစ် နှစ်စဉ် ကျင်းပလာခဲ့ကြလေသည်။

### ဘာသာစကား

ကယားလူမျိုးတို့ ပြောဆိုသော ဘာသာစကားကို လေ့လာရှာဖွေပြီးဖြစ်ရကား၊ထိုဘာသာစကား၏ အခြေပြ

သဒ္ဒါတစောင်ကို ကက်ပတိန် ဗရောင်း ဆိုသူက ၁၉၀၀ ပြည့်နှစ်တွင် ရေးထုတ်ခဲ့ပြီး ဖြစ်လေသည်။ပြည်နယ်သား အချင်းချင်း ပြောဆိုကြရာ၌ ကယားစကားကို သုံးကြသော်လည်း ရောင်းရေး၊ ဝယ်ရေး၊ အခြား လူမျိုး တို့ နှင့် ဆက်ဆံရေး စသည်တို့၌ ရှမ်း မြန်မာ ဝေါဟာရများကို သုံးနှုန်းကြ၏။ရုံး သုံးစကားမှာမူ ရှေးအစဉ်အဆက်ကပင် မြန်မာအက္ခရာ စာပေသက်သက်ကိုသာ သုံးစွဲခဲ့ကြလေသည်။

### အလုပ်အကိုင်နှင့် အသက်မွေးဝမ်းကျောင်း

ပြည်နယ်၏အဓိကစီးပွားရေး လုပ်ငန်းမှာ သစ်လုပ်ငန်း ဖြစ်ရာ ကယားလူမျိုးတို့သည် များသောအားဖြင့် သစ်ထုတ်လုပ်ရေး၊သစ်တောထွက်ပစ္စည်းများ ဖြစ်သော ရှား၊ ချိပ်၊သစ်စေး စသည့်ပစ္စည်းများ ထုတ်လုပ်ရေးတို့ဖြင့် အသက်မွေး ဝမ်းကျောင်းကြသူများ ဖြစ်သည်။ပြည်နယ်၏ အနောက်ပိုင်းဒေသ၌ မြေပြန့်တွင် 'လယ်ယာစိုက်ပျိုး လုပ်ကိုင်စားသောက်ကြသည်။ တူးမြောင်းတို့ဖြင့် ရေသွယ်ယူကာ စိုက်ပျိုးခြင်း၊ တောင်ယာစိုက်ပျိုးခြင်း တို့ကိုလည်း ပြုလုပ်ကြသည်။ငွေတောင်နယ်၌ ရက်လုပ်သော ငွေတောင်လွယ်အိတ်တို့မှာ ထင်ပေါ်လှသည်။ကယားတို့မှာ မိမိတို့ ဝတ်ဆင်ရန် ဝတ်စုံကို မိမိတို့ဖါသာ ရက်လုပ်ကြသူများဖြစ်သည်။ကယားပြည်နယ်၏ ထူးခြားသော အထိမ်းအမှတ်ပစ္စည်း ဖြစ်သည့် ဖါးစည်ခေါ် ကြေးနက် စည်ကြီးများကိုလည်း ငွေတောင်နယ်၌ သွန်းလုပ်ခဲ့ကြ၏။ယခုအခါတွင် နိုးကြားလာပြီဖြစ်သော ကယားပြည်နယ် အမျိုးသားများသည် နိုင်ငံတော်၏ လက်နက်ကိုင်တပ်များတွင် ဝင်ရောက်အမှုထမ်းလျက် ရှိသည်ကို တွေ့ရလေသည်။

အလှအပ အနုအယဉ် အဆန်းအကြယ် တို့ဖြင့် တန်ဆာဆင်ကာ ဖေါ်ပြသော ရှေး မြန်မာပန်းချီကဗျာ အချို့တို့တွင် ကယားပြည်နယ်ရှိ ငွေတောင်နယ်ကို အခြေခံထား၍ ဇာတ်ကွက်ဆင်ထားသည်ကိုတွေ့ရပေသည်။ရှေးအခါကငွေတောင်နယ်ဒေသမှာ ယွန်းထိုးခြင်း၊ ရွှေဇဝါရေးခြင်း၊ မှန်စီရွှေချ၊ သစ်စေးသားရိုးကိုင်ခြင်း စသော အနုပညာ လက်မှုပညာများ ထွန်းကားခဲ့သည်။ ကယား အမျိုးသား အမျိုးသမီးတို့မှာ ခေတ်နှင့် ယှင်ပေါင်တန်း လိုက်နိုင်ရန် အထူးလုံးပန်း ကြိုးစားလျက်ရှိရာ၊လူမျိုး၏ ပင်ရင်းယဉ်ကျေးမှုပေါ်တွင် အခြေတည်ကာ အရေးကြီးသော ယဉ်ကျေးမှုအချက်အလက်များဖြစ်သည့် ဝတ်စားဆင်ယင်မှုကိုးကွယ်ယုံကြည်မှု၊စာပေတို့ကို ခေတ်မှီအောင် ပြုပြင် ပြောင်းလဲလျက် ရှိကြ၏။နှစ်စဉ်နှစ်တိုင်း ရန်ကုန်မြို့တွင် ကျင်းပသော ပြည်ထောင်စုနေ့ အခမ်းအနား၌ လှပတင့်တယ် ရှုချင်ဖွယ်ရာဖြစ်သော ကယားအမျိုးသား အမျိုးသမီးများကို တွေ့မြင်နိုင်ပေသည်။ ဦးဘရှင်။



အနောက်တိုင်းဆန်သည်ဟု ထင်ရသော်လည်း မိမိတို့၏ အမျိုးသားယဉ်ကျေးမှုကို မပျက်စေဘဲ တီထွင်လိုက်သော ခေတ်သစ် ကယားမောင်မယ်တို့၏ စုံတွဲကပွဲ

**ကရကတ်ငှက်**။ ။ကရကတ်သည်ဝမ်း ဘဲတမျိုး ဖြစ်၏။ ကမ္ဘာ့အရှေ့ပိုင်း ဒေသများ တွင် နေထိုင်၍၊ ရေအိုင် ရေကန်များတွင် ကျက်စား လေ့ရှိသည်။ မြန်မာ နိုင်ငံ၌ အမြဲတမ်းနေထိုင်သော ငှက်တမျိုးဖြစ်၏။

ဤငှက်သည် အလျား ၁၃ လက်မခန့်ရှိ၍၊ဝမ်းဘဲမျိုးတွင် အငယ်ဆုံးဖြစ်သည်။အမွေးအတောင် စုံပြီးသော ငှက်ဖိုသည် ဦးခေါင်း ညိုမည်း၍ တကိုယ်လုံး ဖြူဖွေးနေသည်။ လည်ပင်း အောက်ပိုင်းတွင် မည်းနက်သော အရစ်ကြီးတခု ပါရှိသည်။ကိုယ်အထက်ပိုင်းမှာ အစိမ်းနှင့် ခရမ်းရောင်နု ဖြစ်၏။ ခြေထောက်နှင့် နှုတ်သီးမည်း၍ မျက်စိနီသည်။အဖိုနှင့် အမမှာ အနည်းငယ်သာ ကွာခြား၍၊ငှက်ငယ်ကလေးများမှာ ငှက်မနှင့်ပို၍တူကြသည်။

ကရကတ်သည် မြစ်ပြင်နှင့်တကွ သစ်ပင်ချုံဖုတ် ပေါများသော အင်းအိုင် ချောင်းမြောင်း များတွင် အုပ်သင်းဖွဲ့၍ နေတတ်သည်။ရေပြင် ရေအောက်ရှိ ပိုးမွှားများနှင့် ရေပေါ်ပင်များကို စားသောက်ကြသည်။ရေငုပ် ကျင်လျင်သည်။ပျံသန်းရာ၌ လျင်မြန်၍ တောင်ပံရိုက်တတ်သည်။ များသောအားဖြင့် ရေပြင်တွင်ကပ်၍ ပျံသန်းပြီးလျှင်၊သစ်ငုတ်ချုံဖုတ် စသည်တို့ကို ကျင်လျင်စွာတိမ်းရှောင်သွားနိုင်သည်။ပျံသန်းစဉ် အလွန်ဆူညံစွာလည်း အော်တတ်သည်။

အသိုက်များကို သစ်ကိုင်း၊မြက်၊ငှက်မွေး၊ငှက်တောင်များဖြင့် ရေစပ်ရှိ မြေပြင်မှ ၁၀ ပေ ၁၅ ပေခန့်မြင့်သော သစ်ခေါင်းများတွင် ပြုလုပ်လေ့ရှိသည်။တမြုံလျှင် ဥ ၈ လုံးမှ ၁၄ လုံးအထိ ရှိတတ်၍၊တခါတရံ ၂၂ လုံးအထိပင် ရှိတတ်သည်။ ဥများမှာ ဖြူ၍ ပြောင်လက် ချောမွတ်နေသည်။ဥ၏အရွယ်မှာ ပျမ်းမျှအလျား ၁.၇ လက်မနှင့် ပြက် ၁.၂၈ လက်မ ခန့်ရှိတတ်သည်။

**ကရဝိက၊သျှင်**။ ။သျှင် က ရ ဝိ ကသည် ညောင်ရမ်းခေတ် သက္ကရာဇ် ၉၉၁ ခုနှစ် အင်းဝမြို့၌ နန်းတက်တော်မူသော သာလွန်မင်းတရားကြီး လက်ထက်တွင် ထင်ရှားသော စာဆိုတော်တဦး ဖြစ်သည်။ဇာတိမှာ ပုခန်းကြီးမြို့ ကျေးပိုင်သင်ရွာ ဖြစ်သည်။ သျှင်ကရဝိကသည် ပဌမ ကျော်အောင်စံထား ဆရာတော်၏ တပည့်တဦး ဖြစ်၏။

သက္ကရာဇ် ၉၉၆ ခုနှစ်တွင် 'တက်ထွန်းလျှံဝါ' ချီရတုပိုဒ်စုံသုံးပိုဒ်ကို သွင်းသည်။ယင်းရတုကို ဘုရင်က နှစ်သက်တော်မူ၍၊ရွှေကျည်တောက်တွင် သွင်းနှံသိမ်းဆည်းကာ အလိုက်ရတုများကိုပင် ရေးသားလေ့ကျက်သည်ဟု ဆိုသည်။

ဤစာဆိုသည် နရပတိရေလား ရတုပိုဒ်စုံကိုလည်း ရေးသည်။ပုဂံမြို့ဘွဲ့ လူးတားကိုလည်း ရေးသည်ဟု ဆိုသည်။ ထိုလူးတားစာမူကို မတွေ့ရသေးသော်လည်း လူးတား ရေးခဲ့ရိုးမှန်လျှင် အဟောင်းဆုံးလူးတား ဖြစ်ပေမည်။

စာဆိုသည် သက္ကရာဇ် ၁၁၁၀ ပြည့်နှစ်တွင် ဘုရားဟောဝိသတိနိပါတ်လာ ဘလ္လာတိယ ဇာတ်တော်ကိုမှီး၍ 'ညွန့်ဖူးဝေဝေ၊ ကျွန်း သပြေ၏' အစချီသော မင်းလုယဉ် နှုတ်ကိုဖွဲ့ဆိုသည်။ ထိုပျို့တွင် —

**သော်ကထွတ်ထွတ်၊ဖက်ဆွတ်လတ်လတ်၊ရင်ခတ်ရွှေရွှေ၊ မိုးစွေနီနီ၊ သရဖီထပ်ထပ်၊ ဇလပ်မွှေးမွှေး၊ မုလေး ဆင့်ဆင့်၊ ကြာပွင့်ဝါဝါ၊ ယင်းမာလန်းလန်း၊ အနန်းရှားရှား၊ စကားဝင်းဝင်း၊ အင်ကြင်းရှင်ရှင်၊ သဇင်လူလူ၊ မဥ္စူလိုင်လိုင်၊ ပန်းခိုင်ခိုင်နှင့်၊**

စသည်ဖြင့် စကားလုံးများကို ဝေဆာနိုင်နင်းစွာ ဖွဲ့နွဲ့ထားသည်။စကားလုံးကြွယ်ဝ၍ စကားတန်ဆာ ဆင်နိုင်စွမ်းရှိလှသည်။

စာဆိုသည် မင်းရဲကျော်စွာ လေးထပ်ကျောင်းတည် မော်ကွန်းများနှင့် ရတုများကိုလည်း စပ်ဆိုခဲ့လေသည်။



အနီးကပ် ရိုက်ကူးထားသော ကရဝေးရွက်နှင့် အဖူးများ

**ကရဝေးပင်**။ ။ကရဝေးပင်သည် မြန်မာနိုင်ငံ အနှံ့အပြား၌ ပေါက်သော်လည်း တနင်္သာရီတောင်ပိုင်းတွင်သာ အမြောက်အမြား တွေ့ရသည်။ဤအပင်သည် သစ်ကြမ်းပိုးမျိုးဝင် အပင်တမျိုးဖြစ်၍၊သစ်ကြမ်းပိုးပင်နှင့် ခပ်ဆင်ဆင်တူသည်။အမြင့်မှာ ပေ ၃၀ မှ ၄၀ အထိ ရှိ၏။အထက်မြန်မာပြည် တောင်ကုန်းဒေသများတွင် ဆင်ဘန်းကရဝေးဟု ခေါ်သော ကရဝေးပင်တမျိုး ပေါက်သည်။ ကရဝေးရွက်၏ ပုံသဏ္ဍာန်မှာ လုံ့သွားပုံရှိ၍ ကြွပ်ဆတ်သည်။

ကရဝေးပင်ကို လူတိုင်း မြင်ဘူးကြမည်မဟုတ်ချေ။သို့သော် ကရဝေးရွက် အခြောက်များကိုမူ လူတိုင်း တွေ့မြင်

ဘူးရုံမကျမည်သို့ အသုံးချနိုင်ပုံကို သိကြပေသည်။ဟင်းခတ်အမွှေးအကြိုင်များတွင် ကရဝေးရွက် ပါဝင်သည်။ထောပတ်ထမင်း၊ဒန်ပေါက်ထမင်း စသည်တို့တွင် ကရဝေးရွက် မပါလျှင် မပြီးချေ။ ဘယဆေး ဖေါ်ရာ၌လည်း ကရဝေးရွက်ပါဝင်သည်။

ကရဝေးသား၏ အရောင်မှာ လိမ်မော်ညိုရောင် ဖြစ်၍ စမုန်စပါးနံ့ သင်းလျက်ရှိသည်။လှပ၍ အသင့်အတင့် မာသဖြင့် အိမ်ဆောက်ရန်အပြင်၊ပျဉ်အုတ်ကြွပ်နှင့် ဘီရိုစသော အိမ်အသုံးအဆောင်များ ပြုလုပ်နိုင်သည်။ကရဝေးသားကို အသားသေအောင်ပြုလုပ်ပြီးမှအသုံးချသင့်သည်။ သို့သော် သာမန် အခြောက် ခံနည်းဖြင့် အသား သေအောင် ပြုလုပ်ပါက ကောက်ကွေး ကွဲအက်တတ်သောကြောင့်၊ ပေါင်းတင် အခြောက်ခံနည်းကိုသာ အသုံးပြုသင့်သည်။

**ကရဝိတ်ငှက်။** ။ကရဝိတ်ငှက်သည် ဟိမဝန္တာဥဩ တမျိုး ဖြစ်သည်ဟု ဆိုသည်။အလွန်သာယာသော အသံများကို ကရဝိတ်သံ၊ကြိုးကြာသံများနှင့် နှိုင်းရှည့်လေ့ရှိခြင်းကို ထောက်သော် ကရဝိတ်ငှက်သည် အလွန် အသံသာသော ငှက်မျိုး ဖြစ်ဟန်တူပေသည်။

ကရဝိတ်ဖေါင်ဟု ခေါ်သော ရေယာဉ်တွင် ကရဝိတ်ငှက်၏သဏ္ဌာန် တည်ဆောက်လေ့ ရှိကြသော်လည်း၊နှုတ်သီးရင်အုပ် အတောင်နှစ်ဖက်နှင့် ငှက်တကောင် အဖြစ်ကိုသာ သာမန်အားဖြင့် သိကြရ၍ အမှတ်အသား အတိအကျ မရှိချေ။ဤငှက်၏ဥ၊ အသိုက်နှင့် အလေ့အထ များကိုလည်း မည်သူမျှ တပ်အပ်သေချာစွာ မသိကြပေ။ (ကရဝိတ်ဖေါင် — လည်းရှု။)

**ကရဝိတ်ဖေါင်။** ။ရှေးမြန်မာမင်းတို့ ရေကြောင်းထွက် စံပယ်တော်မူရာ၌ လှေတော် ဖေါင်တော် အမျိုးမျိုးကို စီးနင်းသုံးဆောင်လေ့ ရှိကြသည်။ တိုးဖေါင်တော်၊စာမရီဖေါင်တော်၊ကရဝိတ်ဖေါင်တော်ဟူ၍ ဖေါင်တော်အမျိုးမျိုးရှိရာ၌ ကရဝိတ်ဖေါင်သည် ထင်ရှား၍ လူသိများလေသည်။ ကရဝိတ် ဖေါင်ဟု အမည်တွင်ခြင်းမှာ ကရဝိတ်ငှက်၏ ပုံသဏ္ဌာန်အတိုင်း ထုလုပ် မွမ်းမံထားသောကြောင့် ဖြစ်သည်။ ဖေါင်ဦးတွင် ကရဝိတ်ငှက်၏ဦးခေါင်းနှင့် တူစွာဖန်တီး၍ ပဲ့ချောင်တွင်ကား အမြီးသဖွယ် ကော့၍ တက်စေသည်။ ဖေါင်တော်ပေါ်တွင် ဘုံအဆင့်ဆင့်ရှိသော ပြာသာဒ် တဆောင်မှ သုံးဆောင်အထိ အထွတ်တင်ထားသည်။ထိုဖေါင်တော်ကို ဘုရင်ကေရာဇ်နှင့် မိဖုရားခေါင်ကြီးများသာ အသုံးပြုကြသည်။စစ်ချီတက်ရာ၌ ကရဝိတ်ဖေါင်ကို အသုံးမပြုချေ။မင်းပွဲသဘင် ဆင်ယင် ကျင်းပရာ၌သာ ကရဝိတ်ဖေါင်ကို စီးနင်းလေ့ရှိသည်။ ကရဝိတ်ဖေါင်သည် ယခုခေတ် ပင်လယ်ကူး ဇိမ်သင်္ဘောကြီးများသဖွယ် ကျယ်ပြန့်၍ သွားလာရာ၌ သက်သာ ချောင်ချိသည်။မင်းပွဲသဘင် အခမ်းအနားများတွင် မင်းမိဖုရားတို့ တက်ရောက်စီးနင်းသော ကရဝိတ်ဖေါင်တော်ကို လှော်ကားများက ကြိုးဖြင့် ချိတ်ဆွဲတွဲယူ ကြလေသည်။



ရှေးမြန်မာမင်းများလက်ထက်က မင်းပွဲသဘင်၌ အသုံးပြုခဲ့သည့်ဖေါင်တော်ကို အတုခိုးထားသော ယခုခေတ် ကရဝိတ်ဖေါင်

**ကရာချိမြို့။** ။ကရာချိမြို့သည် အိန္ဒိယကျွန်းဆွယ် အနောက်ဖက်ပိုင်း သိန္ဓုနယ်ရှိ သင်္ဘောဆိပ်မြို့ဖြစ်၍၊ပါကစ္စတန်နိုင်ငံ၏ မြို့တော်ဖြစ်ပြီးလျှင် အိန္ဒုမြစ်ဝကျွန်းပေါ် ဒေသ၏ မြောက်ဖက်တွင် တည်ရှိ၏။ထို့ကြောင့် အိန္ဒုမြစ်ဝှမ်းတလျှောက်မှ သယ်ဆောင် ယူလာသော ကုန်များနှင့်၊ သိန္ဓုနယ်မှထွက်သော ဝါဂွမ်း၊ဆား၊သားရေစိမ်း၊သိုးမွေးအကြမ်းနှင့် ဂျုံစပါးတို့ကို ကရာချိမြို့မှတဆင့် အခြားမြို့နယ်နိုင်ငံများသို့ တင်ပို့လေသည်။ထိုသို့ ကရာချိမြို့သည် အတွင်းဖက်ရှိ နယ်များအတွက် ထွက်ပေါက်ဖြစ်သဖြင့် ကုန်စည်ကူးသန်းရောင်းဝယ်ရေး၌ ထင်ရှားသောမြို့ ဖြစ်သည်။ပါကစ္စတန်နိုင်ငံအတွက် ဥရောပတိုက်နှင့်အနီးဆုံး သင်္ဘောဆိပ်နှင့် လေဆိပ်စခန်းလည်းဖြစ်၍ အခြားမြို့ကြီးများနှင့် မီးရထားဖြင့် ဆက်သွယ်လျက်ရှိသည်။ ထိုမြို့မှ ဟိုက်ဒရဗတ်နယ်နှင့် အိန္ဒုမြစ်ဝှမ်းတလျှောက်သို့ မီးရထားလမ်းမှငင်း၊ ရေလမ်းမှငင်း၊ကူးသန်းသွားလာနိုင်လေသည်။

ကရာချိမြို့နှင့် ၃ မိုင်ခန့်ကွာဝေးသော ကီယာမာရီကျွန်းတွင် အကြီးဆုံးသော သင်္ဘောကျင်းများကို တည်ဆောက်ထား၏။ ထိုမြို့တွင် ဖိလတ်မြေလုပ်ငန်းနှင့် တံငါလုပ်ငန်းများမှာ ထင်ရှားသော လုပ်ငန်းကြီးများ ဖြစ်လေသည်။

ကရာချိမြို့၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၈၁၂ ဖြစ်၍ လူဦးရေမှာ ၁၉၅၂ ခုနှစ် သန်းကောင်စာရင်း အရ ၁,၁၁၈,၀၀၀ ဖြစ်သည်။

**ကရားကော့မြို့။** ။ကရားကော့မြို့သည် ပိုလန်နိုင်ငံ၏ မြို့တော်ဟောင်းဖြစ်၍ ဗစ္စတျူလမြစ်၏ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိသည်။ ရေကြောင်း အသွားအလာဖြစ်သော မြစ်ရိုးဒေသ၏ထိပ်တွင် တည်ရှိသဖြင့်၊စီးပွားရေးဖက်နှင့် နိုင်ငံရေးဖက်တို့တွင် အရေးပါလေသည်။မီးရထားလမ်းဆုံမြို့ ဖြစ်သဖြင့်လည်းကူးသန်းရောင်းဝယ်ရာ ဗဟိုဌာနကြီးဖြစ်နေသည်။ကရားကော့မြို့နယ်၌ရှိသော ဗျေလိက ဆားတွင်းများမှာ ထင်ရှားကြ၏။ကရားကော့မြို့ အနီးတဝိုက်တွင် သွပ်၊ခဲ၊ကျောက်မီးသွေးများ တွေ့ရှိလျက်၊ဓါတ်ပစ္စည်းများ၊လယ်ယာဆိုင်ရာ ကရိယာများ၊စက်ကရိယာများနှင့် အထည်အလိပ်များကို ပြုလုပ်ရောင်းချကြသည်။

ဗစ္စတျူလမြစ်၏ အထက်ဖက်တွင်ရှိသော ကျောက်တောင်ကုန်းပေါ်တွင် ရှေးအဆောက်အအုံများကို တွေ့နိုင်၏။ ၁၄ ရာစုနှစ်က ဆောက်လုပ်ထားသော ဘုရားရှိခိုးကျောင်းကြီးမှာ ရှေးပိုလန်ဘုရင် အဆက်ဆက်တို့ ဘိသိက်ခံယူရာနေရာ ဖြစ်သည့်ပြင်၊ပိုလန် အာဇာနည်ပုဂ္ဂိုလ်များကို မြှုပ်နှံသော နေရာလည်း ဖြစ်သည်။ကရားကော့ တက္ကသိုလ်ကျောင်းကြီးမှာ ၁၃၆၄ ခုနှစ်၌ ဖွင့်ခဲ့၍ အလွန်ရှေးကျသော တက္ကသိုလ်ကျောင်းကြီး ဖြစ်သည်။ တက္ကသိုလ်စာကြည့်တိုက် ဝင်းအတွင်းတွင် လွန်ခဲ့သော နှစ်ပေါင်း ၅၀၀ ခန့်က ထင်ရှားခဲ့သော နာမည်ကျော် နက္ခတ်ဆရာကြီး ကော့ပါးနီကပ်၏ ကျောက်ရုပ်ကို ထားရှိလေသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း ၁၉၃၉ ခုနှစ်၌ ဂျာမန်




**ပါကစ္စတန်နိုင်ငံ၏ မြို့တော်ဖြစ်သော ကရာချိမြို့ရှိ အယ်လဖင်စတုန် လမ်းမတလျှောက်မှ ရှုခင်းတခု**



ပိုလန်နိုင်ငံ၏ မြို့တော်ဟောင်းဖြစ်သော ကရားကော့မြို့၏ တစိတ်တဒေသကို စိန်မေရီဘုရားရှိခိုးကျောင်းပေါ်မှကျော်၍ မြင်ရပုံ။

တို့သည် ကရားကော့မြို့ကို သိမ်းပိုက်ခဲ့ကြသော်လည်း၊စစ်ကြောင့် မြို့၌ အပျက်အစီးများစွာ မဖြစ်လှချေ။ ၁၉၄၅ ခုနှစ်တွင် ရုရှစစ်တပ်များက ပြန်လည်သိမ်းပိုက်၍၊ပိုလန်တို့လက်သို့ ပြန်အပ်လိုက်လေသည်။ကရားကော့မြို့၏ ခန့်မှန်းခြေ လူဦးရေမှာ ၃၅၀,၀၀၀ ခန့် ဖြစ်၏။

**ကရိကျွန်း**။ ။မြေထဲပင်လယ် အရှေ့ပိုင်းတွင် ရှိသော ကရိကျွန်းသည် အလျား မိုင် ၁၆၀၊ အကျယ် ၇ မိုင်မှ ၃၅ မိုင်အထိ ရှိ၍၊ဧရိယာအားဖြင့် စတုရန်းမိုင် ၃,၂၃၅ ကျယ်ဝန်း၏။ မြေထဲပင်လယ်တွင် စတုတ္ထအကြီးဆုံးသော ကျွန်းဖြစ်သည်။ အီးဂျီးယန်း ပင်လယ်ပြင်၏ တောင်ဖက်ပိုင်းကို ကန့်လန့်ဖြတ် တည်ရှိလျက်၊ဂရိနိုင်ငံနှင့် မိုင် ၆၀ ခန့်ကွာ၍၊အာရှမိုင်းနားနှင့် မိုင် ၁၀၀ ကျော်ခန့် ကွာဝေးသည်။ဥရောပတိုက်မှ အာရှတိုက်နှင့် အာဖရိကတိုက်များသို့ သွားရာ ရေလမ်းခရီးပေါ်တွင် တည်ရှိသဖြင့် အရေးပါ ထင်ရှားလေသည်။

ကရိကျွန်းသည် ဒဏ္ဍာရီပုံပြင်နှင့် သမိုင်းများတွင် လွန်ခဲ့သည့် နှစ်ပေါင်း ငါးထောင်ကျော်လောက်ကပင် ထင်ပေါ်ကျော်စောခဲ့သည်။အီဂျစ်နိုင်ငံနှင့် အာရှတိုက်မှ ယဉ်ကျေးမှုနှင့်တကွ အတတ်ပညာအမျိုးမျိုးတို့ ဥရောပတိုက်သို့ ကူးစက် ပြန့်ပွားခဲ့စဉ်ကာလမ်းခုလတ်၌ရှိသော ကျွန်းဖြစ်သည့်အားလျော်စွာ၊ နိုင်ငံသမိုင်းဆိုင်ရာ သုတေသီများအတွက် အထူး စိတ်ဝင်စားဖွယ်ရာဒေသ ဖြစ်လေသည်။

ကရိကျွန်းသည် တောင်ထူထပ် ပေါများ၍ ဆီးနှင်း ဖုံးအုပ်လောက်အောင် မြင့်မားသော တောင်ထိပ်များစွာ ရှိသည်။ တောင်တန်းကြီးတခုသည် ကျွန်း၏တဖက်ဖျားမှ တဖက်ဖျားသို့ဖြတ်၍ တည်ရှိနေပြီးလျှင် မြောက်ဖက်သို့ ပြေပြစ်စွာ နိမ့်လျှောသွားသော်လည်း၊တောင်ဖက်သို့မူ ပင်လယ်ကမ်းခြေ ကျောက်ဆောင် ကမ်းပါးကြီးများ အထိ နက်စောက်သော တောင် နံ ရံကြီး သဖွယ် ကျဆင်းသွားလေသည်။ထိုတောင်တန်းကြီး၏ အလယ်ဗဟိုတွင်ရှိသော ပဆီလိုရီတီ တောင်ထိပ်မှာ ပေပေါင်း ၈၀၀၀ မျှ မြင့်၏။ထိုတောင်ထိပ်၏ ရှေးအမည်မှာ အိုက်ဒါတောင်ထိပ် ဖြစ်လျက်၊ဇုနတ်မင်း၏ မွေးရာဒေသဟု ဆိုလေသည်။များစွာသော လျှိုမြောင် တောင်ကြားတို့မှာ နက်ရှိုင်းလှသဖြင့် အတွင်းသို့ မည်သည့်အခါမျှ နေရောင်မထိုးနိုင်ချေ။ တောင်ခြေနှင့် မြေနိမ့်ကွင်းပြင်တို့တွင် စပျစ်၊ သံလွင်၊ လိမ်မော်၊ ရှောက်အစရှိ သောအပင်များ ထူထဲစွာ ပေါက်ရောက်ကြသည်။ ပင်လယ်ကမ်းခြေ တလျှောက်ရှိ လွင်ပြင်များတွင် ဆေးနှင့်ဝါများကို စိုက်ပျိုးကြ၏။ တောင်ပေါ်သည့်အလျောက် အဖိုးတန် သတ္တုများရှိရာ သံ၊ခဲမန်ဂနိ၊ကန့်၊ကြေးနီနှင့် သွပ်တို့ကို တူးဖေါ် လုပ်ကိုင်ကြလေသည်။

ကရိကျွန်းတွင် လူဦးရေ ၄၃၈,၂၃၉ ရှိသည့်အနက်၊သုံးပုံနှစ်ပုံခန့်တို့မှာ ဂရိအဆက်အနွယ်များဖြစ်၍ ဂရိယုံကြည်မှုကို လိုက်နာကြသည်။ ကရိ ကျွန်းသူကျွန်းသားတို့သည် ရှေးဆန်ဆန်ဖြစ်ကြ၍၊စာဖတ် စာရေးတတ်သူ နည်းသည်။ တူရကီများလက်အောက်သို့ ကျရောက်ခဲ့စဉ်ကာလူအများပင် မွတ်စလင်အဖြစ်သို့ ကူးပြောင်းခဲ့ကြသည်။ ထိုအခါမှစ၍ ယခုခေတ် တိုင်အောင် ခရစ်ယန်နှင့် အစ္စလမ် အယူဝါဒကွဲသည့် ကရိကျွန်းသူကျွန်းသား အချင်းချင်းတို့သည် မကြာခဏ တိုက်ခိုက်လေ့ရှိကြ၏။ လယ်ယာလုပ်ငန်း၊အထူး



ရှေးခေတ်ယဉ်ကျေးမှု ထွန်းကားခဲ့သော ကရိကျွန်းရှိ ဖက်စတော့မြို့သည် ယခုအခါ ဤသို့ပျက်စီးယိုယွင်း၍ နေပေပြီ။

သဖြင့် သံလွင်ပင်စိုက်ပျိုးခြင်းမှာ အများလုပ်ကိုင်သော အလုပ်ဖြစ်သည်။

ဘီစီ ၁၀၀၀ ပြည့်နှစ်ခန့်ကပင် ဂရိလူမျိုးတို့သည် အီးဂျီးယန်း ယဉ်ကျေးမှုကို ဖျက်ဆီး၍ ကရိကျွန်းကိုပါ စိုးမိုးခဲ့ကြသည်။ ထိုအခါမှစ၍ ကရိလူမျိုးတို့သည် ကမ္ဘာ့သမိုင်းတွင် မေးမှိန်သွားခဲ့လေသည်။ ထိုနောက် ဘီစီ ၆၇ ခုနှစ်တွင် ရောမလူမျိုးများ ကရိကျွန်းသို့ ရောက်လာ၍ သိမ်းပိုက်လိုက်ကြသည်။ ရောမနိုင်ငံတော်ကြီး ပြိုကွဲသွားသောအခါ၊ကရိကျွန်းသည် ဆာရဆင်လူမျိုးတို့၏ လက်အောက်သို့ ကျရောက်သွားပြီးနောက် မွတ်စလင် ပင်လယ်ဓါးပြစခန်းတခု အဖြစ်သို့ သက်ဆင်းခဲ့လေသည်။ အေဒီ ၉၆၀ ပြည့်နှစ်တွင် ဗိုင်ဇင်းတိုင် နိုင်ငံတော်၏ အစိတ်အပိုင်းတခု ဖြစ်ခဲ့ပြီးနောက်၊စတုတ္ထ အယူဝါဒတိုက်ပွဲအတွင်း အေဒီ ၁၂၀၄ ခုနှစ်တွင် ဗီနီးရှန်းတို့၏ နိုင်ထက်စီးနင်း အုပ်ချုပ်ခြင်းကို ခံရပြန်သည်။ ၁၆၆၉ ခုနှစ်တွင် တူရကီတို့သည် အနှစ် ၂၀ ကြာမျှ ဝန်းရံ လုပ်ကြံကြပြီးနောက် ကရိကျွန်းကို သိမ်းပိုက်လိုက်ကြ၏။ တူရကီတို့၏ လက်အောက်တွင် ယင်းတို့၏ ရက်စက်သော အုပ်ချုပ်နည်းတို့ကြောင့်၎င်း၊ အစ္စလမ်အယူဝါဒ ခရစ်ယန်အယူဝါဒဟူ၍ အယူဝါဒ ကွဲပြားလာခြင်းကြောင့်၎င်း၊ပုန်ကန် ထကြွမှုများနှင့် အဓိကရုဏ်းများ မကြာခဏ ပေါ်ပေါက်ခဲ့လေသည်။ သို့ရာတွင် ၁၉၁၃ ခုနှစ်၌ ဗော်လကန်စစ်ပွဲများ အပြီးတွင် တူရကီသည် ကရိကျွန်းကို ဂရိတို့အား လွှဲပြောင်း ပေးလိုက်ရရာ၊ ထိုအခါမှစ၍ ဂရိပိုင် ဖြစ်လာလေသည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း၌ ဂျာမန်တို့သည် လေထီးတပ်သားများကို အသုံးပြု၍ ဒလကြမ်း တိုက်ခိုက်ပြီးလျှင် ကရိကျွန်းကို သိမ်းပိုက်လိုက်ကြ၏။ မဟာမိတ်တပ်များသည် ၁၉၄၅ ခု မေလရောက်မှသာ ကရိကျွန်းကို ပြန်လည်သိမ်းပိုက်နိုင်ကြသည်။

ယခုအခါ ရှေးခေတ် ကရိယဉ်ကျေးမှု၏ အမွေအနှစ်များကို ရှေးဟောင်းပစ္စည်း ရှာဖွေတူးဖော်ရေး အဖွဲ့များ၏ လှုံ့လကြောင့် အများအပြားပင် ပြန်လည် တွေ့ရှိကြရလေပြီ။ ရှေးကရိမြို့တော်ဖြစ်သောနော့ဆပ်မြို့ နေရာဟောင်းကို တူး ဖော် ခဲ့ ရာ၊ကရိ ဘုရင် မိုင်းနော့၏ ဝင်္က ပါသဏ္ဌာန် နန်းတော်ဟောင်းကို တွေ့ရှိခဲ့ကြသည်။

ယခုခေတ်တွင် ထင်ရှားသော မြို့များမှာ ကာနီယာနှင့် ကန်ဒီယာတို့ ဖြစ်ကြ၏။ ကာနီယာမြို့သည် ထိုကျွန်း၏ မြို့တော်ဖြစ်လျက်၊လူဦးရေ ၂၈,၀၀၀ ကျော်ခန့် ရှိသည်။ ကန်ဒီယာမြို့သည် ခေတ်မီ သင်္ဘောဆိပ်ကောင်း ရှိသည့်ပြင်၊အရောင်းအဝယ် ကြီးကျယ်သဖြင့် ကရိကျွန်းတွင် အကြီးဆုံးမြို့ကြီး ဖြစ်သည်။ လူဦးရေ ၄၂,၅၀၀ ခန့်ရှိ၏။ ကရိကျွန်း၏ အဓိက လုပ်ငန်းများမှာ ဆပ်ပြာချက်လုပ်ခြင်း၊ ဒိန်ခဲလုပ်ခြင်း၊သံလွင်ဆီနှင့် သစ်သီးမျိုးစုံတို့ကို နိုင်ငံခြားသို့ အမြောက်အမြား တင်ပို့ခြင်းတို့ ဖြစ်လေသည်။

**ကရိယာ။** ။တန်ဆာပလာ — ရှု။

**ကရိအိုစုတ်။** ။မြန်မာနိုင်ငံတွင် မြေတွင်း၌ မြှုပ်ထားရသည့် သစ်သားကိုဖြစ်စေ၊ မြေပြင်ပေါ်၌ ထားရသည့် သစ်

သားကိုဖြစ်စေ၊ ကြာရှည်ခံအောင် ရေနံ သုတ်လိမ်းထားတတ်သည့် နည်းတူ၊ အနောက်နိုင်ငံများတွင် သစ်နှင့်ကျောက်မီးသွေးမှ ထုတ်ယူရရှိသော ကရီအိုစုတ်ဆီဖြင့် သစ်သားများကို သုတ်လိမ်းတတ်ကြ၏။

အထူးသဖြင့် မီးရထားသံလမ်းအောက်ခံ ဇလီဖါးတုံးများမှာ အပူအအေးဒဏ်ကို အမြဲ ခံနေရသည့်အပြင်၊နေ့စဉ်ခုတ်မောင်းလျက်ရှိသော မီးရထားတွဲများ၏ အလေးချိန်အားကြောင့် ဆွေးမြည့် ပျက်စီးလွယ်တတ်၏။ သို့ဖြစ်၍ ဇလီဖါးတုံးများ ကြာရှည်ခံအောင် ကရီအိုစုတ်ဆီဖြင့် သုတ်လိမ်းထားလေ့ရှိသည်။ ဓါတ်မီးတိုင် ကြေးနန်းတိုင် စသည်များကိုလည်း ထိုဆီဖြင့် သုတ်လိမ်းထားလေ့ရှိကြသည်။

ကျောက်မီးသွေးမှ ဖြစ်စေ၊သစ်သားမှ ဖြစ်စေ၊ထုတ်ယူပြီးခါစ၌ ကရီအိုစုတ်ဆီသည် အရောင်အဆင်း မရှိချေ။ သို့ရာတွင် အချိန် အတန်ကြာလာသည့်အခါ ညိုသွားသည်။ ထိုဆီ၏အနံ့မှာ အလွန်စူးရှ၏။

သင်းဝင်သားမှ ထုတ်ယူရရှိသည့် ကရီအိုစုတ်ဆီမှာ အနာခွဲစိတ်ရာ၌ ဖြစ်စေ၊သွားများ ကုသရာ၌ ဖြစ်စေ၊အလွန်အသုံးဝင်သော အန်တီဆက်ပတစ် (အပုပ်နိုင်ဆေး၊အနာမယဉ်းဆေး) ဖြစ်ပေသည်။

ကျောက်မီးသွေးကတ္တရာမှ ထုတ်ယူရရှိသော ကရီအိုစုတ်ဆီမှာ အရည်ပျစ်သည်။



စစ်ရှုံးဘုရင် ကရီးဆပ်အား မီးစင်တင်ရှို့ရန် ပြင်ဆင်နေစဉ်

**ကရီးဆပ်ဘုရင်** (ဘီစီ ၅၆၀–၅၄၆)။ ။ကရီးဆပ်ဘုရင်သည် အီးဂျီးယန်း ပင်လယ်ကမ်းခြေပေါ်ရှိ အနောက်ပိုင်း အာရှမိုင်းနားတွင် အဝင်အပါဖြစ်သော လစ်ဒီးယားနိုင်ငံကို နောက်ဆုံးစိုးစံခဲ့သည့် ဘုရင်ဖြစ်သည်။ ထိုခေတ်အခါက ချမ်းသာကြွယ်ဝဆုံးသော ဘုရင်တပါးဖြစ်ခဲ့၍၊ သူ၏ဂုဏ်သတင်းမှာ အဝေးအနီး ကျော်ကြားခဲ့လေသည်။

လစ်ဒီးယား ရွှေတွင်းများမှ ရွှေအမြောက်အမြား ရသည့်ပြင်၊ ပက်တိုးလပ်မြစ်အတွင်းရှိ သဲများကို ကျင်ယူခြင်းဖြင့်လည်း ရွှေအများအပြား ရရှိသည့်အတွက် ကရီးဆပ်ဘုရင်၏ ဘဏ္ဍာတော်တိုက်မှာ ရွှေများဖြင့် ပြည့်လျှမ်းနေခဲ့သည်။ အလွန် ကြွယ်ဝ သည့်အဖြစ်ကို ဖေါ်ပြလိုသည့်အခါ 'ဇောတိက သဌေး' နှင့် ခိုင်းနှိုင်း၍ မြန်မာများပြောလေ့ပြောထ ရှိသကဲ့သို့၊အနောက်နိုင်ငံများတွင်လည်း 'ကရီးဆပ်လိုချမ်းသာလေရဲ့'ဟု တင်စားပြောလေ့ရှိကြ၏။

အာရှမိုင်းနား ကမ်းခြေတလျှောက်တွင်ရှိသော ဂရိမြို့များကို စိုးမိုးရသဖြင့်၎င်း၊ ဂရိနိုင်ငံနှင့် ကူးသန်း ရောင်းဝယ်ရသဖြင့်၎င်း၊ကရီးဆပ်ဘုရင်သည် ဂရိတို့နှင့် အထူးရင်းနှီးခဲ့၏။ ကူးသန်းရောင်းဝယ်ရေး ထွန်းကားခဲ့သဖြင့် တိုင်းပြည်စည်ပင်သာယာ ရှိခဲ့သည့်ပြင်၊ တိုင်းသူပြည်သားတို့လည်း ချမ်းသာတိုးတက်ခဲ့ကြသည်။ ထိုမင်းလက်ထက်တွင် ရွှေဒင်္ဂါးနှင့် ငွေဒင်္ဂါးများကို ပဌမဆုံး သွန်းလုပ် သုံးစွဲခဲ့သည်ဟု အဆိုရှိလေသည်။

လစ်ဒီးယား နိုင်ငံ၏ မြို့တော် ဖြစ်သော ဆာဒစ်မြို့တွင် ကရီးဆပ်ဘုရင်၏ ခမ်းနားလှပသော နန်းတော်ကြီးရှိရာ၊ ကျော်ကြားလှသဖြင့် ရပ်ဝေးဒေသတို့မှ လူအများ လာရောက်ကြည့်ရှု ကြလေသည်။ ထိုသို့ လာရောက် ကြည့်ရှုသူများထဲတွင် ဂရိလူမျိုး ဥပဒေပြု ပညာရှိကြီး ဆိုလွန်လည်း ပါဝင်၏။ ပညာရှိအပေါင်းနှင့် ငြိမ့်ငြောင်းသာယာစွာ နေလိုသော ကရီးဆပ်သည် တနေ့သော် ပါးရှားဘုရင် ဆိုင်းရပ်၏ နယ်ချဲ့စက်ကွင်းအတွင်း ကျဆင်းခဲ့ရလေသည်။

စစ်ရိပ်စစ်ငွေ့များ သန်းလာသောအခါ ကရီးဆပ်ဘုရင်သည်ဒဲလဖိုင်မြို့ရှိ နတ်ကွန်းသို့ စစ်တိုက်သင့် မတိုက်သင့် ဟောကိန်းထုတ်ပေးရန် စေတမန်လွှတ်၍ မေးမြန်းလိုက်၏။ ရရှိလာသော အဖြေမှာ ကရီးဆပ် စစ်တိုက်ခဲ့သော် တန်ခိုးကြီးသော နိုင်ငံတော်ကြီး ပျက်စီးလတ္တံ့ဟု ဖြစ်သဖြင့်၊ကရီးဆပ်သည် ရန်သူ ပါးရှားနိုင်ငံအား ချေမှုန်းနိုင်မည်ဟု အထင်ရောက်ခဲ့လေသည်။ သို့ရာတွင် ဆာဒစ်စစ်ပွဲ၌ ပါးရှင်းတို့က အနိုင်ရလိုက်သဖြင့် သူ၏နိုင်ငံကြီးသာ ပျက်စီးသွားရရှာလေသည်။

ပါးရှားဘုရင် ဆိုင်းရပ်သည် ကရီးဆပ်အား အရှင်လတ်လတ် မီးရှို့၍သတ်ရန် အမိန့်ချမှတ်လိုက်၏။ မီးစင်ပေါ်သို့ ရောက်နေသော ကရီးဆပ်သည် မီးတောက်မီးလျှံ ကြီး၍ကြီး၍ လာသည်တွင်၊ ဆိုလွန်၏အမည်ကို သုံးကြိမ်သုံးခါ မြည်တမ်းလိုက်လေသည်။ ထိုအခါ ဆိုင်းရပ်ဘုရင်သည် ကရီးဆပ်အား သေအံ့ဆဲဆဲမှ အဘယ်ကြောင့် ဆိုလွန်ကို တမ်းတရသနည်းဟု မေး၏။ ကရီးဆပ်က သူသည် သူ၏ ချမ်းသာကြွယ်ဝခြင်း၊ စိတ်ပျော်ရွှင်ခြင်းတို့နှင့် စပ်လျဉ်း၍ ဆိုလွန်အား ကြွားဝါခဲ့ဘူးကြောင်း၊ဆိုလွန်က ကံကြမ္မာတို့မှာ ဆန်းကြယ်လှသဖြင့် လူတဦးတယောက်အား သေလွန်မှသာ ပျော်ရွှင်ခြင်း ရှိ မရှိ ခြိမ်းမွမ်းနိုင်မည်ဟု ပြန်လည်ချေပဘူးကြောင်း စသည်ဖြင့် ဖြေကြားလေသည်။ ဆိုင်းရပ်ဘုရင်လည်း အဖြေကို ကြားသည့်အခါ စိတ်တွင် ထိခိုက်သွားရကား၊ကရီးဆပ်အား သေဒဏ်မှလွတ်၍ သူ၏နန်းတော်တွင် ကောင်းစွာ ပြုစုထားခဲ့လေသည်။

**ကရူးဆိုး,ရော်ဗင်ဆန်။** ။ဒန်းနယဲ ဒီဖိုး ရေးသားသော ရော်ဗင်ဆန်ကရူးဆိုး ဝတ္ထုကို ကြားဘူးကြပေမည်။ ထိုဝတ္ထုမှာ စာရေးဆရာ၏ ထူးထွင်းဉာဏ်သက်သက်ဖြင့် ရေးသားသော ဝတ္ထုမဟုတ်ဘဲ တကယ် အဖြစ်အပျက်တခုကို မူတည်လျက် ရေးသားခြင်းဖြစ်သည်။ ဝတ္ထုတွင် ဇာတ်အိမ်တည်ထားသော ကျွန်းကလေးမှာ တောင်အမေရိကတိုက် ချီလီနိုင်ငံ ကမ်းခြေမှ မိုင် ၄၀၀ အကွာတွင် ရှိသော ဂျူအန်ဖါနန်းဒက် ကျွန်းစုတွင် ပါဝင်လေသည်။

ဒီဖိုးသည် ရော်ဗင်ဆန်ကရူးဆိုး ဝတ္ထုကို ရေးသားရာတွင် ထိုကျွန်းကလေးသို့ ကိုယ်တိုင်ရောက်ရှိ၍ နေထိုင်ခဲ့ရသော အယ်လက်ဇန္ဒာ ဆဲလကတ်၏ ကိုယ်တွေ့စွန့်စားခန်းတို့ကို မှီငြမ်းပြု၍ ရေးသားထားကြောင်း သိရ၏။ ထိုကြောင့် ကရူးဆိုးသည် ဆဲလကတ်ဖြစ်ကြောင်း ထင်ရှားသည်။ အယ်လက်ဇန္ဒာ ဆဲလကတ်ကား ၁၆၇၆ ခုနှစ်တွင် မွေးဖွား၍ ၁၇၂၁ ခုနှစ်တွင် အနိစ္စရောက်ခဲ့သော ဗြိတိသျှလူမျိုး သင်္ဘောသားတဦး ဖြစ်လေသည်။

ဆဲလကတ်သည် အင်္ဂလန်ပြည် ဖိုက်ရှိုင်ယာနယ် လားဂိုးကျေးလက်တွင် ဖွားမြင်၍၊လူလားမြောက်လာသောအခါ သင်္ဘောသားအဖြစ် အသက်မွေးခဲ့၏။ ထိုအချိန်တွင် အင်္ဂလန်နှင့် စပိန်နိုင်ငံတို့သည် စစ်ဖြစ်လျက်ရှိကြရာ၊ဆဲလကတ်သည်လည်း ရန်သူ စပိန်သင်္ဘောများကိုတိုက်ခိုက်ရာ၌ ကူညီဆောင်ရွက်ရန် တောင်ပင်လယ်ဟု ခေါ်တွင်သော ပစိဖိတ်သမုဒ္ဒရာသို့ ထွက်ခွာလာခဲ့သည်။ တဖန် ၁၇၀၄ ခုနှစ်တွင် အင်္ဂလိပ်ရွက်သင်္ဘောတစင်း၌ မာလိန်အဖြစ် အမှုထမ်း၍ ပင်လယ်ခရီး ထွက်ခဲ့ပြန်ရာ၊လမ်းခရီးတွင် သင်္ဘောကပ္ပိတန်နှင့် မသင့်မမြတ် ဖြစ်သောကြောင့် မိမိအား နီးရာကျွန်းတကျွန်း၌ ချထားခဲ့ရန် ပြောလေသည်။ ထိုအချိန်တွင် ရွက်သင်္ဘောသည် တောင်ပိုင်း ပစိဖိတ်ဒေသရှိ ဂျူအန်ဖါနန်းဒက် ကျွန်းကလေးအနီးမှ ဖြတ်သွားလျက်ရှိသဖြင့် ဆဲလကတ်ကို ထိုကျွန်းပေါ်၌ ချထားခဲ့သည်။ သင်္ဘောကို ကမ်းမှခွာတော့မည် အပြုတွင် ဆဲလကတ်သည် သူ၏အမှားကို နောင်တရကာ သူ့ကိုထားမပစ်ခဲ့ဘဲ ပြန်ခေါ်သွားရန် တောင်းပန်ပြန်၏။ သို့ရာတွင် ကပ္ပိတန်သည် သူ၏တောင်းပန်ချက်ကို မလိုက်လျောဘဲ သင်္ဘောကို ကမ်းမှခွာ၍ ခရီးဆက်လက်ထွက်ခဲ့လေသည်။ ဤသို့ဖြင့် လူသူကင်းမဲ့သော ကျွန်းကလေးပေါ်တွင် ဆဲလကတ်သည် တယောက်ထီးတည်း နေထိုင်ခဲ့ရရာ၊လေးနှစ်နှင့် လေးလမြောက်သော ၁၇၀၉ ခု ဇန္နဝါရီလတွင်မှ ထိုကျွန်းကလေးအနီးသို့ ဖြတ်သန်းသွားသော အင်္ဂလိပ် ရွက်သင်္ဘောတစင်းက တွေ့ရှိသဖြင့် ကယ်ဆယ်ခဲ့ရလေသည်။

ထို လေးနှစ်ကျော် ကာလအတွင်း၌ ဆဲလကတ်သည် ကျွန်းကလေးအနီးမှ သင်္ဘောများ မကြာခဏ ဖြတ်သန်းသွားသည်ကို လှမ်း၍ မြင်ရသော်လည်း၊ထိုသင်္ဘောများပေါ်မှ လူများ ကြားသိအောင် အော်ဟစ်ခေါ်ငင်ရန် မတတ်နိုင်သဖြင့် သောင်တင်လျက် နေခဲ့၏။ တခါ၌ကား သင်္ဘောတစင်းသည် ကျွန်းကလေး၏ကမ်းခြေသို့ အလွန်နီးကပ်စွာဆိုက်ကပ်လာသည်တွင်၊ဆဲလကတ်သည် ဝမ်းသာအားရ ပြေး၍ကြည့်လိုက်ရာ ရန်သူစပိန်နိုင်ငံမှ သင်္ဘောဖြစ်နေသောကြောင့်၊အကူအညီ မတောင်းဝံ့ရုံ သာမက သင်္ဘောသားများ သူ့ကိုမမြင်စေရန် သစ်ပင်ကြီး တပင်ပေါ်သို့ပင် တက်ရောက် ပုန်းအောင်း၍ နေခဲ့ရဘူးလေသည်။ တနေ့သော် 'ဒျူ' အမည်ရှိ ဗြိတိသျှ ရွက်သင်္ဘောတစင်းသည် ကံအားလျော်စွာ ထိုကျွန်းအနီးသို့ ရောက်ရှိလာပြီးနောက် ကပ္ပိတန်က သင်္ဘောသားအချို့ကို သောက်ရေရှာရန်အလို့ငှါ ကျွန်းပေါ်သို့ စေလွှတ်လိုက်ရာ သင်္ဘောသားများသည် ထိုကျွန်းပေါ်၌ သားရေများကို ဆင်မြန်းထားသော လူရိုင်းတယောက်ကို တွေ့မြင်ကြရလေသည်။ ထိုလူရိုင်းကား ဆဲလကတ်ပင်ဖြစ်၏။ သင်္ဘောကပ္ပိတန် ဝုရော့ဂျားသည် ဆဲလကတ်၏ အဖြစ်သနစ် အလုံးစုံကို မေးမြန်းစုံစမ်း၍ မှတ်တမ်းတင်ထားပြီးနောက် နှစ်အနည်းငယ်အတွင်း၌ 'ပင်လယ်ခရီးဖြင့် ကမ္ဘာလှည့်ခဲ့ခြင်း' ခေါ် စာအုပ်တွင် ဆဲလကတ်အကြောင်းကို ထည့်သွင်း ရေးသားခဲ့လေသည်။

ဆဲလကတ်သည် ကျွန်းပေါ်၌ တကိုယ်တည်း ကျန်ရစ်ခဲ့စဉ် သူ့တွင်ရှိသော ပစ္စည်းများမှာ သူ၏အဝတ်အစားများ၊ အိပ်ရာလိပ်တခု၊ တူမီးသေနတ်တလက်၊ ခဲယမ်းမီးကျောက်နှင့် ဆေးရွက်အနည်းငယ်၊ပုဆိန်တလက်၊မောင်းချခါး တချောင်း၊လက်ဖက်ရည်ကရား တလုံး၊ ကျမ်းစာအုပ်

နှင့် အခြားသေးနုပ်သော ပစ္စည်းအနည်းငယ်ဖြစ်၏။ အဆိုပါ ပစ္စည်းများတွင် အတိုင်းအတာ အတွက်အချက်ဆိုင်ရာ တန်ဆာပလာများနှင့် စာအုပ်အချို့လည်း ပါသေးရာ ထိုစာအုပ်များကို ဖတ်ရှုယင်းဖြင့် ပျင်းရိအားငယ်မှုကို ဖြေဖျောက်ခဲ့ရလေသည်။ ဆဲလကတ်သည် နေထိုင်ရန် တဲငယ်တခုကို ပါလာသော ကရိယာ တန်ဆာပလာတို့ဖြင့် မဖြစ်ဖြစ်အောင် ဆောက်လုပ်၍ အမိုးကို မြက်ခြောက်များဖြင့် မိုးသည်။ ကျွန်းပေါ်တွင် ရိက္ခာဟူ၍ မရှိသဖြင့် တောရိုင်းတိရစ္ဆာန်များကိုပစ်ခတ်ဖမ်းယူ၍ မီးကင် စားသောက်ရ၏။

ဤသို့ဖြင့် နေထိုင်လာခဲ့ရာ အနည်းငယ်မျှသာ ပါလာသော ယမ်းများလည်း ကုန်ခန်းခဲ့လေပြီ။ ထိုအခါတိရစ္ဆာန်များကို အလွယ်တကူပစ်ခတ်ဖမ်းယူခြင်း မပြုနိုင်ရုံမျှမက မီးအလို့ငှါပင်လျှင် သစ်သားနှစ်ချောင်းကို တပင်တပန်းပွတ်တိုက်ယူရလေသည်။ သားကောင်များကို တနေကုန် တနေခန်း ချောင်းမြောင်း ဖမ်းယူမှသာ တရက်စာ နှစ်ရက်စာ လုံလောက်ရုံမျှ ရရှိသည်။ သို့ဖြစ်၍ ယခင်ကကဲ့သို့ အဝ မစားနိုင်တော့ဘဲ အလွန်တရာ ဆာလောင်မွတ်သိပ်မှသာ စားရတော့သည်။ ငါးများကိုမူ လိုသလောက် ဖမ်းယူရရှိနိုင်၏။ သို့ရာတွင် ရက်ကြာရှည်ခံအောင် ဆားနယ်ထားရန် ဆားမရှိသောကြောင့် ငါးအစားဗုဇွန်တုပ်များကိုသာ ဖမ်းယူလေတော့သည်။



ကျေးငှက်ကြောင်ခွေး တို့ကိုသာ အပေါင်းဖွဲ့ခဲ့ရရှာသူ ကရူးဆိုး

ဆဲလကတ်သည် နေသားကျလာသောအခါပင်လယ်လိပ်များကို ရှာဖွေ၍ စားသောက်သည့်ပြင် တောဆိတ်များကို နောက်မှ အတင်းပြေးလိုက်၍ ဖမ်းဆီး သတ်ဖြတ်နိုင်သည်အထိ ဖျတ်လတ် လျင်မြန်လာသည်။

ပါလာသော အဝတ်အစားများကို နေ့စဉ် ဝတ်ဆင်နေရသောကြောင့် မကြာမီပင် ဟောင်းနွမ်း စုတ်ပြတ်ကြသည်တွင်၊ပစ်ခတ် ဖမ်းယူရရှိသော တောဆိတ်ရိုင်းများ၏ သားရေဖြင့် အင်္ကျီ ဘောင်းဘီနှင့် ဦးထုပ်များ ချုပ်လုပ်သည်။ ထိုသားရေများကို ချုပ်လုပ်ရာ၌ အဝတ်အစားဟောင်းများမှ ရရှိသော ခြည်ပင်တို့ဖြင့်၎င်း၊ခြေအိတ်ဟောင်းများမှ ရရှိသော သိုးမွေးခြည်ပင်တို့ဖြင့်၎င်း၊ အပ်မပါဘဲ ခဲယဉ်းစွာ ချုပ်လုပ်ရ၏။

ရော်ဗင်ဆန်ကရူးဆိုး ဝတ္ထုတွင် စာရေးဆရာ ဒီဖိုးက ကရူးဆိုးသည် ကြက်တူရွေးကလေးများနှင့် ဆိတ်ကလေးများကို အဖေါ်အလို့ငှါ ယဉ်ပါးအောင် မွေးမြူထားသည်ဟု ဆိုလေသည်။ ဆဲလကတ်မှာမူကား သူနေထိုင်သော ကျွန်းကလေးတွင် ကြွက်များသောင်းကျန်းလှသဖြင့် ကြောင်များမွေးမြူ၍ ထိုကြွက်တို့၏ရန်ကို သုတ်သင်ရသည်ဟု ဆို၏။ ထိုကြောင်များမှာ ယခင်က ထိုကျွန်းကလေးသို့ တခါတရံ ဆိုက်ကပ်လာတတ်သော သင်္ဘောများမှ ကျန်ရစ်ခဲ့ဟန်ရှိသည့် ကြောင်များမှ ဆင်းသက်ပေါက်ဖွားလာ၍ လူနှင့်အနေဝေးသဖြင့် တဖြည်းဖြည်း တောစိတ်ဝင်သွားသည်ဟု ဆိုလေသည်။ ဆဲလကတ်သည် ပျင်းရိသောအခါများ၌သူမွေးမြူထားသော ကြောင်များ ဆိတ်ငယ်ကလေးများနှင့်ပင် ကစား ပျော်ပါးရလေသည်။ ရော်ဗင်ဆန်ကရူးဆိုးဝတ္ထု၌ ပါရှိသကဲ့သို့ ထိုကျွန်းပေါ်တွင် တခါတရံ လူသားစားလူရိုင်းများ လာရောက်တတ်ကြောင်း၊ 'ဖိုးသောကြာ' ခေါ် တပည့်ကျော်ရှိကြောင်း စသည်တို့ကား ဆဲလကတ်၏ တကယ့်အဖြစ်အပျက် စွန့်စားမှုများတွင် မပါဝင်ခဲ့ကြချေ။

ဆဲလကတ်သည် ယဉ်ကျေးသော လူလောကကြီးနှင့် နှစ်အတန်ကြာမျှ အဆက်ပြတ်နေခဲ့သဖြင့်၊သူ့အားကယ်ဆယ်သော သင်္ဘောသားများနှင့် တွေ့သောအခါ မိမိ၏ ဘာသာရင်းစကားကို နားမလည်သလောက် ဖြစ်နေ၏။အစားအသောက်တို့ကိုလည်း မစားတတ်သလောက် ဖြစ်နေတော့သည်။ဆဲလကတ်သည် အင်္ဂလန်ပြည်သို့ ပြန်လည်ရောက်ရှိပြီးနောက်၊ ၁၇၁၁ ခုနှစ်အထိ ကပ္ပိတန် ရော့ဂျား လက်အောက်တွင်ပင် အမှုထမ်းခဲ့၏။ ထိုနောက် သင်္ဘောတစင်းတွင် ဝင်ရောက် အမှုထမ်းယင်းပင် ၁၇၂၁ ခုနှစ်၌ ကွယ်လွန်အနိစ္စ ရောက်ခဲ့လေသည်။

# အယူဝါဒကြောင့် ဖြစ်ပွားရသော စစ်ပွဲများ

**သခင်ယေရှု ဖွားမြင်ရာ ဂျေရုဆလမ်မြို့ကို ပိုင်ဆိုင်ရေးအတွက် အနှစ် ၂၀၀ အတွင်း၌ ခရစ်ယန်တို့သည် မွတ်စလင်တို့နှင့် ၈ ကြိမ်မျှ သွေးချောင်းစီး တိုက်ခိုက်ခဲ့ကြ၏။ ထိုစစ်ပွဲများကြောင့် အပျက်နာခဲ့သလောက် အကျိုးလည်း များခဲ့ပေသည်။**

**ကရူးဆိတ်စစ်ပွဲများ။** ။ဗုဒ္ဓအယူဝါဒီတို့သည် မြတ်စွာဘုရား ပွင့်တော်မူရာ ဗုဒ္ဓဂယာကို အထွတ်အမြတ်ထား၍ ဘုရားဖူးသွားကြသကဲ့သို့ ခရစ်ယန်တို့သည်လည်း သခင်ယေရှု ဖွားမြင်တော်မူရာ ဒေသဖြစ်သော ဂျေရုဆလမ်မြို့ကို အထွတ်အမြတ်ထားလျက် ဘုရားဖူးသွားလေ့ရှိကြသည်။ အလယ်ခေတ်အတွင်း ဥရောပတိုက်သားတို့ ဂျေရုဆလမ်မြို့သို့ ဘုရားဖူးသွားကြစဉ်က၊ ဂျေရုဆလမ်မြို့ တည်ရှိရာ ပါလက်စတိုင်းပြည်ကို အုပ်စိုးလျက်ရှိသော အာရပ်မွတ်စလင်တို့သည် ခရစ်ယန်ဘုရားဖူးများကို အနှောင့်အယှက် မပြုခဲ့ကြချေ။ သို့သော် ၁၁ ရာစုနှစ်တွင် ဂျေရုဆလမ်မြို့သည် ထိုခေတ်က ဆာရဆင်ခေါ်သည့် ဆဲလဂျုတ်တရက်တို့ လက်အောက်သို့ ကျရောက်သွားသဖြင့်၊ ခရစ်ယန်ဘုရားဖူးများမှာ အာရပ်မွတ်စလင်တို့ လက်ထက်ကကဲ့သို့ မဟုတ်မူဘဲ ညှဉ်းပန်းနှိပ်စက်ခြင်း ခံကြရ၏။ ထိုအခါ ခရစ်ယန်တို့သည် မခံမရပ်နိုင်ဖြစ်၍ မိမိတို့ အထွတ်အမြတ်ထားရာဖြစ်သော သော့မြေကို ဆာရဆင်တို့လက်မှ ပြန်လည်သိမ်းပိုက်နိုင်ရန် ကြိုးစားကြကုန်သည်။ ဤသို့ဖြင့် ၁၁ ရာစုနှစ်မှ ၁၃ ရာစုနှစ်တိုင်အောင်ကရူးဆိတ်စစ်ပွဲပေါင်းရှစ်ကြိမ်မျှဖြစ်ပွားခဲ့လေသည်။

ပဌမကရူးဆိတ်စစ်ပွဲမှာ ၁၀၉၆ ခုမှ ၉၉ ခုနှစ်အတွင်း ဖြစ်ပွားခဲ့၏။ ဂျေရုဆလမ်၌ ခရစ်ယန်တို့အား ဆာရဆင်များက ညှဉ်းပန်းပုံကို ထိုအတိုင်းကြည့်နေလျှင်၊ ကဲသည်ထက်ကဲလာ၍ ခရစ်ယန်အယူဝါဒအား လွှမ်းမိုးသွားမည်ကို စိုးရိမ်ရသဖြင့်၊ ကလားမွန့်မြို့တွင် အယူဝါဒဆိုင်ရာ အစည်းအဝေးကြီးကျင်းပ၍ ဆာရဆင်တို့အား တိုက်ခိုက်နှိမ်နင်းရန် ဆုံးဖြတ်ကြသည်။ ထိုအရေးတွင် ပီတာ–သ–ဟာမစ်သည် အယူဝါဒစော်ကားသူ ဆာရဆင်တို့အား တိုက်ခိုက်ချေမှုန်းရန် ဥရောပတခွင်သို့ လှည့်လည်၍ လှုံ့ဆော်ခဲ့လေသည်။

ဥရောပမှ လူအများသည် ပါလက်စတိုင်းပြည်သို့ ချီတက်၍ ဂျေရုဆလမ်မြို့ကိုသိမ်းပိုက်ရန် တပ်ကြီးနှစ်တပ်ကို ဖွဲ့စည်းခဲ့သည်။ တပ်တတပ်ကို ပီတာ–သ–ဟာမစ်က ခေါင်းဆောင်၍ ကျန်တပ်တတပ်ကို ဝေါလတာ–သ–ပဲနီလက်အမည်ရှိ သူရဲကောင်းက ခေါင်းဆောင်လေသည်။

ပီတာခေါင်းဆောင်သောတပ်မှာ ကတိုက်ကရိုက် တပ်ဖွဲ့၍ ထွက်လာကြရသဖြင့်၊ အစီအစဉ်လည်း မကျနု၊ လက်နက်လည်း မပြည့်စုံချေ။ ထို့ပြင် အရှေ့နိုင်ငံများသို့ ချီတက်ရာ လမ်းခရီးမှာ ပင်ပန်းခက်ခဲလှ၍၊ ပါလက်စတိုင်းသို့ မရောက်



ပဌမကရူးဆိတ်စစ်ပွဲ၌ ဂျေရုဆလမ်မြို့တွင်းသို့ ဂေါ့ဖရီ ခေါင်းဆောင်သော ကရူးဆိတ်တပ်သားများ ဝင်ရောက်လာစဉ်



တတိယကရူးဆိတ်စစ်ပွဲမှ ရစ်ချတ်ဘုရင်နှင့် တပ်သားများ

မီကပင် တပ်သားများ သေကြေပျက်စီးကြသဖြင့် အရေးမလှခဲ့ချေ။ သို့ရာတွင် ဝေါလတာခေါင်းဆောင်သည့် တပ်ကား ကွန်စတန်တီနိုပယ်မြို့အရောက် ချီတက်နိုင်ခဲ့လေသည်။

ထိုတပ် ၂ တပ် ထွက်သွားပြီးမှ မင်းညီမင်းသားများနှင့် သူရဲကောင်းမြောက်မြားစွာ ခေါင်းဆောင်ပါဝင်သည့် စံနစ်တကျ ကျင့်သားရပြီးသော တပ်များသည် ပါလက်စတိုင်းပြည်ဖက်သို့ ဆက်လက်ချီတက်ကြသည်။ ယင်းသို့ချီတက်တိုက်ခိုက်ရာ လမ်းတလျှောက်တွင် ခရစ်ယန်တို့ဖက်မှ အကျအဆုံးများသလောက် ဆာရဆင်တို့ဖက်မှလည်း အပျက်အစီး နာလှသည်။ လမ်းတလျှောက်ရှိ မြို့ကြီးများကို သိမ်းပိုက်နိုင်၍ ၁၀၉၉ ခုနှစ်တွင် မိမိတို့၏ ရည်ရွယ်ချက်ပန်းတိုင်ဖြစ်သော ဂျရူးဆလမ်းမြို့ကြီးကို သွေးချောင်းစီးမျှ တိုက်ခိုက်ပြီးနောက် သိမ်းပိုက်နိုင်ကြသည်။ ထိုအခါတွင် ကရူးဆိတ်စစ်တပ်များဖက်မှ ခေါင်းဆောင်တဦးဖြစ်သော ဗူယွန်မြို့သား ဂေါ့ဖရီအား ဂျရူးဆလမ်းဘုရင်အဖြစ် တင်မြှောက်၍ သေဉ်မြေကိုကာကွယ်စောင့်ရှောက်ရန် ထားခဲ့ကြသည်။

ထိုစဉ်က ကရူးဆိတ်စစ်တပ်များတွင် ပါဝင်ဆင်နွှဲသူများမှာ ဂုဏ်ထူးဘွဲ့ထူးနှင့် ကျော်စောခြင်းကိုသာမက၊လယ်ယာမိုးမြေ ရွှေငွေအများလည်း ရရှိကြသည်။ထို့ကြောင့် နောင်ခေတ်များ၌ ကရူးဆိတ်စစ်တပ်ကြီးများတွင် လိုက်ပါတိုက်ခိုက်လိုသူများ အတော်ပင် ပေါများခဲ့၏။ သို့သော် ထိုသူများမှာ အယူဝါဒအတွက် တိုက်ခိုက်ခြင်းထက် မိမိတို့ ကျော်စောကိတ္တိရှိမှု၊ချီတက်ရာလမ်းမှ ပြည်နယ်များကို လုယက်တိုက်ခိုက်လိုမှုများအတွက် လိုက်ပါသူက ပို၍များပြားလေသည်။

၁၁၄၇ ခုမှ ၄၉ ခုနှစ်တွင် ဒုတိယကရူးဆိတ်စစ်ပွဲ ဖြစ်ပွားပြန်သည်။ထိုစစ်ပွဲတွင် ပြင်သစ်ဘုန်းကြီး စိန့်ဗါးနဒ်က ဆော်သြ၍၊ဂျာမနီနိုင်ငံမှ တတိယကွန်းရဒ်ဘုရင်နှင့် ပြင်သစ်နိုင်ငံ သတ္တမလူဝီတို့ ပါဝင်သော ကရူးဆိတ်တပ်ကြီးသည် ပါလက်စတိုင်းဖက်သို့ ချီတက်ခဲ့၏။ သို့သော် စီမံခန့်ခွဲမှု ညံ့ဖျင်းခြင်းကြောင့် ပါလက်စတိုင်းသို့ မရောက်မီပင် မရှုမလှ အရေးနိမ့်၍ ပြန်လည် ဆုတ်ခွာလာခဲ့ ကြရသည်။

ထိုနောက် အနှစ်လေးဆယ်ခန့်တွင် ထင်ရှားလှသော မွတ်စလင်ခေါင်းဆောင် ဆဲလဒင်းဘုရင်က ဂျရူးဆလမ်းမြို့ကို တိုက်ခိုက်သိမ်းပိုက်သဖြင့် တတိယကရူးဆိတ်စစ်ပွဲ (၁၁၈၉–၁၁၉၁)ဖြစ်ပွားရပြန်သည်(ဆဲလဒင်း — ရှု)။ ထိုအကြိမ်က ခေါင်းဆောင်သူများမှာ ဖရက်ဒရစ် ဗါဗရော့ဆာ ကေရာဇ်ဘုရင်၊ပြင်သစ်ဘုရင် ဖိလစ်နှင့်အင်္ဂလန်ပြည်ဘုရင် ပဌမရစ်ချတ်တို့ဖြစ်လေသည်။ဖရက်ဒရစ် ဗါဗရော့ဆာမှာ အာရှမိုင်းနားသို့ရောက်၍ မြို့တမြို့သိမ်းပြီးမှ မြစ်တမြစ်ကို ဖြတ်ကူးစဉ်ရေနစ်၍ ကံကုန်လေသည်။ ထို့ကြောင့် ရစ်ချတ်နှင့် ဖိလစ် နှစ်ဦးသာ ခေါင်းဆောင်၍ ဂျရူးဆလမ်းမြို့သို့ ချီတက်ခဲ့ကြရသည်။သို့သော် ကေမြို့ကို သိမ်းပိုက်ကြပြီးသော် ထိုခေါင်းဆောင် ဘုရင်နှစ်ဦးတို့ သဘောကွဲလွဲကြသဖြင့် ဖိလစ်သည် တပ်ခေါက်၍ ပြန်လာခဲ့သည်။ ရစ်ချတ်တဦးတည်း ပါလက်စတိုင်းတွင် ကျန်ရစ်ခဲ့၍ ဆက်လက် တိုက်ခိုက်နေပြီးနောက် မြှော်လင့်ချက် မရှိလှသဖြင့် ဆဲလဒင်းနှင့် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်လေသည်။ ထိုစာချုပ်ဖြင့် ခရစ်ယန်ဘုရားဖူးများအား မွတ်စလင်တို့က မနှောင့်ယှက်ရန် ဆဲလဒင်းထံမှ ကတိရခဲ့လေသည်။

စတုတ္ထကရူးဆိတ်စစ်ပွဲတွင် ဖလန်းဒါးနယ်စား ကောင့်ဗေါလဒွင် ခေါင်းဆောင်၍ ပါလက်စတိုင်းပြည်ဖက်သို့ ချီတက်သော်လည်း၊ဗင်းနစ်မြို့အရောက်တွင် ကွန်စတန်တီနိုပယ်မြို့မှ စစ်ကူခေါ်သဖြင့် ထိုမြို့သို့ သွားရောက်ကာ ကေရာဇ်ဘုရင်အား နန်းပြန်တင်ရေးကို ကူညီရလေသည်။ထို့ကြောင့် ပါလက်စတိုင်းသို့ပင် မရောက်ဘဲ ကွန်စတန်တီနိုပယ်မြို့ကို ကရူးဆိတ်တပ်သားများက တိုက်ခိုက်လုယက်ကြ၏။ ကေရာဇ်ဘုရင် ကွယ်လွန်သည့်အခါ ဗော်လဒွင်သည် ထီးနန်းကိုဆက်ခံလေသည်။

ပဉ္စမကရူးဆိတ်စစ်ပွဲ (၁၂၂၈–၂၉) တွင်ကား ခေါင်းဆောင်ဖြစ်သူ ဂျာမနီပြည့်ရှင် ဖရက်ဒရစ်သည် ခရစ်ယန်သေဉ်မြေကိုပိုင်သော အီဂျစ်ဘုရင်နှင့် စေ့စပ်ရေးစာချုပ်

များ ချုပ်ဆိုခြင်းအားဖြင့် စစ်မတိုက်ရဘဲ ဂျရူးဆလမ်းမြို့ကို ရခဲ့လေသည်။

သို့သော် ၁၂၄၄ ခုနှစ်တွင် တူရကီတို့က ခရစ်ယန်သော့် မြေကို သိမ်းပိုက် ကြပြန် သဖြင့်၊ ပြင်သစ်ဘုရင် နဝမလူဝီ ခေါင်းဆောင်ပြီးလျှင် ဆဋ္ဌမကရူးဆိတ်စစ်ပွဲ (၁၂၄၇–၁၂၅၄) ကို ဆင်နွှဲကြပြန်သည်။ထိုစစ်ပွဲတွင် ထိုစဉ်အခါက ပါလက်စတိုင်းသို့ တက်ရောက်ရာ အချက်အခြာဖြစ်သည့် အီဂျစ်နိုင်ငံသို့ ချီတက်တိုက်ခိုက်လေသည်။ထိုစစ်ပွဲတွင် ခရစ်ယန်တို့ဖက်မှ အရေးနိမ့်၍ လူဝီဘုရင်ကိုယ်တိုင် အဖမ်းခံရပြီးလျှင်၊ ကြေးငွေ အမြောက်အမြား ပေး၍ရွေးမှ လွတ်မြောက်ခဲ့လေသည်။

ပြင်သစ်ဘုရင် စိန်လူဝီနှင့် အင်္ဂလန်ပြည်ဘုရင် ပဌမအက်ဒွပ်မင်းသားတို့ ခေါင်းဆောင်၍ သတ္တမကရူးဆိတ်စစ်ပွဲကို စတင်ကြပြန်သည်။သို့သော် စိန်လူဝီမှာ စစ်တိုက်နေယင်း ပလိပ်ရောဂါဖြင့် ကွယ်လွန်သွား၍၊ ခရစ်ယန်သူရဲကောင်းများ ထိန်းသိမ်းစောင့်ရှောက်ခဲ့သော ပါလက်စတိုင်းပြည်ရှိ မြို့ကြီးများသည်လည်း တမြို့ပြီးတမြို့ မွတ်စလင်များလက်သို့ ကျရောက်ကြလေသည်။ ၁၂၉၁ ခုနှစ်အလွန်တွင် ကရူးဆိတ်စစ်ပွဲများ မရှိတော့ချေ။

နှစ်ပေါင်းနှစ်ရာခန့်အတွင်း ကရူးဆိတ်စစ်ပွဲကြီးများ တခုပြီးတခု ဖြစ်ပွားခဲ့သည်။ အယူဝါဒကို အကြောင်းပြုလျက် စွန့်စားလိုမှု၊တိုက်ခိုက်ယင်း ပစ္စည်းဥစ္စာ တိုက်ခိုက်လုယူလိုမှု၊ နာမည် ကျော်ကြားလိုမှု၊ နယ်မြေများ ရရှိလိုမှုတို့ကြောင့် ကရူးဆိတ်စစ်ပွဲကြီးများ ဖြစ်ခဲ့လေသည်။ ထိုသို့ဖြစ်စေရန်လည်း အကြောင်းရှာ၍ ကြိုးစားခဲ့ကြ၏။ထိုခေတ်အခါက ကရူးဆိတ်စစ်တပ်များ အလွန်ခေတ်စားခဲ့ကြသည်။ ထို့ကြောင့် ၁၂၁၂ ခုနှစ်ခန့်တွင် ကလေးများပင် ကရူးဆိတ်စစ်တပ်တတပ် ဖွဲ့စည်းခဲ့လေသည်။ထိုကလေးများမှာ ဂျာမနီနှင့် ဣတလီတို့မှ ဖြစ်ကြ၍ မြေထဲပင်လယ်ကို ဖြတ်သန်းကာ ပါလက်စတိုင်းပြည်ကို ချီတက်သွားကြ၏။ ကလေးများအား ဘုရားသခင်က စောင့်ရှောက်ကူညီသဖြင့် သူတို့၏ ရည်ရွယ်ချက် ပြည့်စုံလိမ့်မည်ဟု မြော်လင့်ကြသော်လည်း၊ ကလေး အမြောက်အမြားပင် ပျက်စီးသေဆုံး၍ အချို့မှာ ငွေဝယ်ကျွန်အဖြစ် ရောင်းစားခြင်း ခံကြရလေသည်။

ယင်းသို့ဖြင့် ကရူးဆိတ်စစ်ပွဲများမှာ အရှုံးများခဲ့သည်ဟု ဆိုရပေမည်။သို့သော် အမြတ်ထွက်သည့် အချက်များလည်း ရှိပေသေးသည်။ ယင်းတို့မှာ ထိုခေတ်ထိုအခါက တဦးကို တဦး တိုက်ခိုက်သတ်ဖြတ်နေခဲ့သော ဥရောပပြည်နယ်များသည် ရည်ရွယ်ချက်တခုတည်းအတွက် ပေါင်းစည်းလာကြသည်။ ယဉ်ကျေးမှုအဆင့်အတန်း နိမ့်ကျခဲ့သော ဥရောပအနောက်ပိုင်း နိုင်ငံများသည် ယဉ်ကျေးမှုအဆင့်အတန်းမြင့်သည့် အရှေ့ဖက် နိုင်ငံများနှင့် ဆက်ဆံလာကြရသဖြင့် ယဉ်ကျေးမှု တိုးတက်လာသည်။အရှေ့နိုင်ငံများကဲ့သို့ ကောင်းကောင်းနေ ကောင်းကောင်းစားလျက် စည်းစိမ်ခံစားရမှန်း သိလာသည်။ ထို့ကြောင့် ယခင်က မတွေ့မမြင်ဘူးသည့်



သတ္တမကရူးဆိတ်စစ်ပွဲမစမီ ကောင်းချီးခံယူနေသော စိန်လူဝီ

ပစ္စည်းများကိုသုံးစွဲလာကြ၍ အရှေ့နိုင်ငံများနှင့် ကုန်သွယ်မှုများ ပြုလုပ်လာလေသည်။ကုန်စည် ရောင်းဝယ်ခြင်းဖြင့်လည်း တန်ခိုးကြီးမားလာသော ဗင်းနစ်၊ဂျီနိုးဝါးစသည့် မြို့ကြီးများ ပေါ်ပေါက်လာလေသည်။ထို့ပြင် အရှေ့နိုင်ငံများ၏ အတွေးအခေါ် အယူအဆများကို စဉ်းစားလာကြ၏။ ယင်းသို့ဖြင့် ၁၅ ရာစုနှစ်လောက်တွင် ဥရောပတိုက်၌ အတတ်ပညာ ပြန်လည်ဆန်းသစ်ခေတ်ဖြစ်သော ခေတ်ဆန်းချိန် ပေါ်ပေါက်လာရန် အခြေခံအုတ်မြစ်များ တဖြည်းဖြည်း ချခဲ့သည်ဟု ဆိုနိုင်သည်။ထို့ကြောင့် ကရူးဆိတ်စစ်ပွဲများသည် ဥရောပ၏အခြေအနေ ပြုပြင်ပြောင်းလဲရေး၏ အခြေခံအုတ်ချပ်များ ဟုဆိုလျှင် မှားမည်မဟုတ်ချေ။

**ကရေဆီးတိုက်ပွဲ။** ။ကရေဆီးတိုက်ပွဲသည် ပြင်သစ်နှင့် အင်္ဂလိပ်တို့ ဖြစ်ပွားကြသည့် နှစ်တရာစစ်ပွဲမှ တိုက်ပွဲတပွဲဖြစ်၍၊ ၁၃၄၆ ခု ဩဂုတ်လ ၂၆ ရက်နေ့တွင် ပြင်သစ်

နိုင်ငံ အရှေ့မြောက်ဖက် မေးမြစ်ကမ်းပေါ် ရှိ ထိုစဉ်က ကရေဆီး ရွာကလေးအနီးတွင် ဖြစ်ပွားခဲ့၏။ ယခုအခါတွင်မူ ထိုရွာကလေးမှာ မြို့ကလေးတမြို့ ဖြစ်နေပြီးလျှင်၊ကရေဆီးတိုက်ပွဲကြောင့် ထင်ရှားလေသည်။

ထိုတိုက်ပွဲမှာ အင်္ဂလန်ပြည့်ရှင် တတိယ အက်ဒွပ်ဘုရင်နှင့် ပြင်သစ်ပြည့်ရှင် ဆဌမ ဖိလစ်ဘုရင်တို့ လက်ထက်တွင်ဖြစ်ပွားသော စစ်ပွဲဖြစ်သည်။အက်ဒွပ်ဘုရင်သည် မိမိ၏တပ်များကို နော်မန်ဒီနယ်မှဖြတ်၍ ချီတက်စေပြီးလျှင်၊ဩဂုတ်လ ၂၅ ရက်နေ့တွင် ကရေဆီးအနီး နေရာကောင်းတခုတွင် တပ်ချနေလေသည်။ အင်္ဂလိပ်စစ်တပ်များ ချီတက်လာကြောင်း သိရသော ပြင်သစ်တပ်များသည် အင်္ဂလိပ်များကို တိုက်ခိုက်ရန် အမှီလိုက်လာကြသည်။အက်ဒွပ်ဘုရင်သည် ပြင်သစ်တို့ လိုက်လာကြောင်း သိသဖြင့် ခုခံတိုက်ခိုက်ရန် အသင့်ပြင်ဆင်ထားသည်။ဩဂုတ်လ ၂၆ ရက်နေ့ နံနက်စောစောတွင် အင်္ဂလိပ်တို့ရှိရာ ဒေသဖက်သို့ ပြင်သစ်တို့ရောက်ရှိလာသောအခါ၊ ပြင်သစ်တို့၏ တပ်များမှာ ဖရိုဖရဲဖြစ်နေ၏။သို့သော် ဖိလစ်မှာ မိမိ၏သူကောင်းများ တိုက်တွန်းချက်ကြောင့်၊တပ်ကို ကောင်းစွာ နားခွင့်မပေးဘဲ အင်္ဂလိပ်တို့ကို စတင် တိုက်ခိုက်လေသည်။

ပြင်သစ်တို့၏ အင်အားမှာ အင်္ဂလိပ်တို့၏ အင်အားထက် သုံးလေးဆမက သာသော်လည်း၊တပ်များမှာ စည်းကမ်းသေဝပ်ခြင်း အမိန့်ရိုသေကျိုးနွံခြင်းများ မရှိပေ။ထို့ပြင်ဆိုခဲ့သည့်အတိုင်း အင်္ဂလိပ်တို့မှာ တောင်ကုန်း ဆင်ခြေလျှောပေါ် မှ နေရာကောင်းရထား၍ ကြိုတင် ပြင်ဆင်ထားမှုလည်း ရှိ၏။အင်္ဂလိပ်တို့ဖက်မှ စစ်ကြောင်းသုံးကြောင်း ခွဲထားရာ၊ အက်ဒွပ် ဘုရင် ကိုယ်တိုင် တကြောင်းကို ကွပ်ကဲ၍၊ တကြောင်းကို အသက် ၁၆ နှစ်မျှသာ ရှိသေးသော သားတော် အိမ်ရှေ့ဥပရာဇာ ဗလက်ပရင့် က အုပ်ချုပ်လေသည်။ ကျန်တကြောင်းကိုမူ မှူးမတ်များက အုပ်ချုပ်သည်။

ထိုစစ်ပွဲတွင် လေးမြားများဖြင့် စတင်တိုက်ခိုက်ကြရာ အင်္ဂလိပ် တို့ဖက်က မြားရေး သာ လေသည်။ ထို့ကြောင့် နောက်ဖက်မှ ပြင်သစ်မြင်းတပ် သူရဲကောင်းတို့မှာ အင်္ဂလိပ်တို့ကို လူချင်းယှဉ်တိုက်နိုင်ရန် ရှေ့သို့ အတင်းတိုးထွက်ရာ၊ ကိုယ့်တပ်ကိုကိုယ်ပြန်နင်းမိ၍ ပြင်သစ်တပ်သားများစွာ ဆုံးရှုံးရလေသည်။ယင်းသို့ ပြင်သစ်ခြေလျင်တပ်နှင့် မြင်းတပ်တို့ ရှုန်းရင်းဆန်ခတ် ဖြစ်နေစဉ်၊အင်္ဂလိပ်တို့ဖက်မှ ချက်ကောင်း ယူ၍ မြားပေါင်းများစွာဖြင့် ဒရစပ် ပစ်ခတ်သဖြင့် ပြင်သစ်တို့ အတုံးအရုံး ကျဆုံးလေသည်။

ထိုတိုက်ပွဲမှာ တဖက်နှင့်တဖက် သဲသဲမဲမဲ တိုက်ခိုက်ကြရာ များစွာပြင်းထန်လှသည်။ဗလက်ပရင့် မင်းသားကား ထို



ပြင်သစ်အပေါ် အင်္ဂလိပ်တို့နိုင်လိုက်သော ကရေးဆီးတိုက်ပွဲ

တိုက်ပွဲတွင် ထူးချွန်စွာ တိုက်ခိုက်အောင်မြင်ခဲ့၏။တိုက်ပွဲမှာ ထိုနေ့ ညဖက်တွင်ပြီးဆုံးရာ ပြင်သစ်တို့ဖက်မှ တပ်လုံးပြုတ်မျှ ကျဆုံးလေသည်။ထိုအထဲတွင် ပြင်သစ်ဘုရင်၏ မဟာမိတ်ဘုရင်များ၊ မင်းညီမင်းသား အများအပြားပင် ကျဆုံးသည်။အင်္ဂလိပ်တို့ဖက်မှ အကျအဆုံးကား နည်းပါးလှ၏။ကရေဆီးတိုက်ပွဲမှာ နှစ်တရာစစ်ပွဲ၌ အင်္ဂလိပ်တို့က ပြင်သစ်တို့အပေါ် ကုန်းဖက်တွင် ပဌမဆုံး အောင်မြင်လိုက်သော တိုက်ပွဲဖြစ်၍ နိုင်ငံသမိုင်းတွင် ထင်ရှားခဲ့လေသည်။

**ကရိုမီယမ်**။ ။ကရိုမီယမ်သည် မာ၍ ငွေရောင်ကဲ့သို့ ဖြူပြာပြောင်လက်သော သတ္တုဖြစ်၏။မိုလစ်ဒီနမ်၊တန်စတင်နှင့် ယူရေးနီးယမ်း ဒြပ်စင်များအစုတွင် ပါဝင်၍ သတ္တုစပ်များ ပြုလုပ်ရာ၌ များစွာပင် အသုံးဝင်၏။ကရိုမီယမ်ကို သဃ်ဇာတအဖြစ်ဖြင့် ရရှိ၍၊ဥက္ကာများတွင်လည်း အနည်းငယ်မျှ တွေ့ရတတ်သည်။သို့သော် ကရိုမိုက်ခေါ် ကရိုမီယမ်သတ္တုရိုင်းများတွင် အများအပြားတွေ့ရ၏။ကရိုမီယမ်သတ္တုကို သတ္တုရိုင်းမှ ထုတ်ယူရာ၌ အလွန်ခက်ခဲ၍ စရိတ်စခလည်း အလွန်များသောကြောင့် ဤသတ္တုမှာ မထင်ရှားဘဲရှိခဲ့သည်။လွန်ခဲ့သော နှစ်ပေါင်း သုံးဆယ်လောက်ကမှ ကရိုမီယမ်ကို လူသိများလာကြပြီးလျှင် စက်မှုလုပ်ငန်း အမျိုးမျိုးတို့တွင် စတင် အသုံးပြုလာကြသည်။

အစွန်းခံ သံမဏိကဲ့သို့ သံချေးမတက်၊ အစွန်းမထင်နိုင်သော သတ္တုစပ်များကို ပြုလုပ်ရာ၌ ကရိုမီယမ်သည် အရေးပါအရာရောက်ဆုံးသော သတ္တုတခုဖြစ်၏။သံချေးတက်တတ်သော သံနှင့်သံမဏိများကို ကရိုမီယမ် သို့မဟုတ် နစ်ကယ်ရောထားသော ကရိုမီယမ်နှင့် ရောစပ်လိုက်သောအခါ အလွန်အဖိုးတန်သော သတ္တုစပ်ဖြစ်လာ၍ သံချေးတက်ခြင်း၊ သံချေးစားခြင်း၊ အက်ဆစ်စားခြင်းတို့ကို ခံနိုင်လာသည်။ ဤသို့ ထူးကဲသော ဂုဏ်သတ္တိရှိသောကြောင့် သံချေးမတက်နိုင်အောင် တာရှည်ထားရမည့် ပစ္စည်းဟူသမျှကို ကရိုမီယမ်သတ္တုစပ်ဖြင့် ပြုလုပ်ကြ၏။နစ်ကယ်နှင့် ကရိုမီယမ် သတ္တုနှစ်မျိုးကို ရောစပ်ပြုလုပ်ထားသော သတ္တုစပ်သည် အလွန်ပြင်းသော အပူဒဏ်ကို ခံနိုင်ရည်ရှိ၏။မည်မျှပင် အပူပြင်းသော်လည်း အလွယ်တကူနှင့် မလောင်ကျွမ်းနိုင်ချေ။ထို့ကြောင့် အီလက်ထရစ်ရေဒီယေတာခေါ် လျှပ်စစ်ဖြင့် အပူငွေ့ပေးသော ကရိယာများအတွင်းရှိ နန်းကြိုးကလေးများကို နစ်ကယ်နှင့် ကရိုမီယမ်တို့ဖြင့် ရောစပ်ပြုလုပ်ထားသည်။ထို့ပြင် သံမဏိကို ကရိုမီယမ်နှင့် ရောစပ်သောအခါ အလွန်မာလာသောကြောင့် အမြောက်ဆန် ကျည်ဆန်များ၊ဗော်ဗယ်ရင်များ၊မော်တော်ကားကိရိယာများ ပြုလုပ်ရာတွင်များစွာအသုံးပြုကြလေသည်။

ကရိုမီယမ်သတ္တုသည် အလွန်မာ၍ အက်ဆစ် လွယ်လွယ်နှင့် မစားနိုင်သောကြောင့် ယခင်က အလွန်ခေတ်စားခဲ့သော နစ်ကယ်ရည်စိမ်ခြင်းကို အသုံးမများတော့ဘဲ ကရိုမီယမ်ရည် စိမ်ခြင်းကို များစွာ အသုံးပြုလာကြ၏။ ကရိုမီယမ်ရည် စိမ်ထားသော ပစ္စည်းများ၏ မျက်နှာပြင်များသည် အပွတ်အတိုက်ကို ကောင်းစွာခံနိုင်၏။ ကရိုမိုက်ခေါ် ကရိုမီယမ်သတ္တုရိုင်းကို သတ္တုကျိုဖိုများ၏ အတွင်းခံ ပစ္စည်းအဖြစ်ဖြင့် အသုံးပြုကြ၏။ ကရိုမီယမ် ဟူသည်မှာ ဂရိစကား 'ကရိုမာ'မှ ဆင်းသက်လာ၍ အရောင်ဟု အဓိပ္ပါယ်ရ၏။ ကရိုမီယမ် ဒြပ်ပေါင်းများ၌ အရောင် အမျိုးမျိုး ရှိကြ၏။မြနီလာပတ္တမြားစသော တွင်းထွက်ကျောက်မျက်တို့၏ အရောင် ကွဲပြားခြားနားမှုသည် ထိုကျောက်မျက်ရွဲတို့တွင် ပါဝင်သော ကရိုမီယမ်သတ္တု အနည်းအများပေါ်တွင် အကြောင်းပြုသည်။ ကရိုမီယမ်ဒြပ်ပေါင်းများဖြစ်ကြသော ဗေရီယမ်ကရိုမိတ်၊လက်ကရိုမိတ်၊ ဇင့်ကရိုမိတ်တို့မှ အရောင်အမျိုးမျိုးရှိသောခြယ်ဆေးများကိုရရှိ၏။

ကရိုမီယမ် သတ္တုရိုင်းဖြစ်သော ကရိုမိုက်ကို အာဖရိကတောင်ပိုင်း တောင်ရိုးဒီးဇီးယားနယ်၊ ယူဂိုစလားဗီးယား၊ ကျူးဗါး၊ နယူး ကယ်လီဒိုးနီးယား၊ တူရကီနှင့် ရုရှနိုင်ငံတို့တွင် အဓိက တူးဖေါ်ရရှိသည်။ ကရိုမိတ်မှာ အလွန် အဆိပ်ပြင်းထန်သောကြောင့် လက်နှင့်ကိုင်တွယ်ရာတွင် အထူးပင်သတိပြုရသည်။ ကိုယ်ခန္ဓာပေါ်တွင် ထိရှ ရှရာများရှိ၍၊ ထို ထိရှရှရာများမှ သွေးထဲသို့ ကရိုမိတ် ဝင်သွားလျှင် သွေးနီဥများကို ဖျက်ဆီးပစ်တတ်သည်။

**ကရိုရှေးဇာထိုးနည်း**။ ။'ကရိုရှေး' ဆိုသော စကားမှာ ပြင်သစ်စကား 'ကရော့'မှ ဆင်းသက်လာ၍ 'ချိတ်' ဟူသောအနက်ကို ဆောင်လေသည်။

ဤဇာထိုးနည်းတွင် အဖျား၌ ချိတ်ပါသော သံမဏိ သို့မဟုတ် အရိုးဆံထိုးအပ်တချောင်းဖြင့် ဇာပန်းကွက်ပေါ်အောင် ဖေါ်ယူရလေသည်။ ဇာကြမ်းပေါက်များကို ဖေါက်ရန် အရိုးဖြင့် ပြုလုပ်သော ဇာထိုးအပ်ကို အသုံးပြု၍၊ဇာနုများကို ဖေါက်ရန် သံမဏိဇာထိုးအပ်ကို အသုံးပြုကြသည်။ အိုင်ယာလန်ဇာများမှာ လက်ရာ အလွန်နုသော ဇာများဖြစ်၏။

ကရိုရှေးဇာထိုးရာ၌ အခြေခံ ကြိုးတန်းအဖြစ်ဖြင့် ရှေးဦးစွာ ဖွတ်မြီးထိုး၍ စတင် မူတည်ရသည်။ ထိုနောက် လိုရာ ဇာပုံစံကွက်ပေါ်အောင် ဇာထိုးအပ်အဖျားရှိ ချိတ်ဖြင့် ခြည်မျှင်ကို ရစ်ကာ ကျော့ကာ ချိတ်၍ယူရသည်။ ထိုနောက် အခြေခံကြိုးတန်းပေါ်တွင် တိုင်စိုက်ရ၏။ တိုင်စိုက်ရာတွင် ကြိုးတခါတင် နှစ်ခါတင် စသည်ဖြင့် လိုသလို ကြိုးကိုတင်ရ၏။ ဤသို့သော တိုင်စိုက်နည်းဖြင့် လိုရာဇာနှင့်အကျီပုံစံများကို အကွက်ဖေါ်၍ ထိုးနိုင်သည်။

# ပြည်ထောင်စုနိုင်ငံတော်၏ ပွင့်သစ်စပန်းတပွင့်

**ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ ထူထောင်ရန်ဆုံးဖြတ်ခဲ့သော ကရင်ပြည်နယ်ကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ အရှေ့တောင်ဖက်တွင် စွင့်စွင့်ငွါးငွါး ပေါ်လွင်ထင်ရှားစွာ တွေ့မြင်ရပေတော့မည်။ ပန်းချီဆေးမှုန်းသကဲ့သို့သော သဘာဝ ရှုမျှော်ခင်းတို့ဖြင့် ဝေဝေဆာဆာ ရှိလှပေသည်။**

**ကရင်ပြည်နယ်။** ။မြန်မာနိုင်ငံသည် လွတ်လပ်ရေးရ၍ ပြည်ထောင်စု မြန်မာနိုင်ငံကို တည်ထောင်လာသော အခါ၌ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ ကော်သူလေးဟူသော အမည်ဖြင့် သံလွင်ခရိုင်ကို အခြေပြုကာ ကရင်ပြည်နယ်ကို လျာထားပေးခဲ့သည်။ ၁၉၄၉ ခုနှစ်မှစ၍ ကေအင်ဒီအိုအမည်ခံ ကရင်သူပုန်တို့၏ တော်လှန်သောင်းကျန်းမှုများ ပေါ်ပေါက်လာခဲ့သည့်တိုင်အောင် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရသည် ၁၉၅၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ပြင်ဆင်ချက်အက်ဥပဒေ (၁၉၅၁ ခုနှစ် အက်ဥပဒေ အမှတ် ၆၁)ကို ပါလီမန်တွင် ပြဋ္ဌာန်း၍၊ သံလွင်ခရိုင်ကို ပြည်ထောင်စု မြန်မာနိုင်ငံအတွင်းတွင် ပြည်ထောင်စု အဖွဲ့ဝင်တခုအဖြစ်ဖြင့် ဖွဲ့စည်းလျက် ကရင်ပြည်နယ်ဟု တွင်စေခဲ့သည်။ ထိုမှတပါး ကရင်ပြည်နယ်ကို ပဌမအဆင့်အနေဖြင့် တိုးချဲ့ရန် တောင်ငူခရိုင်မှ သံတောင်မြို့နယ်၊သထုံခရိုင်မှ လှိုင်းဘွဲ့နှင့် ဖါးအံမြို့နယ်များ၊ ကျိုက္ခမီခရိုင်မှ ကော့ကရိတ်နှင့် ကြာအင်းမြို့နယ်များကို ကရင်ပြည်နယ်တွင် ပူးပေါင်းပါဝင်စေရန် ၁၉၅၂ ခုနှစ်တွင် ကရင်ပြည်နယ် တိုးချဲ့သတ်မှတ်ရေး ဥပဒေကို ပြဋ္ဌာန်းခဲ့ပြန်သည်။ ဤတိုးချဲ့သတ်မှတ်ရေး ဥပဒေမှာ နိုင်ငံတော်သမတက အမိန့်ကြော်ငြာစာ ထုတ်ပြန်၍ သတ်မှတ်သည့် နေ့မှစ၍သာ အာဏာတည်ရမည်ဖြစ်ရာ၊ ၁၉၅၃ ခုနှစ် ကုန်လုနီးအချိန် ရောက်သည်တိုင်အောင် ပြည်နယ်ဒေသတွင် သောင်းကျန်း ဆူပူမှုများ ရှိနေသေးသောကြောင့် အာဏာတည်ရန် သတ်မှတ်နိုင်ခြင်း မရှိသေး၍ သံလွင်ခရိုင်မှတပါး ပြည်နယ်၏ကျန်ဒေသတို့မှာ ကရင်ပြည်နယ် အစိုးရ၏ အုပ်ချုပ်မှုအောက်သို့ မရောက်သေးပေ။

## တည်နေရာနှင့် အကျယ်အဝန်း

ကရင်ပြည်နယ်သည် ပြည်ထောင်စု မြန်မာနိုင်ငံ အရှေ့တောင်ဖျားတွင် မြောက်ဖက် လတ္တီတွဒ် ဒီဂရီ ၁၅ ံ ၁၅ (ရေးမြို့နှင့် တတန်းတည်း)နှင့် ဒီဂရီ ၁၉ ံ ၃၀ (ရေနီမြို့နှင့် တတန်းတည်း) အရှေ့ဖက် လောင်ဂျီတွဒ် ဒီဂရီ ၉၆ ံ ၁၅ နှင့် ဒီဂရီ ၉၈ ံ ၅၅ စပ်ကြားတွင် အနောက်မြောက်မှ အရှေ့တောင်ဆီသို့ ခပ်ယွန်းယွန်း ကျဉ်းမြောင်းကျွေကောက် ရှည်လျားစွာ တည်နေသည်။

နယ်နိမိတ်မှာ မြောက်ဖက်၌ ရမည်းသင်းခရိုင်၊အရှေ့မြောက်ဖက်၌ ရှမ်းပြည်နယ်နှင့် ကယားပြည်နယ်၊အရှေ့ဖက်၌ သံလွင်မြစ်နှင့် ယင်း၏ လက်တက်ဖြစ်သော သောင်ရင်းမြစ်တို့ အခြားဖြစ်သည့် ယိုးဒယားနိုင်ငံ၊ တောင်ဖက်၌ ကျိုက္ခမီခရိုင်တွင် ပါဝင်သော ရေးမြို့နယ်၊အနောက်ဖက်၌ တောင်ငူခရိုင်တွင် ပါဝင်သော ရေတာရှည်၊တောင်ငူ၊ထန်းတပင်၊ကျောက်ကြီးနှင့် ရွှေကျင်မြို့နယ်များ၊သထုံခရိုင်တွင် ပါဝင်သော ဘီးလင်း၊သထုံနှင့် ပေါင်မြို့နယ်များ၊ကျိုက္ခမိခရိုင်တွင် ပါဝင်သော ကျိုက်မရော၊ မုဒုံ၊ ကျိုက္ခမိနှင့် ရေးမြို့နယ်များ ရှိသည်။

ပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၉,၃၄၁ ဖြစ်၏။ ခရိုင် မြို့နယ်အလိုက် အကျယ်အဝန်းမှာ သံလွင် ၂,၆၆၆၊ လှိုင်းဘွဲ့ ၁,၇၆၄၊ ဖါးအံ ၁,၀၀၇၊ ကော့ကရိတ် ၁,၉၆၃၊ ကြာအင်း ၁,၂၃၈၊ သံတောင် ၇၀၃ စတုရန်းမိုင် အသီးအသီး ဖြစ်သည်။

## လူဦးရေ

၁၉၄၈ ခုနှစ် သန်ကောင်စာရင်းများအရ ကရင်ပြည်နယ်၏ လူဦးရေမှာ ၅၂၇,၉၈၆ ဖြစ်၍ ထိုလူဦးရေအနက် ကရင်အမျိုးသားဦးရေမှာ ၃၅၄,၂၇၄ ယောက်ဖြစ်ရာ လူဦးရေအားလုံး၏ ၆၇ ရာခိုင်နှုန်းကျော်ကျော်မျှ ဖြစ်သည်။ ကရင်အမျိုးသားများအပြင်၊ မန်၊ မြန်မာ၊တောင်သူများ၊ သံလွင်ခရိုင်တွင် ရှမ်းများနှင့် အခြားလူမျိုးများလည်း နေထိုင်ကြသည်။

## မြေမျက်နှာသွင်ပြင်

ပြည်နယ်၏ မြောက်ပိုင်းဒေသ ဖြစ်သော သံတောင်နယ်နှင့် ဖါပွန်ခရိုင်တို့မှာ တောတောင် ထူထပ်လှ၏။မြင့်မားသော တောင်ထွတ် တောင်ထိပ်များ တောင်တန်းများနှင့် နက်ရှိုင်းရှည်လျားသော တောင်ကြားများ ပေါများလှသည်။ တောင်ထွတ်တို့မှာ ပင်လယ်ရေပြင်ထက် ပေ ၄,၀၀၀ ကျော်မှ ၆,၀၀၀ ကျော်အထိ မြင့်မားကြ၏။ သစ်တောကြီးများမှာလည်း သိပ်သည်းထူထပ်လှ၏။ သံတောင်နယ်တွင် စစ်တောင်းမြစ်၏ အရှေ့ဖက် လက်တက်ဖြစ်သော သောက်ရေခပ်ချောင်းနှင့် ယင်း၏လက်တက်များ ဖြတ်စီး၍ သံလွင်ခရိုင်၌မူ သံလွင်မြစ်၏ လက်တက်ဖြစ်သော မဲသလောက်ချောင်း၊ ယွန်းဇလင်းချောင်းနှင့် ယင်း၏လက်တက်ငယ်များနှင့် ဘီးလင်းမြစ်တို့ ရှိလေသည်။

ပြည်နယ်၏ တောင်ဖက်ဒေသများ ဖြစ်သော ဖါးအံနယ်၊လှိုင်းဘွဲ့နယ်၊ကော့ကရိတ်နယ်နှင့် ကြာအင်းနယ် တို့မှာမူ၊ ယိုးဒယား – မြန်မာ နယ်စပ်ရှိ ဒေါနတောင်တန်းကြီးနှင့် ထိုတောင်တန်းကြီး၏ တောင်စွယ်တို့ ရှိရာမှတပါး အနောက်ဖက်ပိုင်းရှိ ကျန်ဒေသတို့မှာ များသောအားဖြင့် မြေပြန့်များ ဖြစ်ကြသည်။ ထိုမြေပြန့်တို့တွင် များစွာ မမြင့်သော တောင်ရိုးတောင်ကုန်းများ ကွက်တိကွက်ကြား ရှိကြသည်။ ကြာအင်းမြို့နယ် တွင် တောင် ပုံတောင်၊ အလံတရာတောင်တန်းနှင့် တောင်ညိုတောင်တန်းတို့ ရှိကြ၏။ ဒေသ၏ အရှေ့ဖက်ပိုင်းတွင် သစ်တောကြီးများရှိ၍ သစ်တောကြိုးဝိုင်း အများပင် ထားရှိလေသည်။

ဤအပိုင်းတွင် မြစ်ကြီးမြစ်ငယ် အသွယ်သွယ်တို့သည် မြောက်မှ တောင်၊ တောင် မှမြောက်၊ အရှေ့မှ အ နောက်၊ စီးဆင်းလျက်ရှိကြ၏။ ထင်ရှားသော မြစ်တို့မှာ သံလွင်မြစ်၊ ထိုမြစ်၏ လက်တက်ဖြစ်သော သောင်ရင်းမြစ်နှင့် ယင်းမြစ်၏ လက်တက်များ၊ပဘချောင်း၊လှိုင်းဘွဲ့ချောင်း၊ဟောင်သရော်မြစ်နှင့် ယင်းတို့ဆုံ၍ ဖြစ်လာသော ဂျိုင်းမြစ်၊အတ္တရံမြစ်၏ မြစ်လက်တက်များဖြစ်၍၊ကြာအင်းမြို့နယ်ကို တောင်မှမြောက်သို့ ဖြတ်စီးသော ဇမိချောင်းနှင့် ဝင်းယောချောင်းတို့ ဖြစ်ကြသည်။



ကရင်ကျေးရွာကို ပတ်၍ကာရံထားသော ဝါးတပ်၏ တံခါး၀

## လမ်းပန်းဆက်သွယ်ရေး

ပြည်နယ်အတွင်း မီးရထားလမ်းများ ဖေါက်လုပ်ထားခြင်း မရှိသေး ပေ။ မြေမျက် နှာ သွင် ပြင် ခက် ခဲမှု လွယ်ကူမှု ကိုလိုက်၍ ပြည်နယ်ကိုဖြတ်ကာ ဖေါက်လုပ်ထားသော လမ်းအကြီးအငယ် အမျိုးအစား အများပင်ရှိသည်။မြောက်ဖက် သံတောင်နယ်တွင် တောင်ငူမှ သံတောင်သို့၎င်း၊ထိုလမ်းမှခွဲ၍ ဘောဂလိကြီးကိုဖြတ်ကာ အရှေ့ဖက် ကယားပြည်နယ် မော်ချီးသတ္တုတွင်းများ ဆီသို့၎င်း၊ကတ္တရာစေးလမ်း တခုရှိသည်။သံတောင်နှင့် လိပ်သိုကို ဆက်ထားသည့် နွားဝန်တင်လမ်းရှိသည်။ သံလွင်ခရိုင်တွင်ဘီးလင်းမှမြောက်စူးစူးသို့ လာသော လမ်းသေးတခုသည် ဖါပွန်ကိုဖြတ်၍ မြောက်ဖက် ယိုးဒယားနယ်စပ်ရှိ ကျောက်ညှပ်အထိ ရောက်သည်။တဖန် ဖါပွန်မှ တောင်ဖက်သို့ ကဒိုင်တိ ကိုဖြတ်၍ ကမာမောင်းသို့ ရောက်သော လမ်းသေးတခု ရှိသေးသည်။ ပြည်နယ်တောင်ပိုင်းတွင် သထုံမှလာသော လမ်းမကြီးသည် ဒူးရင်းဆိပ်တွင် ဒုံသမီးချောင်းကိုဖြတ်၍ ဖါးအံတဖက်ကမ်း သံလွင်မြစ်ပေါ်ရှိ ကူးဆိပ်သို့ ပေါက်သည်။ဖါးအံမှ မြောက်ဖက် လှိုင်းဘွဲ့ကိုဖြတ်၍ ရွှေဂွန်းသို့၎င်း၊တောင်ဖက် နောင်လုံသို့၎င်း၊လမ်းကောင်းရှိသည်။ကော့ကရိတ်နယ်တွင် ဂျိုင်းမြစ်ပေါ်ရှိကျုံဒိုးမှ အရှေ့ဖက် ကော့ကရိတ်ကိုဖြတ်၍ ယိုးဒယား နယ် စပ် မြဝတီ အထိ ၎င်း၊ ထိုလမ်း မှခွဲ ၍ ကြာအင်းဆိပ်ကြီးအထိ၎င်း၊လမ်းကောင်းရှိသည်။ မော်လမြိုင် သံဖြူဇရပ် လမ်းပေါ်ရှိ မုဒုံမှ အရှေ့ဖက်သို့လာသော လမ်းသည် အတ္တရံမြစ်ကိုဖြတ်ကာ မဲသရေ့ာသို့၎င်း၊ မဲသရေ့ာမှတဆင့် အရှေ့ဖက် ကျိုက်ဒုံသို့၎င်း၊ လမ်း တလမ်း ရှိသေး သည်။ ထိုလမ်းများအပြင် ပြည်နယ်အတွင်းတွင်၎င်း၊ပြည်နယ်အပသို့



ဂျပ်ခုတ်ရက်ကန်း ရက်နေသော ကရင်အမျိုးသမီး

၎င်း၊သွားနိုင်သော နွားဝန်တင် လမ်းကလေးများ ရှိသည်။ မြစ်များ ပေါများသည့်အလျောက် ထိုမြစ်တို့တွင် ရေကြောင်းဖြင့် ခရီးသွားလာနိုင်သည်။ဖါပွန်ခရိုင်အတွင်းရှိ ယွန်းဇလင်းချောင်းကို ဖါပွန်အထိ ၎င်း၊ ဘီးလင်းမြစ်ကြောင်းတွင် မြောက်ဖက် ဖေါ်ဝါးထာအထိ၎င်း၊သံလွင်မြစ်ကြောင်း တလျှောက်တွင်၎င်း၊လှေကြီးလှေငယ်များ သွားလာနိုင်သည်။သံလွင်မြစ်တွင် ကမာမောင်းအထိ ပြည်တွင်းရေကြောင်း သယ်ယူပို့ဆောင်ရေး သင်္ဘောများ သွားလာနိုင်သည်ဟု သိရသည်။ ဂျိုင်းမြစ်၊ ဟောင်သရောမြစ်၊ ဇမိချောင်းတို့တွင်လည်း အနည်းနှင့်အများ ရေကြောင်းသွားလာမှုများ ရှိကြသည်ဖြစ်ရာ ဂျိုင်းမြစ်တလျှောက် ကျုံဒိုးအထိ၎င်း၊အတ္တရံမြစ်၊ဇမိချောင်း တလျှောက် ကြာအင်းဆိပ်ကြီးအထိ၎င်း၊မီးသင်္ဘောများ သွားနိုင်သည်။

ရှေးမြန်မာမင်းများ မြန်မာနိုင်ငံအပသို့ စစ်ချီရာဖြစ်သော စစ်ကြောင်းလမ်းကြီး ၂ လမ်းမှာ ဤပြည်နယ်အတွင်းမှ ဖြတ်သန်းသွားသည်။ပဌမလမ်းမှာ ကျုံဒိုးမှ ကော့ကရိတ်ကိုဖြတ်၍ မြဝတီသို့သွားသော လမ်းဖြစ်၍ ဒုတိယလမ်းမှာ သံဖြူဇရပ်မှ ဇမိချောင်းရိုးတလျှောက် ဖြတ်သန်းသွားသော ဘုရားသုံးဆူ တောင်ကြားလမ်းဖြစ်သည်။ ဤဒုတိယလမ်းကြောင်း တလျှောက်တွင် ဂျပန်တို့ကြီးစိုးစဉ်က လူအသေအပျောက် များလှသည်ဟု နာမည်ကြီးခဲ့သော ယိုးဒယားနိုင်ငံနှင့် ဆက်လက်ဖေါက်လုပ်ထားသည့် သံဖြူဇရပ် မီးရထားလမ်းရှိခဲ့သည်။

## ထွက်ကုန်ပစ္စည်းများ

ပြည်နယ်၏ပထဝီ အနေအထားကိုလိုက်၍ တောတောင်များ၊သစ်တောကြီးများနှင့် မြေပြန့်မှ သဘာဝပစ္စည်းများ ထွက် ရှိ သည်။ ပြည် နယ် တ ခု လုံး တွင် လ ယ် ယာ စိုက်ပျိုးမှုနှင့် သစ်တောထွက်ပစ္စည်းများ ထုတ်လုပ်မှုကို လုပ်ကိုင်ကြသည်ဖြစ်ရာ၊သံလွင်ခရိုင်တွင် လူဦးရေ၏ ၇၀ ရာခိုင်နှုန်းမှာ တောင်ယာလုပ်ငန်းကို ပြုလုပ်ကြ၍ ၁၆ ရာခိုင်နှုန်းမှာ လယ်ယာလုပ်ငန်းကို လုပ်ကိုင်ကြသည်။သံတောင်နယ်နှင့် သံလွင်ခရိုင်တို့တွင် သစ်တောများ ထူထပ်ပေါများသည့်အလျောက် သစ်လုပ်ငန်းကို လုပ်ကိုင်ကြသည်ကများ၏။ဖါးအံတွင် လယ်ယာစိုက်ပျိုးမှုကိုအများအစား ပြုလုပ်သော်လည်း မကြာခဏ ရေကြီးသောကြောင့် လယ်ယာစိုက်ပျိုးမှုကို များစွာ ထိခိုက်ခဲ့စေလေသည်။ဆည်မြောင်းဌာနမှ ဖေါက်လုပ်ထားသော တူးမြောင်းများ မရှိသော်လည်း လယ်သမားတို့ကိုယ်တိုင် လိုအပ်သောနေရာများတွင် တူးမြောင်းများဖြင့် ရေသွယ်၍ စိုက်ပျိုးကြသည်မှာ ဖါးအံနယ်တွင် စတုရန်းမိုင် ၃၈ မျှရှိသည်။ တောင်ဖက် ကော့ကရိတ်နှင့် ကြာအင်းနယ်တို့တွင် တူးမြောင်းတို့ဖြင့် ရေသွယ်ကာ စိုက်ပျိုးလုပ်ကိုင်ကြသော်လည်း ခရီးမရောက်လှပေ။ ဖါးအံမြို့မှာ ပတ်ဝန်းကျင်တွင် လယ်ယာစိုက်ပျိုးမှု မထွန်းကားလှသော်လည်း စပါးအရောင်းအဝယ်၌ တွင်ကျယ်သောမြို့တမြို့ဖြစ်သည်။ကော့ကရိတ်နှင့် ကြာအင်းနယ်များတွင် စပါးစိုက်ပျိုးသော ဒေသမှာ စတုရန်းမိုင်ပေါင်း ၃၀၃ ဖြစ်သည်။ထိုဒေသရှိ တောင်ကမ်းပါးယံ တို့တွင်လည်း တောင်ယာစိုက်ပျိုးမှု အနှံ့အပြား ရှိသည်။

လယ်ယာ စိုက်ပျိုးရေးအပြင် သစ်သီးဝလံ စိုက်ပျိုးမှုများလည်းရှိရာ ဖါပွန်နယ်တွင် သံပရာနှင့် ပိုးစာပင်များကို၎င်း၊ တောင်ဖက်ပိုင်းတွင် ဒူးရင်း၊လိမ်မော်၊ဝါ နှင့် ဆေးတို့ကို၎င်း၊ စိုက်ပျိုးကြသည်။

## သစ်တောများ

ပြည်နယ်၏ အရှေ့ဖက်တလျှောက်နှင့် အရှေ့မြောက်ဖက်၊ မြောက်ဖက် တောင်ဖက်စွန်း ဒေသတို့တွင် သစ်တောကြီးများရှိ၍၊သစ်တောဌာနက သစ်တောနယ်များ ဖွဲ့ပြီးလျှင် အုပ်ချုပ်လုပ်ကိုင်ခဲ့သည်။ သစ်တော ကြိုးဝိုင်းများ အဖြစ် သတ်မှတ်ထားသော ဒေသများလည်း အများအပြားပင် ရှိသည်။ဒေါနတောင်တန်း အရှေ့ဖက်ဖြစ်သော လှိုင်းဘွဲ့မြို့နယ်ဒေသသည် သောင်ရင်းသစ်တောနယ်များ၏ တစိတ်တဒေသဖြစ်၍ ထိုဒေသ၏ သစ်တောနယ်အကျယ်မှာ စတုရန်းမိုင် ၂၃၆ ဖြစ်၏။လှိုင်းဘွဲ့နယ်တွင် စောင့်ရှောက်ထားသော သစ်တောကြိုးဝိုင်း ၃ ခု၊ဖါးအံနယ်တွင် ၃ ခု၊စုစုပေါင်း စတုရန်းမိုင် ၁၀၁ ရှိ၊သစ်တောကြိုးဝိုင်း ၆ ခုရှိသည်။



တောင်ယာလုပ်ငန်းခွင်သို့ ထွက်ခွာလာသော ကရင်မိသားစု

သောင်ရင်းသစ်တောမှာ ပြည်နယ်၏ တောင်ဖက်ဖြစ်သော ဟောင်သရေမြစ်ဝှမ်းအထိ ကျယ်ဝန်းသည်။ပြည်နယ်၏ တောင်ပိုင်းတွင် ဒေါနတောင်အရှေ့ဖက်၌ စောင့်ရှောက်ထားသောသစ်တောကြိုးဝိုင်း ၉ ခုရှိသည်။ထိုကြိုးဝိုင်းများအပြင် ကေပေါင်း ၇၀၀၀ ကျော်ကျယ်သော မဲပလဲ့ — သောင်ရင်းကြိုးဝိုင်းများ လည်းရှိသေးသည်။ထိုကြိုးဝိုင်းတို့၌ ကျွန်းများကိုသာ စိုက်ပျိုးထားသည်။အတ္တရံမြစ်ဝှမ်း၌လည်း အတ္တရံသစ်တောနယ် ရှိသေးသည်။ထိုသစ်တောမှာ ဇမိချောင်းဝှမ်းနှင့် ဟောင်သရေမြစ်ဝှမ်း ဒေသများအထိ ဖြစ်၏။အထက်ပါ သောင်ရင်းသစ်တောနယ်နှင့် အတ္တရံသစ်တောနယ်တို့မှ ရရှိသော နှစ်စဉ် အခွန်တော်ဝင်ငွေမှာ ၁၉၁၉–၂၀ ခုနှစ်မှ ၁၉၃၂–၃၃ ခုနှစ်အထိ နှစ်စဉ်ပျမ်းမျှ ၆၄,၅၄၅ ကျပ်ဖြစ်သည်။

ဤသစ်တောတို့မှ ထွက်သော သစ်တို့မှာ အမျိုးစုံလှပေသည်။ဂရုတစိုက် စောင့်ရှောက်စိုက်ပျိုး ထုတ်ယူသော သစ်မှာ ကျွန်းဖြစ်၏။ ပျဉ်းကတိုး၊ ပျဉ်းမ၊သကန်း၊ကညင်၊ သစ်ယာ၊အင်၊ပိတောက်နှင့် ဝါးများလည်း ထွက်၏။သစ်လုံးများကို နီးစပ်ရာ မြစ်များ၊ချောင်းများမှ မျှောချကြသည်။ ဤသစ်တောများကို ဘုံဘေဘားမား ကမ္ပဏီနှင့် စတီးဘရားသားကုမ္ပဏီက လက်ဝါးကြီး အုပ်ခဲ့ကြ၏။သစ်တောထွက် အခြား လူသုံးပစ္စည်းတို့မှာ သစ်စေးနှင့် သက်ငယ်တို့ ဖြစ်ကြသည်။ ၁၉၅၃ ခုနှစ်တွင်ထုတ်ဝေသော မြန်မာနိုင်ငံ စီးပွားရေးနှင့် စက်မှုလက်မှု စုံစမ်းရှာဖွေရေး အစီရင်ခံစာအရ သောင်ရင်းသစ်တောနယ်တွင် စောင့်ရှောက်ထားသော သစ်တောကြိုးဝိုင်း၏ အကျယ်အဝန်းမှာ ၅၂၆,၀၀၀ ကေဖြစ်၍ အတ္တရံသစ်တောနယ်၌မူ ၆၄၀,၀၀၀ ကေဖြစ်သည်။

## ဓါတ်သတ္တုများ

ပြည်နယ်အတွင်း မည်သည့်ဓါတ်သတ္တုမျိုးများ ထွက်သည်ကို စံနစ်တကျ ထိရောက်စွာ ရှာဖွေစုံစမ်းခြင်း မပြုနိုင်ခဲ့သေးပေ။သံလွင်ခရိုင်တွင် သံနှင့်ခဲ တွေ့ရှိရသည်ဟုရင်း၊ ကြာအင်းနယ် မိဂသတ်ချောင်းတွင် ကြေးနီ၊ တောင်ညိုတောင် အရှေ့ဖက်တွင် သံဖြူ၊ပြည်နယ် အရှေ့ဖက်စွန်း သပြုနယ်တွင် ခနောက်စိမ်း၊သောင်ရင်းဒေသတွင် သံနှင့်ကျောက်မီးသွေးများ တွေ့ရှိရသည်ဟုရင်း ဆိုသည်။ ဒေါနတောင်ရိုးတွင် စုံစမ်းရှာဖွေမည်ဆိုပါက သံဖြူနှင့်တန်စတင်သတ္တုများ တွေ့ ရှိနိုင်သည်ဟု ခန့်မှန်းကြောင်း ၁၉၅၃ ခုနှစ်ထုတ် မြန်မာနိုင်ငံ စီးပွားရေးနှင့် စက်မှုလက်မှု စုံစမ်းရှာဖွေရေး အစီရင်ခံစာတွင် ဖေါ်ပြထားပေသည်။ပြည်နယ်မှ လမ်းခင်းကျောက် အများအပြား ထွက်သည်။

## အုပ်ချုပ်ရေး

သောင်းကျန်းသူတို့၏ နှောင့်ယှက်မှု မငြိမ်းချမ်းသေးသည်လည်း တကြောင်း၊သံလွင်ခရိုင်မှအပ ပြည်နယ်တွင်းရှိ ကျန်မြို့နယ်များကို ပြည်နယ်အစိုးရသို့ လွှဲအပ်ကြောင်း သမတကြီး၏ အမိန့်ကြေညာချက် မထုတ်ပြန်ရသေးသည်က တကြောင်းကြောင့် ပြည်နယ်ကို စီမံအုပ်ချုပ် ခန့်ခွဲမှုများမှာ ၁၉၅၃ ခုနှစ် ကုန်လုနီးသည့်တိုင်အောင် အခြေတည်မိခြင်း မရှိသေးပေ။ သို့ရာတွင် ပြည်နယ်မှ ရရှိနိုင်သည့် အခွန်တော် စသည့် ဝင်ငွေများ၊ ပြည် နယ် အတွက် ကုန် ကျ မည့် အသုံး စရိတ် တို့ ကို ခန့် မှန်း သော ရ သုံး ငွေ တို့ ကို မူတည်၍ ပါလီမန် မှ ပြည်နယ်၏ ရသုံး ငွေတို့ကို ခန့်မှန်း သတ်မှတ်ပေး ခဲ့ လေသည်။ အခြား ပြည်နယ်များမှာ ကဲ့သို့ပင် ရငွေနှင့် သုံးငွေ မမျှသည့်အတွက် နိုင်ငံတော် အစိုးရက ပြည်နယ်အား ၁၉၅၂–၅၃ ခုနှစ်တွင် ထောက်ပံ့ငွေ ၁၅ သိန်း၊၁၉၅၃–၅၄ ခုနှစ်တွင် ၂၅ သိန်းပေးခဲ့သည်။ ပြည်နယ်၏အများဆုံးသော ခန့်မှန်း



ကရင်အမျိုးသားတို့၏ တုံးယိမ်းအက



ကရင်အမျိုးသားနှင့်အမျိုးသမီး

ခြေ ဝင်ငွေမှာ သစ်တောနှင့် မြေခွန်မှ ဖြစ်၏။အများဆုံး ငွေကုန်ကျမည်ဟု ခန့်မှန်းထားသော လုပ်ငန်းတို့မှာမူ အရပ်ရပ် စီစဉ်အုပ်ချုပ်မှုနှင့် ပညာရေးလုပ်ငန်းများ ဖြစ်သည်ကို ၁၉၅၃–၅၄ ခုနှစ် ခန့်မှန်းခြေရသုံးငွေစာရင်း၌ တွေ့ရှိရသည်။ ပြည်နယ်အတွင်း ငြိမ်းချမ်းမှု ရရှိသည်နှင့်အမျှ ပြည်နယ်စည်ပင်သာယာ တိုးတက်မည်မှာ မုချဖြစ်ပေသည်။

ဦးဘရှင်။

**ကရင်လူမျိုး။** ။ကရင်အစုဝင် ဘာသာစကား ပြောဆိုသော လူမျိုးတို့မှာ မြန်မာနိုင်ငံရှိ တိုင်းရင်းသားတို့ အနက် ဒုတိယ လူဦးရေအများဆုံး ဖြစ်သည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ ကရင်လူမျိုး ဦးရေမှာ ၁,၃၆၇,၆၇၃ ဖြစ်၏။ ၁၉၃၁ ခုနှစ်က တသန်းမျှသာ ရှိခဲ့ရာ ကရင်လူမျိုး ဦးရေ တိုးတက်လျက်ရှိသည်ဟု ဆိုရမည်။

ကရင်လူမျိုးတို့သည် ပြည်ခရိုင်မှ တောင်ဖက်သို့ ပင်လယ်ထိ ၎င်း၊ရမည်းသင်းခရိုင်နှင့် ရှမ်းပြည်တောင်ပိုင်းမှ တနင်္သာရီတိုင်းမြိတ်ခရိုင်ထိ၎င်း၊ပျံ့နှံ့ နေထိုင်ကြသည်။ယခု ကယားပြည်နယ်ခေါ် ကရင်နီနယ်နှင့် ယခု ကရင်ပြည်နယ်တွင် ပါဝင်သော သံလွင်ခရိုင်တို့မှတပါး အခြားခရိုင်တို့တွင် ကရင်တို့မှာ လူနည်းစုများ ဖြစ်ကြသည်။ကယားပြည်နယ်တွင် ၄၅,၀၀၀ မျှ၊သံလွင်ခရိုင်တွင် ၄၆,၀၀၀ မျှစီ ရှိ၍ သထုံခရိုင်၌ ၃၀၀,၀၀၀ နီးပါး၊ရှမ်းပြည်တောင်ပိုင်းတွင် ၁၇၀,၀၀၀ မျှ၊ ပုသိမ်ခရိုင်တွင် ၁၃၀,၀၀၀ မျှ၊မြောင်းမြခရိုင်တွင် ၁၂၀,၀၀၀ မျှ၊မအူပင်ခရိုင်တွင် ၁၁၀,၀၀၀ ကျော်၊ကျိုက္ကမိခရိုင်တွင် ၁၀၀,၀၀၀ ကျော်၊တောင်ငူခရိုင်တွင် ၉၀,၀၀၀ မျှ အသီးအသီး ရှိကြသည်။ယိုးဒယားနိုင်ငံတွင် ကရင် ၅၀,၀၀၀ ကျော် ရှိသည်ဟု ခန့်မှန်းရသည်။သံလွင်ခရိုင်နှင့် ကယားပြည်နယ်မှတပါး ကျန်ဒေသတို့တွင် ဒေသအလိုက် ကရင်တို့သည် မြန်မာ၊မွန်၊ရှမ်း၊ယိုးဒယား စသည့် လူမျိုးတို့နှင့် ရောနှော နေထိုင်ကြသည်။

## ကရင်တို့၏အနွယ်

ပြောဆိုသော ဘာသာစကားအလိုက် ကရင်တို့၏ ပင်ရင်းအနွယ်ကို သတ်မှတ်ရာ၌ ဘာသန္တရ ပညာရှင်တို့သည် ဝိဝါဒကွဲလျက် ရှိကြသည်။ ‘အိန္ဒိယနိုင်ငံ ဘာသန္တရ စစ်တမ်းကြီး’ တွင် ကရင်စကားသည် မန် အစုဝင် ဖြစ်မည်ဟု ယူဆ၏။ မစ္စတာ မာရှယ် ကမူ ထိုင် — တရုပ် အနွယ်ဝင်ဟု ဆိုသည်။ ရှေးကျသည့် တောင်ပေါ်ကရင်စကားများကို လေ့လာတတ်မြောက်သော ပါမောက္ခ ဂျီ၊အိပ်၊လု (စ) က ကရင်စကားမှာ မြန်မာစကားကဲ့သို့ပင် တိဗက်မြန်မာ အစုဝင်ဟု ဆုံးဖြတ်ထားသည်။ဗေါ်ညိုကျွန်းရှိ ကယန် တို့မှာ ကရင်ပင် ဖြစ်သည်ဟု တချို့က ယူဆမှားကြသည်။ ကယန်တို့မှာ ဒယက်တို့နှင့် အနွယ်တူများဖြစ်၍ ကရင်တို့နှင့် မည်သို့မှ မဆက်သွယ်ပေ။

ကရင်တို့ကို တောင်ပေါ်ကရင်၊ကွင်းကရင်ဟု နှစ်စုခွဲနိုင်ရာ တစုနှင့်တစုမှာ ဘာသာစကား၌၎င်း၊ပုံပန်းသဏ္ဍာန်၌၎င်း၊ ကွဲပြားကြသည်။မေဂျာ ဂရင်းက တောင်ပေါ်ကရင်တို့သည် ရှေးကျသော မွန်ခမာစကားကို ပြောဆိုသည့် ဝ၊လဝတို့နှင့် အသွင်တူသည်ဟု ယူဆသည်။ ကွင်းကရင် တို့ မှာ မူ မွန် တို့၏ မျက်နှာပုံ ရှိသော်လည်း တခါတရံ ထူးသောနှတ်ခမ်း ရှိသူများကို တွေ့ရတတ်သည်။

အလွန် ရှေးကျသော ကာလကတည်းက မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ခဲ့၍ အချို့မှာ တောင်ကုန်းများတွင်၎င်း၊ အချို့မှာ ကွင်းတွင်၎င်း၊ ရောက်ရှိပြီးလူများအပြင် နောက်ထပ်ရောက်ရှိလာသူများနှင့် ရောနှော နေထိုင်လာခဲ့ကြသဖြင့် ရောနှောနေထိုင်သည့် လူမျိုးများကိုလိုက်၍ ပုံပန်းသဏ္ဍာန်



ရှေးရိုး ကရင်စောင်းကောက်နှင့် စကောကရင် လုလင်ပျို

ပြောင်းလဲလာခြင်း ဖြစ်တန်ရာသည်။ သို့ဖြစ်၍ မြန်မာတို့နှင့် ရောနှောနေသော ကရင်တို့မှာ မြန်မာကရင် (စကော)၊ မွန်တို့နှင့် ရောနှောနေထိုင်သော ကရင်တို့မှာ မွန်ကရင် (ပိုး) စသည်ဖြင့် အမျိုးအမည် ကွဲပြားလာခဲ့ခြင်း ဖြစ်၍၊ မူရင်းအားဖြင့် ကရင်တို့မှာ တိဗက် — မြန်မာ အစုဝင်ဘာသာစကားကို ပြောဆိုကြသော မွန်ဂိုလူမျိုးစုဝင်များ ဖြစ်သည်ဟု ဆိုနိုင်ပေသည်။

## ကရင်ဟူသောအမည်

ကရင်ဟူသော အမည်မှာ မြန်မာတို့က ခေါ်ဝေါ်သော ဝေါဟာရဖြစ်သည်။ အဓိပ္ပါယ်နှင့် အရင်းအမြစ် အတိအကျကိုမူ မကြံဆနိုင်ပေ။ ကမ်းယံ ဟူသော ဝေါဟာရ၊ ဗော်ညိုကျွန်းရှိ ဒယက် လူမျိုးတမျိုး၏ အမည်ဖြစ်သော ကယန် ဟူသော ဝေါဟာရ၊ တိဗက် — မြန်မာ အစုဝင်တို့ တရုပ်ပြည်တွင်ရှိစဉ် ခေါ်ဝေါ်သည့် 'ချန်' ဟူသော ဝေါဟာရမှ ဆင်းသက်သည့် အမည်ဖြစ်လိမ့်မည်ဟု အသီးအသီး ယူဆကြသည်။ ကရင်လူမျိုးတို့သည် အမျိုးအလိုက် မိမိတို့ကိုယ်ကို ခေါ်ဝေါ်သော အမည်များရှိရာ ကရင်နီလူမျိုးတို့က မိမိတို့ကိုယ်ကို ကယား ဟု ခေါ်ဝေါ်၍ ကရင်ဟူသော ဝေါဟာရမှာ ထို ကယား ဟူသော အမည်နှင့် များစွာ နီးစပ်လျက်ရှိပေသည်။

ပုဂံကျောက်စာတို့တွင် ကရင်ဟူသော ဝေါဟာရကို များစွာ မတွေ့ရသော်လည်း စကြော၊တောင်သူ အမည်များကို ကား ခပ်များများ တွေ့ရသည်။ ပုဂံ ရွှေကွင်းချ ကျောက်စာတွင် 'ပုခြည်ခါဆီ ၃၀၊ ကရင်ထမီပြောက်' ဟု ကရင်ထမီပြောက်ကို ဖေါ်ပြထား၏။

## ကရင်အမျိုးကွဲပြားပုံ

ကရင်တို့တွင် တောင်ပေါ်ကရင်၊ကွင်းကရင်ဟု ၂ မျိုး ခွဲခြားနိုင်သည်။ ကွင်းကရင်တို့တွင် စကော (၅ သိန်းကျော်)၊ ပိုး (၅ သိန်းမျှ) နှင့် ပအိုဝ်း တောင်သူထက်ဝက် (တသိန်းမျှ) တို့ ပါဝင်သည်။ တောင်ပေါ်ကရင်တို့တွင် ကယားခေါ် ကရင်နီ၊ဘွဲခေါ် ဘဂိုင်၊ပရဲ၊ကရင်ဖြူ၊ပဒေါင်၊ဂဲခိုး၊ယင်းဘော်၊ ယင်းတလဲ၊ဇယိန်း၊မော်နေဘွားနှင့် ထက်ဝက်ကျော်သော ပအိုဝ်း တောင်သူတို့ ပါဝင်သည်။ တောင်ပေါ်ကရင်တို့မှာ လူဦးရေ မများလှပေ။ ကယား (၁၁၅၀၀)၊ ပဒေါင် (၁၆၅၀၀)၊ ကရင်ဖြူ (၁၅၅၀၀) နှင့် တောင်သူ (တသိန်းကျော်) တို့သာလျှင် လူဦးရေ အတော်အတန် များပေသည်။

ယိုးဒယားနိုင်ငံရှိ ကရင်တို့မှာ ပိုးနှင့် ဘွဲခေါ် ဘဂိုင် အမျိုးများ ဖြစ်ကြသည်။ ယိုးဒယားနိုင်ငံ အနောက်ဖက်နှင့် အနောက်တောင်ဖက် တောင်များပေါ်တွင် တွေ့ရ၍ မြန်မာနိုင်ငံမှတဆင့် ရောက်လာသူများသာ ဖြစ်သည်။

## ကရင်တို့၏ဖြစ်စဉ်

ကရင်လူမျိုးများ ပေါ်ပေါက်လာပုံနှင့် မြန်မာနိုင်ငံတွင်းသို့ ရောက်ရှိလာပုံကို သူတို့ ယုံကြည်ပြောဆိုကြသော ရှေးဟောင်း ဒဏ္ဍာရီတို့မှအပ၊အတိအကျ ခိုင်လုံစွာ မသိရသေးပေ။ မူရင်းဒေသမှာ တိဗက် — မြန်မာ အစုဝင်တို့၏ မူရင်းဒေသပင် ဖြစ်ခဲ့ဟန်တူ၏။ အချို့ တိုင်းရင်းသားများ ဝင်ရောက်သည့်နည်းတူ မြန်မာနိုင်ငံ အရှေ့မြောက်ဒေသဆီမှ သံလွင်မြစ်ကြောင်းတလျှောက် ဝင်ရောက်ခဲ့ကြဟန် တူသည်။ အချိန်များစွာ ပို၍မစောစေကာမူ ကရင်တို့သည် မြန်တို့ထက်ဦးစွာ မြန်မာနိုင်ငံတွင်းသို့ ရောက်လာသူများ ဖြစ်သည်။ ဝင်ရောက်လာရာတွင် ရှမ်းပြည်ကုန်းပြင်မြင့် အနောက်တောင်ပိုင်းလောက်တွင် အခြေစိုက်ပြီးနောက်၊ အခါအခွင့်နှင့် လျော်ညီစွာ ထိုဒေသဆီမှ အနောက်တောင်ဖက်နှင့် တောင်ဖက်ရှိ မြေပြန့်များသို့ တဖြည်းဖြည်း ဆင်းသက်နေထိုင်လာခဲ့ကြသည်ဟု ဆိုနိုင်သည်။ ပျံ့နှံ့နေထိုင်ပုံကို ကြည့်ခြင်းအားဖြင့် မြေပြန့်သို့ ဦးစွာ ရောက်သူတို့မှာ ပိုးများ ဖြစ်၍ သူတို့နောက်မှ စကောများ ဆင်းသက်လာသည်။ ပအိုဝ်း တောင်သူတို့မှာ ရွှေပြောင်းဆင်းသက်ဆဲဖြစ်ရာ ထက်ဝက်မျှ မြေပြန့်သို့ ရောက်နေပေပြီ။

ပျူတို့၏ နိုင်ငံဖြစ်သော သရေခေတ္တရာ ပျက်ရခြင်းအကြောင်းကို ဖေါ်ပြရာ၌ ဧစကော စစ်သည်များလာပြီဟု ထိတ်လန့်သောကြောင့် ဖြစ်သည်ဟု မြန်မာရာဇဝင်ကျမ်းတို့၌ ဆိုထားရာ ထိုဧစာကောစစ်သည်မှာ စကောကရင် စစ်သည်များလောဟု တွေးရန်ဖြစ်သည်။ ပုဂံခေတ် ကုန်ပြီးနောက် တောင်ငူကို ကရင်အကြီးအကဲများ တည်ထောင်ခဲ့ကြောင်း သိရသည်။ မြန်မာဘုရင်များ လက်ထက်တွင် ကရင်များရာဒေသကို ကရင်မြို့စား ရွာစား၊စော်ကဲများ ခန့်အပ်ခြင်းဖြင့် ကရင်တို့အား ခြီးမြှင့်ခဲ့ပေသည်။

## ကိုးကွယ်ယုံကြည်မှု

မူရင်းအားဖြင့် ကရင်တို့မှာ နတ်စားကြ၏။ ကြက်ရိုးထိုးသည့် အလေ့အထကို ယုံကြည်ကြ၏။ (ကြက်ရိုးထိုးခြင်း — ရှု။) အချို့မှာ ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်ကြသည်။ ခရစ်ယန် သာသနာပြုဆရာများ ရောက်ရှိလာပြီးနောက်သော်၊လူများစု မြန်မာတို့၏ လျစ်လျူရှုခြင်းကို ခံရသော ကရင်အချို့တို့သည် ခရစ်ယန်အယူဝါဒဂိုဏ်းအမျိုးမျိုးတွင် သက်ဝင်ယုံကြည်လာကြ၏။ ကရင် ရှေးဟောင်းတေးများတွင် 'ယွာ' ဟုခေါ်သော ဘုရားရှိပုံ၊ ယွာက ကမ္ဘာကို ဖန်ဆင်းပုံ၊ကရင်တို့၏ ညီငယ်ဖြစ်သော လူဖြူတို့သည် မိမိတို့ထံသို့ ကျမ်းစာအုပ်များ ယူလာမည်၊ ကျမ်းစာအုပ်များ ရရှိပြီးလျှင် ကရင်တို့ ကြီးပွားတိုးတက်မည်၊ ဟူသော အချက်တို့ ပါဝင်လေရာ၊ မြန်မာနိုင်ငံတွင်

ဗြိတိသျှတို့၏ ပဌမ နယ်ချဲ့စစ်အပြီး ရခိုင်နှင့် တနင်္သာရီတို့ ဗြိတိသျှတို့လက်တွင်းသို့ ကျဆင်း၍ ခရစ်ယန် သာသနာပြု လူဖြူများနှင့် ပိုမိုနီးကပ်စွာ စတင်တွေ့ဆုံကြရာ၌၊ရွှေတံဘောင်အရ ရောက်လာခြင်းဖြစ်သည်ဟု ယုံကြည်ကြသည့်အတိုင်း ကရင်တို့အတွက် ခရစ်ယန် သာသနာပြုခြင်းမှာ များစွာ လွယ်ကူ အောင်မြင်ခဲ့လေသည်။ မြန်မာနိုင်ငံတခုလုံးကို ဗြိတိသျှတို့ သိမ်းပိုက်ပြီးသည့်နောက် ခွဲခြားအုပ်ချုပ်သည့် နည်းစံနစ်အရ အုပ်ချုပ်လာခဲ့ရာတွင် ဗြိတိသျှတို့သည် ခရစ်ယန်ဖြစ်လွယ်သည့် ကရင်တို့ကို များစွာ အခွင့်အရေးပေးသဖြင့် ခရစ်ယန်အယူဝါဒီ ကရင်ဦးရေမှာ ပိုမို တိုးတက်ခဲ့လေသည်။ ခရစ်ယန် သာသနာပြုတို့တွင် အမေရိကန်မှ နှစ်ခြင်းသာသနာပြု၊အင်္ဂလိပ် ရေဖျန်းသာသနာပြုနှင့်၊ဗရင်ဂျီ သာသနာပြုတို့ ပါဝင်ကြသည်။ စကောကရင်တို့တွင် အမေရိကန်နှစ်ခြင်းဂိုဏ်း ထွန်းကား၍၊တောင်ပေါ် ကရင်တို့တွင် ဗရင်ဂျီဂိုဏ်း ထွန်းကားသည်။ ယုံကြည်မှု အသစ်အဆန်းအဖြစ် ခရစ်ယန်အယူဝါဒ ရောက်ရှိလာလင့်ကစား ကရင်ဦးရေ ၁,၃၀၀,၀၀၀ ကျော်တွင် ခရစ်ယန်အယူဝါဒ သက်ဝင်ယုံကြည်သူ ၂၁၀,၀၀၀ မျှသာ ရှိလေသည်။ ကျန် ၁၁ သိန်းကျော်မှာ ဗုဒ္ဓအယူဝါဒီများနှင့် နတ်ကိုးကွယ်သူများ ဖြစ်သည်။

၁၈၆၆ခု နှစ်တွင် ဘိုးပိုက်ဆံ ဆိုသူ ကရင်အမျိုးသားတဦးသည် ဗုဒ္ဓအယူဝါဒ၊ခရစ်ယန်အယူဝါဒနှင့် ကရင်တို့ ရိုးရာကိုးကွယ်သည့် ယုံကြည်မှုတို့မှ ကောင်းနိုးရာရာတို့ကို စုပေါင်း၍ ဘာသာသစ်တခုကို တီတွင်ခဲ့၏။ ကိုစံရီနှင့် တောင်ငူမှ ခလီဘိုးပါ ဆိုသူတို့သည်လည်း အလားတူ ယုံကြည်မှု အသစ်များကို တီထွင်ခဲ့ကြသည်။ ခလီဘိုးပါ၏ ယုံကြည်မှု အသစ်အဆန်းကို စောဂျွန်ဆင် ဒီဖိုးမင်း က ဆက်ခံ၍ တိုးတက်ပျံ့နှံ့ရန် ဆောင်ရွက်ခဲ့သည်။

## ကရင်နှစ်သစ်ကူးနေ့

လူမျိုးတိုင်းတွင် မိမိတို့ တမျိုးသားလုံးနှင့် ဆိုင်သော နှစ်သစ်ကူးနေ့များ ရှိစမြဲဖြစ်သည့်အတိုင်း ကရင်အမျိုးသားများ အဖို့တွင်လည်း ကရင်နှစ်သစ်ကူးနေ့ဟူ၍ ရှေးပဝေဏီကပင် ရှိခဲ့သည်။ ကရင်အမျိုးသားတို့၏ နှစ်သစ်ကူးနေ့မှာ ပြာသိုလဆန်းတရက်နေ့ ဖြစ်သည်။ ထိုနေ့တွင် ကရင်အမျိုးသားများသည် မိမိတို့၏ တောင်ယာပဲခင်းမှ ရသော စပါးနှင့် အခြားအသီးအနှံများကို ချက်ပြုတ်၍ စားဦးစားဖျားများကို လူကြီးမိဘ ဆရာသမားများအား ကန်တော့ကြပြီးလျှင် မိတ်သင်္ဂဟများနှင့် ပျော်ပါးစွာစုရုံးစားသောက်ကြသည်။ ထိုနှစ်သစ်ကူးနေ့ မင်္ဂလာအခါတွင် တနှစ်တွက် ဝမ်းစာများကို ကျီသွင်းသိုလှောင်ခြင်း၊လွန်ခဲ့သည့် နှစ်က သေဆုံးသော လူသေအလောင်းများကို မီးသင်္ဂြိုဟ်၍ ပြာများကို ဆောင်းဦးလေရူးတွင် လွှင့်ကြဲဖျောက်ဖျက်ခြင်း စသည်တို့ကိုလည်း ပြုလုပ်လေ့ရှိကြသည်။

## စာပေနှင့်ဘာသာစကား

ခရစ်ယန်သာသနာပြုများ မရောက်မီ ကရင်လူမျိုးတို့အနက် ပအိုဝ်တောင်သူတို့၌သာ ကိုယ်ပိုင်စာပေ ရှိခဲ့သည်။ ၁၈၃၀ ပြည့်နှစ်လောက်က ဒေါက်တာဝိတ် ခေါ် အမေရိကန် နှစ်ခြင်းသာသနာပြု ဆရာတယောက်သည် ဂျိုင်းမြစ်ဝှမ်းရှိ ကရင်အမျိုးသားတို့အား ခရစ်ယန်အယူဝါဒကို ဟောပြောစဉ်တွင် စကောကရင်စကားကို စာဖြင့် စထွင်ရေးသားခဲ့၏။ ရေးသားရာ၌ မြန်မာအက္ခရာများကို အသုံးပြုခဲ့၏။ ဤသို့ ခရစ်ယန် အယူဝါဒဆိုင်ရာ ကျမ်းများ စကောကရင် ဘာသာဖြင့် ပေါ်ပေါက်လာခဲ့ပေသည်။ ၁၈၄၁ခု နှစ်တွင် ဒေါက်တာမေဆင် ခေါ် အမေရိကန် သာသနာပြုဆရာသည် ထားဝယ်မြို့၌ 'မိုးသောက်ကြယ်' ဟူ



ပိုးကရင်အမျိုးသမီး။



စကောကရင်အမျိုးသမီး။



ပိုးကရင်အမျိုးသား။



စကောကရင်အမျိုးသား။

သော အမည်ဖြင့် စကောကရင် သတင်းစာတစောင်ကို ရိုက်နှိပ်ထုတ်ဝေခဲ့၏။ ထိုသတင်းစာကို ဂျပန်တို့ မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်တိုက်ခိုက်သည်အထိ နှစ် ၁ဝဝ နီးပါး ထုတ်ဝေခဲ့သည်။ ပိုးကရင်စာကို စထွင်သူမှာ မစ္စတာ ဗရေတန် ဖြစ်၍ ၁၈၄ဝ ပြည့်နှစ်လောက်က ဖြစ်ပေသည်။

ဆိုခဲ့ပြီးသည့်အတိုင်း ကရင်စကားမှာ တိဗက် — မြန်မာအစုတွင် အပါအဝင် ဖြစ်သည်။ စကားအားလုံးမှာ တလုံးချင်း အသံထွက်၍ အဓိပ္ပါယ်ရှိသည်။ ပြောဆိုရာတွင် အာလုပ်သံပါ၍ အသံမာသည်။ အသံမှာ ၆ မျိုးရှိတတ်သည်။ ဝါကျ အထားအသိုမှာ မွန်နှင့် အင်္ဂလိပ်စကားမှာကဲ့သို့ ကတ္တား၊ဝါစက၊ကံ အစဉ်အလိုက် ဖြစ်သည်။ ပိုးစကားမှာ စကောစကားထက် နာသိကအသံ ပိုများ၏။ အသံတို့၍ စူးသည်။ စကောနှင့် ပိုးစကား ၁၄ လုံးတွင် ၁၃ လုံးမှာ 'ဓါတ်' အတူတူပင် ဖြစ်သည်ဟု ဆိုသည်။ ပအို (တောင်သူ) စကားမှာ ပိုးစကားနှင့် ပို၍နီးစပ်သည်။ ကွင်း၊တောင်ပေါ်မခြား ကရင်စကားတို့မှာ တပြေးတည်း တူညီသော အချက်ရှိသော်လည်း ကွင်းကရင် အချင်းချင်းသော်၎င်း၊တောင်ပေါ်ကရင် အချင်းချင်း သော်၎င်း၊ကွင်းကရင်နှင့် တောင်ပေါ်ကရင် သော်၎င်း၊အမျိုးမတူဘဲ မိမိတို့ဘာသာစကားအရ ပြောဆိုလျှင် နားလည်ရန် ခဲယဉ်းကြသည်။ သို့ဖြစ်၍ ကရင်စကားတို့မှာ မြန်မာ၊ရခိုင်၊ထားဝယ်၊အင်းသား စကားတို့ကဲ့သို့ ဘာသာတူအသံကွဲ မဟုတ်ဘဲ အခြေခံတူသော်လည်း ဘာသာကွဲနေသော စကားမျိုးများ ဖြစ်သည်ဟု ဆိုနိုင်လေသည်။

## ကရင်အမျိုးများ

လူဦးရေ အများဆုံးဖြစ်သော စကောကရင်တို့မှာ ရမည်းသင်းခရိုင်မှ တောင်ဖက် မြိတ်ခရိုင်အထိ အများဆုံးတွေ့ရသည်။ ဧရာဝတီ မြစ်ဝကျွန်းပေါ်ဒေသတွင်လည်း အနှံ့အပြား ရှိသည်။ ဒုတိယ လူဦးရေ အများဆုံးဖြစ်သော ပိုးကရင်တို့၏ အချက်အခြာဒေသမှာ ဧရာဝတီ မြစ်ဝကျွန်းပေါ်ဒေသဖြစ်၍၊ထိုဒေသတွင် စကောကရင်တို့ထက် ၂ ဆ များသည်။ ပိုးကရင်တို့တွင် ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်သူ များသည်။ တတိယ အများဆုံးဖြစ်သော ပအိုခေါ် တောင်သူကရင်တို့မှာ လူဦးရေ ၂၂၆,ဝဝဝ မျှ ရှိ၍ ထက်ဝက်ကျော်မှာ တောင်ပေါ်ကရင် အဖြစ်၊ ရှမ်းပြည်တောင်ပိုင်းနှင့် အနောက်တောင်ပိုင်း တောင်ကုန်းဒေသများတွင် ရှိနေသေး၍၊ထက်ဝက်မျှမှာ တောင်ဖက် သထုံခရိုင်၊ ကျိုက္ခမီခရိုင်ထိ ပျံ့နှံ့ကာ ကွင်းကရင် ဖြစ်နေကြလေပြီ။ တောင်သူတို့မှာ များသောအားဖြင့် ဗုဒ္ဓအယူဝါဒီနှင့် နတ်ကိုးကွယ် သူများ ဖြစ်ကြသည်။ ဖါသိ ဖါသာ မနေတတ်၊ရှက်ကြောက်ခြင်း တည်လွှန်းခြင်း မရှိဘဲ ဖေါ်ရွေလှ၍ လွယ်ကူစွာ ဆက်ဆံနိုင်သူများ ဖြစ်သည်။ ကိုယ်လက်ကြံ့ခိုင်၍ သတ္တိရှိပြီးလျှင် ပင်ပင်ပန်းပန်း လုပ်ကိုင်စားသောက်သူများ ဖြစ်၏။ ကိုယ်ပိုင်ယဉ်ကျေးမှုရှိ၍ တိုးတက်လျက်ရှိသည်။

တောင်ပေါ်ကရင်တို့တွင် အရေးပါလှ၍ လျင်မြန်စွာ တိုးတက်လျက်ရှိသော သူတို့မှာ ကယားများဖြစ်သည်။ (ကယားလူမျိုး — ရှု။)

အမျိုးသမီးတို့ လည်ပင်းရှည်မှ လှသည်ဟု ယုံကြည်၍ လည်ပင်းရှည်အောင် ကြေးခွေများကို တခွေပြီးတခွေဆင့်၍ လည်၌ ရစ်ပတ်တန်ဆာဆင်ကြသည့် အလေ့အထရှိသော ပဒေါင်တို့သည် တောင်ငူအရှေ့ဖက်၊ကယားပြည်နယ်နှင့် ရှမ်းပြည်တောင်ပိုင်းဒေသစပ်ကြားတို့တွင် ပျံ့နှံ့နေထိုင်ကြသည်။ ဖေါ်ရွေ၍ ပင်ပန်းစွာလုပ်ကိုင်စားသောက်ကြသည်။

ပကူးတို့မှာ ဘာသာစကားတွင် စကောကရင်နှင့် နီးစပ်သည်။ လူဦးရေ ၈,၅ဝဝ ကျော်ရှိ၍ တောင်ငူနယ်တောင်များနှင့် ရှမ်းပြည်တောင်ပိုင်း၌ တွေ့ရသည်။

ပကူးတို့ကဲ့သို့ပင် ဘာသာစကား၌ စကောကရင်တို့နှင့် နီးစပ်အနွယ်တူသော တောင်ပေါ်ကရင်တမျိုးမှာ မော်နေဘွားတို့ ဖြစ်သည်။ လူဦးရေ ၂,ဝဝဝ ကျော်မျှသာရှိ၍ တောင်ငူခရိုင် တောင်များပေါ်တွင် တွေ့ရသည်။

တောင်ပေါ်ကရင် တမျိုးဖြစ်သော ပရဲတို့မှာ လူဦးရေ ၆,၅ဝဝ ကျော်ရှိသည်။ ကယားပြည်နယ်၊ ဘောလခဲ၊ ကြယ်ဖိုးကြီးနယ်များနှင့် ရှမ်းပြည်တောင်ပိုင်း မိုးဗြဲနယ်တို့၏ အနောက်ဖက် တောင်ငူခရိုင် အရှေ့ဖက်နှင့် မြေလတ်တောင်ဖက် စပ်ကြားတွင်ရှိသော တောင်ထူထပ်သည့် ဒေသတွင် စတုရန်းမိုင် ၆ဝဝ အတွင်း ပျံ့နှံ့နေထိုင်ကြသည်။ ပရဲတို့ကို လကူး ဟုလည်း ခေါ်သည်။မနုမနော၊တောင်ပိုင်းပရဲ၊မြောက်ပိုင်းပရဲဟု ၃ မျိုးကွဲသည်။မနုမနောတို့မှာ ပရဲနှင့် ကယားတို့မှ ပေါက်ဖွားသူများ ဖြစ်ဟန်တူ၏။တောင်ပိုင်းပရဲတို့မှာ စားရေးသောက်ရေး မလုံလောက်သဖြင့် ကြုံ့လှီ၍၊စားရေးသောက်ရေး လုံလောက်စွာရရှိသော မြောက်ပိုင်းပရဲတို့မှာ သန်စွမ်းကြသည်။

တောင်ငူခရိုင် တောင်များပေါ်တွင် တွေ့ရသော ကရင်တမျိုးမှာ ဘွဲတို့ဖြစ်သည်။မိမိတို့ကိုယ်ကို ဘဂိုင်ဟုခေါ်ကြ၍ ရှမ်းပြည်တောင်ပိုင်းနှင့် ကယားပြည်နယ်၌လည်း တွေ့ရှိရသည်။လူဦးရေ ၆,ဝဝဝ မျှရှိ၍ ပရဲများ ကရင်ဖြူများနှင့် နီးစပ် အနွယ်တူသူများ ဖြစ်သည်။

ကရင်ဖြူခေါ် တောင်ပေါ်ကရင်တမျိုးကို တောင်ငူခရိုင်ရှိ တောင်များတွင် အများဆုံး တွေ့ရသည်။မြောက်ဖက် ရမည်းသင်းခရိုင်ရှိ တောင်များတွင်၎င်း၊အရှေ့ဖက် ကယားပြည်နယ်အထိ၎င်း၊ပျံ့နှံ့ နေထိုင်ကြသည်။ ကရင်ဖြူတို့တွင် ဘွဲကို တခါတရံ ထည့်သွင်းတတ်ကြသည်။သူတို့ကို မပုံ

ဟုလည်း ခေါ်ကြသည်။ပေါင်းလောင်းမြစ်ဝှမ်း လွယ်လို တွင်လည်း တွေ့ရ၏။မဲပုခေါ် ကရင်ဖြူတို့ကို ပျဉ်းမနား အရှေ့မြောက်ဖက် တောင်များပေါ်တွင် တွေ့ရသည်။ သူတို့၏ အသွင်အပြင်မှာ တောင်သူတို့နှင့် ပို၍တူကြ၏။

လူဦးရေ ၄,၀၀၀ မျှရှိသော ဇယိန်းတို့ကို ရှမ်းပြည်တောင် ပိုင်း၊မြောက်ဖက်လွယ်လုံနှင့် တောင်ဖက်မိုးဗြဲတို့၏ နီးစပ်ရာ ရှိ ရွာပေါင်း ၂၆ ရွာ၌ တွေ့ရသည်။အချို့မှာ တောင်သူတို့၏ ထုံးစံဓလေ့ကို လိုက်နာ၍ အချို့မှာ ပလောင်၊ဝတို့နှင့် သွေး နှောဟန်ရှိသည်။သူတို့ကို ခေါင်းတိုကွန်ဆောင် သို့မဟုတ် ဆောင်တုန် ဟုလည်း ခေါ်ကြသည်။ခေါင်းတိုဟု ခေါ်ရခြင်း မှာ နားနှစ်ဖက် အပေါ်လောက်ရှိ ခေါင်းအောက်ပိုင်းကို ချန်လှပ်၍ ဦးပြည်းရိတ်သော အလေ့အထရှိသောကြောင့် ဖြစ်ဟန်တူသည်။သူတို့မှာ လိင်ကိစ္စတွင် အရှက်အကြောက် ကြီးလှ၏။သို့ဖြစ်၍လည်း အပျိုဟိုင်း လူပျိုဟိုင်း အများ ပင် ရှိ၍ အိမ်ထောင်ရေးစည်းကမ်းမှာ ဆန်းကြယ် လှ၏။

တောင်ငူအရှေ့ဖက် လိပ်သိုတောင်ရှိ ကိုစပလိုတွင် တွေ့ရ သော တောင်ပေါ်ကရင်တမျိုးမှာ ဂဲခိုး ဖြစ်၏။ရှမ်းပြည် တောင်ပိုင်း၌လည်း တွေ့ရသည်။လူဦးရေ ၄,၀၀၀ မျှသာ ရှိ၍ ပဒေါင်၊ယင်းဘော်တို့နှင့် အနွယ်တူဟန်ရှိ၏။

မိုဘွားဟူသော တောင်ပေါ်ကရင်တမျိုး ရှိသေးသည်။ သူတို့အကြောင်းကို ကောင်းစွာ မသိရသေးပေ။တောင်ငူ ခရိုင် သံတောင်၌ တွေ့ရ၏။

လူဦးရေ ၂,၉၀၀ မျှသာရှိသော တောင်ပေါ်ကရင် တမျိုး ဖြစ်သည့် ယင်းဘော်တို့ကို တောင်ငူခရိုင် လိပ်သိုတောင် များပေါ် ရှိ ယာဒိုနှင့် ကယားပြည်နယ်တို့တွင် တွေ့ရ၏။

လူဦး ရေ အား ဖြင့် သော် ၎င်း၊ အဆင့် အတန်း အား ဖြင့် သော်၎င်း၊ကရင်လူမျိုးတို့မှာ တိုးတက်လျက်ရှိသော သူများ ဖြစ်ကြသည်။အထူးသဖြင့် ခရစ်ယာန်အယူဝါဒီ အစိတ်အပိုင်း ဖြစ်သော သူတို့မှာ စာပေတို့ကို လေ့လာသင်ကြားသူများ ရှိခြင်းတို့ကြောင့် သာမန် အသက်မွေးဝမ်းကျောင်း လုပ်ငန်း တို့အပြင် နိုင်ငံတော် အုပ်ချုပ်ရေး ကာကွယ်ရေးဖက်၌ သော်၎င်း၊အခြား ဌာနများ၊လုပ် ငန်းများတို့၌ ၎င်း၊ပါဝင် ဆောင်ရွက် အမှုထမ်း လာခဲ့ကြလေပြီ။

ကရင်လူမျိုးတို့မှာ ဖါသိဖါသာ နေတတ်ခြင်း၊ရိုးသား၍ သစ္စာရှိခြင်း စသော ဂုဏ်ပုဒ်တို့ဖြင့် ခြီးကျူးခြင်းခံရသော သူများဖြစ်သည်။သို့ရာတွင် သွေးခွဲစံနစ်၏ မြောက်ထိုးပင့် ကော် ပြုခြင်းကို ခံရသောကြောင့် ခေတ်ပညာ တတ်လင့် ကစား အမြင်မကျယ်သော ကရင်အချို့တို့၏ လမ်းလွဲ လိုက်မှုကြောင့် ၁၉၄၉ ခုနှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံ တော်ကို တော်လှန်ပုန်ကန်သော ကရင်ပုန်ကန်မှု ပေါ် ပေါက်ခဲ့သည်။ နိုင်ငံ တော်ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ တွင် ပြည်ထောင်စုအတွင်း ကရင်ပြည်နယ် သတ်မှတ်



ဗုဒ္ဓဘာသာကရင်တို့၏ ဖေါ်ခိပင်ပင့်ပွဲမှ ယိမ်းအက

ထားပြီးဖြစ်ခြင်း၊ကရင်ပြည်နယ် အကောင်အထည် မဖေါ်မီ ကတည်းကပင် အုပ်ချုပ်ရေး၊ကာကွယ်ရေးဖက်ရှိ အချက် အခြာ နေရာများတွင်သာမက ဝန်ကြီးအဖွဲ့၌ပင်လျှင် ကရင် အမျိုးသားတို့အား အခွင့်အရေး ပေးထားခြင်းတို့ပင် ရှိလင့်ကစား၊ ကော၊ အင်၊ ဒီ၊ အိုအမည်ခံ ကရင်သူပုန်တို့သည် လူဦးရေအားဖြင့် မဆိုစလောက်ပင် ဖြစ်သော်လည်း ပြန် လည်ထူထောင်ရေး၊ နိုင်ငံစည်ပင်ရေး လုပ်ငန်းတို့၏အရှိန်ကို ဟန့်တားနိုင်လောက်အောင် အနှောင့်အယှက် ပေးခဲ့ကြ၏။ အခြား တိုင်းရင်းသားများသာမက ကရင် အမျိုးသားတို့ လည်းနစ်နာ ဆုံးရှုံးခဲ့၏။ဤသို့ဖြင့် နာမည်ကောင်း ရထား သော ကရင်လူမျိုးတို့၏သမိုင်းတွင် ဤကြေကွဲဝမ်းနည်းဖွယ် ကောင်းလှသော အမဲစက်ကြီး စွန်းခဲ့ရ၏။

ကရင်လူနည်းစုတို့၏ ဖေါက်ပြန်မှုကို ပြည်ထောင်စု နိုင်ငံ တော်သည် နိုင်နင်းစွာ နှိမ်နင်းခဲ့၏။ပုန်ကန်သူတို့မှာ ကရင် လူနည်းစု ဖြစ်ရကား သစ္စာရှိ ကရင်လူများစု၏ အခွင့်အရေး နှင့် အကျိုးကို မထိခိုက်စေရန် နိုင်ငံတော် အစိုးရသည် အခြေခံဥပဒေတွင် လျာထားသည့်အတိုင်း ကရင်ပြည်နယ် ကိုသတ်မှတ်ပြီးလျှင် တိုးချဲ့ပေးခြင်း၊ကရင်တို့ရရှိသော အခွင့် အရေးများကို ဆက်လက်ပေးခြင်းတို့ဖြင့် နိုင်ငံတော်သမိုင်း တလျှောက်လုံး ဒိုးတူပေါင်ဖက် လက်တွဲနေခဲ့သော ကရင်တို့ အား အခြား ပြည်ထောင်စုသားတို့နှင့် တပူးတပေါင်းတည်း ချစ်ခင်ရင်းနှီးစွာ ဆောင်ရွက်သွားနိုင်ရန် ဖန်တီးနိုင်စွမ်း ခဲ့ပေသည်။ (ကရင်ပြည်နယ် — ရှု)။ ဦးဘရှင်။

ကရင်ဩသံ။ ။ကရင်ဩသံမှာ ကရင် လူ မျိုး တို့၏ ဘာသာဘာဝ ပြောဆိုဟစ်ကြွေးသော အသံများကိုမှီ၍ သာယာဖွယ်ဖြစ်အောင် ရေးဖွဲ့ထားသော မြန်မာသီချင်း ကြီး အဖွဲ့အနွဲ့ တမျိုး ဖြစ်လေသည်။ထိုသီချင်းမျိုးကို ဇာတ်

သဘင်များတွင် ကရင်လူမျိုးများအကြောင်းကို ကပြရာ၌ ထည့်သွင်း တီးမှုတ်လေ့ရှိသည်။အဖွဲ့အနွဲ့စာသားမှာလည်း ကရင်လူမျိုးတို့၏ ယဉ်ကျေးမှုနှင့် စပ်ဆိုင်သည့် အကြောင်း အရာများသာ အများဆုံး ပါဝင်သည်။

မြန်မာသီချင်းကြီးများတွင် အသံကို ရှည်ကြာစွာ ဆွဲငင်၍သီဆိုရသော သိင်္ခါသံ၊ အလောင်းပိုက်၊ တပ်ပို့၊ စသော သီချင်းများနှင့် သီဆိုပုံချင်း အနည်းငယ် ဆင်တူသော်လည်း၊ ကရင်ဩသံတွင် တီးကွက် အသစ်အဆန်းများ ဖွဲ့သွင်းပါရှိသဖြင့် အသံရှည်သီချင်း သစ် တမျိုး သဖွယ် ဖြစ်နေလေသည်။ကရင်ဩသံကို မြင်စိုင်း သို့မဟုတ် ငါးပေါက်သံထီးသံစဉ်ဖြင့် သီဆိုတီးမှုတ်လေ့ရှိသည်။

ကရင်ဩသံများသည် ကုန်းဘောင်မင်းတရားကြီး လက်ထက်တွင်မှ စတင် ပေါ်ပေါက်ခဲ့သည်ဟု ယူဆရပေသည်။ မဟာဂီတကျမ်းများတွင် ရှေးဟောင်းခေတ်များက ကရင်ဩသံများကို မတွေ့ရှိရပေ။ကုန်းဘောင် မင်း လက် ထက် သာယာဝတီဦးဝိုင်းရေး ကရင်ဩသံ အချို့ကိုသာ တွေ့ရှိရသည်။ထိုကရင်ဩသံများကို တောလား၊ကရင်ဩလွမ်းသံဟူ၍လည်း ခေါ်ဆိုလေသည်။ ဩသံမှာ အသံဩ၍ သီဆိုရခြင်းကြောင့်ပင် ခေါ်တွင်ခြင်းဖြစ်၏။တောလားဟု ဆိုရလောက်အောင်ပင် တောသဘာဝများကို သရုပ်ဖေါ်ထားကြောင်းတွေ့ရလေသည်။

တွေ့ရှိရသမျှ ကရင်ဩသံများမှာ ‘တကျော့မှုံပြာ’ အစချီဩသံနှင့်၊ ‘မြိုင်တန်းမှောင်ဝေလေး’ အစချီဩသံများပင် ဖြစ်သည်။ထိုဩသံများကို မသီဆိုမီ ခြေဆင်းနိဒါန်းသဖွယ် ရှေးဦးစွာ သီဆိုလေ့ရှိသော ‘တောင်ယာတောလယ်’ အစချီ ခွန်းထောက်သဖြန်တပုဒ်လည်းရှိ၍ ကရင်သဘာဝဘွဲ့ပင် ဖြစ်ပေသည်။

ဇာတ်သဘင်များတွင် သီဆိုတီးမှုတ်ဖန်များ၍ အများနှုတ်ငုံရမတတ် ရှိနေသော မြိုင်တန်းမှောင်ဝေလေး အစချီဩသံမှာ အောက်ပါအတိုင်းဖြစ်၏။ထိုဩသံမှ အသံဩဆိုရသော ‘အေ’ ကာရန် စကားလုံးများနှင့် ကရင်လူမျိုးတို့၏ သဘာဝကို သတိပြု မှတ်သားသင့်ပေသည်။ဩသံအားလုံး၏ မူသေတေးသွားကား မရှိပေ။တပုဒ်လျှင်တမျိုးစီ အသံမှတ်၍၊ပတ်ပျိုး၊ ယိုးဒယားတို့ကဲ့သို့ တီးမှုတ်ရလေသည်။

### မြိုင်တန်းမှောင်ဝေလေး

မြိုင် တန်း မှောင် ဝေ လေး။ တောင် သေလာ ကျော၊လွမ်းဘွယ် တော၊ သာခွား ပေါ။ တို့ တောင် ယာ တော မှာ၊ လွမ်းဘွယ်တွေပေါလှပါသလေး။အဝေး။ ။

ဟော်နန်းဗွေငူ၊ တို့တောင်သူလေ။ဝေ — စုလို့ရုံး။ (ဘာသာထုံး၊ ခေါင်ရေသုံး)။ ၂ တို့တောင် ယာကုန်းမှာ — လေ။ (တုံး ကျည် ပွေ့ကို အခါခါ၊ ခုန်ကြတို့ဘာသာ — သာ)။ ၂ (ပျော်စရာလေ ခင်း ခင်း၊ လာ ဟော့သူငယ် ချင်း ချင်း)။ ၂ (သိုင်းနင်းလေဟန်ချီ၊ပျော်တဲ့နန်းဖေ့ါရီ)။ ၂ (ကြွေတွေစီ၊ ဝတ်အင်္ကျီ၊ဆင်ဆင်သည်၊ယဉ်ယဉ်သည်)။ ၂ တွဲဘက်လို့ — တို့နှလုံးမှာ — ဝေ။ခုန်အုန်းမည်လေး၊သူငယ်ချင်းတို့ရေ — အဝေး။ ။

ရှို့မီး ထိန်လွှင်လေး။ ကွင်းပြင် လယ် ကွင်း၊ ပျိုးစရာရှင်း။ ရိုး တာ ကန် သင်း။ တို့ တော သူ လေ လေ — တောင်သူ၊တို့ တောင်သူချင်းရယ်လေ — အဝေး။ ။

ရောင်သင်းမြေကြူလေး ။ရိုးကမူတန်း၊တဲရာစခန်း၊လှဲ့တာလမ်း၊လုပ်ကိုင်ရာ၊ တလင်းပြန့်ညီစွာ၊လှေ့စင်မှာ၊သုံးချောင်းဆိုင်ကာ၊ မျိုးရိက္ခာလှမ်းတယ်လေ — အဝေး။ ။

တောတန်း တောင်ခြေလေး။ ဝါကြိမ်တွေ နွှော၊သခွားဖရုံပေါ၊စားမကုန်ပေါ၊အိုလွန်သာမောဘွယ်လေး — အဝေး။ ။

ဖေါ် နွှော စုံလင် လေး။ နှစ် စဉ် ပျော် မြဲ၊ ရိုးကောက်ပွဲ၊ဖြိုးမောက် ကဲ၊ ခြိမ့် ခြိမ့် သဲ လို့ ဆူ ဆူ ငြာ ငြာ။ ခေါင် ရေ အိုးနှင့် တောင် ရိုး သာ သာ၊ အစာ ရေစာပေါပေါ၊ တို့ဆီလွန်ဝပြောပြော၊အိုယာတောလယ်လေ — အဝေး။ ။

**ကရိုင်းမီးယားနယ်။** ။ဥရောပ နှင့် ရုရှ နယ်နိမိတ်ရှိ ပင်လယ်နက်အတွင်းသို့ မြောက်ဖက်ကမ်းခြေဖက်မှ ထိုးဝင်လျက်ရှိသော လေးထောင့်သုဏ္ဍာန် ကျွန်းဆွယ်ကလေးမှာ ကရိုင်းမီးယား ကျွန်းဆွယ်ဖြစ်၏။အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၉၉၅၂ ဖြစ်၍၊ကုန်းမကြီးနှင့် ဆက်လျက်ရှိသော ပေးရေးကော့ ကျွန်းဆက်ကလေးသည် သုံးမိုင်ခန့်သာကျယ်၏။လေးထောင့်ပုံရှိ ကျွန်းဆွယ်၏ အရှေ့ဖက်ထောင့်မှ ထိုးထွက်နေသော ကျွန်းဆွယ်ကလေးသည် ရုရှနိုင်ငံနှင့် ထိလုမတတ် ရှိနေ၍၊ပင်လယ်နက်နှင့် အေးဇော့ပင်လယ်တို့ကို ပိုင်းခြားထားသကဲ့သို့ရှိ၏။ယခုအခါ မြောက်ဖက်မှ ကျွန်းဆွယ်ကိုဖြတ်၍ တူးမြောင်း ဖေါက်လုပ်ထားသော



ဒုတိယကမ္ဘာစစ်အတွင်း ယော်လတာမြို့၌ တွေ့ဆုံခဲ့ကြသော မဟာမိတ် ခေါင်းဆောင်ကြီး ၃ ဦး — ချာချီ၊ရူးစဗဲ့နှင့် စတာလင်



ကရိုင်းမီးယားနယ် ပင်လယ်နက်ကမ်းခြေရှိ ကျန်းမာရေးအတွက် အပန်းဖြေရာစခန်းဖြစ်သော ယော်လတာဆိပ်ကမ်းမြို့

ကြောင့်၊ကရိုင်းမီးယားမှာ ကျန်းကလေးတကျွန်းဟုပင် ခေါ် ဆိုနိုင်ပေသည်။အရှေ့တောင်ဖက် ကမ်းခြေတလျှောက်တွင် တောင်တန်းများရှိ၍၊မြောက်ပိုင်းမှာ မြေနိမ့်များဖြစ်သည်။ ရာသီဥတု ကောင်းမွန်၍ စိုက်ပျိုးရေး အောင်မြင်ဖွံ့ဖြိုး သည်။ကျွန်းဆွယ်တခုလုံး၏ ၃၅ ရာခိုင်နှုန်းသော မြေကွက် များတွင် ကောက်ပဲသီးနှံ စိုက်ပျိုးလုပ်ကိုင်လျက်ရှိ၏။ ဆောင်း တွင်း စိုက် ဂျုံ၊ မုယောစပါး နှင့် မြင်းစားဂျုံတို့မှာ အဓိက ကောက်ပဲသီးနှံများဖြစ်ကြ၍၊နွေရာသီတွင် ပြောင်း မှာ အဓိကအသီးအနှံဖြစ်၏။စပျစ်ခြံများ၊ဆေးဖရဲ၊သခွား၊ နှမ်း၊ဝါဂွမ်းနှင့် ဘီသွာလျှော် (နှမ်းချပ်လျှော်) များကို လည်း ရာသီအလိုက် စိုက်ပျိုးလုပ်ကိုင်ကြသည်။စားကျက် ကောင်းများရှိသဖြင့် သိုးများ မြင်းများ အကြီးအကျယ် မွေးမြူကြ၏။

အရှေ့ဖက်သို့ ထိုးထွက်နေသော ကျွန်းဆွယ်ပေါ် ရှိ ကတ်ချ မြို့တွင် သံများ တူးဖေါ် ရရှိ၍ ယူကရိန်း နယ်ရှိ အလုပ်ရုံ များသို့ တင်ပို့သည်။ ယူပတိုးရီးယားမြို့အနီး ဆက်ရေအိုင် တွင် ဆားချက်လုပ်ငန်းများ ဖြစ်ထွန်းသည်။ကမ်းခြေတ လျှောက်တွင်လည်း တံငါလုပ်ငန်းများ တွင်ကျယ်သည်။သ ဘောတည်ဆောက်သော လုပ်ငန်း၊ဂျုံကြိတ်လုပ်ငန်း၊သံမဏိ လုပ်ငန်း၊ယို နှင့် သနပ်လုပ်ငန်း၊စည်သွတ်လုပ်ငန်း၊သားရေ လုပ်ငန်းနှင့် သိုးမွေးလုပ်ငန်းများရှိသဖြင့် နယ်မြေကျဉ်းသ လောက် လုပ်ငန်း တွင်ကျယ်ပေါများပေသည်။မြို့ကြီးများ မှာ မြို့တော်ဖြစ်သော ဆင်ဖါရိုပိုမြို့ အပြင်၊အကောင်းဆုံး သော ဆိပ်ကမ်းမြို့နှင့် ရေတပ်စခန်းတခုဖြစ်သည့် ဆီဗတ်စတို ပို၊ ကျန်းမာရေးအတွက် အပန်းဖြေရာမြို့လည်းဖြစ် ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက မဟာမိတ်တို့ ၏ ခေါင်းဆောင် ကြီး များ ၁၉၄၅ ခုနှစ်တွင် တွေ့ဆုံစည်းဝေး ဆွေးနွေးရာ မြို့လည်း ဖြစ်သော ယော်လတာနှင့်၊ယူပတိုးရီးယား၊သီယိုဒိုးရှားနှင့် ကတ်ချ စသော အခြားဆိပ်ကမ်းမြို့များ ဖြစ်လေသည်။ ရုရှပြည်မ ဖက်မှ မြောက်ဖက်ရှိ ကျွန်းဆက်တလျှောက် အရှေ့ပိုင်း ကတ်ချမြို့အထိ တလမ်း၊အနောက်မြောက်ပိုင်း ဆီဗတ်စတိုပိုမြို့အထိ တလမ်း၊မီးရထားလမ်းများဖြင့် ဆက် သွယ်ထားသည်။ ထို့ပြင် ယူပတိုးရီးယားမြို့သို့လည်း လမ်း ခွဲတခုရှိ၏။လူဦးရေမှာ ၇၆၀,၀၀၀ ခန့်ဖြစ်လေသည်။

ဤကျွန်းဆွယ်တွင် ရှေးရှေးအခါက နေထိုင်ခဲ့သူများမှာ ကဲ့လူမျိုးများဖြစ်၍၊ဘီစီ ၇ ရာစုနှစ်အတွင်း ဆီသီယန်လူမျိုး တို့ ဝင်ရောက် တိုက်ခိုက် သဖြင့် ထွက်ပြေး ခဲ့ ကြ ရ သည်။ အချို့မှာ တောင်တန်းများတွင် ခိုဝင်နေထိုင်ကြရ၍၊ကျန် နေသူများမှာ တောရိလူမျိုးဟု တွင်သည်။ထိုနှစ်တွင်ပင် ဂရိတို့လည်း ဝင်ရောက် နေထိုင်ခဲ့ကြပြန်၏။အေဒီ ၂၅၀ ပြည့် နှစ်တွင် ဂေါ့သလူမျိုးများ ဝင်ရောက် စိုးမိုးပြီးနောက်၊ ၃၇၆ ခုနှစ်တွင်တဖန် ဟန်းလူမျိုးများ၏ စိုးမိုးခြင်းကို ခံရပြန် သည်။ ၁၀၁၆ ခုနှစ်တွင် ဗိုင်ဇင်းတိုင်ဂရိလူမျိုးတို့ စိုးပိုင်ခဲ့၍၊ ၁၂၃၇ ခုနှစ်တွင် မွန်ဂိုလူမျိုးများက ပိုင်ဆိုင်ခဲ့ပြန်သည်။ ၁၄၇၅ ခုနှစ်တွင် အော့တိုမန်တရက်တို့က တိုက်ခိုက်သိမ်း ယူ၍ ထိုကျွန်းဆွယ်တပိုက်တွင် အော့တိုမန်အင်အားစုဟု

တန်ခိုးကြီးလာခဲ့ရာ၊ ၁၇၇၇ ခုနှစ်သို့ရောက်မှ ရုရှတို့ကသိမ်းယူ၍ ရုရှလက်အောက်ခံ ဖြစ်ရလေသည်။ ၁၉၄၆ ခုနှစ်တွင် ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံ၏ တစိတ်တဒေသ ဖြစ်လာခဲ့သည်။

၁၈၅၄ ခုနှစ်တွင် ရုရှတို့၏ နယ်ချဲ့မှုအရင်းခံသော အယူဝါဒဆိုင်ရာ အရှုပ်အထွေးကြောင့် ကရိုင်းမီးယားကျွန်းဆွယ်တွင် တူရကီနှင့် ရုရှတို့ စစ်မက်ဖြစ်ပွားကြလေသည်။တူရကီဖက်မှ ပြင်သစ်၊ ဗြိတိန်နှင့် ဆာဒင်းနီးယား (ဣတလီ) တို့ကကူညီ၏။ကျွန်းဆွယ်ပေါ်ရှိ အယ်လမာမြစ်၊ဗါလာကလာဗါနှင့် အင်ကာမန် အရပ်တို့တွင် တိုက်ပွဲများ ဖြစ်ပွားသည်။ ၁၈၅၆ ခုနှစ်၌ ရုရှတို့၏ အခိုင်ခံ့ဆုံး ခံတပ်မြို့ဖြစ်သော ဆီဗတ်စတိုပို ကျသောအခါ ကရိုင်းမီးယားစစ်ပွဲ အပြီးသို့ရောက်လေသည်။ထိုစစ်ပွဲနှင့်စပ်လျဉ်း၍ နိုင်ငံသမိုင်းတွင် ထင်ရှားသော အကြောင်းအရာများစွာ ကျန်ရစ်ရုံမက၊စစ်မြေပြင်၌ ဒဏ်ရာရသူများအား စွန့်စွန့်စားစား လိုက်လံပြုစုသော မီးအိမ်ရှင်မခေါ် ဖလော်ရင့် နိုက်တင်းဂေး၏ အကြောင်းသည်လည်း ဥဒါန်းတွင်ရစ်လေသည်။

**ကရစ်ကက်ကစားခြင်း။** ။ကရစ်ကက် ကစားခြင်းသည် အင်္ဂလိပ်လူမျိုးတို့၏ အမျိုးသားကစားနည်းဖြစ်၍ ထိုကစားနည်းကိုပင် ဂုဏ်ယူကြလေသည်။ အင်္ဂလန် တပြည်လုံး နှင့် တကွ၊ ဩစတြေး လီး ယား၊ နယူး ဇီလန်၊တောင်အာဖရိကပြည်ထောင်စုနှင့် အိန္ဒိယနိုင်ငံများတွင် ကရစ်ကက်ကစား ခြင်း သည် လွန်စွာခေတ်စား လျက် ရှိသည်။ကရစ်ကက် ကစားခြင်းမှာ နွေရာသီ ပြင်ပကွင်း ကစားခြင်းတမျိုးဖြစ်၍၊ညီညာသော ကစားကွင်းတွင် ကစားကြလေသည်။

ကရစ်ကက်ကစားကွင်းတွင် မြင်ခင်း ကို ညီညာစွာ ညှိထား၍၊တဖက်နှင့်တဖက် ၂၂ ကိုက်အကွာတွင် ဝစ်ကက်တိုင်များကို စိုက်ထူထားသည်။ ဝစ်ကက်တိုင်တခုလျှင် ၂၇ လက်မအမြင့်ရှိသော သစ်သားတိုင်ဖြောင့်ကလေး သုံးတိုင်ပါ၏။ ထိုတိုင် ကလေး သုံး တိုင် ကို စီ၍စိုက် ထားရာ၊ ပဌမတိုင်နှင့်တတိယတိုင်မှာ ၈ လက်မမှ ၉ လက်မအထိကွာဝေး၍ ဒုတိယတိုင်မှာ အလယ်တည့်တည့်တွင် ရှိသည်။တိုင်ကလေးများ၏ထိပ်တွင် ၄ လက်မစီရှည်သော ပွတ်လုံးတန်းကလေး ၂ ခုကို တင်၍ဆက်ထားသည်။ ထိုတိုင်ကလေးသုံးတိုင်ပါသောဝစ်ကက်တိုင်ကိုအလယ်တွင်ထားလျက် ၈ ပေ၈ လက်မရှည်သော မျဉ်းဖြူတကြောင်းကို ဖြောင့်တန်းစွာ ဆွဲထားသည်။ဝစ်ကက်တိုင်၏အရှေ့ ၄ ပေအကွာတွင်လည်း ပဌမမျဉ်းကြောင်းနှင့် မျဉ်းပြိုင်ဖြစ်သော ဒုတိယမျဉ်းကြောင်းတခု ဆွဲထားပြန်သည်။

ကရစ် ကက် ရိုက် ရာ တွင် အသုံး ပြု သော ဗက် တံ ကို မိုးမခသားဖြင့် ပြုလုပ်၏။ အလျားမှာ ၃၈ လက်မထက် မပိုရချေ။ ဗက်တံ၏လက်ကိုင်မှာ ၁၄ လက်မခန့်ရှည်၍ ကြိမ်ဖြင့် ပြုလုပ်ထားသည်။ ဘောလုံးကိုရိုက်ရသော ဗက်တံအပြားမှာ ပြက် ၄ ၁/၄ လက်မထက် မပိုရချေ။ များသောအားဖြင့် ဗက်တံတချောင်းသည် အလေးချိန် ၂ ၁/၄ မှ ၂ ၁/၂ ပေါင်အထိ ရှိလေသည်။ ကရစ်ကက်ရိုက်ရာတွင် အသုံးပြုသော ဘောလုံးကို ဖော့ဖြင့်ပြုလုပ်၍၊ အပြင်မှ ထူ၍ခိုင်မာသော သားရေနီအုပ်၍ ချုပ်ထားသည်။ ဘောလုံး၏အလေးချိန်မှာ ၅ ၁/၂ အောင်စမှ ၅ ၁/၄ အောင်စအထိ ရှိသည်။

ကရစ်ကက်ကစားရာ၌ ဘောလုံးကန်သကဲ့သို့ပင် တဖက်လျှင် ၁၁ ယောက်စီ နေရ၏။ စတင် မကစားမီ အသင်း



တောင်အာဖရိကအသင်းနှင့် အောက်စဖို့တက္ကသိုလ်အသင်းတို့ ယှဉ်ပြိုင်ကစားကြသော ကရစ်ကက်ဖိုလ်လုပွဲ

ခေါင်းဆောင်နှစ်ဦးက မျောက်ပန်းလှန်၍ အလှည့်ရွေး ရသည်။ တဖက်က ဗက်တံဖြင့်ရိုက်သည့် အလှည့်ကိုယူမည် ဆိုလျှင် ကျန်တဖက်က ဘောလုံးပစ်သည့် အလှည့်ကိုယူရ သည်။ ဗက်တံကိုင်၍ ရိုက်မည့်သူသည် ခြေသလုံးမှဒူး ခေါင်းအထိ ဖုံးနေသော ဒူးကာများနှင့် လက်အိတ်များကို တပ်ဆင်၍ ဝစ်ကက်တိုင်တွင် စောင့်နေရ၏။ ထိုအခါ တဖက် မှလူက တခြားဝစ်ကက်တိုင်၏ နောက်မှနေ၍ ဗက်တံကိုင် ထားသူဖက်သို့ ဘောလုံးကို ပစ်ရသည်။

ဗက်တံကိုင်ထားသူ၏ တာဝန်မှာ တဖက်မှပစ်လိုက်သော ဘောလုံးသည် မိမိစောင့်နေသည့် ဝစ်ကက်တိုင်ကို မထိမှန် စေရန် လက်ထဲရှိဗက်တံနှင့် ဆီး၍ရိုက်ပြီးလျှင်၊မိမိရိုက်လိုက် သော ဘောလုံးကို တဖက်မှကစားသူများက လှမ်း၍မဖမ်း နိုင်မီ အခြားဝစ်ကက်တိုင်သို့ ပြေးသွားခြင်းဖြင့် အမှတ် ရယူရန်ဖြစ်၏။ မိမိရိုက်လိုက်သော ဘောလုံးသည် သတ် မှတ်ထားသော နယ်နိမိတ်ကို ထိမှန်လျှင်၊သို့မဟုတ် ကျော် လွန်သွားလျှင်၊သို့မဟုတ် ဖမ်းသူနှင့်အတူ ကျော်လွန်သွား လျှင်လည်း အမှတ်ရလေသည်။

မျက်နှာချင်းဆိုင်တွင်ရှိသည့် ဘောလုံးပစ်သူက ပစ်လိုက် သော ဘောလုံးသည် ဝစ်ကက်တိုင်ကို ထိမှန်သောအခါ၌ ၎င်း၊ဗက်တံကိုင်သူရိုက်လိုက်သည့် ဘောလုံးကို မြေကြီးနှင့် မထိမီ တဖက်မှ ကစားသူများထဲမှ တယောက်ယောက်က အမိ ဖမ်း ယူ နိုင် သည့် အခါ တွင် ၎င်း၊ ဗက် တံ ကိုင်သူသည် ဘောလုံးကို ရိုက်လွှတ်လိုက်စဉ် ဝစ်ကက်တိုင်ရှေ့ရှိစည်းကို ကျော်သွားသည့် အခါတွင်၎င်း၊ဘောလုံးကို မရိုက်မိဘဲ အနီး တွင်ရှိသော ဝစ်ကက်တိုင်ကို ရိုက်မိသဖြင့် တိုင်လဲသွား သည့် အခါတွင်၎င်း၊တဖက်မှပစ်လိုက်သည့် ဘောလုံးသည် ဝစ်ကက်တိုင်ကို ဧကန် ထိမှန်မည်ဖြစ်ပါလျက် ဗက်တံကိုင် သူက ခြေထောက်နှင့်ဖြစ်စေ ကိုယ် ခန္ဓာ အစိတ် အပိုင်း တခုခုနှင့်ဖြစ်စေ ဆီးတား ကာကွယ်ထားသည်ဟု ဒိုင်လူကြီး က ဆုံးဖြတ်သောအခါတွင်၎င်း၊ဗက်တံကိုင်သူက ထွက်ပေးရ လေသည်။

ဗက်တံကိုင်သူသည် အထက်ပါ အကြောင်းများကြောင့် ထွက်မပေးရမခြင်း ဘောလုံးကို ရိုက်နိုင်ခွင့်ရှိ၏။ ကစား သင်းတသင်းလျှင် ၁၁ ယောက်ရှိသည့်အနက်၊ဘောလုံးရိုက် ခြင်း တာဝန် ကို တ ယောက် ပြီး တယောက် ဆက် ၍ ၁၀ ယောက် ထွက် ပေး ရသည် အထိ ကစား ရသည်။ဘောလုံး ပစ်သူတယောက်လျှင် ဘောလုံးကို ၆ ကြိမ်အထိ ပစ်နိုင် သည်။ ၆ ကြိမ်စေ့သောအခါ အခြားတယောက်က ဝင်၍ ပစ်ရ၏။ ဘောလုံးပစ်ပြီးသောအခါ တချီပြီးပြီဟု မှတ် ယူရသည်။ ဩစတြေးလီးယားတိုက်တွင်ကား ဘောလုံး ၈ ကြိမ်ပစ်ပြီးမှ တချီဟု ခေါ်သည်။ ဘောလုံးပစ်သူမှ တပါး ကျန် ၁၀ ယောက်သော ကစားသူများသည် ကွင်း ထဲ တွင် ဆိုင် ရာ နေရာ အသီး သီးတို့၌ ရပ်နေရ၏။ တယောက်သောသူမှာ ဝစ်ကက်တိုင်စောင့်ဖြစ်သည်။ သူ၏ တာဝန်မှာ ဗက်တံကိုင်သူ မရိုက်မိဘဲ လွတ်လာသော ဘောလုံးကို စောင့်ဖမ်းရန် ဖြစ်လေသည်။

ကရစ်ကက်ကစားရာတွင် ဝစ်ကက်တိုင်တတိုင်ရှိ ဗက်တံ ကိုင်သူသည် ဘောလုံးကို ရိုက်ထုတ်လိုက်ပြီးနောက် အခြား ဝစ်ကက်တိုင်ရှိ ဗက်တံကိုင်သူနှင့် နေရာချင်း လဲလိုက်သော အခါ တခေါက်ရပြီဟု မှတ်ယူရသည်။

ယင်း သို့ ရသည့် အ ခေါက် ပေါင်း ဖြင့် အရှုံး အနိုင် ကို ဆုံးဖြတ် လေသည်။ ကစားပွဲတခု သို့မဟုတ် ကစားလှည့် တလှည့်လျှင် အခေါက်ရေ မည်မျှရှိရမည်ဟု အတိတကျ သတ်မှတ်ထားခြင်း မရှိပေ။ ကစားသူများ၏ သဘော တူညီချက်အတိုင်းသာ ဖြစ်လေသည်။ ကျောင်းများ၊ အသင်းများတွင် ကစားကြသော ကရစ်ကက်ကစားပွဲများ မှာ တပွဲတလှည့် လုပ်ရိုးထုံးစံရှိ၏။ ကြီးကျယ်သော ကစား ပွဲများတွင်ကား နှစ်ပွဲမှတလှည့် ဖြစ်လေသည်။ သုံးရက် ဆက်၍ ကစားသော နှစ်ပွဲတလှည့် ကစားပွဲများတွင် ဒုတိယအလှည့်တွင်မှ ဘောလုံးရိုက်ခွင့်ရသော ကစားသင်း သည်၊ ယှဉ်ပြိုင်ကစားသော အသင်းထက် အခေါက်ရေ ၁၅၀ ထက်မနည်း လျော့နေလျှင် နောက်ထပ်တပွဲ ကစား နိုင်သည်။ နှစ်ရက်ကြာသည့် ကစားပွဲများတွင်ကား အ ခေါက်ရေ ၁၀၀ ထက်မနည်း လျော့နေလျှင် တပွဲထပ်၍ ကစားနိုင်လေသည်။

ကရစ်ကက်ကစားပွဲများတွင် တနိုင်ငံနှင့်တနိုင်ငံ ကစား သော ပြိုင်ပွဲများနှင့် ခရိုင်တံခွန်စိုက်ပွဲများမှာ ပွဲကြီး ပွဲကောင်းများ ဖြစ်ကြ၏။ ထို့အပြင် အပျော်တမ်း ကစား သူများနှင့် ကြေးစား ကစားသူများ ကစားသောပွဲ၊ တက္ကသိုလ် ကျောင်း အချင်း ချင်း ကစား သော ပွဲများမှာ လည်း ပွဲကောင်းများပင် ဖြစ်ကြသည်။

**ကရန်းမား, တီ** (ခရစ် ၁၄၈၉–၁၅၅၆)။ ။ဗြိတိသျှ နိုင်ငံသမိုင်းတွင် ထင်ရှားသော ကန်တာဗါရီဂိုဏ်းချုပ် သောမတ် ကရန်းမားသည် ၁၄၈၉ ခုဇူလိုင်လ ၂ ရက် နေ့တွင် နော့တင်ဂမ်ရှိုင်ယာနယ်တွင် ဖွားမြင်သည်။ ကိမ်းဗရစ် တက္ကသိုလ်၊ ဂျီးဆပ်ကောလိပ်ကျောင်းတွင် ပညာသင်ကြားခဲ့ပြီးနောက်၊ ၁၅၂၃ ခုနှစ်တွင် ဗရင်ဂျီ ဘုန်းကြီးအဖြစ်ကို ခံယူပြီးသော် များမကြာမီ အယူဝါဒ ပညာရပ်ဆိုင်ရာ ပါရဂူဘွဲ့ကို ရလေသည်။ ထိုအခါတွင် တက္ကသိုလ်၌ အယူဝါဒပညာရပ်ဆိုင်ရာစာစစ်သူဖြစ်လာ၏။

၁၅၂၉ ခုနှစ်တွင် ကရန်းမားသည် နယ်တနယ်သို့ သွား ရောက်ခဲ့ရာ၌ အင်္ဂမ ဟင်နရီဘုရင်နှင့် ကံအားလျော်စွာ တွေ့ဆုံခဲ့သည်ဟုဆို၏။ ထိုအခါက အင်္ဂမဟင်နရီဘုရင်



သောမတ်ကရန်းမားအား နိုင်ငံတော်သစ္စာဖောက်မှုဖြင့် လန်ဒန်မျှော်စင် အချုပ်ထောင်သို့ ဖမ်းဆီးခေါ်ဆောင်လာစဉ်

သည် ပဉ္စမမိဖုရား အာရဂွန်မင်းသမီး ကက်သရင်းကိုကွာ၍ အန်းဗူးလင်းအား လက်ထပ်ရန်အရေးတွင် အယူဝါဒဆိုင်ရာ အချုပ်အတည်းများကြောင့် စိတ်ရှုပ်ထွေးနေခိုက် ဖြစ်လေသည်။ ကရန်းမားနှင့် တွေ့ဆုံခဲ့ရာတွင် ပဉ္စမမိဖုရားကို ကွာရှင်းနိုင်သော နည်းလမ်းများကို ကရန်းမားက ပြောပြခဲ့သည်။ ထိုအခါတွင် ဘုရင်သည် သဘောကျ၍ ကရန်းမား အား သူ၏ထံတွင် အမှုထမ်း စေပြီးသော် မိဖုရားကြီး ကက်သရင်းအား ကွာရှင်းနိုင်ရေးအတွက် ဆောင်ရွက်စေလေသည်။ ရှေးဦးစွာ ကရန်းမားသည် ကွာရှင်းနိုင်ကြောင်းနှင့် ကျမ်းစာများမှ အထောက်အထားများ ရယူပြီးနောက်၊ကျမ်းတစောင်တဖွဲ့ ပြုပြီးသော် ကိမ်းဗရစ်နှင့် အောက်စဖို့ တက္ကသိုလ်များသို့ တင်ပြဆွေးနွေးခဲ့လေသည်။ ၁၅၃၀ ပြည့်နှစ်တွင် ရောမမြို့သို့ အင်္ဂလိပ်သံအဖွဲ့နှင့်အတူ သွားရောက်၍မိဖုရားကြီးအား ကွာရှင်းရေးကို မည်သို့မည်ပုံ သဘောထားကြသည်ကို စနည်းနာခဲ့လေသည်။ ၁၅၃၁ ခုနှစ်တွင် ဥရောပတိုက် နိုင်ငံအသီးသီးရှိ တက္ကသိုလ်များသို့ သွားရောက်ကာ မိဖုရားကြီးနှင့် ကွာရှင်းရေးကို ဝါဒဖြန့်ယင်း၊ ထိုကိစ္စတွင် မည်သို့သဘောထားသည်ကို စုံစမ်းခဲ့လေသည်။ ထိုနှစ်ကုန်ခါနီးတွင် ဂျာမနီနိုင်ငံသို့ သံအဖြစ် စေလွှတ်ခြင်း ခံရပြန်သည်။ ကရန်းမားသည် ၁၅၃၂ ခုနှစ်တွင် ဂျာမနီပြည်သူတယောက်နှင့် လက်ထပ်ခဲ့၏။ ၁၅၃၃ ခုနှစ်တွင် ကန်တာဗါရီဂိုဏ်းချုပ်အဖြစ် ခန့်အပ်ခြင်း ခံရလေသည်။ ထိုအခါတွင် ဟင်နရီဘုရင်အား မိဖုရားကြီး ကက်သရင်းနှင့် ကွာရှင်းခွင့်ပြု၍ အန်းဗူးလင်းအား မိဖုရားမြှောက်သည်ကို အသိအမှတ်ပြုလိုက်၏။ ဤသို့ဖြင့် ကရန်းမားသည် အဋ္ဌမဟင်နရီဘုရင်၏ လက်ထပ်ရေးနှင့် ကွာရှင်းရေးကိစ္စများကို ဖြစ်မြောက်အောင် ဆောင်ရွက်ပေးခဲ့လေသည်။

ဆဋ္ဌမ အက်ဒွပ်ဘုရင်လက်ထက် ၁၅၄၉ ခုနှစ်နှင့် ၁၅၅၂ ခုနှစ်တို့တွင် ပြုစုခဲ့သော ဆုတောင်းချက်စာအုပ်နှစ်အုပ်မှာ များသောအားဖြင့် ကရန်းမား၏လက်ရာများ ဖြစ်သည်။

အက်ဒွပ်ဘုရင် နတ်ရွာစံ၍ ထီးမွေနန်းမွေကို မေရီမင်းသမီးနှင့် လေဒီဂျိန်းဂရေးတို့ လုကြရာတွင် ကရန်းမားသည် လေဒီဂျိန်းဂရေး အား နန်းတင်ရန် ကြံစည်ကြိုးပမ်းခဲ့လေသည်။ သို့ရာတွင် မေရီမင်းသမီးက အရေးသာသွားသောကြောင့် ၁၅၅၃ ခုနှစ်တွင် ထီးနန်းကို ဆက်ခံသောအခါ၊ လေဒီဂျိန်းဂရေး ဇနီးမောင်နှံတို့နှင့်အတူ သောမတ် ကရန်းမားအား ဖမ်းဆီးချုပ်နှောင်ထားပြီးသော် နိုင်ငံတော်သစ္စာဖောက်မှုဖြင့် စစ်ဆေးစေသည်။

ကရန်းမားအား အမှုစစ်ဆေးနေစဉ်အတွင်း အောက်စဖို့သို့ ပြောင်းရွှေ့ချုပ်ထားခဲ့၏။ သူနှင့်အတူ အချုပ်ခံနေရသော သူ၏မိတ်ဆွေ ၂ယောက်တို့မှာ ၁၅၅၅ ခုနှစ်တွင်

သေဒဏ်ပေးခြင်း ခံကြရလေသည်။ ကရန်းမား၏အမှုကို နောက်တက်လာသည့်ဂိုဏ်းအုပ် ကြီးမှူးသော အယူဝါဒခုံရုံးက စစ်ဆေးခဲ့ရာ၊ပြစ်မှုများ ထင်ရှားကြောင်းဖြင့် ရောမမြို့ရှိ ပုပ်ရဟန်းမင်းထံသို့ အစီရင်ခံသောကြောင့် ပုပ်ရဟန်းမင်း၏အမိန့်ဖြင့် ၁၅၅၆ ခုနှစ်တွင် သပိတ်မှောက်ကံပြုခြင်း၊ ရာထူးမှလျှော့ချခြင်းတို့ကို ခံရလေသည်။ ထိုသို့ခံရပြီးသည့်နောက်တွင် ကရန်းမားသည် သေဒဏ်ကို ရှောင်ကွင်းရန်ရည်ရွယ်၍ သူ၏အယူအဆများ မှားယွင်းခဲ့ကြောင်း ကျေညာချက်များကို ထုတ်ပြန်သေး၏။ သို့ရာတွင် ထိုကျေညာချက်များကို စိန်မေရီဘုရားရှိခိုးကျောင်းကြီး၌ ပရိသတ်ရှေ့တွင် ထုတ်ဖေါ်ကျေညာရန် ခေါ်ဆောင်သွားသည့်အခါ ကရန်းမားသည် ထိုကျေညာချက်များမှာ မိမိသေရမည်ကို ကြောက်ရွံ့သည်နှင့် စိတ်မတည်ငြိမ်သောကြောင့် ထုတ်ပြန်ခဲ့သော ကျေညာချက်များဖြစ်ကြောင်း၊မိမိအယူအဆကို မစွန့်လွှတ်ကြောင်း၊ အေးဆေးတည်ငြိမ်စွာ အတိအလင်း ထုတ်ဖေါ်ပြောဆိုခဲ့လေသည်။ မည်သို့ပင်ဖြစ်စေ သူ၏မယ်တော်အား ကွာရှင်းရေးတွင်၎င်း၊သူ့အား တရားမဝင်သောသမီးတော်အဖြစ် ရောက်စေရေးတွင်၎င်း၊ဦးစီးပါဝင် ဆောင်ရွက်ခဲ့သည်ကို အခဲမကြေနိုင်ခဲ့သော မေရီဘုရင်မကြီးကား သူ၏အသက်ကို ချမ်းသာပေးမည် မဟုတ်ချေ။ ကရန်းမားသည် ၁၅၅၆ ခုမေလတွင် အရှင်လတ်လတ် မီးရှို့၍ သတ်ခြင်းကို ရဲဝံ့စွာ ခံယူသွားလေသည်။

**ကရွှမ်တန်, အက်(စ)** (ခရစ် ၁၇၅၃–၁၈၂၇)။ ။ရက်ကန်းလုပ်ငန်း ပြုပြင်ပြောင်းလဲလာရန် ပဌမဖန်တီးသူ သုံးဦးစလုံးပင် အင်္ဂလန်ပြည် လန်ကရှိုင်ယာနယ်မှ ဖြစ်ကြသည်။ ပဌမဆုံးဖန်တီးသူ ဟားဂရီးသည် 'စပင်းနင်းဂျင်နီ' ခေါ် ဗိုင်းငင့်စက်ကို ထွင်ခဲ့၍၊ဒုတိယဖန်တီးသူ အတ်ကရိုက်က စပင်းနင်းဂျင်နီထက် ကောင်းမွန်သော ဗိုင်းငင့်စက်သစ်တခုကို ထွင်ခဲ့သည်။ ဟားဂရီး၏စက်ထက် အတ်ကရိုက်၏စက်က ခြည်မျှင်ပေါင်းများစွာ ထွက်စေနိုင်သည့်ပြင်၊ မာ၍ချောသော ခြည်မျှင်များကို ငင်နိုင်သည်။ 'အကြံတူလျှင် နောက်လူသာစမြဲ' ဟူသောစကားအတိုင်း ကရွှမ်တန်သည် အထက်ပါစက်နှစ်မျိုးတို့၏ ချွတ်ယွင်းချက်များကို ပြုပြင်ဖြည့်စွက်၍ ဗိုင်းငင့်စက်သစ်တခုကို ထမြောက်အောင်မြင်စွာ ပြုလုပ်ခဲ့လေသည်။ ယခုခေတ်တွင် အသုံးပြုနေသော စက်များမှာ၊ကရွှမ်တန်၏စက်ကို အနည်းငယ်ထပ်လောင်း၍ ပြုပြင်ထားခြင်းမျှသာ ဖြစ်ပေသည်။

ဆမ်မျူယယ် ကရွှမ်တန်သည် ၁၇၅၃ ခုဒီဇင်ဘာလ ၃ ရက်နေ့တွင် လန်ကရှိုင်ယာနယ် ဖါးဝုဒ္ဒကလေးတွင် ဖွားမြင်သည်။ မိဘနှစ်ပါး ဆင်းရဲနွမ်းပါးသဖြင့် ကရွှမ်တန်သည် ကလေးဘဝကပင် ခြည်ငင်စက်ရုံတရုံ၌ အလုပ်လုပ်ကိုင်ခဲ့ရသည်။ အသက် ၁၆ နှစ်အရွယ်တွင် ဖခင်ဖြစ်သူ ကွယ်လွန်သွားရာ၊ မိသားစု၏တာဝန်ကို ထမ်းဆောင်ရရှာသည်။

ကရွှမ်တန်သည် ဤမျှကြီးလေးသော အိမ်ထောင်မှုတာဝန်များကို ထမ်းဆောင်နေစဉ်၊ငွေဝင်လမ်းရှိစေရန် ဗိုင်းငင့်စက်ရုံတွင် နေ့စဉ် အလုပ်ဆင်းရလေသည်။ အလုပ်လုပ်ရာတွင် စိတ်အာရုံစွဲမြဲစူးစိုက်သူ ဖြစ်သဖြင့်၊ဟားဂရီးနှင့်အတ်ကရိုက်တို့ ထွင်ခဲ့သော ဗိုင်းငင့်စက်တို့၏ ချွတ်ယွင်းချက်များကို တွေ့မြင်သည်။ သို့အတွက် ပို၍ကောင်းသော အထည်ချောများ ရက်လုပ်နိုင်ရန်အတွက် ခြည်ငင်စက်သစ်တခုကို ကြံစည်လေသည်။ နေ့ခင်းအချိန်တွင် အလုပ်လုပ်ရသော လုပ်ခသည် သူ၏အိမ်ထောင်အတွက် မလုံလောက်သဖြင့်၊ကျန်အချိန်တွင် ကပွဲရုံတရုံ၌ တယောထိုးကာ အပိုဝင်ငွေကို ရှာခဲ့ရ၍ အားလပ်ချိန်တွင် ခြည်ငင်စက်အသစ် ပြုလုပ်ရေးကို ကြံစည်လေသည်။

ကရွှမ်တန်သည် ၆ နှစ်ခန့်မျှ မနားမနေ ကြိုးပမ်းအားထုတ် ပြုလုပ်ခဲ့ရာ ၁၇၇၉ ခုနှစ်လောက်တွင် ခြည်ငင်စက်သစ်တခုကို ပြုလုပ်ပြီးစီးလေသည်။ ကရွှမ်တန်၏ စက်သစ်ဖြင့် ငင်သော ခြည်မျှင်များသည် ယခုခေတ်တွင် ပေါ်ထွက်နေသော ပိတ်ချောများပင် ရက်လုပ်နိုင်စွမ်းရှိသည်။ အမှန်အားဖြင့်ဆိုသော် ကရွှမ်တန်၏စက်သည် ဟားဂရီး၏စက်နှင့် အတ်ကရိုက်၏စက်နှစ်ခုကို ပူးပေါင်းပြုပြင်၍ လုပ်ကိုင်ထားခြင်းပင်ဖြစ်၏။ ကရွှမ်တန်သည် သူ၏စက်ကို 'စပင်းနင်းမျူး' ဟု အမည်ပေးလေသည်။

ဗိုင်းငင့်စက်သစ် စပင်းနင်းမျူးကို ၁၈ ရာစုနှစ်က ထွင်ခဲ့သော်လည်း၊ယခု ၂၀ ရာစုနှစ်အထိပင်လျှင် ဤစက်မျိုးကို အသုံးပြုနေကြသေးသည်။ တိုးတက်ပြုပြင်ချက်များကို အနည်းငယ်မျှသာ ပြုလုပ်နိုင်ခဲ့ကြသည်။ သို့ရာတွင် ဤမျှအရေးပါအသုံးဝင်၍ အဖိုးတန်သောစက်ကို ဖန်တီးခဲ့သူ ကရွှမ်တန်ကား အကျိုးပေးနုံချာလှ၏။ ငွေကြေးကျပ်တည်းလှသဖြင့် သူ့စက်၏လျှို့ဝှက်ချက်ကို ရောင်းချရာတွင် ပေါင် ၆၀ မျှသာ ရရှိသည်။ ၁၈၀၀ ပြည့်နှစ်တွင် ကရွှမ်တန်အတွက် ရန်ပုံငွေဖွင့်လှစ်ခဲ့ရာ ပေါင် ၅၀၀ ခန့်ရရှိ၏။ သို့သော် ကရွှမ်တန်ကား ငွေကျပ်တည်းမြဲ ရှိနေခြင်းကြောင့်၊ သူ့အတွက် ရှေ့လုပ်ငန်းများတွင် နှောင့်နှေးခဲ့လေသည်။

၁၈၁၂ ခုနှစ်တွင် ဗြိတိသျှပါလီမန်က ကရွှမ်တန်အား ပေါင် ၅၀၀၀ ထုတ်ပေးပြီးလျှင် ဗိုင်းငင့်စက်ကို တိုးတက်ကောင်းမွန်အောင် ကြံဆောင် လုပ်ကိုင်စေသည်။ ထိုငွေမှာလည်း အလုပ်တွင်ဝင်သွားသဖြင့် ဆုံးပါးသွားလေသည်။ ၁၈၂၄ ခုနှစ်မှစ၍ သူ၏မိတ်ဆွေများက နှစ်စဉ် ၆၃ ပေါင်ကျထောက်ပံ့ခဲ့ကြသည်။ သို့သော် ထိုထောက်ပံ့ကြေးများကို ကြာမြင့်စွာ မခံစားရဘဲ၊ ၁၈၂၇ ခုဇွန်လ ၂၆ ရက်နေ့တွင် ဗိုလတန်မြို့၌ သေဆုံးသွားလေသည်။

**ကရွမ်းဝဲ, အို** (ခရစ် ၁၅၉၉–၁၆၅၈)။ ။အော်လီဗါ ကရွမ်းဝဲကို အင်္ဂလန်ပြည်၏ သရဖူမဆောင်းသောဘုရင်ဟု ခေါ်ကြ၏။ ကရွမ်းဝဲသည် သူ့ကို အင်္ဂလန်ပြည်၏ဘုရင်



အင်္ဂလန်၏ သရဖူမဆောင်းသောဘုရင် အော်လီဗါ ကရွမ်းဝဲ

အဖြစ် အုပ်စိုးရန် တင်မြှောက်ခဲ့ကြသော်လည်း လက်မခံခဲ့ပေ။ အင်္ဂလန်၊စကော့တလန်နှင့် အိုင်ယာလန်တို့ပါဝင်သည့် ဓနသဟာယနိုင်ငံကို ကာကွယ်ထိန်းသိမ်းသူ 'လော့ပရိုတက်တာ' ဟူသော ဘွဲ့ကိုသာ ခံယူခဲ့လေသည်။

ကရွမ်းဝဲ၏ မိဖဘိုးဘေးတို့မှာ အင်္ဂလိပ်ဘုရင်များ မြှောက်စားချီးမြှင့်ခြင်း ခံရသော မြေပိုင်ရှင်များ ဖြစ်ကြသည်။ ကရွမ်းဝဲသည် ဟန်တင်ဒန်တွင် မွေးဖွား၍ တောနယ်တွင် အနေများသည့် အကြောင်းမှတပါး၊သူ၏ ငယ်စဉ်က အဖြစ်အပျက်ကို သေချာစွာ မသိကြရချေ။ ရပ်ရွာသဒ္ဒါကျောင်းတွင် ပညာသင်ကြားခဲ့၍ ကိမ်းဗရစ်တက္ကသိုလ်တွင် ၂ နှစ်မျှသာ ပညာဆက်လက်သင်ကြားခဲ့လေသည်။ ထိုနောက် ဖခင်ဖြစ်သူ ကွယ်လွန်သဖြင့် ကျောင်းမှထွက်၍ မိဖ၏လက်ငုတ်ဖြစ်သော လယ်ယာအလုပ်ကို လုပ်ကိုင်ခဲ့လေသည်။

၁၆၂၀ ပြည့်နှစ်တွင် ပစ္စည်းအတော်အတန်ကြွယ်ဝသော အယ်လစ်ဇဗက် ဗူချီယာ အမည်ရှိ အမျိုးသမီးတဦးနှင့် လက်ထပ်၏။ ၁၆၂၈ ခုနှစ်တွင် ဟန်တင်ဒန်နယ်မှ ပါလီမန်အမတ်အဖြစ် အရွေးခံရသည်။ ထိုစဉ်က ကရွမ်းဝဲအား နောင်တနေ့တွင် ခေါင်းဆောင်ကောင်းကြီးတဦး ဖြစ်လာမည့်အခြေအနေမျိုးကို မတွေ့ရချေ။ ဖျတ်လတ်၍ စိတ်ပိုင်းဖြတ်သည့်အတိုင်း မဖြစ်မနေ လုပ်တတ်သော အကျည်းတန်သည့် လူတယောက်အနေဖြင့်သာ ဂရုပြုမိကြသည်။ ထိုထက်ပို၍ လူသိများသည်မှာ အယူဝါဒ၌ အလွန်ကြည်ညိုလေးစားသော ပျူရီတန်တဦးဖြစ်သည့် အကြောင်းပေတည်း။ သူသည် အယူဝါဒအတွက်ဆိုလျှင် ပျူရီတန်တို့ဖက်မှ ပါဝင်ဆောင်ရွက်မည်ဖြစ်ကြောင်းကို ပါလီမန် အစည်းအဝေးများတွင် မကြာခဏ ထုတ်ဖော် ပြောဆိုခဲ့သည်။ အယူဝါဒလွတ်လပ်မှုကို လွန်စွာ လိုလားသူဖြစ်၍၊ တကြိမ်သော် အင်္ဂလန်ပြည်တွင် မနေတော့ဘဲ အမေရိကတိုက်ရှိ ပျူရီတန်တို့၏နယ်သစ်သို့ သွားရောက်နေထိုင်ရန်ပင် ကြံရွယ်ခဲ့ဘူးလေသည်။

၁၆၄၀ ပြည့်နှစ်တွင် သက်တမ်းတိုပါလီမန်သို့ ရွေးကောက်တင်မြှောက်ခြင်းခံရ၍၊ ၁၆၄၂ ခုနှစ် သက်တမ်းရှည်ပါလီမန်တွင်လည်း အမတ်အဖြစ် အရွေးခံရပြန်သည်။ထို ပါလီမန် အစည်းအဝေးများတွင် ကရွမ်းဝဲသည် ဦးစီးဦးဆောင် မပြုခဲ့သော်လည်း၊ အရေးကြီးသောကိစ္စများကို ဆွေးနွေးရာ၌ကား ပါဝင်ခဲ့လေသည်။ ၁၆၄၂ ခုနှစ်တွင် ဘုရင်နှင့် ပါလီမန်တို့ အချင်းများကြ၍ ပြည်တွင်းစစ် စတင်ဖြစ်ပွားသည့်အခါ၌ ကရွမ်းဝဲသည် ခေါင်းဆောင်တဦးအဖြစ် ထင်ရှားလာ၏။ထိုအချိန်တွင် ကရွမ်းဝဲမှာ အသက်လေးဆယ်ကျော်လေပြီ။

ကရွမ်းဝဲသည် စစ်ဆင်ရေးတွင် ဗဟုသုတနှင့် အလေ့အကျင့်မရှိခဲ့သော်လည်း ပါရမီထူးသူဖြစ်သည်။ပါလီမန်နှင့် ဘုရင်တို့ သဘောကွဲလွဲ၍ လက်နက်စွဲကိုင်ကြသောအခါ၊ ကရွမ်းဝဲသည် ပါလီမန်ဖက်မှ ပါဝင်ကူညီရန် ဆုံးဖြတ်လိုက်၏။ထို့နောက် စစ်တပ်တတပ်ကို သူ့စိတ်တိုင်းကျ စုရုံးလေ့ကျင့်ပေးလျက် ပြည်တွင်းစစ်၌ ဝင်ရောက်တိုက်ခိုက်လေသည်။ကရွမ်းဝဲ၏စစ်တပ်တွင် အယူဝါဒကိုလေးစား၍ ရဲစွမ်းသတ္တိရှိသောသူများကိုသာ လက်ခံခဲ့လေသည်။သမ္မာကျမ်းမှာ သူ့တပ်သားတိုင်း၏ အဆောင်ဖြစ်၏။သူ့တပ်တွင် ဗရင်ဂျီဂိုဏ်းဝင်များမှတပါး အခြားဂိုဏ်းဝင်များကို တွေ့နိုင်သည်။ကရွမ်းဝဲသည် သူ့စစ်တပ်များကို စံနစ်တကျ ဖွဲ့စည်းထားသဖြင့် တိုက်ပွဲတိုင်း၌ အောင်မြင်ခဲ့သည်။ထို့ကြောင့် သူ၏တပ်သားများသည် 'အိုင်းယန်းဆိုက်' ခေါ် သံမဏိတပ်သားများဟု တွင်လေသည်။

ထိုသံမဏိတပ်သားများ၏ စွမ်းရည်ကို မာစတန်မူးဝါးတိုက်ပွဲ (၁၆၄၄ ခု ဇူလိုင်လ ၂ ရက်) နှင့် နေ့ဇဗီတိုက်ပွဲ (၁၆၄၅ ခု ဇွန်လ ၁၄ ရက်) များတွင် ထူးခြားစွာ တွေ့ရပေသည်။ထိုတိုက်ပွဲများတွင် ဘုရင့်တပ်များကို အပြတ်အသတ်နိုင်လိုက်သဖြင့် ဘုရင့်ဂိုဏ်းသားများ အညံ့ခံရလေသည်။ကရွမ်းဝဲကားထိုပြည်တွင်းစစ်အတွင်း၌တဖြည်းဖြည်းထင်ရှားလာခဲ့ရာ ပါလီမန်ဂိုဏ်းသားများ၏စစ်ဖက်ဌာနတွင် အရေး အပါဆုံး ပုဂ္ဂိုလ်ကြီး ဖြစ်လာ၏။ ပါလီမန်ဂိုဏ်းကိုလည်း စစ်ဖက်က ဩဇာလွှမ်းမိုးလာခဲ့သည်။ ၁၆၄၆ ခုမှ

၁၆၄၇ ခုနှစ်အထိ ကရွမ်းဝဲသည် ပါတီအားလုံးက လက်ခံနိုင်သော အုပ်ချုပ်ရေးကို ရရှိစေရန် စေ့စပ်ခဲ့၏။သို့သော် ဒုတိယပြည်တွင်းစစ်ပွဲ ဖြစ်ပွားခဲ့၍ အင်္ဂလန်သို့ ချီတက်လာသော ဘုရင့်ဂိုဏ်းသား စကော့များကို ပရက်စတန်တွင် နှိမ်နင်းရပြန်သည်။စေ့စပ်ရေးသည်လည်း ပျက်ပြယ်သွားလေသည်။ထိုအခါ ပါလီမန်ဂိုဏ်းတွင် ပရက်ဇဗီတီးရီးယန်းနှင့် အင်ဒီပင်းဒင့်ဟူ၍ နှစ်ဂိုဏ်းကွဲခဲ့ရာ၌၊ကရွမ်းဝဲသည် စစ်တပ်အင်အားကောင်းသော အင်ဒီပင်းဒင့်ဂိုဏ်းဝင် ဖြစ်လာသည်။ထိုနောက် ပရက်ဇဗီတီးရီးယန်းတို့က ချားဘုရင်ကို ပြန်လည်နန်းတင်မည်စိုးသဖြင့် ပါလီမန်မှ ပရက်ဇဗီတီးရီးယန်းတို့ကို မောင်းထုတ်လိုက်သည်။ထို့ပြင် သူကိုယ်တိုင်ပါဝင်သော အထူးတရားလွှတ်တော်ကို ဖွဲ့စည်းပြီးလျှင် ချားဘုရင်ကိုစစ်ဆေး၍ အဆုံးစီရင်လိုက်၏။ထို့နောက် ဘုရင့်အုပ်ချုပ်ရေးနှင့် အထက်လွှတ်တော်တို့ကို ဖျက်သိမ်း၍ သမတနိုင်ငံ ထူထောင်ခဲ့လေသည်။သို့သော် အိုင်ယာလန်နှင့် စကော့တလန်ပြည်များတွင် ဘုရင့်ဂိုဏ်းသားများ အင်အားကောင်းနေသေး၍၊ ၁၆၅၁ ခုနှစ်သို့ ရောက်မှ ကရွမ်းဝဲသည် ဘုရင့်ဂိုဏ်းသားများကို အပြီးသတ် ဖြိုခွင်းနိုင်ခဲ့ပေသည်။

သက်တမ်းရှည်ပါလီမန်သည် ၁၂ နှစ်မျှ တည်မြဲနေခဲ့စဉ်



အော်လီဗါကရွမ်းဝဲ 'လော့ပရိုတက်တာ' ဘွဲ့ကို ခံယူနေစဉ်

ယင်း၏ မဖွယ်ရာမှုများကြောင့် သမတနိုင်ငံမှာ နာမည်ပျက်ခဲ့ရ၏။သို့ဖြစ်၍ ကရွမ်းဝဲသည် အာဏာရှင်ဆန်ဆန် အကြမ်းနည်းဖြင့် ထိုပါလီမန်ကို ဖျက်သိမ်းလိုက်လေသည်။ ထိုနောက် အရိုးကဲ့ပါလီမန်ခေါ် ပါလီမန်အသစ်တရပ်ကို ဆင့်ခေါ်သော်လည်း၊နိုင်ငံရေး အယူသည်းမှုများကြောင့် ဖြစ်ဖြစ် မြောက်မြောက် မဆောင်ရွက်နိုင်ချေ။ ထို့ကြောင့် အရိုးကဲ့ပါလီမန်ကို ဖျက်သိမ်း၍ စစ်တပ်က အုပ်ချုပ်ရေးကို ကြိုးကိုင်ပြီးလျှင် အခြေခံဥပဒေသစ်တရပ်ကို ရေးဆွဲခဲ့လေသည်။ ကရွမ်းဝဲလည်း 'လော့ပရိုတက်တာ' ဘွဲ့ကို ခံယူလေသည်။ကရွမ်းဝဲသည် ပါလီမန်အသစ်တရပ်ကို ဆင့်ခေါ်ပြန်သေးသည်။ သို့ရာတွင် ပါလီမန်အမတ်များမှာ ပါလီမန်အစည်းအဝေးသို့ တက်ရန်မှတပါး အခြားရည်ရွယ်ချက်မရှိသဖြင့် ဖျက်သိမ်းလိုက်ရလေသည်။

ထိုနောက်တွင်ကား ကရွမ်းဝဲသည် စစ်တပ်အကူအညီဖြင့် တိုင်းပြည်ကိုအုပ်ချုပ်ခဲ့၏။ တဖန် ၁၆၅၆ ခုနှစ်တွင် ပါလီမန်အဖွဲ့ကို နောက်ဆုံးအကြိမ် ဆင့်ခေါ်ရာ၊ ထိုပါလီမန်က ကရွမ်းဝဲအား ဘုရင်အဖြစ် တင်မြှောက်ခဲ့သော်လည်း လက်မခံခဲ့ပေ။အင်္ဂလန်၊စကော့တလန်၊အိုင်ယာလန်တို့ပါဝင်သည့် ဓနသဟာယနိုင်ငံ မဖွဲ့စည်းမီ နှစ်အနည်းငယ်ခန့်က အင်္ဂလန်ပြည်ကို တိုင်းကြီးပြည်ကြီးတခု မဟုတ်တော့သကဲ့သို့ အခြားနိုင်ငံများက ထင်မှတ်ခဲ့ကြ၏။သို့သော် ကရွမ်းဝဲသည်အင်္ဂလန်အား အခြားတိုင်းပြည်များက လေးစားခန့်ညားလာအောင် ပြုနိုင်ခဲ့သဖြင့်၊ကရွမ်းဝဲ အနိစ္စရောက်ချိန်တွင် အင်္ဂလန်မှာ တန်ခိုးထွားလျက် ရှိနေခဲ့လေသည်။

ကရွမ်းဝဲသည် အာဏာရှင်ဆန်ဆန် အုပ်စိုးရန် မလိုလားသော်လည်း၊တိုင်းပြည်၏ အခြေအနေကိုလိုက်၍ အာဏာရှင်စနစ်ကို တခါတရံ အသုံးပြုခဲ့ရလေသည်။သို့သော် ယင်းသို့ပြုရာ၌ တိုင်းပြည် အကျိုးရှိရန် ကိုသာ ဆောင်ရွက်ခဲ့လေသည်။ ကရွမ်းဝဲသည် အယူဝါဒကို အလွန်ကြည်ညိုလေးစားသူ ဖြစ်သော်လည်း၊ ကခုန်ခြင်း၊အမဲလိုက်ခြင်း၊ သံလုံးလိုမ့်ခြင်း၊ဆေးလိပ်နှင့် ဗီယာကဲ့သို့ မပြင်းလှသော အရက်များသောက်ခြင်း စသည်တို့ကို ရံဖန်ရံခါ ပြုလုပ်ခြင်းဖြင့် သူ၏စိတ်လက်ကို ရွှင်လန်းစေသည်။ထို့ကြောင့် အချို့ထင်မှတ်ကြသကဲ့သို့ ကရွမ်းဝဲသည် အယူဝါဒသည်းသူသက်သက်ကား မဟုတ်ရုံမျှမက သဘောထားမြင့်မြတ်သူဖြစ်လေသည်။

ထိုသို့ တိုင်းကျိုးပြည်ဝန်ကို အားသွန်၍ ဆောင်ရွက်ခဲ့ရာမှ ကရွမ်းဝဲသည် ၁၆၅၈ ခုစက်တင်ဘာလ ၃ ရက်နေ့တွင် အနိစ္စရောက်သွားလေသည်။သားဖြစ်သူ ရစ်ချတ်အား ကရွမ်းဝဲ၏ နေရာကို ဆက်ခံစေခဲ့သော်လည်း၊ဖခင်၏ခြေရာကို မနင်းနိုင်သဖြင့် ၁၆၆၀ ပြည့်နှစ်တွင် ဒုတိယချားသည် အင်္ဂလန်ပြည့်ရှင် ဖြစ်လာလေသည်။

**ကလမက်ပင်။** ။ကလမက်ပင်သည် အနံ့မွှေးသော အသားရှိသည့် အပင်ဖြစ်၍၊ထိုအသားသည် နံ့သာနီ၊နံ့သာဖြူ၊အကျော်၊စံပါ၊ကလမက်ဟု ဆိုအပ်သော နံ့သာမျိုး ၅ ပါးတွင် ပါဝင်သဖြင့် ထင်ရှားသည်။ ‘ကလမက်’ ဟူသော ဝေါဟာရမှာ ပသျှူးစကား ဖြစ်သည်ဟုဆို၏။ကလမက်ကို ကရမက်ဟုလည်း ခေါ်ကြသည်။ ‘မိန်းမတို့အသက် ကလမက်’ ဟူ၍ ဆိုရိုးစကား ရှိသည့်အတိုင်း၊မြန်မာအမျိုးသမီးကြီးငယ် အပေါင်းတို့သည် ကလမက်ကိုသွေး၍ လိမ်းကျံကြရုံမက၊သောက်လည်း သောက်ကြသည်။သို့သော် ကလမက်တွင် ‘မြိတ်ကလမက်’ ‘တောင်ကလမက်’ ဟူ၍ နှစ်မျိုး ရှိရာ၌ နှစ်မျိုးစလုံး အသားနံ့ မွှေးကြသော်လည်း ရုက္ခဗေဒ အလိုအရ အမျိုးချင်း မတူကြချေ။

အထက်ပါ ကလမက်နှစ်မျိုးစလုံးပင် ပင်လတ်မျိုးဖြစ်ကြ၍၊မြန်မာနိုင်ငံ၌ အထူးသဖြင့် တနင်္သာရီတိုင်းတွင် အလေ့ကျပေါက်ကြသည်။သို့သော် ကလမက်သားကို ပြည်တွင်းထွက်နှင့် မလုံလောက်၍ ပသျှူးကျွန်းဆွယ်နှင့် ယိုးဒယားနိုင်ငံများမှ တင်သွင်းရသေးသည်ကို ထောက်သဖြင့်၊ ကလမက်ပင်တို့သည် ထိုဒေသ ထိုနိုင်ငံများ၌လည်း ပေါက်ကြောင်း ထင်ရှားသည်။

မြိတ်ကလမက်ပင်တို့သည် မြန်မာနိုင်ငံ၌ တနင်္သာရီတောင်ပိုင်း တောနက်ရာ ဒေသများတွင် ပေါက်၍၊မြိတ်နယ်မှ ထွက်လေ့ရှိသဖြင့် မြိတ်ကလမက်ဟု တွင်သည်။



မြိတ်ကလမက်ပင် ခက်ဖျားရှိ အရွက်နှင့် အဝါပွင့်များ

အသားရောင် ညိုညစ်ညစ်ရှိ၍ ‘လိပ်သည်းကလမက်’ ဟုလည်း တွင်သည်။ကိုယ်တွင်သွေး၍ လိမ်းထားလျှင် ရေချိုးသည့်တိုင်အောင် အနံ့သင်းသင်း စွဲကျန်ရစ်တတ်သဖြင့် ‘ရေချိုးခံကလမက်’ ဟူ၍လည်း အမှမ်းတင်ကာ ခေါ်ကြသေး၏။ကလမက်နှစ်မျိုးအနက် အသားညိုသော မြိတ်ကလမက်က တောင်ကလမက်ထက် ပို၍ဆေးဖက်ဝင်သည်ဟု အဆိုရှိလေသည်။

ဤကလမက်သားကို ဆိုခဲ့သည့်အတိုင်း သွေးလိမ်းရန်နှင့် သွေးသောက်ရန်မှတပါး၊ အခြား ပစ္စည်းအသုံးအဆောင်များပြုလုပ်လေ့လုပ်ထ ရှိဟန်မတူချေ။အသားထုတ်ယူပုံမှာမူ အပင်ကို တောထဲ၌ သင်းသတ်၍ဖြစ်စေ၊ခုတ်လှဲ၍ဖြစ်စေ၊ ပစ်ထားပြီးနောက် ၂ နှစ်ခန့်လွန်မြောက်၍ အသားဆွေးလောက်သည့် အချိန်ကျမှ အရွယ်တော် ဖြတ်စိတ်ကာ ယူငင်ကြရသည်။ ထူးဆန်းသည်မှာ ကလမက်သား လတ်လတ်၌ အနံ့မရှိ။အသားဆွေးမှ အနံ့ထွက်လာပြီးလျှင် အသားဆွေးလေ အနံ့မွှေးလေဖြစ်ကြောင်း သိရပေသည်။

တောင်ကလမက်ပင်တွင် စန္ဒဝါပင်၊မိတ်ပင်၊မှတ်ကျောက်ပင် စသည်ဖြင့် အမည်ကွဲများရှိသည်။အသားနံ့မွှေး၍ မြန်မာနိုင်ငံတွင် တနင်္သာရီတိုင်း တောင်ပေါ်သစ်တောများ၌ အများအားဖြင့် တွေ့ရသောကြောင့်၊ထိုအပင်မှရသော အသားကို တောင်ကလမက်ဟု ခေါ်ဆိုကြဟန်တူသည်။ အသားအရောင်မှာ ညိုညစ်ညစ်ပင်ဖြစ်၏။သို့သော် မြိတ်ကလမက်သားထက် အရောင်ဖြော့ကာ နံ့သာဖြူရောင်ဖက်သို့ ပါသောကြောင့် ‘နံ့သာကလမက်’ ဟုလည်း တွင်သည်။ တောင်ကလမက်သားသည် လှပသည်။ကောင်းစွာ အသားသေသည်။ပွတ်ပြင်ရ လွယ်သည်။ ပြောင်လက်လာအောင် ပွတ်တိုက်ပေးနိုင်သည်။ထို့ကြောင့် ဤအသားဖြင့် အလှအပ အသုံးအဆောင်များကို ပြုလုပ်ရန် သင့်တော်လေရာ၊ ၁၇၇၇ ခုနှစ်က မြန်မာတောင်ကလမက်သားအချို့ကို အင်္ဂလန်ပြည် လန်ဒန်မြို့သို့ တင်ပို့ရောင်းချခဲ့ဘူးလေသည်။

**ကလမန်းစိုး, ဂျီ၊အီ** (ခရစ် ၁၇၄၁-၁၈၂၉)။ ။ပြင်သစ်နိုင်ငံပြု သုခမိန်ကြီး ဂျော့ ယူဂျင်း ကလမန်းစိုးသည် ၁၇၄၁ ခု စက်တင်ဘာလ ၂၈ ရက်နေ့တွင် ပြင်သစ်နိုင်ငံ ဗရစ်တန်နီနယ် လာဗန်းဒေးမြို့တွင် ဖွားမြင်သည်။ မိဖမျိုးရိုးအလိုက် ဆေးပညာကို သင်ကြားတတ်မြောက်ခဲ့ပြီးလျှင်၊ ပါရစ်မြို့တွင်ဆရာဝန်အဖြစ်ဖြင့်အသက်မွေးနေထိုင်ခဲ့သည်။

ကလမန်းစိုးသည် နိုင်ငံရေးတွင် စိတ်ပါဝင်စားခဲ့၍၊သမတနိုင်ငံကို သဘောကျနှစ်သက်သူဖြစ်၏။သူသည် မှန်သည်ထင်လျှင် မကြောက်မရွံ့ ထင်ရာကို ပြောရဲ၊လုပ်ရဲ၊ရေးရဲသော သတ္တိရှိသူဖြစ်သည်။ကေရာဇ် တတိယနပိုလီယန်လက်ထက်တွင် သမတနိုင်ငံလိုလားသူတဦးအဖြစ် သူ၏ဆူပူလှုပ်ရှား

မှုများကြောင့် ဖမ်းဆီး အကျဉ်းချထားခြင်း ခံခဲ့ရ၏။ ၁၈၆၆ ခုနှစ်တွင် ထောင်မှလွတ်သောအခါ၊ကလမန်းစိုးသည် အမေရိကန် ပြည်ထောင်စုနိုင်ငံသို့ သွားရောက်နေထိုင်၍ သတင်းစာများတွင် အမေရိကန် ပြည်တွင်းစစ်နှင့်ဆိုင်သော ဆောင်းပါးများကို ရေးသားခဲ့လေသည်။ ထိုသို့နေထိုင်စဉ် အမေရိကန်သူ တဦးနှင့် လက်ထပ်ခဲ့၏။

၁၈၆၉ ခုနှစ်တွင် ပြင်သစ် ပြည်တွင်းရေး အခြေအနေရှုပ်ထွေးနေကြောင်း ကြားသိရသည်နှင့်တပြိုင်နက်၊ ပြင်သစ်နိုင်ငံသို့ အမြန်ဆုံးပြန်လာပြီးလျှင် နိုင်ငံရေးရာကိစ္စများတွင် ကိုယ်ထိလက်ရောက် ပါဝင်ဆောင်ရွက်ခဲ့လေသည်။ ၁၈၇၀ ပြည့်နှစ်တွင် ပါရစ်မြို့တော် မွန့်မာတာမျူနီစီပယ်၏ မြို့တော်ဝန်အဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံရသည်။ ၁၈၇၀–၇၁ ခုနှစ်တွင် ဖြစ်ပွားသော ပြင်သစ်ဂျာမန် စစ်ဘေးကြောင့် ပင်ပန်းဒုက္ခရောက်လျက်ရှိသော ပါရစ်မြို့သူမြို့သားတို့ကို တတ်နိုင်သမျှ ကာကွယ်စောင့်ရှောက်ခဲ့၏။ ၁၈၇၁ ခုနှစ်တွင် ပါရစ်မျူနီစီပယ် အဖွဲ့ဝင်တဦး ဖြစ်လာသည်။နောက်ငါးနှစ်ခန့်ကြာသောအခါ ပြည်သူ့လွှတ်တော်သို့ မွန့်မာတာနယ်၏ ကိုယ်စားလှယ်အဖြစ်တက်ရောက်ခဲ့လေသည်။ ၁၈၉၃ ခုနှစ်အထိ ပြည်သူ့လွှတ်တော်အမတ်အဖြစ် ဆောင်ရွက်ခဲ့စဉ်၊ သူသဘောမကျသောနိုင်ငံရေးသမားများကို ပြင်းပြင်းထန်ထန် ပုတ်ခတ်ပြောဆိုတတ်သည့် အလေ့ကြောင့်၊သူ့အား 'ကျားကြီး'ဟု ပြောင်လှောင်ခေါ်ဝေါ်ခဲ့လေသည်။သူသည် လွှတ်တော်အတွင်း ရက်ဒီကယ် ရီပတ်ဗလစ်ကန်ပါတီ၏ ခေါင်းဆောင်အဖြစ်ဆောင်ရွက်ခဲ့၏။ ၁၈၈၀ ပြည့်နှစ်တွင် 'တရားမှန်' အမည်ရှိသော သတင်းစာတစောင်ကို ထုတ်ဝေခဲ့သည်။ထိုသတင်းစာမှာ အစိုးရအဖွဲ့ကို အပြင်းအထန် ဝေဖန်ရာတွင် ထိရောက်လှသဖြင့် အစိုးရဖြုတ်သတင်းစာဟုပင် အမည်တွင်ခဲ့သည်။ ၁၈၉၃ ခုနှစ်တွင် ပနားမားတူးမြောင်း အရှုပ်အထွေးနှင့်စပ်လျဉ်း၍ ကလမန်းစိုးမှာ မတရားစွပ်စွဲခြင်း ခံရသဖြင့်၊ ရွေးကောက်ပွဲတွင် အရေးနိမ့်ခဲ့လေသည်။ သို့ရာတွင် ကလမန်းစိုးသည် စိတ်မပျက်ဘဲ သူ၏ သတင်းစာတွင် အချိန်ပြည့်အာရုံစိုက်၍ ရေးသားခဲ့၏။ ၁၈၉၆ ခုနှစ်တွင် ပြင်သစ်စစ်တပ်မှ ဗိုလ်ကြီး အဲလဖရက်ဒရေးဖပ်၏ အမှုနှင့် စပ်လျဉ်း၍၊ ကလမန်းစိုးသည် စာရေးဆရာကြီး အေမီးဇိုလာနှင့်အတူဒရေးဖပ်ဖက်မှ ခုခံကာကွယ်ပြီး ရေးသားခဲ့လေသည်။



ဂျော့ ယူဂျင်း ကလမန်းစိုး

ကလမန်းစိုးသည် သတင်းစာမှနေ၍ အစိုးရအဖွဲ့ကို အမြဲတမ်း ဝေဖန်ရေးသားခဲ့သော်လည်း၊သူကိုယ်တိုင် အစိုးရအဖွဲ့တွင် ပါဝင်ရန် များစွာမလိုလားခဲ့ချေ။သို့ရာတွင် အခြေအနေအရ ၁၉၀၆ ခုနှစ်၌ ဆီနိတ်လွှတ်တော်အမတ်အဖြစ်ဖြင့် ဆောင်ရွက်နေစဉ် ပြည်ထဲရေးဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့ရပြီးလျှင်၊ ထိုနှစ်ကုန်ခါနီးမှ ၁၉၀၉ ခုနှစ်အထိ ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်ခဲ့လေသည်။ ၁၉၁၁ ခုနှစ်တွင် ကလမန်းစိုးသည် အထက်လွှတ်တော်အမတ်အဖြစ်နှင့် ပင်ပြည်တွင်းအခြေအနေနှင့် နိုင်ငံခြားရေးပြဿနာများတွင် အမြော်အမြင်ရှိသူဖြစ်သည့်အတိုင်း၊ဂျာမနီ၏ရန်ကို စိုးရိမ်ရကြောင်း ပြင်သစ်အစိုးရအား အတိအလင်း သတိပေးခဲ့၏။ သို့ရာတွင် အစိုးရက တစုံတရာ အရေးမယူဘဲနေသဖြင့်၊ ၁၉၁၃ ခုနှစ်တွင် 'လွှတ်လပ်သူ' အမည်ရှိ သတင်းစာတစောင်ကို ထုတ်ဝေပြီးနောက်၊ ထိုသတင်းစာမှနေ၍ ဂျာမန်ရန်ကို ခုခံနိုင်ရန်အတွက် ပြင်သစ်လူထုအား စစ်အတတ် လေ့လာသင်ကြားရန်နှင့် လက်နက်အင်အားများ တိုးချဲ့စုဆောင်းရန် အပြင်းအထန် နှိုးဆော်ရေးသားခဲ့လေသည်။

၁၉၁၄ ခုနှစ်တွင် ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွားရာ၊ဂျာမန်တို့၏ အလုံးအရင်းနှင့် တိုက်ခိုက်ခြင်းဒဏ်ကို ပြင်သစ်တို့ အလူးအလဲ ခံရလေသည်။ထိုအခါ ကလမန်းစိုးသည် အစိုးရအား သူ၏ကြိုတင်သတိပေးချက်ကို လက်မခံ၍ မှားခဲ့ကြောင်းနှင့် စစ်အောင်နိုင်ရေးအတွက် ပြုပြင်သင့်သည့်အချက်များကို ထုတ်ဖော်၍ အပြင်းအထန် ရှုတ်ချရေးသားပြန်ရာ၊ထိုသတင်းစာကို အစိုးရက ပိတ်ထားလိုက် လေသည်။သို့သော် ကလမန်းစိုးသည် ချက်ခြင်းပင် 'မလွှတ်လပ်သူ' အမည်ဖြင့် သတင်းစာတစောင်ကို ထုတ်ဝေပြန်လေသည်။

၁၉၁၆ နှင့် ၁၇ ခုနှစ်များတွင် ပြင်သစ်လူထုသည် စစ်ဒဏ်ကို မခံနိုင်ကြတော့သဖြင့် စစ်ပြီးရန် လိုလားလျက်ရှိသော်လည်း၊ကလမန်းစိုး၏ သတင်းစာမှာမူ စစ်အောင်နိုင်ရေးကိုသာ သွေးထိုးရေးသားလျက် ရှိလေသည်။ထိုအချိန်တွင် နိုင်ငံကိုဦးစီးမည့် ခေါင်းဆောင်ကောင်း လိုအပ်လာသဖြင့်၊ ပြင်သစ်သမတကြီး ပွန်ကရေးက ကလမန်းစိုးအား ဝန်ကြီးချုပ်နှင့် စစ်ဝန်ကြီးရာထူးကို အပ်နှင်းခဲ့သည်။ ထိုအခါ ကလမန်းစိုးသည် မိမိနှင့် စိတ်သဘောချင်းတိုက်ဆိုင်သော အခြားခေါင်းဆောင်ကြီးများနှင့် စစ်အောင်နိုင်ရေးအစိုးရအဖွဲ့ကို ဖွဲ့စည်းပြီးလျှင်၊စစ်တပ်တွင်ရင်း၊အုပ်ချုပ်ရေးဖက်၌

ရင်း၊အရည်အခြင်းနှင့်မပြည့်စုံဟု ထင်ရသူအားလုံးကို ချက်ခြင်း ရာထူးမှနုတ်ပယ်ပစ်လေသည်။စစ်တပ်ကိုလည်း တနိုင်ငံလုံးက လေးစားမှုရှိလာစေရန် ဂုဏ်ပြုမြှင့်တင်ခဲ့၏။စစ်မက်ရေးရာအားလုံးကို မာရှယ်ဖော့အား အပ်နှင်း၍ စီမံခန့်ခွဲစေသည်။ ဤသို့ ကလမန်းစိုးသည် ပြင်သစ်နိုင်ငံကို စစ်နိုင်အောင် စွမ်းဆောင်ပေးခဲ့လေသည်။

ပဌမကမ္ဘာစစ်ကြီးပြီးဆုံး၍ စစ်ပြေငြိမ်းရေးညီလာခံကြီးကို ပါရစ်မြို့တော်တွင် ကျင်းပသောအခါ၊ ကလမန်းစိုးအား ဥက္ကဋ္ဌကြီးအဖြစ် တင်မြှောက်ကြသည်။သူသည် ဂျာမန်တို့အား အနည်းငယ်မျှ ယုံကြည်စိတ်ချခြင်းမရှိသဖြင့်၊ထိုညီလာခံတွင် ဂျာမန်တို့ထံမှ လက်နက်ခဲယမ်းမီးကျောက်အားလုံးကို သိမ်းဆည်းရန် အကြံပေးခဲ့လေသည်။ထိုစစ်ပြေငြိမ်းရေးညီလာခံ၏ ဆုံးဖြတ်ချက်အရ၊ပြင်သစ်နိုင်ငံသည် ဂျာမနီထံမှ အယ်လဆက်နှင့် လိုရိန်းနယ်များကို ပြန်လည်ရရှိခဲ့သည်။

၁၉၁၉ ခုနှစ်အကုန်တွင် ကျင်းပသော ပြင်သစ်ရွေးကောက်ပွဲကြီးတွင် ဝင်ရောက်အရွေးခံရန် အမည်တင်သွင်းခဲ့၏။သို့သော် သူ၏အမည်ကို ပြန်လည်နုတ်သိမ်းလိုက်ပြီး လျှင် နိုင်ငံရေးမှ အနားယူနေခဲ့လေသည်။အသက်အရွယ်ကြီးရင့်လာသဖြင့် နိုင်ငံရေးကို စွန့်လွှတ်ခဲ့သော်လည်း၊



ကလမန်းစိုးသည် စစ်မြေပြင်သို့ ဤသို့ ကိုယ်တိုင်ဆင်းခဲ့၏

ကလမန်းစိုးမှာ ကျန်းမာသန်စွမ်း၍ ဖျတ်လတ်ပေါ့ပါးလျက်ပင် ရှိနေသေး၏။စာပေဝါသနာပါသည့်အလျောက် စာအုပ်ပေါင်း မြောက်မြားစွာ ရေးသားပြုစုခဲ့လေသည်။အသက် ၈၀ ကျော်၌ပင် အိန္ဒိယ၊မြန်မာနှင့် အမေရိကန်နိုင်ငံများသို့ သွားရောက်လည်ပတ်ခဲ့သေးသည်။နိုင်ငံခြားမှ ပြန်ရောက်လာပြီးနောက်၊ မိမိမွေးရာရပ်မြေတွင် စာပေရေးသားလျက်ရှိစဉ်၊ ၁၉၂၉ ခု နိုဝင်ဘာလ ၁၄ ရက်နေ့ (အသက်၈၈နှစ်အရွယ်) တွင် ကွယ်လွန်လေသည်။



ဟိန္ဒူဘုရားရှိခိုးကျောင်း မုတ်ဝထိပ်ရှိ ကလသာအိုးများ

**ကလသာအိုး။** ။ဟိန္ဒူဘုရားရှိခိုးကျောင်းတို့၏ မုတ်ဝထိပ်၌ဖြစ်စေ၊ ခေါင်တန်းပေါ်၌ ဖြစ်စေ၊ ညောင်ရေအိုးကဲ့သို့သော ကလသာအိုးကို တွေ့မြင်နိုင်ပေသည်။ ကလသာအိုးကို အမြိုက်ရည်ထည့်ရာအိုးအဖြစ် ဟိန္ဒူကျမ်းဂန်များတွင် ဖော်ပြထားလေသည်။ ထိုအိုး၏ပုံသဏ္ဌာန်မှာ ယခုခေတ် ဟိန္ဒူအမျိုးသမီးများအသုံးပြုလျက်ရှိသောရေခပ်ကြေးအိုးကဲ့သို့ပင် ဖြစ်၏။ မြန်မာစာပေ၌ ကလသာအိုးအကြောင်း မတွေ့ရသော်လည်း ပုဂံခေတ်ကျောက်စာများ၌ ကလသာအိုးဟူသော ဝေါဟာရကို အနည်းအပါးတွေ့ရပေသည်။ သက္ကရာဇ် ၅၇၅ ခုနှစ်တွင် ရေးထိုးသော ပုဂံမြို့ လေးထောင့်ကန် အရပ်လေးမျက်နှာဘုရား ကျောက်စာတွင် ‘ တန်တိုင်းတွင်းနိုက်ကား ကလသာအိုးအယောင်နှင့်တူသော တင့်တယ်စွာသော စကြာ်ထက် ကူလည်းတည်၏ ’ ဟု ပါရှိလေသည်။ ထိုတွင် စကြာ်ဆိုသည်မှာ အမိုးအကာရှိသော လူသွားလမ်း ခုံမြင့်ဖြစ်၍ စကြာ်ပေါ်တွင် ကလသာအိုးပုံသဏ္ဌာန်နှင့်တူသောကူတည်ထားကြောင်း သိရလေသည်။



ကလီဂျူလာဘုရင် စိတ်တိုင်းကျ မွမ်းမံထားစေသည့်လှေကြီး

**ကလီဂျူလာဘုရင်** (ခရစ် ၁၂–၄၁)။ ။ကလီဂျူလာသည် ၁၂ ခုနှစ်တွင် ဂရိနိုင်ငံ အက်ရှမ်မြို့၌ ဖွားမြင်၍၊ ၃၇ ခုနှစ်မှ ၄၁ ခုနှစ်အထိ ရောမနိုင်ငံတော်၏ တတိယ ကေရာဇ်ဘုရင်အဖြစ် စိုးစံသည်။ ငယ်စဉ်က သူ့ဖခင်၏ ရောမစစ်တပ်တွင် ကြီးပြင်းခဲ့ရ၏။ ကလီဂေးခေါ် ရောမ စစ်ဖိနပ်ကြီးကို ဝတ်ဆင်လေ့ရှိသောကြောင့် ကလီဂျူလာဟု အမည်တွင်ခဲ့သည်။ သူ၏အမည်ရင်းမှာ ဂေးယပ် ဆီဇာဖြစ်၏။ သူသည် ရောမနိုင်ငံတော်၏ ဒုတိယကေရာဇ်ဘုရင် တိုက်ဗီးရီးယပ်၏ မြေးတော်စပ်သူဖြစ်၍၊ တိုက်ဗီးရီးယပ် ကွယ်လွန်သောအခါ ရောမကေရာဇ်ဘုရင်ဖြစ်လာသည်။

ကလီဂျူလာသည် ဘုရင်ဖြစ်စတွင် သက်ညှာစွာနှင့် တရားမျှတစွာ အုပ်ချုပ်မှုကြောင့် တိုင်းသူပြည်သားအများက သောင်းသောင်းဖြဖြ ကောင်း ခြီးပေး ခဲ့ ကြ သော်လည်း၊ နောင်သော် သူ၏အပြုအမူများမှာ စိတ်မနှံ့သူတဦး၏ ပြုမူပုံမျိုးကဲ့သို့ ဖြစ်လာသောကြောင့် များမကြာမီပင် တနိုင်ငံလုံး ငြိုငြင်လာကြသည်။ အချို့က သူသည် တခါတွင် အပြင်းအထန်ဖျားပြီးနောက် စိတ်မနှံ့ဖြစ်သွားသည်ဟု ဆိုသည်။ သူ၏မြင်းကို တရားသူကြီးအဖြစ် ခန့်အပ်ခြင်း၊ စစ်တိုက်ရာမှအပြန်တွင် ပြင်သစ်ကမ်းခြေမှ ခရုခွံများကို နတ်များပသရန်အတွက် စစ်သားများအား ကောက်ခိုင်းခြင်း၊သူ့အား နတ်တပါးအဖြစ် တိုင်းသူပြည်သားများ ကိုးကွယ်နိုင်ရန်အတွက် ဗိမာန်ကြီးတခုကို ဆောက်လုပ်စေခြင်း စသော အပြုအမူတို့က ကလီဂျူလာ၏ စိတ်မနှံ့မှုကို ဖေါ်ပြပေသည်။ ထိုမျှသာမကသေး တိုက်ဗီးရီးယပ်လက်ထက်မှ စုဆောင်းခဲ့သော တိုင်းပြည်၏ဘဏ္ဍာများကို ဖြုန်းတီးပစ်ပြီးလျှင်၊ဆွေမျိုးသားချင်း အရင်းအချာများနှင့် ရောမမြို့သူမြို့သားများကို အကြောင်းမဲ့ သွေးချောင်းစီးအောင် သတ်ဖြတ်လေသေးသည်။

ဤသို့ဖြင့် လေးနှစ်မျှ ပရမ်းပတာ အုပ်ချုပ်ခဲ့ရာ တိုင်းသူပြည်သားများလည်း မခံမရပ်နိုင်ဖြစ်လာ၍ နောက်ဆုံး၌ လုပ်ကြံသတ်ဖြတ်ခံရလေသည်။

**ကလီယိုပါးထရား ကျောက်တိုင်**။ ။ရှေး နှစ်ပေါင်း ၃၅၀၀ ခန့်က အီဂျစ်နိုင်ငံတွင် တတိယ သော့သမီးဘုရင်ကြီး သည် ဟီလီယိုပိုလစ်မြို့၌ စံနေတော်မူခဲ့၏။ ဟီလီယိုပိုလစ်၏ အဓိပ္ပါယ်မှာ ရေမြို့တော်ဖြစ်လေသည်။

သော့သမီးဘုရင်သည် ယခုအခါ နိုင်းမြစ်ပေါ်ရှိ အက်ဆွမ်းမြို့အနီး ဆိုင်အီးနီး ကျောက်ကျင်းများမှ တန်ချိန် ၂၀၀ ခန့်စီရှိသော အလွန်ကြီးမား ရှည်လျားသည့် လုံးချင်းကျောက်တိုင်တစုံကို တူးယူစေ၍ မြစ်သို့အရောက် သူ၏ကျေးကျွန်များကို ဆွဲယူစေခဲ့၏။ ထိုနောက်မြို့တော်သို့ရောက်အောင် မြစ်ကြောတလျှောက် ဖေါင်ဖြင့် မျှောယူခဲ့သည်။ မြို့တော်သို့ရောက်သောအခါ ဘုရင်၏ဘုန်းတန်ခိုး ထင်ရှားစေရန်နှင့် နေနတ်သားကို ပူဇော်ပသရန် ထိုကျောက်တိုင်ကြီးများကို စိုက်ထူစေခဲ့လေသည်။ ထိုကျောက်တိုင်ကြီးများကို ကလီယိုပါးထရား ဇာထိုးအပ်များဟူ၍ ခေါ်ဝေါ်သမုတ်ကြသော်လည်း၊ထိုဘုရင်မနှင့် တစုံတရာ မသက်ဆိုင်ပေ။ ထိုကျောက်တိုင်များသည် လေးမြှောင့်ဖြစ်ပြီးလျှင်၊ အဖျားဖက်သို့ ရှူးသွားကာ ချွန်နေသဖြင့် ဇာထိုးအပ်ဟု တင်စား၍ ခေါ်ခြင်း ဖြစ်လေသည်။

ဒုတိယ ရမ်မီးဆီးဘုရင် နန်းတက်လာသောအခါ ထိုကျောက်တိုင်တဖက်တွင် အတ္ထုပ္ပတ္တိကို ကမ္ပည်းထိုးခဲ့သည်။

အော်ဂပ်စတပ်ဘုရင် လက်ထက်သို့ရောက်သောအခါ ထိုကျောက်တိုင်ကြီးများကို အယ်လက်ဇန္ဒြီးယားမြို့ရှိ နန်းတော်သို့ ရွှေပြောင်း စိုက်ထူထားခဲ့သည်။ထိုမြို့တွင် နှစ်ပေါင်း ၂၀၀၀ နီးပါးမျှ တည်နေခဲ့ပြီးနောက်၊ပြိုလဲသဖြင့် မြေဖုံးသွားရာ ထိုကျောက်တိုင်များသည် နှစ်ပေါင်းအတန်ကြာမျှ တိမ်မြုပ်နေခဲ့လေသည်။ ၁၈၀၁ ခုနှစ်သို့ရောက်မှ ဆာ ရပ် အက်ဗါကရွမ်ဗီသည် ထိုကျောက်တိုင်ကြီးများကို တူးဖေါ်တွေ့ရှိခဲ့သည်။ အက်ဗါကရွမ်ဗီသည် ထိုကျောက်တိုင်များကို အင်္ဂလန်ပြည်သို့ ယူဆောင်ပြီးနောက်၊သူ၏ အောင်မြင်မှုကို အမှတ်တရ ဖြစ်စေခြင်းငှါ အထိမ်းအမှတ်တိုင်အဖြစ်ဖြင့် စိုက်ထူထားလို၏။ ထိုသို့သယ်ယူရန် စရိတ်စခအတွက် သူနှင့်သူ့မိတ်ဆွေများသည် ပေါင် ၇၀၀၀ ပင် စုဆောင်းထားခဲ့ကြ၏။

သို့သော် ဆာရပ်၏ အကြံအစည်ကား အထမမြောက်ဘဲရှိခဲ့၏။ ထိုမျှလောက် ထုထယ်ကြီးမား၍ ရှည်လျားသော ကျောက်တိုင်ကြီးကို အီဂျစ်နိုင်ငံမှ အင်္ဂလန်ပြည်သို့ သယ်ယူသွားရန်မှာ မလွယ်ကူလှပေ။ အင်္ဂလန်ပြည်တွင် စတုတ္ထ ဂျော့ဘုရင် နန်းတက်စဉ်က အီဂျစ်ဘုရင်ခံ မေဟီမတ် အလီသည် ဂျော့ဘုရင်အား နန်းတက်ပွဲအထိမ်းအမှတ် လက်ဆောင်အဖြစ် ထိုကျောက်တိုင်ကြီးကို ပေးအပ်ဘူးရာ၊ဂျော့ဘုရင်က ငြင်းပယ်ခဲ့လေသည်။

၁၈၇၇ ခုနှစ်သို့ ရောက်သောအခါ ဆာ အီရက်ဇမပ်

ဝီလဆန် ဆိုသူက စရိတ်ကြေးငွေ စိုက်ထုတ်ပေးသဖြင့် ဆာဂျိမ်း အယ်လက်ဇန္ဒာသည် ထိုကျောက်တိုင်ကြီးကို အင်္ဂလန်ပြည်သို့ သယ်ယူရန် တာဝန်ယူခဲ့လေသည်။

ထိုကျောက်တိုင်ကြီးကို အလွန်ခဲယဉ်းစွာ သယ်ယူခဲ့ရ၏။ အယ်လက်ဇန္ဒြီးယားမြို့ ဆိပ်ကမ်းတွင် ကျောက်တိုင်ကိုငုံ၍ ပြောင်းသဏ္ဍာန် အခေါင်းရှည်အိမ်ကြီး (ဝါ) သေတ္တာကြီး ပြုလုပ်ပြီးလျှင်၊အောက်တွင် သင်္ဘောရောက်ခဲ့သို့ ရောခံပေးပြီးနောက်၊တက်မလည်း တပ်ဆင်ပေးရသည်။ ထိုကျောက်တိုင်ကို လူ ၆ ယောက်ထိန်းလျက် အတူလိုက်ပါနိုင်ရန် အခန်းတခုကိုလည်း ဆောက်လုပ်ပေးရသည်။ ထိုနောက် မီးသင်္ဘောနှစ်စင်းဖြင့် ဆွဲယူရန် စီစဉ်ခဲ့လေသည်။

သို့သော် ပင်လယ်သို့မရောက်မီ ကျောက်တိုင်ကြီးသည် ရှေးဟောင်း သင်းချိုင်းတွင်းကြီး တခုထဲသို့ ကျသွားခဲ့၏။ တွင်းထဲမှ ခဲခဲယဉ်းယဉ်း ထုတ်ယူပြီးနောက်၊ပင်လယ်ထဲသို့ ဆွဲယူသည့်အခါ၊ကျောက်ဆောင်တခုနှင့် တိုက်မိသဖြင့် နစ်မြုပ်သွားပြန်ရာ တဖန် ဆယ်တင်ရပြီးလျှင်၊အပျက်အစီးများကို ပြင်ဆင်၍ အင်္ဂလန်ပြည်သို့ သင်္ဘောဖြင့် တဖြည်းဖြည်းဆွဲယူခဲ့ရလေသည်။

သို့ရာတွင် အင်္ဂလန်ပြည်သို့ မရောက်မီ လမ်းခရီး၌ ဗစ္စကေးပင်လယ်အော်သို့ ရောက်သောအခါ၊လှိုင်းလေ အလွန်ပြင်းထန်သဖြင့် ဆွဲယူလာသော သင်္ဘောသည် ကြိုးကို ဖြတ်၍ ထိုသေတ္တာရှည်ကြီးကို မျှောလိုက်ရသည်။ သို့သော် ကံအားလျော်စွာ အခြား အင်္ဂလိပ်သင်္ဘောတစင်းကတွေ့၍ ဆွဲယူလာသဖြင့်၊ထိုကျောက်တိုင်ကြီးသည် အင်္ဂလန်ပြည်သို့ ချောမောစွာ ဆိုက်ရောက်သွားလေသည်။

ထိုကျောက်တိုင်ကြီးသည် အလျား ၆၈ ပေခွဲ ရှည်၍ ၁၈၆ တန်ခန့် စီးပြီးလျှင် နှင်းဆီနီသွေးရှိသော နှမ်းဖတ်ကျောက်မျိုးဖြစ်သည်။ ထိုကျောက်တိုင်ကို လန်ဒန်မြို့ရှိ ဝိတိုရိယတာပေါ်တွင် ၁၈၇၈ ခု စက်တင်ဘာလ ၁၂ ရက်နေ့၌ စိုက်ထူပြီး လျှင် အောက် ခံ့တဖက် တချက်၌ ကြေး ညို စဖင့်ရုပ် တရုပ်စီထားရှိသည်။

အီဂျစ်နိုင်ငံ၌ ကျန်ရစ်ခဲ့သော အလားတူ ကျောက်တိုင်တခုကို အမေရိကန် ပြည်ထောင်စုနိုင်ငံ နယူးယော့မြို့သို့ ၁၈၇၉ ခုနှစ်တွင် ယူဆောင်ခဲ့၍၊ ၁၈၈၁ ခုနှစ်တွင် စင်ထရယ်ပတ် ဥယျာဉ်အတွင်း၌ စိုက်ထူထားရာ၊ထိုကျောက်တိုင်မှာ ၆၇ ပေခန့် မြင့်လေသည်။



ဤကျောက်တိုင်မှာ အမေရိကန်ရောက် ရှေးဟောင်းကလီယိုပါးထရားကျောက်တိုင် ဖြစ်၍ နယူးယော့မြို့ စင်ထရယ်ပတ်ဥယျာဉ်အတွင်း၌ စိုက်ထူထားသည်။ အမြင့် ၆၇ ပေခန့်ရှိ၏။ ၆၈½ ပေခန့်မြင့်သော အလားတူ ကျောက်တိုင်တတိုင်ကို အင်္ဂလန်ပြည် လန်ဒန်မြို့ ဝိတိုရိယ တာ ပေါ်တွင် စိုက်ထူထားသည်။ ယင်းတို့၏သက်တမ်းမှာ နှစ်ပေါင်း ၃၅၀၀ ခန့်ရှိပေပြီ

# အလှထိပ်တင် မာယာရှင် အီဂျစ်ဘုရင်မ

ကြမ်းကြုတ်ခက်ထန်သော ထိပ်သီး ရောမစစ်ဗိုလ်ကြီးနှစ်ဦးအား သူ၏ရူပါရုံကျော့ကွင်းဖြင့် အမိဖမ်းကာ သူ့လိုရာသို့စေနိုင်ခဲ့လောက်အောင် မာယာကြွယ်ခြင်းကြောင့် ကလီယိုပါးထရားဘုရင်မသည် ရှေးခေတ်ကမ္ဘာ့သမိုင်းတွင် ထင်ရှားခဲ့ပေသည်။ ထူးခြားသော ကမ္ဘာ့အမျိုးသမီးတဦးပင်တည်း။

**ကလီယိုပါးထရားဘုရင်မ** (ဘီစီ ၆၈–၃၀)။ ။ကလီယိုပါးထရားသည်ကား ရှေးခေတ်ကမ္ဘာ့သမိုင်းတွင် ထင်ရှားခဲ့သော အီဂျစ်ဘုရင်မဖြစ်သည်။ ထူးခြားစွာလှပသော အဆင်းအင်္ဂါနှင့်ပြည့်စုံသည့် ဘုရင်မဖြစ်သဖြင့်၊ထိုခေတ်က အထူးချွန်ဆုံး ပုဂ္ဂိုလ်နှစ်ဦးအား သူ၏ရူပါရုံကျော့ကွင်းသို့ သက်ဆင်းစေ၍၊ သူစေသမျှကို တသဝေမတိမ်း ပြုလုပ်ပေးကြရသော အခြေသို့ရောက်အောင် စွမ်းဆောင်နိုင်ခဲ့လေသည်။ ထိုမျှသာမက သူ၏ရူပါရုံကွန်ရက်မှ မထွက်နိုင်ဘဲရှိခဲ့သော ထိုအာဇာနည်ပုဂ္ဂိုလ်ကြီးနှစ်ဦးအနက် တဦးမှာ အသေဆိုးနှင့်သေဆုံးရသော ဘဝသို့ရောက်အောင်ပင် ဖန်တီးခဲ့လေသေးသည်။ ထိုကြောင့် ကလီယိုပါးထရားအား ‘နိုင်းမြစ်ဒေသမြွေဟောက်မ’ ဟူ၍ခေါ်ကြပေသည်။

ကလီယိုပါးထရားမှာ အီဂျစ်သွေးမပါ၊ မက်ဆီဒိုးနီးယန်းနှင့် ဂရိသွေးနှောရာ အဆက်အနွယ်ဝင် ဘုရင်မဖြစ်သည်။ အယ်လက်ဇန္ဒာ – သ – ဂရိတ်၏ နိုင်ငံတော်ကို ခွဲဝေအုပ်ချုပ်ကြသော စစ်ဗိုလ်ချုပ်ကြီးများအနက်၊ တော်လမီအမည်ရှိ ဗိုလ်ချုပ်ကြီးသည် အီဂျစ်နိုင်ငံကို ဝေစုယူ၍ ထိုနိုင်ငံ၏ဘုရင်အဖြစ် အုပ်စိုးခဲ့၏။ ထိုဘုရင်မှစ၍ စိုးစံခဲ့သော တော်လမီဘုရင်များတွင် ကလီယိုပါးထရား၏ ခမည်းတော်မှာ ၁၁ ဆက်မြောက် တော်လမီဘုရင် ဖြစ်၏။ ဘီစီ ၅၁ ခု နှစ်တွင် ထိုဘုရင်ကြီး ကံကုန်သောအခါ၊ ၁၇ နှစ်အရွယ်ရှိ သမီးတော် ကလီယိုပါးထရားနှင့် ၁၀ နှစ်အရွယ်ရှိ သားတော် ၁၂ ဆက်မြောက် တော်လမီမင်းသားတို့သည် အီဂျစ်နိုင်ငံကို တွဲဖက်၍အုပ်စိုးခဲ့ကြ၏။

သို့ရာတွင် ဘုရင်ကြီးနတ်ရွာစံ၍ သုံးနှစ်မျှကြာသောအခါ၊မောင်တော်ဘုရင်ငယ်နှင့် အပေါင်းပါတို့သည် ကလီယိုပါးထရားအားနန်းချ၍ တိုက်ထုတ်လိုက်ကြလေသည်။ ထိုအချိန်တွင် ရောမဗိုလ်ချုပ်ကြီး ဂျူးလယပ် ဆီဇာသည် ပွန်ပီအား လိုက်လံတိုက်ခိုက်ယင်း၊အီဂျစ်နိုင်ငံ အယ်လက်ဇန္ဒြီးယားမြို့သို့ရောက်ရှိလာခိုက်ဖြစ်သည်။

ထိုအခွင့်ကောင်းကို ကလီယိုပါးထရားသည် လက်မလွတ်စေဘဲ လသာတုန်းဗိုင်းငင်လိုက်လေသည်။ မိမိ၏ကိုယ်ကို ကော်ဇောတွင်ထည့်၍ လိပ်စေပြီးနောက်၊ ဆီဇာ၏ရှေ့မှောက်သို့ ရောက်အောင်ဝင်လေသည်။ ထိုစဉ်က အသက် ၂၀ ခန့်သာရှိသေး၍ အလှသွေးတက်ကြွနေသော ကလီယိုပါးထရားသည် ထီးနန်းပြန်ရရေးတွင် ကူညီပေးမပေးရန် ဆီဇာအား ပြားယောင်းတောင်းပန်လေသည်။ စစ်သားပီပီ တည်တည်ကြီး နေလေ့ရှိသော ၅၂ နှစ်ရွယ် ဆီဇာကြီးပင်လျှင် အလှဘုရင် ကလီယိုပါးထရား၏ညှတ်ကွင်းမှ လွတ်ကင်းအောင် မရှောင်တိမ်းနိုင်ဘဲ ကလီယိုပါးထရားလိုသမျှကို ဆောင်ရွက်ပေးရလေတော့သည်။

ဆီဇာသည် ကလီယိုပါးထရားအား အီဂျစ်နိုင်ငံ၏ တဦးတည်းသော ဘုရင်မအဖြစ် ပြန်လည်ရရှိအောင် ကလီယိုပါးထရား၏ ရန်သူများကို တိုက်ခိုက်သုတ်သင်ပေးခဲ့သည်။ ကလီယိုပါးထရားသည် ဆီဇာနှင့်ပေါင်းသင်းသည်တွင် ဆီဇာရွန်း (ဆီဇာကလေး) အမည်ရှိသော သားတယောက်ရ၏။ ဘီစီ ၄၆ ခုနှစ်တွင် ဆီဇာ ရောမသို့ပြန်သွားသောအခါ၊ကလီယိုပါးထရားလည်း လိုက်ပါသွားလေသည်။ ဘီစီ ၄၄ ခု နှစ်တွင် ဆီဇာလုပ်ကြံခြင်း ခံရသောအခါ၊ကလီယိုပါးထရားသည် အီဂျစ်နိုင်ငံသို့ ပြန်လာခဲ့သည်။ ဆီဇာကွယ်လွန်ပြီးနောက် ရောမတွင် အာဏာလုသည့်စစ်ပွဲများဖြစ်ပွားနေရာ၊ ကလီယိုပါးထရားသည် မည်သည့်ဖက်ကိုမျှ အားပေးခြင်းမပြုဘဲ နေခဲ့လေသည်။ ထိုဘုရင်မကား ရောမလူမျိုးများကို အရိုင်းအစိုင်းများဟု သဘောထား၍ မိမိအကျိုးရှိမှုအတွက်သာ အသုံးပြုလိုသူဖြစ်သည်။

ကလီယိုပါးထရား၏ ရူပါရုံကျော့ကွင်းသို့ ဒုတိယသက်ဆင်းသော ရောမအာဇာနည်ကြီးကား မတ်အန်တိုနီ ဖြစ်သည်။ ဆီဇာကွယ်လွန်ပြီးနောက် မတ်အန်တိုနီနှင့် နောင်တွင် အော်ဂပ်စတပ်ဘုရင်ဖြစ်လာမည့် ဆီဇာ၏တူတော် အော့တေးဗီးယန်းတို့သည် ရောမနိုင်ငံတော်ကြီးကို တွဲဖက်အုပ်စိုးခဲ့ကြ၏။ မတ်အန်တိုနီသည် ရန်သူများကို နှိမ်နင်းတိုက်ခိုက်ယင်း အရှေ့ဖက်နိုင်ငံများသို့ ရောက်လာ၏။ တားဆပ်မြို့သို့ ရောက်သောအခါ၊ကလီယိုပါးထရားအား ရန်သူအားပေးအဖြစ်စွပ်စွဲ၍ ထိုအကြောင်းကို ရှင်းလင်းချေပရန် ကလီယိုပါးထရားအား ဆင့်ခေါ်လေသည်။

ကလီယိုပါးထရားကား ထိုသို့ရှင်းလင်းရန် ဆင့်ခေါ်သည်ကို အလျှင်းမတုန်လှုပ် မချောက်ချားခဲ့ချေ။ ရောမနိုင်ငံတော်ကြီးကို ဆီဇာ၏ မိဖုရားအဖြစ်ဖြင့် မစိုးစံခဲ့ရစေကာမူ၊ လူရည်ချွန်မတ်အန်တိုနီ၏ အကူအညီဖြင့် မြေထဲပင်လယ်အရှေ့ဖက်တလွှားတွင် ဂရိနိုင်ငံသစ်ကို တည်ဆောက်၍ အုပ်စိုးရန် စိတ်ကူးကြံစည်ထားသော ကလီယိုပါးထရားသည် ဗီးနပ်နတ်သမီးကဲ့သို့ လှပစွာ ဝတ်ဆင်ပြီးလျှင်၊မတ်အန်တိုနီထံသို့ ဝင်ရောက်လေသည်။ ကလီယိုပါးထရား၏ အလှဒဏ်ကို မခံနိုင်ရှာသော မတ်အန်တိုနီသည် အပြစ်

သဘောနှင့် စစ်ကြောရန်ကိုပင် မေ့ပျောက်လျက်၊ ကလီယိုပါးထရား၏နောက်သို့ အယ်လက်ဇန္ဒြီးယားမြို့အရောက် လိုက်ပါသွားလေတော့သည်။

အယ်လက်ဇန္ဒြီးယားမြို့တွင် အန်တိုနီသည် ကလီယိုပါးထရား နှင့် အတူ တနှစ်ခန့် ပျော်ရွှင်စွာ နေထိုင်ပြီး နောက် ရောမမြို့သို့ ပြန်သွားလေသည်။ ရောမသို့ရောက်သောအခါ အန်တိုနီသည် တွဲဖက်အုပ်ချုပ်သူ အော့တေးဗီးယန်းနှင့် ပိုမိုစည်းလုံးမိစေရန်၊ အော့တေးဗီးယန်း၏နှမနှင့် လက်ဆက်လိုက်သည်။ ထိုအတွင်း ကလီယိုပါးထရားသည် မတ်အန်တိုနီ၏ သွေးကလေးများဖြစ်သော အမြွာမောင်နှမကို မွေးဖွားခဲ့၏။ ရောမတွင် လေးနှစ်ခန့်နေထိုင်ပြီး နောက် အန်တိုနီသည် အီဂျစ်နိုင်ငံသို့ပြန်လာ၍ ကလီယိုပါးထရားနှင့်သာ အချိန်ဖြုန်းနေလေသည်။ ရောမနိုင်ငံတော်၏အရေးကိုအမေ့ကြီးမေ့လျက်၊ ကလီယိုပါးထရား၏အလိုသို့လိုက်၍ ဂရိနိုင်ငံတော် တည်ဆောက်ရေး အစီအစဉ်များ တွင်နားဝင်သယောင် ဖြစ်နေတော့သည်။



ကလီယိုပါးထရားလိုက်ပါလာသည့် လက်ဆောင်ကော်ဇောလိပ်ကို ဂျူးလယပ်ဆီဇာရှေ့မှောက်၌ဖြေချလိုက်သောအခါ

အော့တေးဗီးယန်းသည် နှမတော်အား အန်တိုနီက စွန့်ပစ်သွားသည်ကိုလက်စားချေလိုသည်တကြောင်း၊ဆီဇာရှန်းခေါ် ဆီဇာကလေး၏ ရန်စွယ်ရန်ငြောင့်ကို ကြိုတင်ကာကွယ်လိုသည်တကြောင်း တို့ကြောင့် ဆီနိတ်လွှတ်တော်အား မတ်အန်တိုနီအပေါ်တွင် စစ်ကျေညာရန် တိုက်တွန်းလေတော့သည်။ ဘီစီ ၃၁ ခုနှစ်တွင် အက်ရှမ်ရေကြောင်းတိုက်ပွဲ၌ အန်တိုနီနှင့် ကလီယိုပါးထရားတို့၏တပ်များသည် အော့တေးဗီးယန်း၏တပ်များကို မယှဉ်နိုင်ဘဲ ဖရိုဖရဲ အရေးနိမ့်ကြလေသည်။ ကလီယိုပါးထရားသည် သူ၏သင်္ဘောတပ်ကိုရုပ်သိမ်း၍ အယ်လက်ဇန္ဒြီးယားမြို့သို့ ပြန်ပြေးလေသည်။ နောက်ပါအခြေအရံကင်းပြီဖြစ်သော အန်တိုနီလည်း ကလီယိုပါးထရား နောက်သို့ လိုက်ပါပြေးခဲ့ရလေသည်။

အယ်လက်ဇန္ဒြီးယားမြို့သို့ ရောက်သောအခါ၊ကလီယိုပါးထရားသေဆုံးပြီဟူသော သတင်းကိုကြားသိရသဖြင့် အန်တိုနီသည် မိမိကိုယ်ကို ဓါးနှင့်ထိုးသတ်လေ၏။ သို့သော် လှည့်စားထားသော သတင်းဖြစ်ကြောင်း မသေခင် သိရသဖြင့် ကလီယိုပါးထရားထံသို့ ပို့ဆောင်စေရာ၊ ကလီယိုပါးထရား၏ လက်ပေါ်တွင်ပင်အသက်ပျောက်သွားလေသည်။

ကလီယိုပါးထရားသည် အော့တေးဗီးယန်းအား မိမိ၏ရူပါရုံဖြင့် ချော့မြူရန် ကြိုးစားသေး၏။ သို့သော် အော့တေးဗီးယန်းကား ဆီဇာနှင့် အန်တိုနီတို့ကဲ့သို့ ပျော့မကျချေ။ အော့တေးဗီးယန်းသည် မိမိဆွဲရာသို့ မပါရုံမျှမက၊ မိမိအား သံကြိုးနှင့်ချည်နှောင်ကာ ရောမ ဗိုလ်ပုံ အလယ်တွင် အရှက်ခွဲမည်ကို သိမြင်သောကြောင့်၊ ကလီယိုပါးထရားသည် မိမိတွင် အသင့်ဆောင်ထားသောမြွေပွေးငယ်အား မိမိ၏ရင်ကို ကိုက်စေပြီးလျှင် မိမိ၏အသက်ကို အဆုံးစီရင်လိုက်၏။ ကလီယိုပါးထရားသေဆုံးပြီး၍ မကြာမီအတွင်း၌ပင်အော့တေးဗီးယန်းသည် ဆီဇာရှန်းခေါ် ဆီဇာကလေးအား ကွပ်မျက်လိုက်လေသည်။

**ကလူကွက်ငှက်**။ ။ကလူကွက်ကို ရေကြက်မဟုလည်းခေါ်သည်။ ဤငှက်ကို အရှေ့တိုင်း ဒေသများတွင် တွေ့ရ၍၊ မြန်မာနိုင်ငံ၌ ရာသီဥတု သင့်လျော်သော ဒေသများတွင် တွေ့မြင်နိုင်သည်။ အလျား ၁၂ လက်မခန့်ရှိ၍၊ ဦးခေါင်းမှာ မဲ့ပြာရောင်ဖြစ်သည်။

ကလူကွက်သည် ရေတွင်ကျက်စားသော ငှက်ဖြစ်၍၊နံနက်ခင်းနှင့် ညနေခင်းတွင် ကုန်းသို့တက်ကာ ပိုးမွှားနှင့် သစ်စေ့များကို ရှာဖွေစားသောက်နေတတ်သည်။ အနီးအနားသို့ သွားရောက် နှောင့်ယှက်လျှင်၊ ပျံမပြေးဘဲ ချုံဖုတ်တောအုပ်များရှိရာသို့ပြေးလွှားပုန်းအောင်းတတ်သည်။

မိုးရာသီ သားပေါက်ချိန်တွင် အလွန်ဆူညံ၍၊တခါတရံ ညဥ့်လုံးပေါက် အော်နေတတ်သည်။

အသိုက်ကို ရေစပ်ရှိ ချုံဖုတ်များတွင် မြက်ခြောက်၊ဝါးရွက်ခြောက်များဖြင့် ပြုလုပ်ကြသည်။ တမြုံလျှင် ဥ ၄ လုံးမှ ၈ လုံးအထိ ရှိတတ်၏။ ဥမှာ အလျား ၁.၅၇ လက်မ ပြက် ၁.၁၈ လက်မရှိ၍၊ ရှည်မျောပြီးလျှင် ချောမွတ်သည်။

**ကလူမင်္ဂလာပွဲတော်။** ။ကလူမင်္ဂလာပွဲတော်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော် တိုင်းရင်းသားဖြစ်သော ကယားအမျိုးသားတို့၏ ပွဲတော်တရပ်ဖြစ်သည်။ ကယားဘာသာစကားဖြင့် ခေါ်ဆိုခြင်းဖြစ်၍၊ မြန်မာဘာသာစကားဖြင့် ဖါးစည်ပွဲတော်ဟု အဓိပ္ပါယ်ရှိသည်။ ကယားလူမျိုးတို့၏ ရိုးရာယဉ်ကျေးမှု ထုံးစံအတိုင်း၊ နှစ်ဟောင်းကြွေ၍ နှစ်သစ်ကူးပြောင်းပြီးသည့် အခါသမယ မိုးဦးမကျမီ အချိန်ကာလတွင်၊အိမ်သစ်များ ဆောက်လုပ်ပြီးစီးသော အခါ၌ အိမ်သစ်တက်အခမ်းအနားကို နှစ်စဉ်မင်္ဂလာယူ၍ ကျင်းပလေ့ရှိသည်။

မင်္ဂလာအခါတွင် တီးမှုတ်ရသော တူရိယာများအနက် ဖါးစည်သည် ကျက်သရေမင်္ဂလာအရှိဆုံးဟူ၍ မှတ်ယူထားကြပေရာ၊ ထိုအိမ်သစ်တက် အခမ်းအနားတွင် ဖါးစည်ကို တီးခတ်သဖြင့် ဖါးစည်ပွဲဟု ခေါ်သည်။ ဖါးစည်ကို ကယားအမျိုးသားတို့ အထွတ်အမြတ်ပြုကြသည်။ အမင်္ဂလာကိစ္စများတွင် မတီးခတ်ကြချေ။

ရှေးအခါက ကလူမင်္ဂလာပွဲတော် ကျင်းပသောရက်ကို ကန့်သတ်ပြဋ္ဌာန်းထားခြင်း မရှိသဖြင့်၊ ကယားပြည်နယ်ရှိ နယ်အသီးသီးတွင် ပွဲတော်ကျင်းပသည့်ရက်မှာ တနယ်နှင့် တနယ် မတူညီကြပေ။

ပြည်ထောင်စုမြန်မာနိုင်ငံတော် လွတ်လပ်ရေးရရှိသည့် ၁၉၄၈ ခုနှစ်တွင်၊ လွတ်လပ်သော ကယားပြည်နယ်သည် မြန်မာနိုင်ငံတော်နှင့် ပူးပေါင်းပြီးနောက်၊ ၁၉၅၁ ခုဖေဖွာရီလ ၂၂ ရက်နေ့ လွိုင်ကော်မြို့၌ ကျင်းပသော အစည်းအဝေးကြီးတွင်၊ ကလူမင်္ဂလာပွဲတော်ကို နှစ်စဉ်နှစ်တိုင်း ဧပြီလ ၂၆ ရက်နေ့၌ ကျင်းပရန် အများသဘောတူ ဆုံးဖြတ်သတ်မှတ်လိုက်သည်။

၁၉၅၁ ခုဧပြီလ ၂၆ ရက်နေ့မှစ၍ ကလူမင်္ဂလာပွဲတော်ကို လွိုင်ကော်မြို့တွင် စတင်ကျင်းပရာ၊ ကန္တာရဝတီ၊ဘောလခဲ၊ ကြယ်ဖိုးကြီး၊ မိုးဗြဲ နှင့် ပဒေါင်းကိုးရွာ၊ ယာဒိုနယ်များမှ လူမျိုးစုံနှင့် ပြည်ထောင်စုတဝှန်းလုံးမှ တိုင်းရင်းသားပေါင်းစုံတို့ တက်ရောက်ကြ၍၊ နှစ်ပေါင်း ၆၀ အတွင်း အစည်ကားဆုံး ပွဲတော်ဖြစ်ခဲ့သည်။

ကလူမင်္ဂလာပွဲတော်တွင် လူထုအစည်းအဝေး ကျင်းပခြင်း၊ တူရိယာများတီးမှုတ်၍ ကခုန်ပျော်ရွှင်ခြင်း၊ အလှူအတန်း ဝတ်မှုပြုခြင်း၊ဒေသန္တရ သယံဇာတနှင့် ထွက်ကုန်များ ခင်းကျင်းပြသခြင်း၊ ရက်ကန်းနှင့် အိမ်တွင်းလက်မှုပညာပြိုင်ပွဲများ ကျင်းပခြင်း စသည်တို့ကိုလည်း စည်ကားစွာ ဆင်ယင်ကျင်းပကြသည်။ (ကယားပြည်နယ်။ ကယားလူမျိုး — ရှု)။

**ကလေးကစားနည်းများ။မြန်မာ။** ။မြန်မာ့ကလေးကစားနည်းများ — ရှု။

**ကလူမင်္ဂလာပွဲတော်အခါ၌ ကယားအမျိုးသားများ ပျော်ရွှင်စွာ တီးမှုတ်ကခုန်နေကြစဉ်**



# လူ့မမယ်ဘဝမှ လူလားမြောက်လာပုံ

ဖဝါး လက်နှစ်လုံး ပခုံး လက်နှစ်သစ်အရွယ်မှ တဆင့်ပြီး တဆင့် ကြီးထွား ရင့်သန်ကာ လူကြီး အဖြစ်သို့ ရောက်လာ ပုံမှာ သဘာဝ၏ အံ့ဖွယ်တရပ်ဖြစ်၏။ ကျွန်ုပ်တို့သည် ဤအတိုင်းပင် ကြီးပြင်းလာကြပေသည်။

**ကလေးကြီးပြင်းလာပုံ။** ။ သက်ရှိ ဟူသရွေ့ သည် တစတစ ကြီးပြင်းလာကြရသည်ချည်းဖြစ်၏။ ယင်းတို့ ကြီးပြင်း လာပုံ ကို သိလိုလျှင်၊ မွေးဖွားသည့် အချိန်မှစ၍ တဖြည်းဖြည်း အသက်အားဖြင့်၎င်း၊ အရွယ်အားဖြင့်၎င်း၊ စိတ်နေသဘောထားအားဖြင့်၎င်း၊ ပြုမူလုပ်ကိုင်ပုံ အားဖြင့် ၎င်း၊ကြီးမားပြောင်းလဲလာပုံကို စူးစမ်းကြည့်ရှုသင့်သည်။

သတ္တဝါအပေါင်းတို့သည် မသိနားမလည်သေးသော အ ကောင်ကလေးဘဝကို လွန်မြောက်ပြီးမှသာလျှင် တတ်သိ နားလည်သော အကောင်ကြီးဘဝသို့ ရောက်ရစမြဲဖြစ် သည်။ အဆင့်အတန်း အမြင့်ဆုံးဖြစ်သော လူသတ္တဝါ မဆိုထားဘိ၊ အနိမ့်ဆုံးဖြစ်သော တိရစ္ဆာန်များပင် အ ကောင်ကလေးဘဝမှ ကြီးပြင်းလာရ၏။ သို့သော် လူတို့ ကြီးပြင်းလာပုံနှင့် တိရစ္ဆာန်များ ကြီးပြင်းလာပုံမှာ ခြား နားသည်။ လူတို့သည် တိရစ္ဆာန်များထက် ကလေးဘဝ တွင် ကြာကြာနေရသည်။ သတ္တဝါအဆင့်အတန်း မြင့် လေ၊ကြီးပြင်းအောင် ပြုစုစောင့်ရှောက်ရသည့်အချိန် ပိုကြာ လေဖြစ်၏။ အဆင့်အတန်းမြင့်သည့် သတ္တဝါများသည် သားငယ်များကို နည်းပါးစွာ ပေါက်ပွားသော်လည်း၊အဆင့် အတန်းနိမ့်သည့် သတ္တဝါများသည်ကား သားငယ်အများ အပြား ပေါက်ပွားလေ့ရှိသည်။ သို့ဖြစ်၍ အဆင့်အတန်း မြင့်သည့် သတ္တဝါများသည် ကလေးများကို အချိန်ကြာစွာ စောင့်ရှောက်မွေးမြူနိုင်သည်။ ပမာဆိုလျှင် အဆင့်အတန်း နိမ့်သော ငါးများသည် သားငယ်များကို ကြီးပြင်းအောင်



မွေးစအရွယ်ကလေးငယ်၏ အပြစ်ကင်းစင်သည့်အပြုံး



မွေးစအရွယ်မှ လူလားမြောက်သည်အထိ လူတို့၏ ပုံပန်း နှင့် အချိုး အစား ပြောင်းလဲတိုးတက်လာပုံကို နှိုင်းရှည့်ဖော်ပြခြင်း

မွေးမြူရသည်ဟူ၍ မရှိချေ။ တကြိမ်လျှင် ငါးကလေးပေါင်း မြောက်မြားစွာ ပေါက်ပွားသဖြင့် ငါးမကြီးမှာ ယင်းတို့ကို ပြန်၍မကြည့်နိုင်တော့ပေ။ အဆင့်အတန်း အမြင့်ဆုံးဖြစ် သော လူတို့မှာမူတကြိမ်လျှင် တယောက်၊တခါတရံ နှစ် ယောက်သာ မွေးသောကြောင့် ကလေးကို အချိန်ကြာမြင့် အောင် မွေးမြူစောင့်ရှောက်နိုင်သည်။ သို့သော် လူတို့တွင် ထူးကဲစွာ သုံးယောက်၊လေးယောက်၊ငါးယောက်အထိ မွေး သည်လည်း ရှိသေး၏။ လူတို့သည် ကလေးဘဝမှ တဖြည်း ဖြည်း ကြီးပြင်းလာ၍ အသက် ၂၁ နှစ်ခန့် ရှိသောအခါ အရွယ်ရောက်သည်။ တနည်းဆိုသော် လူတို့၏ ပျမ်းမျှ သက်တမ်းသည် အနှစ် ၆၀ မျှသာဖြစ်ရာ၊ အရွယ် ရောက်သည့်အချိန်အထိသက်တမ်းသုံးပုံတပုံကြာသည်။ တိ ရစ္ဆာန် များ အဖို့ ကား ခြောက်ပုံတပုံခန့်သာ ကြာသဖြင့်၊ လူသည် မိဖကို ပိုမို၍ကြာမြင့်စွာ မှီခိုနေရသည်။

### ကိုယ်ခန္ဓာကြီးထွားလာပုံ

ကလေးများသည် အမိဝမ်းတွင်း၌ ပဋိသန္ဓေ တည် သည့်နေ့မှစ၍ တနေ့ထက်တနေ့ အခြေအနေ ပြောင်း လဲတိုးတက်လာသည်။ ပဋိသန္ဓေတည်စတွင် ကလေး၏ အ

လေးချိန်သည် တအောင်စကို အစိတ်ပေါင်း ၅၆ သန်းမျှ စိတ်လျှင် တစိတ်သာရှိ၍၊တနေ့တခြား အလေးချိန်တိုးတက်လာရာ မွေးဖွားသောအခါ၊ကလေးမှာ ပျမ်းမျှခြင်းအားဖြင့် ၇ ပေါင်ခန့် ရှိတတ်သည်။ ခြောက်လသားခန့် ရှိသောအခါ အလေးချိန်သည် နှစ်ဆဖြစ်လာ၍၊အခါလည်သား ရှိသောအခါ သုံးဆဖြစ်လာသည်။အယပ်မှာလည်း ၂၂ လက်မမှ လက်မ ၃၀ အထိ တိုးတက်လာသောကြောင့်၊ကလေးများသည် ဤနို့စို့အရွယ်တွင် အလွန်ကြီးထွားလွယ်သည်ဟု ဆိုရပေမည်။ မတ်တတ်ပြေးစ အရွယ်ရောက်သော် ပဌမနို့စို့အရွယ်ကလောက် တရှိန်တည်း တက်၍မသွားတော့ချေ။ ကိုယ်လုံးနှင့်အယပ်မှာ ခပ်မှန်မှန်သာ ထွက်လာ၏။ ထိုကြောင့် ၆ နှစ်သားကလေး၏ အလေးချိန်မှာ မွေးစကထက် ခြောက်ဆသာရှိ၍၊ ၁၀ နှစ်တွင် ဆယ်ဆ၊အနှစ် ၂၀ တွင် အဆ နှစ်ဆယ်သာရှိသည်။ အယပ်အမောင်းမှာလည်း ထိုနည်းနှင်နှင်ပင် ခပ်မှန်မှန် ထွက်လာ၏။သို့သော် ထိုမှရှေ့သို့ ကိုယ်ခန္ဓာတိုးတက်ကြီးထွားခြင်း မရှိတော့သည့် အသက် ၂၀ အရွယ်တွင် မွေးစကအယပ်ထက် သုံးဆ ရှည်ထွက်လါသည်။နို့စို့အရွယ်ထက် ၆ နှစ်မှ ၂၀ ကြားအရွယ်တွင် ကြီးထွားမှုသည် တဖြည်းဖြည်း နှေးသွားသည်။

မိန်းကလေးနှင့်ယောကျ်ားကလေးနှစ်ဦးတွင် မိန်းကလေးသည် ယောကျ်ားကလေးထက် စော၍အရွယ်ရောက်၏။ အများအားဖြင့် နှစ်နှစ်ခန့်စောသည်။အသက် ၁၄ နှစ်ခန့် အရွယ် မိန်းကလေးတယောက်သည် အရွယ်တူ ယောကျ်ားကလေးတယောက်ထက် ကိုယ်အလေးချိန်တွင်ရင်း၊အယပ်အမောင်းတွင်ရင်း၊ သာနေကြောင်းကို တွေ့ရ၏။ကလေးများ ကြီးထွားလာရာ၌ အရိုးအခြင်၊ဦးနှောက်နှင့် ကိုယ်ခန္ဓာ အချိုးအစားတို့သည် တဖြည်းဖြည်း ပြောင်းလဲနေသည်။ ငယ်ရွယ်သောကလေးများ၏ ခန္ဓာကိုယ်အစိတ်အပိုင်းများ၌ အရိုးနုကလေးများသာ ပါဝင်နေသည်။ယင်းတို့သည် အလွန်နုနယ်သဖြင့်၊ကလေးငယ်များကို ကိုင်တွယ်သည့်အခါ ပွေ့ချီသည့်အခါများ၌ အထူးသတိထားရသည်။လူကြီးများ၏ ပကတိအရိုးကဲ့သို့ မမာသေးသောကြောင့်၊ကလေးများသည် မည်သည့်အရာကိုမဆို လက်ဖြင့်ကောင်းစွာ မဆုပ်ကိုင်နိုင်သေးချေ။သူတို့၏ ကိုယ်ခန္ဓာမှာလည်း တောင့်တောင့်တင်းတင်း မရှိလှသေးသဖြင့်၊ခိုင်မြဲစွာ မထိုင်နိုင် မရပ်နိုင်ချေ။တဖြည်းဖြည်းနှင့် ကလေးများစားသော အစာထဲမှ ဆားဓါတ်တို့သည် သူတို့၏ အရိုးနုကလေးများကို မာလာစေ၍၊ ပကတိအရိုးအဖြစ်သို့ ပြောင်းလဲသွားစေသည်။ ကလေးများ၏ဦးနှောက် ငယ်ရွယ်စဉ်အခါတွင် အလွန်ကြီးထွားလွယ်၏။အသက် ၆ နှစ်အရွယ်ရှိကလေး၏ ဦးနှောက်သည် လူကြီး၏ဦးနှောက်နှင့် တရွယ်တည်းဖြစ်သည်။ကိုယ်ခန္ဓာ အချိုးအစားမှာလည်း ပြောင်းလဲလာသောကြောင့်၊ မွေးခါစတွင် ကလေး၏ဦးခေါင်းသည် ကိုယ်အရှည်၏ လေးပုံတပုံခန့်ရှိသော်လည်း အရွယ်ကြီးလာသောအခါ ရှစ်ပုံတပုံသာ ရှိတော့သည်။ထို့ပြင် မျက်နှာပုံပန်းသဏ္ဍာန်မှာလည်း ထင်ထင်ရှားရှား ပြောင်းလဲသွား၏။ငယ်ရွယ်သော ကလေး



**သဘာဝအလျောက် ကစားစရာကို စိတ်ဝင်စားစပြုလာသော လေးဖက်တွားအရွယ် ကလေးငယ်**

၏နဖူးသည် သက်ကြီးများ၏နဖူးထက် ပို၍မိုမောက်ပြီးလျှင် မေးစေ့မှာမူ သေးငယ်သည်။ တဖြည်းဖြည်း ကြီးပြင်းလာသောအခါ၊ နဖူးမှာ ပြေသွားလျက် မေးစေ့သည် ပို၍ပေါ်လွင်လာ၏။ မျက်နှာသွင်ပြင်မှာ ထိုသို့ပြောင်းလဲသွားသောကြောင့် ကလေးမျက်နှာနှင့် လူကြီးမျက်နှာမှာ အတော်ပင်ကွာခြားပေသည်။ ဤသည်ကိုပင် ငယ်ရုပ်ပျောက်သွားသည်ဟု ဆိုကြသည်။

လူတို့သည် ငယ်ရာမှကြီးလာရာ၊ ထိုကြီးပြင်းလာပုံကို သေချာစေ့ငုစွာ ကြည့်ရှုသော် အလွန်ဆန်းကြယ်ကြောင်း တွေ့ရ၏။ အမိဝမ်းတွင်း၌ ကလလရေကြည် တည်ဦးစမှ ခန္ဓာပျက်ပြုန်း အသက်ကုန်ဆုံးရသည့် အချိန်အထိ၊ လူတို့၏ အခြေအနေသည် အမြဲပြောင်းလဲနေသည်။ အသက်အလိုက် ပိုင်းခြား၍ကြည့်မည်ဆိုသော်၊ မွေးစမှ လမ်းလျှောက်တတ်သည့်အရွယ်အထိကို နို့စို့အရွယ်၊ ၁ နှစ်မှ ၃ နှစ်အထိကို မတ်တတ်ပြေးအရွယ်၊ ၃ နှစ်မှ ၆ နှစ်အထိကို စကားသင်အရွယ်ဟူ၍ ခွဲခြားနိုင်ပြီးလျှင်၊ အရွယ်သုံးမျိုးစလုံးကိုခြုံ၍ ရှေးဦးကလေးဘဝဟု ခေါ်ကြ၏။ အလယ်ကလေးဘဝမှာ ၆ နှစ်အရွယ်မှ ၁၀ နှစ်အရွယ်အထိ ဖြစ်သည်။ နှောင်းကလေးဘဝမှာမူ ၁၀ နှစ်အရွယ်မှစ၍၊ ယောကျာ်းကလေးများအဖို့ ၁၃ နှစ်မှ ၁၆ နှစ်အကြား ရှင်ပြုချိန်အရွယ်အထိ၊ မိန်းကလေးများအဖို့ ၁၂ နှစ်မှ ၁၅ နှစ်အကြား အပျိုဖျန်းအရွယ်အထိ ဖြစ်သည်။ ယင်းသည့်နောက်တွင် လူပျိုပေါ် အပျိုပေါ် ဝင်လာကြပြီးလျှင်၊ ၁၈ နှစ်မှ ၂၀ အကြား အရွယ်အထိ အစွမ်းကုန် ကြီးထွားသည်။ အသက် ၂၀ ကျော် ၃၀ နီးပါး အရွယ်မှစ၍ ကာယဗလ၊ ဉာဏဗလ၊ ရူပဗလစသော ဗလများ ဖွံ့ဖြိုးလာပြီးလျှင်၊ တဖြည်းဖြည်း ထိုဗလများ အားနည်းယိမ်းယိုင်သည့်ဖက်သို့ လှမ်းလာသော အသက် ၄၀ မှ ၆၀ အကြား အရွယ်အထိမှာ လူကြီးပိုင်းဖြစ်သည်။ ထို့ထက် ကြီးရင့်လာသည့်အခါ၊ အိုမင်းမစွမ်းဖြစ်လာပြီးလျှင် သူငယ်ပြန်အရွယ်သို့ရောက်၍၊ နောက်ဆုံးသေသည့်အချိန်သို့ တဖြည်းဖြည်း ရွေ့သွားလေတော့သည်။



အမှီအတွယ်ကိုရှာ၍ မတ်တတ်ရပ်စမ်းနေသည့်ကလေး

ဤသို့ တသက်တာတွင် မွေးသည့်အချိန်မှ သေဆုံးသည့်အချိန်အထိ၊ လူတို့၏ အခြေအနေသည် တဆင့်ပြီးတဆင့် ပြောင်းလဲသွားသည်။ ထိုသို့ အဆင့်ဆင့် ပြောင်းလဲသွားရာတွင်လည်း၊ အထက်တွင် ဖေါ်ပြခဲ့သည့်အတိုင်း ကျားမ လိုက်၍ အနည်းငယ်ကွဲပြား၏။ ထို့ပြင် လူမျိုးတမျိုးနှင့် တမျိုးသည် ကြီးထွားပုံချင်းတွင် ကွာခြားသည်။ အသက် ၁၀ နှစ်အရွယ်ရှိ ကလေးတယောက်၏ အယပ်သည် ၄၇ လက်မရှိသော်လည်း၊ သူနှင့် ရွယ်တူအမျိုးခြား ကလေးတယောက်၏အယပ်သည် လက်မ ၆၀ ရှိနေသည်ကိုတွေ့ရသည်။ တခါတရံ မျိုးတူရွယ်တူ ကလေးများပင် ထိုသို့ကွာခြားနေသည်ကို တွေ့ရပြန်၏။ လူကြီးများတွင် အချို့မှာ ၅ ပေ ရှည်၍ အချို့မှာ ၆ ပေ ရှည်သည်။ ပမာပြရသော်၊ အမေရိကန်လူမျိုးတို့သည် ဂျပန်လူမျိုးတို့ထက် အများအားဖြင့် အယပ်ပို၍မြင့်၏။ အနောက်တိုင်းသားများသည်လည်း ယေဘုယျအားဖြင့် မြန်မာထက် အယပ်မြင့်သည်။ လူများသည် အယပ်အမောင်းတွင်သာ ကွာခြားသည်မဟုတ်၊ လူ၏အချိုးအစား နှင့် အလေးချိန်တို့တွင်လည်း ကွာခြားကြသေးသည်။ ဤသို့ လူတမျိုးနှင့်တမျိုး အချိုးအစား မတူခြင်း၊ အလေးချိန် မမျှခြင်း၊ အယပ်အမောင်း မနှိုင်းသာခြင်းတို့မှာ၊ ဇာတိချက်ကြွေ ရပ်မြေဌာနများ၏ ရာသီဥတု အစားအသောက်နှင့် ပတ်ဝန်းကျင်အခြေအနေ စသည်တို့၏ ဖန်တီးမှု၊ လူတဦးစီ တဦးစီ၏ ကျန်းမာရေးအခြေအနေ စသည်တို့ကြောင့် ဖြစ်ရသည်ဟုဆိုသည်။

ကလေးများကြီးပြင်းလာရာတွင် ကိုယ်ခန္ဓာအစိတ်အပိုင်းများ အဆင့်ဆင့် ပြောင်းလဲ တိုးတက်လာသည်နှင့်အမျှ၊ ထိုအစိတ်အပိုင်းများကို သူတို့ အသုံးချတတ်လာပုံတို့မှာ၊ ပမာဆိုသော် မျက်စိကို အသုံးချတတ်လာပုံ၊ ခြေလက်ဦးခေါင်း စသည်တို့ကို အသုံးချတတ်လာပုံတို့မှာ၊ အထူး စိတ်ဝင်စားဖွယ် ကောင်းပေသည်။ မွေးစကလေးသည် မည်သူမျှ သင်မပေးရဘဲနှင့် နို့စို့တတ်၏။ မိခင်သည် သားငယ်ကို ရင်ခွင်၌ပိုက်ကာ နို့ကိုပါးစပ်ထဲသို့ ထည့်ပေးလိုက်သည်နှင့်တပြိုင်





ကစားနည်းဖြင့် လူမှုကိစ္စများကို သင်ကြားပေးလျက် စည်းကမ်းရှိလာအောင်လည်း လေ့ကျင့်ပေးကြရသည်။

နက်၊ ကလေးသည် သူ၏အာဟာရဖြစ်သော နို့ရည်ကို ကောင်းမွန်စွာအားပါးတရစို့တတ်သည်။ တလသားကလေးသည် သူ၏ စက္ခုအကြည်တည်းဟူသော မျက်စိအာရုံကို ခံစားရန်၊အရောင်တောက်ပ၍ ကြီးမားသော အရာဝတ္ထုများကို စူးစိုက်၍ ကြည့်တတ်စပြုလာသည်။နှစ်လလောက်ရှိသောအခါ၊ရွေ့လျားနေသော အရာဝတ္ထုများကို ရွေ့လျားရာဖက်သို့လိုက်၍၊သူ၏မျက်လုံးကလေးနှင့်တကွ ဦးခေါင်းကိုပါ စောင်းငဲ့၍ လှည့်ကာပတ်ကာ ကြည့်တတ်လာ၏။ကလေးသည် သူ့ကိုယ်အင်္ဂါကလေးများကို မည်ကဲ့သို့ အသုံးချရမည်ကို သူ့ဘာသာ တစတစစမ်း၍ သင်နေခြင်းပင်ဖြစ်လေသည်။

ကလေးသည် မွေးခါစ၌ လက်များရှိသော်လည်း ကိုင်ရကောင်းမှန်း မသိပေ။သို့သော် လက်ဖဝါးပေါ်သို့ အရာဝတ္ထုတခုခု ချပေးလိုက်လျှင် လက်ချောင်းကလေးများဖြင့် ဆုပ်ထားတတ်၏။နောက် တဖြည်းဖြည်း သူသည် လက်ကို အသုံးချတတ်လာပြီးလျှင်၊ မျက်စိဖြင့်မြင်နေသော အရာဝတ္ထုများကို သူ့လက်ဖြင့် ဆွဲယူကိုင်တွယ်တတ်လာသည်။ ထိုနောက် ခြေထောက်ကလေးကို မည်ကဲ့သို့လှုပ်ရှားရမည်ကို စမ်းကြည့်ပြန်၏။ငါးလသားကလေးတယောက်ကို ခြေများထောက်နေအောင် ချီထားလျှင်၊သူသည် ခြေများကို တဖက်ပြီးလျှင်တဖက် ရွေ့လျားလှုပ်ကန်ကြည့်တတ်သည်။လူကြီးများလမ်းလျှောက်လျှင် ဗယ်ခြေပြီးမှ ညာခြေလှမ်း၊ညာခြေပြီးမှ ဗယ်ခြေလှမ်းသကဲ့သို့၊ကလေးသည် အစဦးစွာ လှုပ်ရှားကတည်းက ခြေထောက်ကို တဖက်ပြီးမှတဖက် လှဲ၍လှုပ်တတ်၏။တခါတရံ ကန်လေ့ရှိ၏။ခြေထောက်များကို လှုပ်တတ်လာသောအခါ၊ ကိုယ်ကိုလှုပ်ရှားတတ်အောင် တဆင့်တက်၍ လေ့ကျင့်ပြန်၏။သာမန်အားဖြင့် ကလေးသည် ရှစ်လသားသာသာတွင် လေးဖက်တွားစပြုသည်။ အစတွင် ဝမ်းလျားမှောက်ကာ ကြမ်းပြင်ပေါ်၌ အားယူပြီးလျှင်၊အရှေ့သို့ တိုး၍တိုး၍ သွားကြည့်၏။နောက်မှ ကိုယ်ကို ကြမ်းကခွာကာ လေးဖက်ထောက်၍သွားသည်။အချို့ ကလေးများကမူ ဖင်ရွှေ့ကာရွှေ့ကာနှင့်သာ သွားတတ်၏။ဝမ်းလျားထိုးတတ်၊ ထိုင်တတ်၊ လေးဖက်တွားတတ်ပြီးသော် မတ်တတ်ရပ်နိုင်ရန် လေ့ကျင့်ပြန်၏။ မတ်တတ်ရပ်သင်နေသော ကလေးသည် ပဌမတွင် လက်ရန်းကိုဖြစ်စေ၊ကုလားထိုင် စားပွဲ စသော သူတို့မှီတန်သလောက် အားပြုစရာ ပစ္စည်းတခုခုကိုဖြစ်စေ၊လက်ဖြင့် ဖေးမကိုင်တွယ်ယင်း ခြေကို တလှမ်းချင်းစမ်း၍လျှောက်ကြည့်၏။ကလေးသည်သူ့ကိုယ်သူ အတော်ဟန်နိုင်မှသာ လက်လွှတ်ကာ စွန့်စွန့်စားစား အကူအညီမပါဘဲစမ်း၍လျှောက်တော့သည်။ လမ်းလျှောက်စအရွယ်တွင် မိခင်၏ ကြည့်ရှုစောင့်ရှောက်ပြုစုမှု များစွာလို၏။ခြေထောက်များ လမ်းလျှောက်သောအခါ ခွင်မနေအောင်၊ ခြေကို အချက်ကျကျ လှမ်းတတ်အောင်၊ခြေဖည်ယမ်း မဖြစ်ရအောင်၊မိခင်က သွန်သင်ပြုပြင်ပေးသင့်၏။ လမ်းလျှောက်တတ်ပြီးသော ကလေးသည် သူ၏အခက်အခဲများကို ကျော်လွှန်နိုင်ခဲ့ပြီဖြစ်၍၊ဝမ်းသာအားရနှင့် ဟိုမှသည်မှ အမြဲပြေးလွှား၍သာ နေလိုပေသည်။လမ်းလျှောက်တတ်ခဲ့လျှင် ပြေးတတ်ရန် မခဲယဉ်းတော့ပေ။ကိုယ်ခန္ဓာအတွင်းရှိ လှုပ်ရှားမှုဆိုင်ရာ အကြော ကြွက်သား စသည်တို့မှာ ကျင့်သားရသွားပြီဖြစ်သောကြောင့်၊စိတ်အာရုံမစူးစိုက်ရတော့ဘဲ အလိုအလျောက် စံနစ်တကျ လှုပ်ရှားနိုင်လာသည်။ အများအားဖြင့် အခါလည်လျှင် ကလေးသည် ကောင်းစွာ လမ်းလျှောက်တတ်၏။အချို့ကလေးများသည် ၁၄ လ ၁၈ လလောက်မှ ကောင်းစွာ လျှောက်တတ်၏။

ကလေးများသည် နောက်တဆင့်တက်၍ စကားပြောတတ်အောင် အသံထွက်တတ်အောင် ကြိုးစားရပြန်သည်။ ကလေးသည် မွေးလျှင်မွေးခြင်း အသံပြုတတ်သည်။သို့သော် အော်၍ငိုသည်မှအပ၊သူ့မှာ အခြားမည်သို့မျှ အသံထွက်အောင် ပြုလုပ်နိုင်ခြင်း မရှိသေးချေ။တခါတရံ ဝူးဝါးနှင့် အသံပြုတတ်၏။တနှစ်သားလောက် ရှိသွားသောအခါ

သူသည် လူ့လောကသို့ရောက်သည်မှာ အတော်ကြာသွားပြီ ဖြစ်သောကြောင့်၊လူတို့ ပြုသမျှ ပြောသမျှ တို့ကို အာရုံငါးပါးဖြင့် ခံစားရ၍ အတုခိုးလိုစိတ်များ ပေါ်လာ၏။မိခင်နှင့်တကွ ပတ်ဝန်းကျင်ရှိလူများ စကားပြောသံကို သူသည်နေ့စဉ်ကြားနေရရာ၊နားရည်ဝလာသောကြောင့် ထိုကဲ့သို့သော အသံမျိုးကို သူကိုယ်တိုင် 'ထွက်တတ်ချင်လါသည်။သူသည် အသံကို ဖမ်းတတ်လာသောကြောင့်၊သူ့ကို မြှူချော့နေလျှင် ဤအသံသည် သူ့အား ပျော်ရွှင်မှုကို ဖန်တီးပေးကြောင်း သူနားလည်သဖြင့် ပြုံးရွှင်ရယ်မော၏။ ချောက်လှန့်ငေါက်ငန်းလျှင် သူသည် အသံကိုကျက်မိပြီဖြစ်သောကြောင့် မဲ့ရွဲ့ကာ ငိုရန်ပြင်၏။တခါတရံ အကယ်ပင် ငိုသည်။ဤသို့ အသံအကြောင်း ကောင်းစွာ သိတတ်လာသောအရွယ်တွင် ကလေးသည် စကား စတင်၍ပြောရန်ကြိုးစား၏။ကလေးသည် အစပဌမတွင် ရိုးရိုးအာခေါင်သံနှင့် တလုံးချင်းအသံများကိုသာ ပြုတတ်၏။နောက်မှ အဓိပ္ပါယ်မပေါက်သေးသော နှစ်လုံးဆက်၊သုံးလုံးဆက်အသံများကို ပြုတတ်လာသည်။ထို့ပြင် သူ့နား၌ကြားသော အသံမျိုးကို အတုခိုး၍ မပီကလာ ပီကလာနှင့် ပြောတတ်လာသည်။

ကလေးသည် အသံကိုမှန်း၍ တလုံးစနှစ်လုံးစ စမ်းပြောကြည့်ခြင်းဖြစ်၏။ကလေးများသည် အလွန်အတုခိုးကောင်းသည်။လူကြီးက ပြောလိုက်သော အသံကိုမှတ်၍ ထိုအသံကို ထပ်တလဲလဲပြုခြင်းဖြင့် ကလေးသည် စကားလုံးများကို ပြောတတ်လာသည်။ စကား မတတ်တတတ် အရွယ်တွင် ကလေးသည် သူအလိုရှိသော ပစ္စည်းများကို ရယူလို၍ဖြစ်စေ၊သူပြုခဲ့ပြီးသော အမူအရာတို့ကို ပြလို၍ဖြစ်စေ၊ အိုးတိုး အတ နှင့် စကား ပြောလေ့ရှိ၏။ အသက် တဖြည်းဖြည်း ကြီးလာသောအခါ၊ကလေးသည် အရာဝတ္ထုများတွင် အမည်အသီးသီးရှိသည်ကို ရိပ်မိလာသဖြင့် ဒါဘာလဲ၊ ဟိုဟာဘာလဲ စသည်ဖြင့် မေးစမ်းတတ်လာ၏။ ဤနည်းဖြင့် နှစ်ခါလည်လောက်တွင် ကလေးသည် စကားကို နှစ်လုံးဆက် သုံးလုံးဆက် ပြောတတ်လာကာ၊သုံးနှစ်ခွဲလောက်တွင် ကောင်းကောင်း စကားတတ်လာ၍၊လွယ်ကူသည့် စကားလုံးများဖြင့် သူလိုချင် ပြောချင်သမျှကို မေးတတ်လာသည်။ ၃ နှစ်နှင့် ၄ နှစ်ကြား ကလေးများသည် အလွန်စကားတတ်လွယ်၍၊ထိုအရွယ်၌ သင်ပေးသမျှ ကြားသမျှ ဝေါဟာရ စကားလုံးများ ကိုလည်း သူနားလည်လွယ်၏။ ၅ နှစ်သားအရွယ် ကျောင်းပို့ချိန်သို့ ရောက်သောအခါ၊ကလေးမှာ အတိုင်းထက်အလွန် စကားကြွယ်နေပြီဖြစ်သည်။

စကားတတ်လာသောကလေး၏ အသိဉာဏ်အခြေသည် တဖြည်းဖြည်း တိုးတက်လာ၏။ အထူးသဖြင့် အသက် ၅ နှစ်မှ ၁၆ နှစ်အထိ အချိန်အတွင်းတွင်သာ ကလေးများ၏ အသိဉာဏ်သည် တိုးတက်ဖွံ့ဖြိုးသည်။ ထိုအသက်မှ ကျော်လွန်သွားသော် ကိုယ်ကာယ ဖွံ့ဖြိုးခြင်း ဖြည်းနှေးသွားသကဲ့သို့၊အသိဉာဏ် တိုးတက်မှုသည်လည်း နှေးကန်သွား၏။ သို့သော် ဗဟုသုတ၊ အလိမ်မာ၊ စဉ်းစားဆင်ခြင်မှု စသည်တို့ကား တိုးတက်လာသည်။

## စိတ်တိုးတက်ရင့်သန်လာပုံ

နို့စို့အရွယ်ကလေးသည် သူ၏ကိုယ်မှလွဲလျှင် ပတ်ဝန်းကျင် လောက ကို အနည်းငယ်မျှ စိတ်မဝင်စားသောကြောင့်၊သူ့ကိုယ်ကိုပင်သူ အမျိုးမျိုး လှုပ်ရှားကစားနေတတ်၏။ လက်ကလေးများဖြင့် ခေါင်းကုတ်ခြင်း၊နဖူးကိုခြစ်ခြင်း၊ခြေမဖျားကလေးကို ပါးစပ်ထဲသို့ ထိုးသွင်းခြင်းစသည်ဖြင့်၊သူ့ကိုယ်ခန္ဓာ အစိတ်အပိုင်းကိုသာ သူအသုံးချ၍ စိတ်ပျော်ရွှင်မှုကို ဖန်တီးရ၏။အနည်းငယ် ကြီးပြင်းလာသော် သူ့စိတ်သည် ပတ်ဝန်းကျင်သို့ အာရုံပြောင်းသွားသောကြောင့်၊သူ့အနီးအနားရှိ အရာဝတ္ထုတို့ကို ကိုင်တွယ်ကြည့်ခြင်း၊သူမမြင်ဘူးသေးသူများကို စူးစူးစိုက်စိုက် စိတ်ဝင်စားစွာ ကြည့်ခြင်း၊မြင်သမျှအရာများကို စပ်စပ်စုစု မေးမြန်းခြင်းစသည်တို့တွင်စိတ်ထက်သန်လာ၏။ ၄ နှစ် ၅ နှစ်သား ကလေး၏စိတ်တွင် ကိုယ်နှင့်သက်ဆိုင်သည်ဖြစ်စေ၊



ကစားစရာများဖြင့် စိတ်ကူးယဉ်နေကြသော ကလေးတစု

မသက်ဆိုင်သည်ဖြစ်စေ၊ အလွန်သိချင်သော အာသာများရှိနေတတ်သည်။

ဤအရွယ်၌ ကလေးများသည် သူတို့အလိုမပြည့်မခြင်း လူကြီးများကိုနားပူနားဆာပြုကာ မေးမြန်းတတ်၏။ကစားစရာ မီးရထားတွဲ ဖြစ်စေ၊မော်တော်ကား ဖြစ်စေ၊ဝယ်ပေးထားသော် သူတို့၏ သိချင်သောစိတ်ဇောကြောင့် ထိုပစ္စည်း



ကင်းထောက်ကဲ့သို့သော ဝန်ထမ်းအဖွဲ့များတွင် ပါဝင်စေခြင်းအားဖြင့် လူငယ်တို့၏စိတ်ဓါတ်ကို မြင့်မြတ်ရင့်သန်စေသည်။

ကလေးများကို ဖျက်ဆီးပစ်တတ်၏။တခါတရံ ကစားစရာအစအနများကို ကောက်ယူ၍ သူတို့ကိုယ်တိုင် အိမ်ကလေးသဖွယ် ဆောက်လုပ်ခြင်း၊ သင်္ဘောသဖွယ်ပြု၍ ရေစီးကြောင်းများ၌ မျှောကာကစားခြင်း စသည်ဖြင့်၊ပတ်ဝန်းကျင်တွင် မြင်ဘူးသည့် အရာများနှင့် မတူ တူအောင် သရုပ်ဆောင်၍ ကစားလေ့ရှိသည်။ဤအရွယ် ကလေးများ၏စိတ်၌ သဏ္ဍာန်လုပ် သရုပ်ပေါ်လွယ်၏။မဟုတ်မဟတ်ကိုတကယ်ထင်တတ်၏။ တခါတရံ မြင်းစီးလာသူကိုတွေ့က၊ အိမ်၌ရှိသော တံမြက်စည်းကို ခွစီးကာ ခုန်ပေါက်ပြေးလွှားခြင်းဖြင့်၊သူတို့ကိုယ်သူတို့ တကယ် မြင်းကြီးစီးနေရသကဲ့သို့ စိတ်ထဲ၌ အလွန်ကျေနပ်နေတတ်သည်။ တယောက်နှင့်တယောက် ခါးကိုဖက်၍ မီးရထားတွဲသဖွယ် စီတန်းဆွဲသွားရလျှင် အကယ်ပင် မီးရထားတွဲဟု စိတ်ထဲ၌ ထင်တတ်ကြ၏။ ထို့ကြောင့် သူတို့ကို ဒဏ္ဍာရီပုံပြင်များ ပြောပြသောအခါ၊ သူတို့စိတ်ထဲ၌ ပုံထဲတွင်ပါသော အဖြစ်အပျက်များကို တကယ့်အဖြစ်အပျက်များဟု ထင်နေတတ်ပြီးလျှင်၊ထိုပုံကို သဘောကျကာ ထပ်တလဲလဲသာ ကြားလိုကြ၏။

ဤအရွယ်သည် အလွန်အတုခိုးတတ်သော အရွယ်ဖြစ်၏။ လူကြီးများ ပြုမူလုပ်ကိုင်သည်ကိုကြည့်၍၊ သူတို့ကလေးအချင်းချင်း လူကြီးများလုပ်သကဲ့သို့ အတုခိုးကာ လုပ်တတ်ကြ၏။ကစားစရာ ပစ္စည်းကလေးများကို စက္ကူကတ်ပြားများဖြင့် လုပ်ပြသော်၊သူတို့၏ ထက်မြက်သော ဉာဏ်စွမ်းဖြင့် အတုယူကာ မတူ တူအောင် လိုက်လုပ်နိုင်ကြ၏။ အသက် ၆ နှစ်မှ ၁၀ နှစ် ၁၁ နှစ်ကြားရှိ ကလေးများ၏ အာရုံငါးပါးသည် အလွန်ထက်သန်နေသောကြောင့်၊သူတို့သည် လူကြီးများထက် ကွဲပြားစွာ မြင်တတ်၏။နားဖြင့် အသံကို ခွဲခြားတတ်လာ၏။ နှာခေါင်း၊ လျှာ၊ ကိုယ် အတွေ့ စသည်တို့၌လည်း အာရုံကို ကောင်းစွာ ခံစားတတ်လာသည်။စိတ်၏လှုပ်ရှားမှုများ ဤအသက်အရွယ်တွင် ပေါ်လာတတ်၏။ကျောင်းသို့ရောက်ပြီ ဖြစ်သောကြောင့်၊သူတို့သည် ငယ်ရွယ်စဉ်ကကဲ့သို့ မိဖ နားကပ်၍ ပွတ်သီးပွတ်သတ် မနေလိုတော့ချေ။သူငယ်ချင်း အပေါင်းအဖေါ်များနှင့်သာ ကစား နေလို၏။ပြိုင်ဆိုင်လိုစိတ်၊အတုခိုးလိုစိတ်များ ဖြစ်ပေါ်လာ၏။ မိမိကိုယ်တိုင် လုပ်ထားသော အရာများကို ပြစားလိုစိတ်ရှိလာပြီးလျှင် ကိုယ့်ကိုယ်ကို အားကိုးယုံကြည်တတ်လာသည်။သူတို့ကို ချီးမွမ်းလိုက်လျှင် အလွန်ကျေနပ်၍၊ဆတက်ထမ်းပိုး တိုး၍ ကောင်းအောင်လုပ်တတ်၏။သူတို့ကို ချောက်လှန့်လျှင်လည်း ကြောက်ရွံ့တတ်သည်။ ထို့ကြောင့် ဤအရွယ်ကလေးများကို လိမ်မာရေးခြားရှိလာအောင်၊အခါအားလျော်စွာ ကြိမ်ပြ၍ ချောက်တန်ချောက်၊ ဆုပြ၍ မြှောက်တန်မြှောက်ရသည်။

ကလေးတို့၏ မှတ်ဉာဏ်အကောင်းဆုံးအရွယ်သည် ၆ နှစ်မှ ၁၄ နှစ်ကြားဖြစ်၍၊ သူတို့၏ တသက်တာတွင် အသုံးကျမည့် ပညာရပ်များကို ထိုအချိန်အတွင်း အားတိုက်ခွန်တိုက် သင်ကြားပေးနိုင်ပေသည်။သူတို့ဦးနှောက်သည် မည်သည်ကိုမဆို ကာလကြာအောင် မှတ်မိနိုင်သည်။အသက်ကြီးလာသည့်အခါ ထိုစွမ်းရည်သည် နည်းပါးသွားတတ်၏။ ၅ နှစ်သားအရွယ်က ဒဏ္ဍာရီပုံပြင်များကို နှစ်သက်ယုံကြည်သလောက် ယခုအရွယ်တွင် ထိုပုံပြင်များကို မနှစ်ခြိုက်တော့ချေ။ သူတို့၌ စဉ်းစားဉာဏ်ကလေး ဝင်လာပြီ ဖြစ်သော

ကြောင့် ပြောတိုင်း မယုံတော့ချေ။တကယ့် အဖြစ်အပျက်များကိုသာ ကြားလိုကြ၏။တကယ် အသုံးချနိုင်သည့် အရာဝတ္ထုပစ္စည်းများကိုသာ ကိုင်တွယ်လို၏။မည်သည်ကိုမဆို လေ့ကျင့်လိုက်လျှင် အလွန် ရလွယ် မှတ်မိလွယ်သော အချိန်ဖြစ်သဖြင့်၊ ဤအရွယ်တွင် အကျင့်ကောင်းများ စွဲသွားအောင် ပြုပြင်သွန်သင်ပေးရန် အထူးပင် လိုအပ်သည်။မုဆိုးနားနီး မုဆိုး၊တံငါနားနီး တံငါ ဆိုသကဲ့သို့ သူတို့ကို လူလိမ္မာကလေးများ လူရည်ချွန်ကလေးများ ဖြစ်လာနိုင်စေရန် ပတ်ဝန်းကျင် အခြေအနေကောင်းများနှင့် နီးစပ်အောင် ဖန်တီးပေးရပေမည်။သူတို့၏စိတ်သည် နုနယ်နေ၍ ပြောင်းလဲလွယ်သဖြင့် ဆွယ်သည့်ဖက်ကို ပါနိုင်လေရာ၊ကောင်းရာလမ်းကိုဆွယ်ရန် ကြိုးစားရမည်။ဥဒါဟရဏ်၊ သူတို့သည် အသင်းအပင်းဖွဲ့၍ မိတ်ဆွေများနှင့် အတူသွား အတူလာ နေလိုသောစိတ် ရှိတတ်သဖြင့်၊ ကျောင်းနေစဉ်ကပင် ကင်းထောက်အဖွဲ့၊ကင်းထောက်မယ်အဖွဲ့တို့ကို စံနစ်တကျဖွဲ့စည်းပေးခဲ့ပါမူ၊နောင် ကြီးပြင်းသောအခါ၊အသင်းအပင်း သမဝါယမလုပ်ငန်း စသည်တို့၌ ဝါသနာပါသွားပေမည်။

**ကလေးချော့ကဗျာများ။မြန်မာ။** ။မြန်မာကလေးချော့ကဗျာများ — ရှု။

# ကလေးတို့၏မိတ်ဆွေကောင်းများ



ကလေးများသည် ပုံတိုပတ်စများကိုကြားရလျှင် အလွန်စိတ်ကျေနပ်၍ စိတ်ကူး ယဉ်တတ်ကြ၏။ လူမျိုးတိုင်းတွင် စာဖတ်တတ်သော အရွယ် ကလေးများအတွက် စိတ်ဝင်စားဖွယ်စာအုပ် များစွာရှိရာ ကလေးစာပေနယ်သည် မကျဉ်းလှပေ။

**ကလေးစာပေ။** ။ဥရောပတိုက်တွင် ပုံနှိပ်စက်မပေါ်မီ က ပင် ကလေး သူငယ်များ အဖို့ စာအုပ် စာတမ်း များ ရှိခဲ့သည်။အဲလဖရစ်နှင့်အဲလကွင်တို့၏ ဂျက်စတာ ရိုမန်နိုးရမ်ခေါ် စကားထာများ၊ သင်ခဏ်းစာများ၊ အီဆွပ်၏ဒဏ္ဍာရီ ပုံပြင်များ စသည်တို့ကို အသက်အနည်းငယ်ကြီးသော ကလေးများ ဖတ်ရှုကြလေသည်။ထိုစာအုပ်များမှာ အထက်တန်းကျလှသော စာကြီးပေကြီးများ မဟုတ်စေကာမူ ယင်းတို့ကိုဖတ်ရှုသဖြင့် ကလေးများသည် လူ့အကြောင်း လူ့လောက သမိုင်းများကို ဆားမြဲနိုင်လေသည်။ထိုနောက်တွင် ပေါ်ပေါက်ခဲ့သော ဂျွန်ဗန်ညင်၏ ‘ယောကျ်ားကလေးများနှင့် မိန်းကလေးများအဖို့စာအုပ်’ နှင့် ‘ကလေးများအဖို့ တောရွာဘွဲ့တေးကဗျာများ’ သည် ကလေးများကို သဘာဝနှင့် မိတ်ဆက်ပေးသည့်ပြင်၊ ကောင်းမြတ်သော ကိုယ်ကျင့်တရားများ ကိုလည်း မျိုးစေ့ချ ပေး လေ သည်။ က လေး



ရွှေလမှာယုန်ဝပ်လို့ ဆန်ဖွတ်သည့်အဖိုးအို

သူငယ်များသည် ယောကျ်ားကလေးဖြစ်စေ၊မိန်းကလေးဖြစ်စေ၊ကဗျာလင်္ကာများကို ရိုးရိုးစကားပြေများထက် ပို၍နှစ်သက်ကြ၏။ ထိုကြောင့် ကလေးတို့ အကြိုက် စရိုက်ကိုလိုက်၍ မိခင်များသည် သားငယ်သမီးငယ်များကို ချော့မြူသည့်အခါ၊ ထွေရာလေးပါး စကားများဖြင့်မဟုတ်ဘဲကလေးချော့ကဗျာများ သီချင်းဂီတများဖြင့်သာ ချော့မြူကာ အိပ်ဆေးကိုပေးလေ့ရှိသည်။စာရေးဆရာများသည်လည်း ကလေးတို့အတွက် စာစပ်မည် ရေးမည်ဟု ရည်ရွယ်လိုက်သည့်အခါ၊သူတို့ကိုယ်တိုင် ကလေးများနှင့်အတူ ရောနှောပျော်ရွှင်နေသကဲ့သို့ စိတ်ကူးပြီးမှ၊ တိရစ္ဆာန် ကျေးငှက်ကလေးများအကြောင်း၊ သစ်ပင် ရေမြေ တောတောင် အာကာသ စသည့် ဩကာသလောကကြီး အကြောင်းတို့ကို ကလေးတို့ ဉာဏ်အမြင်မှီနိုင်သလောက် မျက်စိထဲတွင် ပေါ်လာအောင် သုတိသံ သာသာဖြင့် ရေးစပ်လေ့ရှိ၏။

ရှေးရိုးပုံပြင်များမှာ ကလေးစာပေပေါက်ဖွားရာ အရင်းမူလဖြစ်သည်ဟု ဆိုနိုင်ပေသည်။ ယင်းတို့မှာလည်း ရှေးလူကြီးများ ပြောကြားလေ့ရှိသော လေက်မပုံ၊မောင်အကြီးပုံ၊ ရွှေယုန် နှင့် ရွှေကျား သက် ငယ်ရိတ်သွား၊ကြက်မကြီးနှင့်ကြက်ကလေး၊စင်ဒါရဲလား (စန္ဒမာလာ)၊ စနိုးဝှိုက်နှင့်လူပုခုနစ်ပေါ် စသည်တို့ဖြစ်၏။ဤပုံကလေးများမှာ ဘယ်သောအခါမျှ မရိုးနိုင်ဘဲ ရှိသည့်ပြင်၊ငယ်ရွယ်သော ကလေးသူငယ်များအဖို့မှတ်သား အတုယူနိုင်သည့် သင်ခန်းစာများလည်းပါဝင်သည်။ကဗျာများမှာလည်း ကလေးစာပေတွင် အကျုံးဝင်လျက် ရှိ၍၊ ယင်းတို့မှာ ဖိုးလမင်း၊ ကြောင် နှင့် ကြွက်၊ ကြောင်ကြီး မြီး တံတို၊ ဝါဆိုဝါ ခေါင်၊ဥပုသ်စောင့်၊ ပြက္ခဒိန်၊ တောက်တဲ့ အစရှိသည်တို့ ဖြစ်၏။အင်္ဂလိပ်စာပေတွင်ကားကလေးကဗျာ များစွာရှိလေရာ ‘ဂူစီ ဂူစီ ဂင်ဒါ၊’ ‘ခြောက်ပဲနီသီချင်း၊’ ‘ဂျက်ဟော်နာကလေး’ ‘မျက်မမြင်ကြွက်ကလေးသုံးကောင်’ စသော ကဗျာကလေးများမှာ ကလေးတို့ နှုတ်ဖျားတွင်သီးနေသော ကဗျာများဖြစ်ပေသည်။

သိမှတ်ဖွယ်ရာအဖြာဖြာဟူသော စာအုပ်ကလေးများမှာ ကလေးသူငယ် များအဖို့ မိတ်ကောင်းဆွေကောင်းများနှင့် တူလေသည်။မိတ်ဆွေသူငယ်ချင်းတို့သည် မိမိတို့အချင်းချင်း မိမိတို့နှင့်နီးစပ်ရာ အကြောင်းအရာများ အားလုံးကို ဖေါက်သည်ချသဖြင့် သိရှိနိုင်သကဲ့သို့၊စာအုပ်များထဲ၌ ရေးသားထားသော ထူးခြားသည့် အကြောင်းအရာများ၊နှယ်ဥ် ဆန်းသစ်သည့် အတွေးအခေါ်များ၊အဖိုးတန် အကြံဉာဏ်များကို တဆင့်တဆင့် ရရှိသဖြင့်ဗဟုသုတ ကျယ်ပြန့်လာနိုင်ပေသည်။ ကလေးသူငယ်များ၏ ပင်ကိုယ်အသိဉာဏ်ကို ထိုထို စာအုပ်ကလေးများမှ အကြောင်းအရာတို့က ထပ်လောင်း၍ ပိုမိုထက်သန်အောင် ပြုပြင်ပေးသည်။လောကကြီးအကြောင်းကို ကိုယ်တွေ့ မဆည်းပူးနိုင်သေးမီ ကလေးများသည် စာတွေ့ဖြင့် ကောင်းကောင်း သိနားလည်လာနိုင်သည်။ကလေးတယောက်စီ တယောက်စီ၌ အကြိုက်တမျိုးစီရှိကြ၏။အချို့ကလေးက သဘာဝဆန်သော ပုံပြင်ကဗျာများကိုကြိုက်၍ အချို့က ရဲရင့်သည့် အဖြစ်သနစ်မျိုးကို ဖေါ်ပြသောပုံများ သို့မဟုတ် သူရဲကောင်းများအကြောင်းကို ကြိုက်ပြီးလျှင်၊ အချို့ကလည်း တစ္ဆေသူရဲစသည်တို့



ဟော ကြည့် ပါ ဆို။ - - - -



စနိုးဝှိုက်ခင်နှင်းဖြူ လူပုကလေးခုနစ်ယောက်အား နှုတ်ဆက်နေခြင်း

ပါဝင်သော ထိတ်လန့်စရာ အံ့သြဖွယ်ရာ ပုံမျိုးကို ကြိုက်လေသည်။ စာအုပ်များမှာလည်း သူတို့အကြိုက်ကိုလိုက်၍ အမျိုးမျိုး အဖုံဖုံ ရေးသားထား၏။ ကလေးတို့၏စိတ်ဓါတ်ကို ဆွဲဆောင်သော စာအုပ်များမှာ များသောအားဖြင့် ဒဏ္ဍာရီပုံပြင်များ၊ ထုံးဟောင်းပုံပြင်များနှင့် ရှေးရိုးပုံပြင်များ ဖြစ်လေသည်။ ပသီပုံပြင်များမှာ နာမည်ကြီးသလောက်လည်း စာဖတ်သူများကို ဆွဲဆောင်နိုင်လေသည်။ ယင်းတို့ကိုဖတ်လိုက်လျှင် စာဖတ်သူကိုယ်တိုင် ဆန်းကြယ်လှသည့် တတိုင်းတနိုင်ငံသို့ ရောက်နေဘိသကဲ့သို့ စိတ်တွင် ထင်မြင်လာတတ်၏။

ရောမနှင့်ဂရိတို့၏ ထုံးဟောင်းပုံပြင်များတွင် အိုလင်းပတ်တောင်ထက်၌ စံမြန်းသော ဇုနတ်မင်းနှင့်တကွ နတ်သားနတ်သမီးများ၏ ဘဝစခန်းကို ဆန်းပြား ဖွေ့နွဲ့ စာမွန်ရည်ဖြင့် တင်ဆက်ထားလေရာ၊ဖတ်ရသူ၏စိတ်တွင် သာဓိနမင်းကြီးကို တာဝတိံသာမှ သိကြားမင်းက နတ်ရထားဖြင့် ပင့်သွား၍ နတ်လောကကို လှည့်လည် ပြနေဘိသကဲ့သို့ ထင်ရလေသည်။ ဤဂရိထုံးဟောင်းပုံပြင်များတွင် ပါဝင်သော နတ်သားနတ်သမီးများအကြောင်းကို ကလေးများ အလွန်နှစ်သက်ကြ၏။ ကလေးအရွယ်သည် မည်သည်ကိုမဆို ပြောလျှင် ယုံလွယ် မှတ်လွယ် အာရုံစိုက်လွယ်သော အရွယ်ဖြစ်၍ ဒဏ္ဍာရီပုံပြင်များကိုပင် အဟုတ်ထင်ကာ ဖတ်ချင်သောငါသနာ၊ နားထောင်ချင်သောဆန္ဒများ တဖွားဖွား တက်ကြွလာတတ်သည်။

ဝတ္ထုများတွင်လည်း ကလေးများအတွက် 'တွမ်ဗရောင်း၏ ကျောင်းသားဘဝ'၊ 'ဟပ်ကယ်ဗဲရီဖင်း၏ စွန့်စားခန်းများ'၊ 'ရော်ဗင်ဆန်ကရူးဆိုး'၊ 'ဂါလီဗါ၏ခရီးစဉ်'၊ 'အေမီနှင့်ကလေးစုံထောက်များ' စသော ဝတ္ထုများအပြင်၊ 'ဝမ်းဘဲကလေးပီတာ' စသော လွယ်ကူသည့် ပုံတိုကလေးများ အများအပြား ရှိပေသည်။ ဤပုံတိုကလေးများမှာ ကလေးများ နားလည်နိုင်သည့် စကားလုံးများနှင့် ရေးထား၍ ပုံနှင့်ဆီလျော်သော အရုပ်များကို ဆေးရောင်စုံဖြင့် ပုံနှိပ်ထားရာ၊ ရုပါရုံဗန်းပြပြီးလျှင် ကလေးများ၏စိတ်ကို ဆွဲဆောင်ထားလေသည်။ ကလေးအရွယ်သည်အရုပ်နှင့်အပေါ်လုပ်ကာ ပျော်ရသောအရွယ် ဖြစ်သည့်အတိုင်း၊ အရုပ်ဆိုလျှင် မကြည့်ရ မနေနိုင်၊မကိုင်ရ မနေတတ်အောင် စွဲစွဲလမ်းလမ်း အာသာရှိတတ်ရကား၊သူတို့နှစ်သက်သည့် အရုပ်ကားများကို ပုံပြင်ကဗျာတို့၏ အဓိပ္ပါယ်ပေါ်မူနှင့် ကလေးစိတ်ကြိုက်အတွက်စာအုပ်များ၌ထည့်သွင်းပေးရလေသည်။

ကလေးများအား သူတို့၏ အမျိုးသား သမိုင်းကို နားလည် ထားနှင့်စေရန် ကလေးများအတွက် သမိုင်းပုံပြင်စာအုပ်များလည်း ရှိပေသေးသည်။ ယင်းစာအုပ်များကို ပုံဝတ္ထုသဘော သို့မဟုတ် ပြဇာတ်သဘောဖြင့် ရေးသားထားတတ်ကြသည်။ ပမာအားဖြင့် မြန်မာနိုင်ငံသမိုင်းကို အနည်းငယ် သိထားစေရန်အတွက် ကျန်စစ်သား၊နော်ရထာမင်းစော၊နတ်သျှင်နောင် စသည်တို့၏ အကြောင်းများကို ပုံဝတ္ထုသဖွယ် လွယ်ကူရှင်းလင်းသည့် စကားလုံးတို့ဖြင့် ရေးသားထားလေသည်။ ထို့ပြင် မထီးတူမ သမ္ဘုလပြဇာတ်၊ ဝက်ဝံမင်းသားပြဇာတ် စသော ကိုယ်ဟန်လက်ဟန် အမူအရာနှင့် ပြောပြနိုင်သည့်၊ တနည်းလည်း ကလေးများကိုယ်တိုင် ဇာတ်ကောင်များအနေနှင့် ပါဝင်၍ သဏ္ဍာန်လုပ် သရုပ်ဖေါ် ကပြနိုင်သည့် ပြဇာတ်စာအုပ်များလည်း ရှိလေသည်။

ကလေးများကို ဖျော်ဖြေရန် အင်္ဂလန်ပြည်၌ ကလေး



ရော်ဗင်ဆန်ကရူးဆိုးနှင့် သူ၏တပည့်ကျော် ဖိုးသောကြာ

စာ အုပ်များကို ၁၇၄၄ ခုနှစ်တွင် အဦးဆုံး ထုတ်ဝေခဲ့သူမှာ ဂျွန်နျူးဗဲရီဆိုသူ ဖြစ်၏။သို့သော် ဥရောပတိုက်တွင် ဒဏ္ဍာရီပုံပြင်များကို ၁၆၉၇ ခုနှစ်၌ အဦးဆုံးရေးသား၍ထုတ်ဝေခဲ့သူမှာ ပြင်သစ်နိုင်ငံမှ ချားပဲရိုးဆိုသူ ဖြစ်သည်။သူသည် ပြင်သစ်ဘုရင် ၁၄ ဆက်မြောက်လူဝီ လက်ထက်တွင် လူကြိုက်များသော ဒဏ္ဍာရီပုံပြင်များကို ရေးသားထုတ်ဝေခဲ့သည်။သူ၏ စင်ဒါရဲလား (စန္ဒမာလာ)၊ မုတ်ဆိတ်ပြာနှင့် ဖိနပ်ကြီးနှင့် ကြောင်ကလေး စသောပုံတိုကလေးများကို ပြင်သစ်ဘာသာမှ အင်္ဂလိပ် ဘာသာသို့ ပြန်ဆိုခဲ့လေရာ၊ အင်္ဂလိပ်စာတတ် ကလေးများပင် ပြင်သစ်ကလေးများနည်းတူ ထိုပုံပြင်များကို အသည်းစွဲ ဖြစ်နေကြ၏။ယင်းတို့ကို မြန်မာဘာသာသို့လည်း ပြန်ဆိုထားပြီးဖြစ်ရာ၊မကြာမီအတွင်း မြန်မာ့ကလေးစာပေ မြှင့်တင်ရေးအတွက် ပုံပြင်များ၊ကဗျာများ၊ပြဇာတ်များ၊အမြောက်အမြား ပေါ်ထွက်လာဖွယ်ရာအကြောင်း ရှိပေသည်။

ကလေးများ၏ စာရိတ္တဗလ ကောင်းမွန်စေရန် အခြေခံသော ပုံကလေးများကို နာမည်ကျော် ကလေးပုံပြောဆရာမ မရီယာ အက်ဂျဝပ် က အများအပြားရေးသားထုတ်ဝေခဲ့သည်။ သူ၏မိတ်ဆွေ သောမတ်ဒေးသည် ရူးဆိုး၏ သဘောတရားများ ကို မှီငြမ်းပြု၍ ကလေးပုံပြင် စာအုပ်များကို ကြိုးကြိုးပမ်းပမ်း ရေးသားထုတ်ဝေခဲ့၏။ 'ဆင်းဖို့နှင့်မားတန်' အမည်ရှိ ကလေးများအဖို့ပုံပြင်မှာ သောမတ်၏ အကောင်းဆုံးလက်ရာဖြစ်၍ ထင်ရှားလှပေသည်။ သောမတ်သည် ကလေးများအဖို့ ပျော်တော်ဆက် စာအုပ် များရေးရာ၌၎င်း၊ သနားစရာကောင်းသည့် ပုံပြင်များရေးရာ၌၎င်း၊ ထူးချွန်သူ ဖြစ်လေသည်။ သောမတ်ကဲ့သို့ ပါရမီအထုံပါလာသော ကလေးကဗျာ စာရေးဆရာများမှာ အန်းနှင့်ဂျိန်းတေလာ ညီအစ်မတို့ဖြစ်၏။ သူတို့၏ လက်ရာဖြစ်သည့် 'မှိတ်တုတ် မှိတ်တုတ် ငယ်သောကြယ်' ဟူသော ကဗျာကလေးတပုဒ်တည်းနှင့်ပင် သူတို့၏ကဗျာစွမ်းရည်ကို ကောင်းစွာ ချိန်ဆနိုင်ပေသည်။

ရှေးရှေးတုန်းက ရှေ့ယုန်နှင့်ရှေ့ကျား သက်ငယ်ရိတ်သွားကြရာဝယ်



# နက်ဖြန် နိုင်ငံဝန်ကို ထမ်းရွက်ကြမည့်သူများ

**ကမ္ဘာအရပ်ရပ်၌ ယခင်က ကလေးသူငယ်တို့၏ အနာဂတ်အရေးကို ဂရုမစိုက်ခဲ့ကြသဖြင့် ယင်းတို့၏အခြေအနေမှာ လွန်စွာ နိမ့်ကျခဲ့၏။ ယခုမူ ယဉ်ကျေးသော နိုင်ငံတိုင်းမှာပင် ကလေးသူငယ်တို့၏ သက်သာချောင်ချိရေး ကြီးပွားတိုးတက်ရေး တို့အတွက် အဖက်ဖက်မှ ဆောင်ရွက်နေကြပေပြီ။**

**ကလေးများ။** ။ယနေ့ ကလေးသူငယ်များ ကား နက်ဖြန် နိုင်ငံဝန်ကို သက်ဆိုင်ရာဖက်မှ ထမ်းရွက်ကြရမည့်ပြည်သူပြည်သားများ ဖြစ်ကြသည့်အားလျော်စွာ၊ ကျရောက်ရာတာဝန်တို့ကို ကျေပြွန်အောင် ဆောင်ရွက်နိုင်ရေးအတွက် ကလေးအရွယ် လူမမယ်ဘဝကပင်လျှင် ကြိုတင်၍ လေ့လာသင်ကြားမှုများမှာ၊ ယင်းတို့မှီတင်းနေထိုင်ရာ နိုင်ငံဒေသအလိုက် ကွဲပြားခြားနား၍ နေကြပေသည်။



မြန်မာ့နည်းကျကျ ဆံပင်ကိုပုံပြင်ထားသည့် လုံမငယ်

မြန်မာနိုင်ငံသည် ပင်ကိုယ်အားဖြင့် လယ်ယာလုပ်ငန်းထွန်းကားသော နိုင်ငံဖြစ်၏။ သို့အားလျော်စွာ တောင်ကုန်းတောင်တန်းနှင့် တကွလွင်ပြင်ဒေသတို့၌ မှီတင်းနေထိုင်ကြသော တိုင်းရင်းသားအပေါင်းတို့သည် တောင်သူလယ်သမားများအဖြစ်ဖြင့် အသက်မွေးဝမ်းကျောင်းကြသည်ကများလေသည်။ မြန်မာနိုင်ငံရှိ များစွာသော ကလေးသူငယ်တို့မှာ တောင်သူလယ်သမား သားသမီးများ ဖြစ်ကြသည့်အလျောက်၊ ကျောင်းအားချိန် သို့မဟုတ် ကျောင်းမှထွက်သည့်အခါတို့၌ မြက်ရိတ်နွားကျောင်း၊ ကျေးလှန့်စာချောက်၊ဆန်ဖွပ်မောင်းထောင်း၊ဖျာရက်ဗိုင်းငင်၊ ဆေးလိပ်လိပ် ရက်ကန်းရက် စသော အလုပ်များတွင် လူကြီးမိဖများအား ကူညီဝိုင်းဝန်းကာ လုပ်ကိုင်ကြရလေသည်။

အိန္ဒိယနိုင်ငံတွင် ရှေးခေတ်အခါများက အရွယ်မရောက်သေးသော ကလေးများကို လက်ထပ်ထိမ်းမြားပေးသည့် အလေ့အထရှိခဲ့၏။ ၁၀ နှစ် ၁၁ နှစ်အရွယ်ရောက်လျှင် မိန်းကလေးများကို အိမ်ထောင်ချထားသောထုံးစံမှာ ၁၉၃၀ ပြည့်နှစ်တိုင်အောင်ရှိခဲ့၏။ ထိုနောက်တွင်မူ ၁၈ နှစ်အောက် ယောကျ်ားကလေးနှင့် ၁၄ နှစ်အောက် မိန်းကလေးတို့ကို အိမ်ထောင်မချထားရန် ဥပဒေဖြင့် တားမြစ်ခဲ့လေသည်။ အိန္ဒိယနိုင်ငံ လက်ဖက်စိုက်ရာဒေသတို့နှင့် သီဟိုဠ်ကျွန်း၌ကလေးသူငယ်တို့သည် လက်ဖက်ခူးသည့်အလုပ်တွင် သူတို့၏ မိခင်များအား ကူညီလုပ်ကိုင်ကြရ၏။ နဖူးသိုင်းကြိုးနှင့် ထိန်းထားသော လေးလံသည့် လက်ဖက်ပိုတို့ကို ကျောပေါ်တွင် မနိုင့်တနိုင် သယ်ပိုးနေကြရသော ကလေးများကို ထိုဒေသတို့တွင် အများအပြား တွေ့ရှိနိုင်လေသည်။

ဂျပန်နိုင်ငံတွင်သတ္တုတွင်းနှင့် စက်ရုံများ၌ မိန်းမလုပ်သားနှင့် ကလေးလုပ်သား အမြောက်အမြားရှိကြရာ၊လုပ်သားများစွာတို့မှာ မြေအောက်အလုပ်ခွင်တို့တွင် ဝင်ရောက်လုပ်ကိုင်ကြရလေသည်။ ဆင်းရဲသားလူတန်းစားတို့၏ သားသမီးများကား၊ မိမိတို့၏ ပဓါန အစာ ဖြစ်သော ဆန်စပါးကိုဖျက်ဆီးစားသောက်တတ်ကြသည့် ပိုးကောင်များ၏ ဥကလေးများကို ရှာဖွေသုတ်သင်သောအလုပ်တွင် ကူညီလုပ်ကိုင်ကြရသည်။ ဗိုင်းငင်သော အလုပ်သည် အိမ်သူ့ဗါဟိရအလုပ်တွင် အကျုံးဝင်သည့်အလျောက်၊ မိန်းကလေးများသည် ထိုအလုပ်ကို ငယ်စဉ်ကပင်လုပ်ကိုင်ကြရ၏။ ဂျပန်နိုင်ငံတွင် ယောကျ်ားကလေးရော မိန်းကလေးပါ ကူညီလုပ်ကိုင်ရသော အလုပ်တခုကား အိုးခွက်လုပ်ငန်းပင်ဖြစ်၏။ သူတို့၏တာဝန်မှာ ဖုတ်လုပ်ပြီးသော အိုးများခွက်များကို အမြင်လှစေရန် ဆေးခြယ်ပေးရခြင်းပင်ဖြစ်သည်။

အီရန်နိုင်ငံ (ပါးရှားနိုင်ငံ) တွင် ကော်ဇောလုပ်ငန်း၌ ကလေးများကို အများအပြား ငှါးရမ်းလုပ်ကိုင်စေသည်။

ထိုလုပ်ငန်း၏ ဆိုးရွားချက်တခုကား အလင်းရောင်ဖက်ကို ကျောခိုင်း၍ထိုင်စေပြီးလျှင် အထက်လူကြီး ညွှန်ပြပြောဆိုသမျှကို လိုက်၍လုပ်ကိုင်စေခြင်းပင်ဖြစ်၏။

အီရက်နိုင်ငံတွင် စွန်ပလွံအရောင်းအဝယ်မှာ ကြီးကျယ်သည့် လုပ်ငန်းဖြစ်၍ ပြည်ပသို့တင်ပို့ရန် စွန်ပလွံသီးများကို ထုတ်ပိုးရာတွင် ယောကျ်ားကလေး မိန်းမကလေးတို့သည် တနေကုန် တနေခန်း လုပ်ကြရသည်။ ထိုသို့လုပ်ကြရာတွင် ပျင်းရိပေါ့တန်နေသည်ကို တွေ့သွားခဲ့သော်၊ နာကျည်းစွာ ရိုက်နှက်ခြင်း ခံကြရ၏။

အီဂျစ်နိုင်ငံရှိ ကျေးလက်တောရွာများတွင် ယောကျ်ားကလေးများသည် သိုးကျောင်း ဆိတ်ကျောင်း အလုပ်ကို လုပ်ကိုင်ကြရ၍၊ မိန်းကလေးများသည် ဗိုင်းငင်ခြင်း ရက်ကန်းရက်ခြင်း အလုပ်တို့ကို ကူညီလုပ်ကိုင်ကြရလေသည်။

ဆီးရီးယားနိုင်ငံတွင် ပိုးမျှင်ငင်ခြင်းအလုပ်ကို ၁၀ နှစ်ရွယ်မိန်းကလေးများသည် အချိန်ကုန်၍ ညဥ့်နက်သည့်တိုင်အောင် လုပ်ကိုင်ကြရ၏။

ဣတလီနိုင်ငံတွင် လယ်ယာလုပ်ငန်းထွန်းကားသည့်အလျောက် ကလေးသူငယ်များသည် ဆိတ်ကျောင်းခြင်း၊နွားကျောင်းခြင်း၊မြက်ခြောက်လှန်းခြင်း၊သစ်သီး ကောက်ခြင်း၊ ဗိုင်းငင်ခြင်းစသော အလုပ်များကို လူကြီးများအား ကူညီလုပ်ကိုင်ပေးကြရ၏။

နော်ဝေးနိုင်ငံရှိ ကလေးများမှာကား နွေပေါက်လာသည့်အခါ နွားထိန်းနွားကျောင်းခြင်း၊ မြက်ခြောက်လှန်းခြင်း အလုပ်များတွင် လူကြီးများအား တပျော်တပါး ကူညီလုပ်ကိုင်ပေးလေ့ရှိကြသည်။

ချက်ကိုဆလိုဗါးကီးယားနိုင်ငံရှိ ကလေးသူငယ် များစွာတို့သည် ကစားစရာများကို တနှစ်ပတ်လုံး လုပ်ကိုင်ကြရ၏။ထိုကစားစရာများကား ကိုယ်ပိုင်ကစားရန် မဟုတ်ချေ။နိုင်ငံခြားသို့ စီးပွားဖြစ် ရောင်းချရန်ဖြစ်လေသည်။ လူကြီးများက ရုပ်လုံးဖော်ထားသော လူရုပ်၊ခွေးရုပ်၊နွားရုပ်၊မြင်းရုပ်၊ငှက်ရုပ် စသည့် အရုပ်မျိုးစုံတို့ကို ကလေးများက အချောကိုင်ကာ ဆေးခြယ်ပေးကြရလေသည်။ ဤကား ကမ္ဘာ့ဒေသအသီးသီးမှ ကလေးတို့၏ အခြေအနေပေတည်း။

## ကလေးများသက်သာချောင်ချိရေး

၁၉ ရာစုနှစ် မကုန်ဆုံးမီက ကမ္ဘာအရပ်ရပ်တွင် နေထိုင်ကြသော ကလေးသူငယ်တို့၏ အခြေအနေမှာ များစွာမှနိမ့်ကျလှ၍ သနားဖွယ်ကောင်းသည်။ အထူးသဖြင့်စက်မှုလက်မှု လုပ်ငန်းများ ထွန်းကားသော အင်္ဂလန် ပြည်နှင့်ဥရောပနိုင်ငံများတွင် ကလေးများ၏ဘဝမှာ ပိုမိုဆိုးရွားလှ၏။ အသက်အရွယ် နုနယ်သော ကလေးသူငယ်တို့မှာလူကြီးများနှင့်တန်းတူ စက်ရုံကြီးများတွင် နေ့ရောညပါ နာရီပေါင်းများစွာ လုပ်ကိုင်ကြရသည်။ထိုစဥ်က ကလေးအလုပ်သမားများအား ကာကွယ်ပေးသည့် ဥပဒေများလည်း ပြောပလောက်အောင် မရှိသေးချေ။ယခုခေတ်မှာကဲ့သို့ ကလေးပြုစုရေးဌာနများ၊ကလေးထိန်းဌာနများ ပေါ်ပေါက်မည်ကို မဆိုထားဘိ၊မိဖမဲ့ကလေးများနှင့် ခိုကိုးရာမဲ့ကလေးများကို စောင့်ရှောက်ထိန်းသိမ်းသည့်အဖွဲ့ အများအစား မပေါ်ပေါက်ဘူးချေ။

အနည်းငယ်မျှသာရှိသော မိဖမဲ့ကျောင်းများတွင်လည်း ကလေးသူငယ်များမှာ ကျပ်တည်းကျဉ်းမြောင်းစွာ နေထိုင်ကြရ၏။ အစားအသောက်၊ အဝတ်အထည်တို့မှာလည်း လုံလုံလောက်လောက် မရှိချေ။ထို့ပြင် သူတို့အပေါ်၌ စီမံအုပ်ချုပ်သူများမှာ ကလေးများအုပ်ချုပ်မှုနှင့် သက်ဆိုင်သော ပညာရပ်များကို စံနစ်တကျ သင်ကြားတတ်မြောက်ပြီးသော ပုဂ္ဂိုလ်များမဟုတ်ဘဲ မိမိတို့ကိုယ်တိုင် အလုပ်ဒဏ်ပိနေသော သာမန် လခစား လက်ခစားများသာ ဖြစ်သဖြင့်၊ကလေးများ ကို လူဟူ၍ ကိုယ်ချင်းစာသဘောမရှိ၊

နောင်တခေတ်တွင် နိုင်ငံတော်၏ သားကောင်းသမီးကောင်းများ ဖြစ်လာကြမည့် ကျန်းမာရွှင်လန်းသော မြန်မာကလေးတစု



ရက်စက်စွာ ရိုက်နှက်ဆုံးမလေ့ရှိသည်။ထိုကဲ့သို့ဖြစ်ပျက်နေသော ကလေးတို့၏ ဘဝအခြေအနေကို အင်္ဂလိပ်စာရေးဆရာကြီး ချားလ်စ်ဒစ်ကင်းက 'အော်လီဗါတွစ်'၊ 'ဒေးဗစ်ကောပါးဖီး' စသော ဝတ္ထုများတွင် သရုပ်ဖော်ခဲ့လေသည်။

၁၉၀၀ ပြည့်နှစ်နောက်ပိုင်း၌ ကလေးစောင့်ရှောက်ရေးလုပ်ငန်းမှာ ရှေးကထက် အနည်းငယ် ပိုမိုကောင်းမွန်လာခဲ့သည်။ကလေးများကို ယခင်ကကဲ့သို့ အိမ်တန်းလျားရှည်ကြီးတွင် ပြွတ်သိပ်မထားတော့ဘဲ၊တဲအိမ်ငယ်ကလေးများတွင် လင်မယားနှစ်ဦးတို့က မိဖသဖွယ် စောင့်ရှောက်ထိန်းသိမ်းကာ သက်သာချောင်ချိစွာ နေထိုင်ကြရသည်။အစာစားသောက်သည့်အခါ၌၎င်း၊ကျောင်းတက်သည့်အခါ၌၎င်း၊အိပ်ရာသို့ဝင်သည့်အခါ၌၎င်း၊စံနစ်တကျ ကိုယ့်အတွဲနှင့်ကိုယ်စားသောက် နေထိုင်ကြရလေသည်။ကလေးများ နေထိုင်စားသောက်ပုံတို့ကို သက်ဆိုင်ရာ စေတနာ့ဝန်ထမ်း အဖွဲ့ဝင်လူကြီးများက မကြာခဏ သွားရောက် ကြည့်ရှုစစ်ဆေးရသည်။ဤသို့အားဖြင့် ကလေးသူငယ်များမှာ ပေါင်းသင်းဆက်ဆံရေးတွင် အဆင့်အတန်း မြင့်လာသည်သာမက၊ပြည်သူ့နီတိ ကျင့်စဉ်များကိုလည်း နားလည်လာကြသည်။

လွန်ခဲ့သောနှစ်ပေါင်း ၅၀–၆၀ ခန့်က ရာဇဝတ်မှု တစုံတရာကျူးလွန်မိသော ကလေးသူငယ်တို့ကို သက်ကြီးရာဇဝတ်သင့်သူများနှင့်တန်းတူ အပြစ်ဒဏ်ပေးလေ့ရှိသည့် အပြင်၊အကျဉ်းထောင်တခုထဲမှာပင် အတူထား၍ အလုပ်ကြမ်းများကို လုပ်စေလေသည်။ ဤသို့အားဖြင့် ကလေးထောင်သားများမှာ လူကြီးများထံမှ အကျင့်ဆိုးဟူသမျှကို ရရှိပြီးလျှင်၊ နောင် ကြီးပြင်းလာသည့်အခါ ပိုမိုဆိုးသွမ်းသော လူမိုက်လူဆိုးကြီးများ ဖြစ်လာကြလေသည်။

ယခုခေတ်အခါတွင် ယဉ်ကျေးသော နိုင်ငံကြီးများတွင် အရွယ်မရောက်သော ကလေးသူငယ်များသည် အကယ်၍ တရားဥပဒေကို ဖေါက်ဖျက်ကျူးလွန်မိသည့်အခါ၊စစ်ဆေးစီရင်ရန် ကလေးတရားရုံးများကို သီးခြားထားရှိကြသည်။ ထိုတရားရုံးများအတွက် တရားသူကြီးများကို အထူးရွေးချယ်ခန့်ထားရပေသည်။ အမေရိကန်ပြည်ထောင်စုတွင် ထိုတရားရုံးတော်များအတွက် ခန့်ထား သော တရားသူကြီးများမှာ အများအားဖြင့် အမျိုးသမီးတရား သူကြီးများဖြစ်ကြသည်။ ထိုတရားသူကြီးများသည်ကလေးအကြောင်းကို ကောင်းစွာနားလည်၍ ကလေးသူငယ်များအုပ်ချုပ်နည်း၊ ဆုံးမနည်းများကို အထူးကျွမ်းကျင်ပြီးသော ပုဂ္ဂိုလ်များဖြစ်ကြသည်။ သူတို့သည် ပြစ်မှုကျူးလွန်သော သူငယ်အား အပြစ်ရှိသော လူဆိုးလူမိုက်ကလေး တဦး အနေဖြင့် မမြင်ဘဲ၊ ကူညီဖေးမရန်လိုနေသော ဒုက္ခသည်ကလေးတဦးအနေဖြင့် မြင်ကြသည်။ ထို့ကြောင့် ပြစ်မှုကျူးလွန်သော ကလေးများကို နူးညံ့သာယာသော နည်းမျိုး တို့ဖြင့် တဆင့်ပြီးတဆင့် တိုးတက်ကောင်းမွန်လာစေနိုင်ရန် ပြုပြင်ဖန်တီးပေးကြလေသည်။ပမာအားဖြင့် တချို့ကလေးများကို စာရိတ္တပြုပြင်ရေးကျောင်းများသို့ပို့ကာ အခြားရွယ်တူကလေးများနှင့် ရောနှောနေထိုင်စေ၏။ ထိုကျောင်းများတွင် သူတို့အား စာသင်ပေးခြင်း၊ လက်မှုပညာရပ်များကို သင်ကြားပေးခြင်းတို့ဖြင့် ကျောင်းမှထွက်သောအခါ သက်မွေးဝမ်းကျောင်းရန် လွယ်ကူစေလေသည်။အချုပ်ကိုဆိုရလျှင် ယခုခေတ်သမယတွင် ကမ္ဘာတဝှန်းလုံး၌ပင် ကလေးသူငယ်များ ကျန်းမာရေး၊ပညာတတ်မြောက်ရေးနှင့် သက်သာချောင်ချိရေးတို့ကို အထူး ကြိုးစားဆောင်ရွက်နေကြပြီဖြစ်၍၊ပစ္စုပ္ပန်ခေတ် ကလေးသူငယ်များအဖို့ ကံကောင်းလှသည်ဟု ဆိုရပေမည်။

မြန်မာနိုင်ငံတွင် ကလေးသူငယ်များ ကျန်းမာရေးနှင့် သက်သာချောင်ချိရေးများကို ဆောင်ရွက်နေပုံမှာလည်း အထူး အားတက်စရာ ကောင်းလှသည်။မြန်မာနိုင်ငံတော်ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ပုဒ်မ ၃၇ အပိုဒ်ငယ် (၂) တွင် 'နိုင်ငံတော်သည် မီးဖွားရေးနှင့် ကလေးစောင့်ရှောက်ရေး အဖွဲ့များ၊ ကလေး ဂေဟာများ၊ ကလေး ထိန်းနေ့ဌာနများကို ဖွင့်လှစ်ခြင်းအားဖြင့်၊သားသည်အမေနှင့် ကလေးတို့၏အကျိုးကို စောင့်ရှောက်ရန်၊ ထို့ပြင် မီးမဖွားမီနှင့် မီးဖွားပြီးကာလများအတွက် လုပ်ခနှင့်နားခွင့်ရရန် အခွင့်အရေးကို အခစားလုပ်ကိုင်နေသောမိခင်တို့ ရရှိခံစားနိုင်စေရန် ဝါဒထားရှိ၍၊ထိုဝါဒအတိုင်း အထူး ရှေးရှုဆောင်ရွက်ရမည်' ဟု အတိအလင်း ရေးသားပါရှိပေသည်။ ဤအချက်ကို



ဇာပန်းထိုးနေသော ဆွစ်ဇာလန်နိုင်ငံသူ လုံမငယ်ကလေး



အိန္ဒိယနိုင်ငံ ကလင်ပုန်မြို့ရှိ တိဗက်ကျောင်းမှ ကျောင်းသားကျောင်းသူများ



ကလေးထိန်းရသော တရုပ်လုံမယ်



လူကြီး အသွင်နှင့် မက္ကဆီကန်ကလေးနှစ်ဦး။



စိတ်လက်ရွှင်ပြစွာ နေထိုင်လေ့ရှိသည့် ပါးရှားနိုင်ငံမှ ကလေးများ



အိန္ဒိယနိုင်ငံတောင်ပိုင်း ထရစ်ချီနော့ပိုလီမြို့မှ ကလေးတစု



ရှိဒီးဧီးယားနယ်မှ ဇူးလူးကလေး



ဝတ်ကောင်းစားလှဖြင့် ဟန်ဂေရီနိုင်ငံမှ ကလေးနှစ်ဦး

ထောက်ရှုခြင်းအားဖြင့် နိုင်ငံတော်အစိုးရ၏ မိခင်နှင့်ကလေးများအပေါ် သဘောထားပုံကိုသိသာနိုင်ပေသည်။

ဒုတိယကမ္ဘာစစ် ပြီးဆုံးပြီးနောက် အမျိုးသမီးနှင့် ကလေးသူငယ်များ သက်သာချောင်ချိရေး ဘုတ်အဖွဲ့ကို ၁၉၄၇ ခုစက်တင်ဘာလတွင် စတင်ဖွဲ့စည်းခဲ့သည်။ထိုနောက် အမျိုးသမီးနှင့်ကလေးများ စောင့်ရှောက်ရေးကို ညွှန်ကြားရေးဝန် တဦးထား၍ ဆောင်ရွက်စေသည်။ ယခုအခါ လူမှုရေးရာကြီးပွားရေးဌာနဟု အမည်မှည့်ကာ ဗိုလ်ချုပ်အောင်ဆန်း၏ ဇနီး ဒေါ်ခင်ကြည်က ညွှန်ကြားရေးဝန်အဖြစ်ဖြင့် ဆောင်ရွက်လျက်ရှိလေသည်။

ထိုဌာန၏ လုပ်ငန်းရပ်များကို ငါးမျိုးခွဲခြား၍ ဆောင်ရွက်လျက်ရှိသည်။ယင်းတို့မှာ —

၁။ ကလေးမဖွားမီ မိခင်အား စမ်းသပ်စစ်ဆေးခြင်း

၂။ ကလေးမွေးဖွားပြီးနောက် ပြုစုစစ်ဆေးခြင်း

၃။ ကလေးသူငယ် စောင့်ရှောက်ရေးဌာနများ ဖွင့်ခြင်း

၄။ ကလေးဆေးပေးရုံများ ဆောက်လုပ်ခြင်း

၅။ ကလေးအတွင်းလူနာများကို ကုသခြင်း

ယခုအခါ မြန်မာနိုင်ငံ ခရိုင်မြို့ကြီးတိုင်းမှာပင် မိခင်နှင့်ကလေး စောင့်ရှောက်ရေးအဖွဲ့အစည်းများ ဖွဲ့စည်းပြီးဖြစ်သည်။ ၁၉၄၇ ခုနှစ်က ကလေးသူငယ်များ ပြုစုစောင့်ရှောက်ရေး အသင်းမှာ ၃၅ သင်းမျှသာရှိခဲ့ရာ၊ ၁၉၅၂ ခုနှစ်တွင် အသင်းပေါင်း ၁၃၆ သင်းအထိ တိုးလာခဲ့သည်။ထိုအဖွဲ့များတွင် သက်ဆိုင်ရာဒေသရှိ ဆရာဝန်နှင့် သူနာပြုဆရာမများက ကူညီဆောင်ရွက်သည် သာမက၊မိခင်နှင့်ကလေးသူငယ်များ စောင့်ရှောက်ရေးသင်တန်းများကို တက်ရောက်အောင်မြင်ခဲ့သော ဆရာမများကိုလည်း ခန့်ထားသည်။ထိုအဖွဲ့များသည် ကလေးသူငယ်များ၏ ကျန်းမာရေးအခြေအနေတို့ကို မပြတ်မလပ်လှည့်လည်ကြည့်ရှုကြရသည့် အပြင်၊ ဆင်းရဲနွမ်းပါးသော ကလေးများအတွက် နို့မှုန့်နှင့် အဝတ်အစားများ ဝေငှခြင်း၊ မိခင်များကို ကျန်းမာရေးလမ်းစဉ်များ ညွှန်ကြားခြင်း၊အစရှိသော လုပ်ငန်းများကို လုပ်ဆောင်ကြရသည်။ ထိုအဖွဲ့အစည်းများသည် နိုင်ငံတော်အစိုးရ၊ ဒေသန္တရအဖွဲ့များ၊ကြက်ခြေနီအသင်းများနှင့် စေတနာထက်သန်သော ပုဂ္ဂိုလ်များထံမှ ငွေကြေးအထောက်အပံ့ ရကြလေသည်။

၁၉၅၂ ခုနှစ်တွင် စာသင်ကျောင်းများသို့ လှည့်လည်ကြည့်ရှုရသော ဆေးအဖွဲ့ ၇ ဖွဲ့ရှိသည်။ထိုအဖွဲ့တခုလျှင် ဆရာဝန် တဦး၊ ပြည်သူ့ကျန်းမာရေး သူနာပြုဆရာမ သို့မဟုတ် ကျန်းမာရေးနည်းပြဆရာမ တဦး၊ ဆေးခန်းလက်ထောက်တဦးစီ ပါဝင်၍ သူနာပြုစု ကုသရန် ကရိယာများ အပြည့်ပါသော ကားတစီးကို ရရှိလေသည်။ ရန်ကုန်မြို့ပေါ်တွင် ထာဝရစခန်းပြုလုပ်၍ ကုသပေးသော ဆေးအဖွဲ့ ၂ ဖွဲ့လည်း ရှိသေးသည်။ထိုမှတပါး ရပ်ကွက်များတွင် လှည့်လည်ကြည့်ရှုရန် ကလေးအရာရှိများကိုလည်း တိုးတက်ခန့်ထားသေးသည်။

မြန်မာနိုင်ငံတွင် ကလေးသူငယ်များအား ဗီစီဂျီဆေးထိုးပေးခြင်းနှင့် လူထုအလိုက် ဓါတ်မှန်ရိုက်ယူခြင်းများကို ၁၉၅၂ ခုနှစ်ကပင် စတင်ဆောင်ရွက်ခဲ့လေသည်။ရန်ကုန်မြို့ပေါ်တွင် ကလေးပြုစုရေးဌာနနှင့် ကလေးထိန်းဌာနများကိုလည်း အနှံ့အပြား ဖွင့်လှစ်လျက်ရှိသည်။ကလေးပြုစုရေးဌာနများတွင် မွေးစမှ ငါးနှစ်အထိ ကလေးများကို မိဘသေဆုံးသွား၍ ဖြစ်စေ၊ မိခင်မကျန်းမာ၍ဖြစ်စေ၊ကြည့်ရှုစောင့်ရှောက်မည့်သူများ မရှိ၍ဖြစ်စေ၊ ခေါ်ယူ စောင့်ရှောက် ကျွေးမွေးထား၏။ကလေးထိန်းဌာနများကမူ မိဘများ သက်မွေးဝမ်းကျောင်း ရှာဖွေလုပ်ကိုင်ရန်သွားနေစဉ် ပြုစုစောင့်ရှောက်မည့်သူမရှိသော ၂ နှစ်မှ ၅ နှစ်အထိ ကလေးများအတွက် နေ့အချိန်တွင် တာဝန်ယူ၍ မွေးကျွေးစောင့်ရှောက် ထားကြသည်။ညနေ မိခင်အလုပ်ပြန်ချိန်မှ မိခင်က ခေါ်ဆောင်သွားရတော့သည်။အလုပ်ရုံများ စက်ရုံများအနီးတွင်လည်း အလုပ်သမားများကို ကူညီသောအနေဖြင့် ဤဌာနမျိုးများကို သီးသန့်ဖွင့်ထားလေသည်။

မြန်မာနိုင်ငံတွင် မိဖမဲ့နှင့်ခိုကိုးရာမဲ့ကလေးများ ထိန်းသိမ်းကယ်တင်ခြင်းလုပ်ငန်းကို စေတနာထက်သန်သူ အမျိုးသမီးကြီး ဒေါ်တီတီလု (စ) က ၁၈၂၅ ခုနှစ်ခန့်ကပင် အစပျိုးခဲ့ပြီးလျှင် ၁၈၂၇ ခုနှစ်တွင် မိဖမဲ့ကျောင်းကိုစတင်ထူထောင်



ဆေအူးမြို့တော်မှ ကိုရီးယားကလေးတစု

ခဲ့သည်။ နိုင်ငံတော်အစိုးရ၊ ရီတရီကလပ်၊ ရန်ကုန်မြင်းပွဲအသင်းအစရှိသော စေတနာထက်သန်သည့် အဖွဲ့အစည်းများ၏ အကူအညီဖြင့် ရန်ကုန်တက္ကသိုလ်အနီး အင်းယားလမ်းရှိ ဒေါ်တီတီလု (စ) ၏ ခိုကိုးရာမဲ့သူငယ်များဂေဟာကို တိုးချဲ့လာခဲ့ရာ နောက်ဆုံးတွင် ပြစ်မှုကျူးလွန်သော ကလေးသူငယ်များ ပြုပြင်ပေးရာဌာနတခု ဖြစ်လာသည်။ဤဌာနတွင် ခိုကိုးရာမဲ့သူငယ်များ၊မိဖအုပ်ထိန်းမနိုင်သော သူငယ်များ၊ရာဇဝတ်အပြစ်ဒဏ်ခံရသော သူငယ်များနှင့် အမှုစစ်ဆေးခံနေရဆဲ သူငယ်များကို ကျွေးမွေး ထိန်းသိမ်းထားပြီးလျှင် အင်္ဂလိပ်စာ မြန်မာစာများအပြင် ရက်ကန်းရက်ပညာ၊ စာအုပ်ချုပ်ပညာ၊ပုရန်ပညာ၊လက်သမားပညာရပ်များ ကိုသင်ကြားပေးလျက်ရှိသည်။ ထူးခြားချက်တခုမှာ ဤကျောင်းတွင် သင်ကြားပြသနေသော နည်းပြလုလင်ကလေးများမှာ ကျောင်းသားဟောင်းချည်း ဖြစ်ကြသည်။ ယခုအခါ ထိုကျောင်းကို ကလေးသူငယ်များ ထောက်ပံ့စောင့်ရှောက်ရေးအသင်းက ကြီးမှူးအုပ်ချုပ်လျက်ရှိသည်။ မဟာသီရိသုဓမ္မ ဒေါ်ခင်ကြည်မှာ နာယကပုဂ္ဂိုလ်တဦးဖြစ်သည်။ အသင်း၏ဥက္ကဋ္ဌမှာ သတိုးသီရိသုဓမ္မ ဂျေ၊အက် (စ)၊ ဖါနီဗယ်ဖြစ်၍ ဒေါ်တီတီလု (စ) က အတွင်းရေးမှူးအဖြစ်ဖြင့် ဆောင်ရွက်လျက်ရှိသည်။

ထိုကျောင်းနှင့်အလားတူ အဖွဲ့အစည်းတခုမှာ ရန်ကုန်မြို့လူငယ်များဂေဟာ ထိန်းသိမ်းရေးအဖွဲ့ဖြစ်သည်။ရန်ကုန်မြို့လူငယ်များ ဂေဟာကို မြန်မာနိုင်ငံ နေရှင်နယ် ကောင်စီအမျိုးသမီးအသင်းနှင့် ဝိုင်—အမ်—စီ—အေခေါ် ခရစ်ယန်လူငယ်အသင်းတို့က ကြီးမှူးလျက် ၁၉၂၉ ခုနှစ်တွင် စတင်ထူထောင်ခဲ့သည်။လူငယ်များဂေဟာကို ရန်ကုန်မြို့ ဘောင်ဒရီလမ်းတွင် ဖွင့်လှစ်ထားရှိ၍ မိဖမဲ့၊ ခိုကိုးရာမဲ့နှင့် လေလွင့်နေသော ကလေးစုစုပေါင်း ၁၀၀ ကို စောင့်ရှောက်ထိန်းသိမ်းကာ စာရေးစာဖတ်နှင့် လက်မှုပညာများကို သင်ပေးယင်း ပြုပြင်ပေးလျက်ရှိသည်။

ဤအသင်းနှင့် မရှေးမနှောင်း ပေါ်လာသော အဖွဲ့တခုမှာ ဗစ်ဂျီလန်း ဆိုစိုက်ယက်တီခေါ် မိဖမဲ့ ကလေးများ



ချယ်ရီပန်းပွင့်ချိန်ပွဲတော်အခါ၌ ဝတ်စားဆင်ယင် အလှပြင်ထားသော ဂျပန်ရင်သွေးလေးများ



ကလေးဆေးရုံ၌ ကလေးငယ်အား စမ်းသပ်နေခြင်း။



ကလေးထိန်းဌာန၌ ကလေးများ အစာကျွေးချိန်

ကာကွယ်စောင့်ရှောက်ရေးအသင်းပင် ဖြစ်သည်။ ထိုအသင်းကို အမေရိကန်သာသနာပြုအဖွဲ့များက ဆော်သြရှေ့ဆောင်ကာ တည်ထောင်ခဲ့သည်။ ဒုတိယကမ္ဘာစစ် မဖြစ်ပွားမီက ဤအသင်းသည် ပျက်စီးနေသော အမျိုးသမီးများ ကယ်ဆယ်စောင့်ရှောက်ရေးလုပ်ငန်းတွင် အထူးထင်ရှားခဲ့သည်။ စစ်ပြီးခေတ်တွင် ငယ်ရွယ်သော ခိုကိုးရာမဲ့၊မိဘမဲ့မိန်းကလေးများ ထိန်းသိမ်းစောင့်ရှောက်ပေးသည့်လုပ်ငန်းကို ၁၉၄၆ ခုနှစ်က စတင်ဆောင်ရွက်ခဲ့သည်။ သူငယ်မကလေးများကို သင်ကြားပြုပြင်ပေးပုံ ပေးနည်းတို့မှာ ရန်ကုန်မြို့လူငယ်များ ဂေဟာနှင့် ဒေါ်တီတီလု (စ) ကျောင်းများ စံနှစ်အတိုင်းပင်ဖြစ်သည်။

ဒုတိယကမ္ဘာစစ် ပြီးဆုံးပြီးနောက် အမျိုးသမီးများ ထိန်းသိမ်းစောင့်ရှောက်ရေးလုပ်ငန်းများကို လူအများပင် စိတ်ဝင်စားလာသည့်အလျောက် စောင့်ရှောက်ရေးဌာနများလည်း အသီးသီး ပေါ်ပေါက်လာခဲ့သည်။ ဝန်ကြီးချုပ်ကတော် ဒေါ်မြရီ ကြီးမှူးသော အမျိုးသမီးများ နည်းပြအုပ်ချုပ်ရေးဌာနမှာ မိဘမဲ့မိန်းကလေးများနှင့် ခိုကိုးရာမဲ့မိန်းကလေးများကို မပျက်မစီးရလေအောင် ကာကွယ်စောင့်ရှောက်ပေးပြီးလျှင် စာရေးစာဖတ်နှင့် လက်မှုပညာရပ်များကို သင်ကြားပေးလျက်ရှိသည်။

အမျိုးသမီး ပါလီမန်အမတ်ဟောင်း ဒေါ်ခင်လှ ကြီးမှူးသော အမျိုးသမီးကာကွယ်စောင့်ရှောက်ရေးအဖွဲ့ချုပ်နှင့် မြန်မာအမျိုးသမီးအဖွဲ့မှ ဒေါ်မမ ကြီးမှူးသော ခိုကိုးရာမဲ့အမျိုးသမီးများ စောင့်ရှောက်ရေးဌာနများမှာ မိဘမဲ့မိန်းကလေးများ၊ခိုကိုးရာမဲ့မိန်းကလေးများနှင့် ပြည့်တန်ဆာနှိပ်ကွပ်ရေးဥပဒေအရ တရားစွဲဆိုခြင်း ခံနေရသူများ၊ အပြစ်ဒဏ်ပေးခြင်းခံရသူများကို ထိန်းသိမ်းကာ အလားတူပညာရပ်များ သင်ကြားပေးခြင်း၊အကျင့်စာရိတ္တပြုပြင်ပေးခြင်း စသော လုပ်ငန်းများကို ဆောင်ရွက်လျက်ရှိလေသည်။

မြန်မာနိုင်ငံတွင် မျက်မမြင်နှင့် ဆွံ့အ နားပင်းသော ကလေးသူငယ်များအား စောင့်ရှောက်သောကျောင်းများကို နှစ်ပေါင်း အတန်ကြာကပင် ဖွင့်လှစ်ခဲ့ပြီးဖြစ်သည်။ ထိုကျောင်းများကို နိုင်ငံခြားသာသနာပြုအဖွဲ့များက စတင်တည်ထောင်ခဲ့သော်လည်း၊ ယခုအခါ နိုင်ငံတော်အစိုးရနှင့် စေတနာထက်သန်သော အသင်းအဖွဲ့ ပုဂ္ဂိုလ်အသီးအသီးထံမှ အထောက်အပံ့များ ရလျက်ရှိသည်။

ကလေးသူငယ်များ ကျန်းမာရေးနှင့် သက်သာချောင်ချိရေး လုပ်ငန်းရပ်များမှာ ၁၉၅၁ ခု နှစ်တွင် ရေးဆွဲခဲ့သော နိုင်ငံတော်အစိုးရ၏ ပြည်သူ့ကျန်းမာရေးစီမံကိန်း ၇ ရပ်တွင် အကျုံးဝင်နေပေသည်။ ဤစီမံကိန်းအရ ၁၉၅၄ ခုနှစ်တွင် ကျေးရွာကျန်းမာရေးအဖွဲ့ငယ်များ ထားရှိပေးဦးမည်ဟု သိရလေသည်။

ကျေးရွာကျန်းမာရေးအဖွဲ့များကို ကျေးရွာ ၅ ရွာလျှင် တခုကျစီ ထားပေးရန်ဖြစ်သည်။ ထိုအဖွဲ့တခုလျှင် လက်ထောက်ကျန်းမာရေးမှူးတယောက်၊ ကျောက်ထိုးဆရာတယောက်၊ပြည်သူ့ကျန်းမာရေး သူနာပြုဆရာမတယောက်၊ ဝမ်းဆွဲဆရာမ ၂ ယောက်၊ပေါင်း ၅ ယောက် ပါဝင်မည်။ ဤစီမံကိန်းအရ မြန်မာနိုင်ငံ တဝှန်းလုံးတွင် ကလေးသူငယ်များ၏ ကျန်းမာရေး၊ သက်သာချောင်ချိရေး လုပ်ငန်းများကို အသေးစိတ် ဆောင်ရွက်ရန်ပင်ဖြစ်သည်။

**ကလေးမြို့။** ။ကလေးမြို့သည် အထက်ချင်းတွင်းခရိုင် ချင်းတောင် တောင်ခြေ၏ အရှေ့ဖက် မြစ်သာမြစ်နှင့် ၂ မိုင်ခန့်ကွာဝေးသော ကုန်းမြေပေါ်တွင် တည်ရှိသည်။ ကလေးမြို့နယ်တခုလုံး၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၇၈၂ ခန့်ရှိ၍ ကလေးမြို့၏ အကျယ်အဝန်းမှာ စတုရန်း ၂၄ ဖါလုံရှိသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ကလေးမြို့တွင် လူဦးရေ ၃၁၅၈ ခန့်နှင့် အိမ်ခြေ ၅၆၇ ခန့်ရှိသည်။ ကလေးမြို့သည် ရှေးမြန်မာမင်းတို့လက်ထက်က တည်ထောင်ခဲ့သော မြို့ဟောင်းတခု ဖြစ်သည့်

အလျောက် မြို့ရိုးဟောင်း၊ကျုံးဟောင်း အစရှိသော ယိုယွင်းနေသည့် ရှေးဟောင်းပစ္စည်းများကို ယခုထက်တိုင် တွေ့မြင်နိုင်သေးသည်။

ကလေးမြို့မှာ မြို့ပိုင်ရုံးစိုက်ရာမြို့ ဖြစ်သည့်အပြင်၊အထက်တန်းကျောင်းတကျောင်းနှင့် ခေတ်မီသော လေယာဉ်ပျံကွင်းလည်း ရှိသဖြင့်၊အထက်မြန်မာပြည်တွင် တိုးတက်စည်ကားလာသော မြို့ကလေးတမြို့ ဖြစ်ပေသည်။ မြို့ပေါ်ရှိ လူဦးရေ၏ ၅ ပုံ ၃ ပုံမှာ တောင်သူလယ်လုပ်များဖြစ်၍၊ မြို့နယ်ရှိလူထုမှာလည်း လယ်ယာလုပ်ငန်းနှင့် အသက်မွေးမှုကြသူများ ဖြစ်ကြသည်။

ကလေးမြို့နှင့် မိုင် ၂၀ ခန့်အကွာတွင် ကျောက်မီးသွေးတွင်းတခုကို တွေ့ရှိရသဖြင့်၊နိုင်ငံတော်အစိုးရသည် စတင်တူးဖေါ်လုပ်ကိုင်လျက်ရှိသည်။ ဒုတိယကမ္ဘာစစ် ပြီးဆုံးသည့်နောက်၊ကလေးမြို့ အနီးတဝိုက် ကျေးရွာများသို့ ချင်းတောင်ဒေသမှ ချင်းလူမျိုးများသည်၎င်း၊ အိန္ဒိယ – မြန်မာနယ်စပ်မှ လူရှေ (ခေါ်)လူးဆိုင် ချင်းလူမျိုးများသည်၎င်း၊ အိမ်ထောင်စုအလိုက် တသုတ်ပြီးတသုတ် ဆင်းလာကြ၍ လယ်ယာကိုင်းကျွန်းများ လုပ်ကိုင်လျက်ရှိကြ၏။

ကလေးမြို့သည် ရှေးက ငှက်ဖျားရောဂါ ထူပြောသော မြို့တမြို့ဖြစ်သော်လည်း၊ယခုအခါ မြို့ပတ်ဝန်းကျင်ကို သုတ်သင်ပြုပြင်ထားပြီ ဖြစ်ရကား ငှက်ဖျားရောဂါ မရှိသလောက်နည်းပါးသွားပြီဟု ဆိုရပေမည်။ ကလေးမြို့တွင် သီရိဓမ္မာသောကမင်းကြီး တည်ထားခဲ့သည်ဆိုသော ရွှေဘုံသာစေတီတော် ရှိလေသည်။

**ကလေးဝမြို့။** ။အထက်ချင်းတွင်းခရိုင် မြစ်သာမြစ်နှင့် ချင်းတွင်းမြစ်တို့ ပေါင်းဆုံရာအရပ်၌ ကလေးဝမြို့ တည်ရှိသည်။ ချင်းတွင်းမြစ်ကြောင်းအားဖြင့် ကလေးဝမြို့မှာ ကင်းတပ်မြို့မှ တောင်ဖက် မိုင် ၄၀ အကွာ ချင်းတွင်းမြစ်၏ လကျ်ာကမ်းတွင် တည်ရှိ၍ ကလေးဝနယ်နှင့် ကလေးဝမြို့နယ်၏ ရုံးစိုက်ရာ မြို့ဖြစ်သည်။ ကလေးဝမြို့နယ်တခုလုံးမှာ အနောက်ရိုးမတောင်ခြေပေါ်တွင် တည်ရှိ၍ တနှစ်လျှင် ပျမ်းမျှမိုးရေချိန် လက်မ ၇၀ ခန့် ရွာသွန်းလေသည်။ ကလေးဝမြို့နယ်ကို ၁၉၀၁ ခု နှစ် သန်ကောင်စာရင်းကောက်ယူပြီးနောက်မှ မြို့နယ်အဖြစ် အသိအမှတ်ပြုခဲ့၏။ ကလေးဝမြို့၏ လူဦးရေမှာ ၂,၂၃၀ (၁၉၅၃ ခု) ဖြစ်သည်။

မြစ်သာမြစ်မှာ ချင်းတောင်ဒေသများမှ စီးဆင်းလာရကား ကလေးဝမြို့မှ ရေလမ်းခရီးဖြင့် အထက်အောက်ချင်းတွင်းခရိုင်များနှင့် မြန်မာနိုင်ငံ အလယ်ပိုင်းဒေသများသို့ ကူးသန်း သွားလာနိုင်သည်သာမက၊ချင်းတောင်ဒေသများနှင့်လည်း အလွယ်တကူ ကူးလူးဆက်ဆံနိုင်သည်။ ထိုမှတပါး မြန်မာနိုင်ငံ၏ အနောက်ဖက်တံခါးဖြစ်သော တမူးတောင်ကြားလမ်း ခေါ် မဏိပူရ တောင်ကြားလမ်းမှာ ကလေးဝမြို့မှ တမူးနှင့်ပလဲအရပ်များကို ဖြတ်၍ မဏိပူရပြည်နယ် အင်ဖါမြို့တော်သို့ ရောက်နိုင်သည်။ ထိုတောင်ကြားလမ်းကို ၁၉၄၂ ခုနှစ်မှစ၍ မော်တော်ကားလမ်းအဖြစ်သို့ ပြုပြင်ဖေါက်လုပ်ခဲ့သည်။

ဒုတိယကမ္ဘာစစ်အပြီးတွင် ကလေးဝမြို့သည် ပြည်တွင်းပြည်ပ ကူးသန်းရောင်းဝယ်မှုများ တိုးတက်လာခဲ့သဖြင့်



အတိတ်ခေတ်က ကျောက်မီးသွေးတွင်း၌ အလုပ်လုပ်နေကြသော ကလေးများ

အထက်ချင်းတွင်းခရိုင်တွင် စည်ပင်ဖွံ့ဖြိုးသော မြို့ကြီးတမြို့ ဖြစ်လာသည်။ မြို့နယ်လူထုမှာ လယ်ယာကိုင်းကျွန်း လုပ်ကိုင်စားသောက်ကြ၍ ငွေကြေးတတ်နိုင်သူများကား သစ်လုပ်ငန်းကို လုပ်ကိုင်ကြလေသည်။

**ကလေးအလုပ်ကြမ်းဥပဒေ။** ။၁၇ ရာစုနှစ်၌ အင်္ဂလန်ပြည်တွင် စက်မှု လက်မှု လုပ် ငန်း များ ထွန်း ကား လာ၍ စက်ရုံများ အနှံ့အပြားပေါ် ပေါက် လာ ခဲ့ သည်။ (စက်မှုလက်မှုအရေးပုံ — ရှု။) ထိုစက်ရုံများ၌ အလုပ်လုပ်ကြသော လုပ်သားများမှာ အများအားဖြင့် ကလေးသူငယ်များသာဖြစ်ကြ၍ အချို့ကလေးများမှာ အသက် ၄ နှစ်အရွယ်မျှသာ ရှိကြသည်။ထိုမျှငယ်ရွယ်သော ကလေးသူငယ်များသည် စက်ရုံများထဲ၌ တဝီဝီလည်နေသော ဘီးကြီးများနှင့် လျှင်မြန်စွာ သွားလာ နေသော စက်ပတ်ကြိုးများအကြားတွင် ကျပ်ကျပ်တည်းတည်း အလုပ်လုပ်ကြရသည်။ သူတို့သည် တနေ့လျှင် ၁၂ နာရီ ၁၄ နာရီမှ တခါတရံ ၁၅ နာရီကြာမျှ အလုပ်လုပ်ကြရ၍ ငိုက်မျဉ်းသွားလျှင်သော်၎င်း၊တစုံတခု မှားယွင်းသွားလျှင်သော်၎င်း၊ ခေါင်း အကြီးအကဲများ၏ ကျာပွတ်နှင့် ရက်စက်စွာ ရိုက်နှက်ခြင်းကို ခံကြရလေသည်။မြေအောက် ကျောက်မီးသွေးတွင်းများ၌ အလုပ်လုပ်ရသော ကလေးများ၏ဘဝမှာ ပို၍ဆိုးသည်။ သူတို့သည် သူတို့အင်အားနှင့် မမျှသည့် ကျောက်မီးသွေးလှည်းများကို တွန်းရခြင်း စသော အလုပ်များကို နေ့စဉ် ၁၂ နာရီကြာမျှ ဆင်းရဲကြီးစွာ လုပ်ကြရ၏။

ထိုသို့ အလုပ်ပင်ပန်းစွာ လုပ်ကြရသဖြင့် ကလေးများမှာ ချည့်နဲ့သေးကွေးပြီးလျှင် ကျန်းမာရေး အမြဲချို့တဲ့နေကြသည်။ အချို့မှာ သေဆုံးသွား၍ အချို့မှာ တသက်ပန် လူစဉ်မမှီအောင် ကျိုးကန်းသွားကြသည်။ သို့ရာတွင် အလုပ်ရှင်များကား သူတို့အတွက် ပူပန်ကြောင့်ကြခြင်း မဖြစ်ကြချေ။အကြောင်းမှာ ကလေးများကို သူတို့သည် မိဖမဲ့ကျောင်းနှင့် ကယ်ဆယ်ရေးစခန်းများမှ နောက်ထပ်လိုသလောက် ရနိုင်သောကြောင့်ဖြစ်၏။ ကလေးများကို ခိုင်းရသည်မှာ အလုပ်ရှင်များအဖို့ ပိုက်ဆံကုန်သက်သာလှသည်။ သူတို့ကိုကျွေးမွေး၍ကုန်ကျသောစရိတ်မှာ သူတို့ထံမှ ရသော လုပ်အားနှင့်စာသော် မပြောပလောက်သဖြင့်၊ အမြတ်ကြီးစား အလုပ်ရှင်များသည် ကလေးများကိုသာ ဖိ၍ ခိုင်းစေခဲ့ကြသည်။

နောက်ဆုံး၌ ကလေးလုပ်သားများ၏ ဆိုးရွားလှသော အဖြစ်ကို အင်္ဂလန်ပြည်ရှိ အချို့လူများ သိမြင်လာကြလေသည်။ရောဗတ်ဆောက်သေး၊ အယ်လစ်ဇဗက် ဗရောင်းနင်း စသော ကဗျာဆရာများသည် ကလေးများ သနားစဖွယ် ဒုက္ခရောက်နေပုံကို စပ်ဆိုခဲ့ကြသည်။ထိုအချိန်က ဗြိတိသျှအစိုးရသည် အနောက်အိန္ဒိယကျွန်းစု၌ ကပ္ပလီများအား ကျွန်အဖြစ်ခိုင်းစေခြင်းကို ငွေသိန်းသန်းအကုန်ခံ၍ ပိတ်ပင်ရန် စီမံစိုင်းပြင်းလျက်ရှိရာ၊ငွေဝယ်ကျွန်စံနစ်ထက် အဆပေါင်းများစွာ ပိုမိုဆိုးရွားလှသော ကလေးလုပ်သားစံနစ်ကို လူအများက ကြာရှည်စွာ လျစ်လျူမရှုနိုင်တော့ချေ။ (ကျေးကျွန်စံနစ် — ရှု။) လော့ရှုပ်စဗါရီနှင့် အခြားပုဂ္ဂိုလ်ကြီးများက ထိုကိစ္စကို ပါလီမန်၌ တင်သွင်းကန့်ကွက်ကြလေသည်။

ကိုယ်ကျိုးကိုယ့်စီးပွား သက်သက်ကိုသာ ကြည့်လေ့ရှိသော အလုပ်ရှင်များသည် ကလေးလုပ်သားများကို လက်မလွှတ်လိုကြချေ။အချို့လူများကလည်း အစိုးရသည် စက်ရုံပိုင်ရှင်များ၏ကိစ္စတွင် ဝင်ရောက် မစွက်ဖက်သင့်ဟု ယူဆကြ၏။သို့ရာတွင် စုံစမ်းရေးကော်မီတီ အစီရင်ခံစာများအရ၊ ဇာထိုးပန်းထိုး လုပ်ငန်းတွင် လေးငါးနှစ်ရွယ် ကလေးလူမမယ်များပင် တနေ့လျှင် ၁၂ နာရီမျှ အလုပ်လုပ်ရပုံ၊ကလေးလုပ်သားများသည် မီးခိုးခေါင်းတိုင်များထဲသို့ဝင်၍ ကျပ်ခိုးသုတ်ယင်း တခါတရံ အရှင်လတ်လတ် မီးလောင်သေဆုံးရပုံ၊ မည်းမှောင်နေသော ကျောက်မီးသွေး တွင်းနက် ကြီးများထဲ၌ တနေကုန်တနေခန်း အလုပ်လုပ်ရပုံများကို ကြားသိရသောအခါ၊ပိုမို၍ မခံမရပ်နိုင် ဖြစ်လာကြပြီးလျှင် ပါလီမန်မှနေ၍ ကလေးလုပ်သားများအား ခိုင်းစေပုံစံနစ်ကို ပြုပြင်ရန်အတွက် မရပ်မနား တိုက်ပွဲဆင်နွှဲခဲ့ကြ၏။

အင်္ဂလန်ပြည်သည် ကလေးလုပ်သားများ၏ အခွင့်အရေးကို ကာကွယ်ပေးသောဥပဒေများ ပြဋ္ဌာန်းခဲ့သည့် ရှေးဦးနိုင်ငံ ဖြစ် သည်။ ၁၈၀၂ ခုနှစ်တွင် ဝါဂွမ်းစက်များ၌ ကလေးများကို တနေ့လျှင် ၁၂ နာရီထက် ပို၍မခိုင်းရန် ဥပဒေဖြင့် တားမြစ်ခဲ့သည်။ ၁၈၁၉ ခုနှစ်တွင် ဝါဂွမ်းစက်များ၌ ၉ နှစ်အောက်ကလေးများကို မခိုင်းရန်နှင့်၊ ၁၆ နှစ်ထက်ငယ်သူများကို တနေ့လျှင် ၁၂ နာရီထက် ပို၍မခိုင်းရန်ဟူသော ဥပဒေကို ပြဋ္ဌာန်းခဲ့သည်။မိန်းမများနှင့် ကလေးများအား မြေအောက်၌ အလုပ်မခိုင်းရန် ဥပဒေတရပ်ကို ၁၈၄၂ ခုနှစ်တွင် အတည်ပြုလေသည်။အင်္ဂလန်ပြည်တွင် ယခုအခါ ၁၅ နှစ်အောက် ကလေးလုပ်သားများမှာ ပြောပလောက်အောင် မရှိတော့ချေ။အကြောင်းမှာ ကလေးသူငယ်များ စာမသင်မနေရ ဥပဒေအရ အသက် ၁၅ နှစ်အထိ ကျောင်းများတွင် စာသင်ကြရ သောကြောင့် ဖြစ်သည်။ ယင်းသို့ အင်္ဂလန်ပြည်က စတင်လုပ် ကိုင်လာခဲ့ရာ၊ အခြား နိုင် ငံများကလည်းအင်္ဂလန်နည်းတူလိုက်နာလုပ်ဆောင်လာကြသည်။

အထူးသဖြင့် ၁၉၁၉ ခုနှစ်တွင် နိုင်ငံပေါင်းချုပ်အသင်းကြီးနှင့် တပြိုင်နက်တည်း ပေါ် ပေါက်လာသော အိုင်။အယ်။ အို ခေါ် အပြည်ပြည်ဆိုင်ရာ အလုပ်သမားအစည်းအရုံးကြီး၏ ဇကျေးဇူးကြောင့် ကလေးများအား ကာကွယ်ပေးရေး

လုပ်ငန်းများမှာ ပိုမိုထိရောက်ကျယ်ပြန့်လာခဲ့သည်။စက်ရုံများတွင် အသက် ၁၄ နှစ်အောက်ကို မခိုင်းရန်၎င်း၊အသက် ၁၈ နှစ်အောက်ကို ညဉ့်အလုပ်များ၌ မခိုင်းရန်၎င်း၊တပတ်လျှင် အလုပ်ချိန် ၄၈ နာရီ သတ်မှတ်ရန်၎င်း၊နိုင်ငံပေါင်း ၅၀ ကျော်က သဘောတူညီခဲ့ကြ၏။

အမေရိကန်ပြည်ထောင်စုတွင် ၁၉၁၀ ပြည့်နှစ်ခန့်ကစ၍ ကလေးလုပ်သားများ သက်သာချောင်ချိစေမည့် ဥပဒေများကို ပြုလုပ်ရန် ကြိုးစားခဲ့ကြသည်။သို့ရာတွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေနှင့် ဆန့်ကျင်နေသဖြင့် မအောင်မြင်ဘဲရှိခဲ့သည်။ ၁၉၂၄ ခုနှစ်တွင် အခြေခံဥပဒေကို ပြင်ဆင်ပြီးနောက် ဥပဒေများ ပြဋ္ဌာန်းလာခဲ့သည်။သမတ ဖရန်ကလင်ရူးဇဗဲ့ အစိုးရလက်ထက် ၁၉၃၃ ခုနှစ်မှစ၍ စက်ရုံများတွင် ၁၆ နှစ်အောက်ကလေးများကို မခိုင်းရတော့ချေ။

အင်္ဂလန်ပြည်တွင် ကလေးလုပ်သားများနှင့် အကျုံးဝင်သော ဥပဒေ များ ပေါ်ပေါက်ပြီးသည့်နောက် အိန္ဒိယနိုင်ငံ၌လည်း လိုအပ်သလို အနည်းငယ်ခန့်ပြင်ဆင်ထားသော ကလေးအလုပ်ကြမ်းဥပဒေများ ပေါ်ပေါက်လာခဲ့၏။ ၁၉၂၂ ခုနှစ် အလုပ်ရုံများ အက်ဥပဒေအရ ယခင်ကခွင့်ပြုထားသော ၉ နှစ်မှ ၁၂ နှစ်အထိ ကလေးများအစား ၁၄ နှစ်မှ ၁၅ နှစ်အရွယ် ကလေးများကိုသာ အချိန်ပြည့် လုပ်ကိုင်ခွင့် ပေးလေသည်။ရာသီအလိုက် လုပ်ကိုင်ရသော အလုပ်ရုံများတွင် တနေ့လျှင် အလုပ်ချိန် ၁၁ နာရီ၊တပတ်အတွင်း အလုပ်ချိန် နာရီပေါင်း ၆၀ ရှိရမည်ဟု သတ်မှတ်ခဲ့သည်။သာမန်အလုပ်ရုံများတွင် တနေ့လျှင် အလုပ်ချိန် ၁၀ နာရီ၊တပတ်လျှင် ၅၄ နာရီမျှ သတ်မှတ်ပေးခဲ့လေသည်။ထို့မှတပါး မိန်းမများ ညဉ့်အချိန် အလုပ်လုပ်ကိုင်ခြင်းကိုလည်း တားမြစ်ခဲ့သည်။ ၁၉၃၄ ခုနှစ်တွင် အလုပ်ရုံများ အက်ဥပဒေသစ်ကို အတည်ပြုခဲ့၏။ ၁၉၃၃ ခုနှစ်တွင် အတည်ပြုခဲ့သော ကလေးများ လုပ်အား ရောင်းစားခြင်း ဥပဒေမှာ ကလေးသူငယ်များ ကို အတန်ပင် အကာအကွယ်ပေးခဲ့သော ဥပဒေဖြစ်သည်။ ၁၉၃၆ ခုနှစ်နှင့် ၁၉၄၀–၄၁ ခုနှစ်များတွင်လည်း အလုပ်ရုံဥပဒေများကိုပြင်ဆင်ခဲ့သေးသည်။ဒုတိယကမ္ဘာစစ်အပြီးတွင်အိန္ဒိယနိုင်ငံသည်အိုင်၊ အယ်၊ အိုအစည်းအရုံးကြီးမှချမှတ်သော အခြေခံလမ်းစဉ်များအတိုင်း ကလေးသူငယ်လုပ်သားများအတွက် ဥပဒေအမျိုးမျိုးတို့ကို အတည်ပြုခဲ့ရာ၊ယခုအခါ အိန္ဒိယနိုင်ငံသည် ကလေးအလုပ်ကြမ်းဥပဒေများ ပြဋ္ဌာန်းသည့်ဖက်တွင် ရှေ့တန်းသို့ ရောက်ရှိနေလေပြီ။

မြန်မာနိုင်ငံကို အိန္ဒိယနိုင်ငံမှခွဲမီ ကာလက အလုပ်သမားဥပဒေများမှာ အိန္ဒိယနိုင်ငံမှဥပဒေများနှင့် အထူးကွာခြားခြင်း မရှိခဲ့ချေ။ရှေးအခါက မြန်မာနိုင်ငံနှင့် အိုင်၊အယ်၊အိုဆက်သွယ်ခဲ့သည်မှာလည်း အိန္ဒိယနိုင်ငံမှတဆင့်ဖြစ်၏။အိန္ဒိယအလုပ်ရုံများအက်ဥပဒေမှာ မြန်မာနိုင်ငံတွင် ၁၉၁၁ ခုနှစ်ကစ၍ အာဏာတည်မြဲခဲ့သည်။ထိုစဉ်က အလုပ်ရုံများဆိုင်ရာ အင်စပိတ်တော်ရာထူး (ကြပ်မရေးအရာရှိ) ကို အင်္ဂလန်မှခန့်အပ်လျက် မြန်မာနိုင်ငံအစိုးရ အထွေထွေဌာနလက်အောက်တွင် ထားရှိခဲ့လေသည်။ ၁၉၂၀ ပြည့်နှစ်တွင် အလုပ်ရုံများဆိုင်ရာ အင်စပိတ်တော်ချုပ်ဌာနကို စတင်ဖွင့်လှစ်လျက် အိန္ဒိယအလုပ်ရုံ အက်ဥပဒေများအတိုင်း လိုက်နာကျင့်သုံးစေခဲ့သည်။

၁၉၄၈ ခုနှစ်တွင် မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးနောက် နိုင်ငံတော်အစိုးရသည် အလုပ်သမားများအရေးကို အထူးအရေးယူခဲ့၏။ ၁၉၄၇ ခု ဇူလိုင်လ၌ အလုပ်သမားဥပဒေပြုအကြံပေးအဖွဲ့ကို ဖွဲ့စည်းခဲ့သည်။ ထိုအဖွဲ့၏အကြံပေးချက်အရ ဝါဏိဇ္ဇပဋိပက္ခ ပြင်ဆင်ချက် အက်ဥပဒေ၊အနည်းဆုံးလုပ်ခ အက်ဥပဒေ၊ သတ္တုတွင်းပြင်ဆင်ချက် အက်ဥပဒေ၊ ရေနံမြေအလုပ်သမားများ သက်သာချောင်ချိရေး အက်ဥပဒေ၊ အလုပ်ရုံများ အက်ဥပဒေ၊အလုပ်သမားများ လျော်ကြေးပေးရေး ပြင်ဆင်ချက် အက်ဥပဒေစသည်ဖြင့် များလှစွာသော ဥပဒေများကို ပြဋ္ဌာန်းခဲ့၏။ အထူးသဖြင့် ၁၉၅၁ ခုနှစ် အလုပ်ရုံများ အက်ဥပဒေမှာ ကလေး အလုပ်သမားများအတွက် များစွာ အကာအကွယ်ပေးခဲ့သည်။ ထိုဥပဒေအရ အသက် ၁၃ နှစ်မပြည့်သေးသည့် မည်သည့်ကလေးကိုမျှ အလုပ်ရုံတခုခုတွင် လုပ်ခွင့်မပြုရချေ။ အသက် ၁၃ နှစ်ပြည့်စေကာမူ ဆရာဝန် ထံမှ အလုပ်လုပ်ရန်သင့်လျော်ကြောင်း တာဝန်ခံလက်မှတ် ရရှိမှသာလျှင် လုပ်ခွင့်ပြုသည်။ ထို့ပြင် ကလေးများကို တနေ့လျှင် ၄ နာရီထက်ပိုမခိုင်းရန်သော်၎င်း၊ ညနေ ၆ နာရီမှ နံနက် ၆ နာရီအတွင်း မခိုင်းစေရန် သော်၎င်း၊ ၁၅ နှစ်ပြည့်ပြီးသော လူငယ်များကိုလည်း ဆရာဝန်ထံမှ သင့်လျော်ကြောင်းထောက်ခံချက် ရရှိမှသာ အချိန်ပြည့်လုပ်နိုင်သော လူကြီးလုပ်သားအဖြစ် ခိုင်းစေရန်၎င်း၊ ပြဋ္ဌာန်းပါရှိလေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်သည် ၁၉၄၈ ခု မတ်လ ကပင် အိုင်၊အယ်၊အိုအစည်းအရုံးကြီး၏ အသင်းဝင်နိုင်ငံတခု ဖြစ်လာသည့်အားလျော်စွာ အိုင်၊အယ်၊အို ညီလာခံများသို့ နှစ်စဉ်နှစ်တိုင်း ကိုယ်စားလှယ်များ စေလွှတ်ခဲ့သည်။ ယခုအခါ ထိုအဖွဲ့ချုပ်ညီလာခံများမှ ဆုံးဖြတ်ချက်ထောက်ခံချက် အခြေခံများအတိုင်း ကလေးအလုပ်ကြမ်းဥပဒေများနှင့် အလုပ်သမားဆိုင်ရာ အခြားဥပဒေများကို ပြဋ္ဌာန်းလျက်ရှိပေသည်။

**ကလေးသပင်**။ ။ကလေးသပင် ဟူ၍၎င်း၊ ကလေးခိုပင်ဟူ၍၎င်း၊အမည်တွင်သည့် အပင်တမျိုးကို မြန်မာနိုင်ငံရှိ အမြစ်မ်းတောများတွင် တွေ့မြင်ရသည်။ အပင်အရွယ်မှာ အလတ်စားမှ အကြီးစားအထိ ရှိသည်။ **ကလေးသပင်၏**



အသီးနှင့်အဆီ ဆေးဖက်ဝင်သည့် ကလောပင်

ရုက္ခဗေဒအမည်မှာ 'တရက်တိုဂျီးနိုး ကာဇိုင်း' ဖြစ်၏။ ချေးပင်နှင့် ကလောပင်တို့၏ အသီးများသည် ဆေးဖက်ဝင်ကြသဖြင့် ယင်းတို့ကို ဘယဆေးဆိုင်များတွင် ရောင်းချကြသည်။ ကလောစေ့မှရသော ကလောဆီသည် အရေပြားရောဂါများ အထူးသဖြင့် ကုဋ္ဌနူနာ ကုသရာ၌ အသုံးဝင်သော ဆေးဖက်တခုဖြစ်သည်။ ကလောပင်၏ အသားမှာ မာ၍ ဖျော့တော့တော့ အရောင်ရှိသည်။

**ကလောမြို့။** ။သာစည်မြို့အရှေ့ဖက် တောင်စဉ်တောင်တန်းများရှိ လှိုင်းတက်၊ ယင်းမာပင်၊ ဘုရားသုံးဆူ စသောရွာများကို ကျော်လွန်၍ ဝက်ဖြူတောင်သို့ တရွေ့ရွေ့ တက်လာလျှင်၊ သစ်တောများမှာ သစ်ယာ၊ အင်ကြင်း၊ ပိတောက်၊ ကညင်၊ တောင်သရက်၊ တောင်ပိန္နဲစသော သစ်တောများ မဟုတ်တော့ဘဲ လေထဲတွင် တရှဲရှဲမြည်လေ့ရှိသော ထင်းရှူးတောကြီးများသို့ ရောက်လာပြီးနောက်၊ တောင်ထိပ်အလွန် မြေပြန့်ကွက်ကျယ်တခုတွင် ကျောင်းကန်ဘုရား စေတီများ၊တိုက်တာအိမ်ယာများဖြင့် သာယာလှပသော ကလောမြို့ကို တွေ့ရပေမည်။

ကလောမြို့သည် ရှမ်းပြည်တောင်ပိုင်း သာစည်လမ်းခွဲ အရှေ့ဖက် မီးရထားလမ်းပေါ်တွင် သာစည်မြို့မှ ၆၃ မိုင် အကွာ၌ တည်ရှိသည်။ မော်တော်ကားလမ်း အတိုင်းဆိုလျှင် မိုင် ၆၀ ကွာဝေးသည်။ မြို့၏အကျယ်အဝန်းမှာ စတုရန်း ၉ မိုင်ခွဲခန့်ရှိ၍ လူဦးရေ ၅၀၀၀ ခန့် (၁၉၅၃) ရှိသည်။ ကလောမြို့သည် ပင်လယ်ပြင်မှ အမြင့်ပေ ၄၃၀၀ ခန့်တွင် တည်ရှိသည်။ တပေါင်း တန်ခူး လများတွင် အမြင့်ဆုံးအပူချိန်မှာ ၇၄ ဒီဂရီခန့်ရှိ၏။ ပြာသို တပို့တွဲ လများတွင် အပူချိန် ၅၄ ဒီဂရီမျှသာရှိ၍ အလွန်အေးသည်။

မြို့၏ပုံသဏ္ဌာန်မှာ ပတ်လည်တွင် တောင်များဝန်းရံထား၍ ဇလုံနှင့်တူသောကြောင့် ပလောင်ဘာသာဖြင့် 'ကလောက်' (ဇလုံ) မြို့ဟု ခေါ်တွင်ရာမှ ကလောမြို့ဟု တွင်လာကြောင်း သိရသည်။ ရှေးက ပလောင်အမျိုးသားများ တည်စိုက်ခဲ့သော ဒေသဖြစ်သည်။



ရှမ်းပြည်တောင်ပိုင်းရှိ နွေရာသီအပန်းဖြေရာ တောင်စခန်းမြို့ဖြစ်သောကလောမြို့

ကလောမြို့မှာ ရှမ်းပြည်တောင်ပိုင်း၏ တောင်စခန်းမြို့ဖြစ်၍ ရှေးအခါက ဥရောပတိုက်သားများနှင့် သဌေးသူကြွယ်တို့ နွေအခါ သွားရောက်နေထိုင်ရာဖြစ်လျက်၊တည်းခိုစားသောက်ရန် ဟိုတယ်ကြီးတခုနှင့် ရေကူးကန်၊ဂေါက်သီးကစားကွင်းတို့ ရှိသည်။ ပတ်ဝန်းကျင်ရှိ တောင်ကုန်းတောင်တန်းများမှာ ထင်းရှူးပင်၊ ချယ်ရီပင်၊ ပိုးစာပင်နှင့် သစ်သော့သီး၊ပန်းသီး၊ဆီးသီးစသော သီးမျိုးစုံ အပင်များဖြင့် ဖုံးလွှမ်းလျက်ရှိသည်။ ကလောမြို့ အရှေ့ဖက်စွန်းတွင် တောင်လားချောင်း ဖြတ်သန်းစီးဆင်းရာအနီး၌ ဘူတာရုံတည်ရှိသည်။

ကလောမြို့သည် တောင်စခန်းမြို့ ဖြစ်သည့်အတိုင်း နွေအခါတွင် အရပ်ရပ်မှ ဧည့်သည်များ လာရောက်လည်ပတ်လေ့ရှိသည်။ အင်္ဂလိပ်အထက်တန်းကျောင်း၊မြန်မာစာသင်ကျောင်းများ ရှိသည်။ ဘမ်းပရွာ အနီးရှိ ဥမင်တခုတွင်ရှိသော ရွှေဥမင်ဘုရားမှာ ထင်ပေါ်ကျော်ကြား၍ နှစ်စဉ်ဘုရားပွဲကျင်းပတိုင်း အရပ်ရပ်မှ ဘုရားဖူးများ အထူးစည်ကားစွာ လာရောက်ကြသည်။

မြို့ပတ်ဝန်းကျင်တွင် ဆန်စပါး အနည်းငယ်သာ စိုက်ပျိုး၍ ဂျုံနှင့်အာလူးကို အများအပြား စိုက်ပျိုးကြသည်။ ကျွဲနွားမြင်းများကိုလည်း အသင့်အတင့် မွေးမြူကြသည်။

**ကလိုဗါပင်။** ။ကလိုဗါပဲပင်သည် ပဲလုံးမျိုးရင်းတွင် ပါဝင်၍ အယ်လဖါးဖါးပင်ကဲ့သို့ ကျွဲနွားစာအတွက်နှင့် လယ်ခင်းများ မြေဩဇာ ထက်သန်လာစေရန်အတွက် စိုက်ပျိုးကြသည်။ ကလိုဗါပဲပင် မျိုးစိတ်ပေါင်း ၄၀၀ ကျော်မျှရှိ၍ ဥရောပတိုက်နှင့် မြောက်အမေရိကတိုက် သမပိုင်းဒေသများတွင် ကောင်းစွာ ဖြစ်ထွန်းကြသည်။ ကလိုဗါပဲပင်တို့၏ အရွက်တွင် ရွက်မြွာသုံးရွက်စီပါရှိ၍ ထိုအပင်များမှ အနီပွင့် အဖြူပွင့်နှင့် ကြက်သွေးရောင် အဝါရောင်အပွင့်များ ပွင့်ကြသည်။

ကလိုဗါပဲပင်အစစ်နှင့် အလွန်နီးစပ်ဆင်တူသည့် ကလိုဗါအချိုပင်များကို ယခင်က ပျားမွေးမြူသူတို့သာ စိုက်ပျိုးကြသည်။ ထိုအပင်များဖြင့် ပျားမွေးမြူသောအခါ အကောင်းစားပျားရည်ကို ရရှိနိုင်၏။ ယခုအခါ တောင်သူလယ်သမားများလည်း ဤအပင်မျိုးကို အသုံးပြုလာကြပြီ။

ကလိုဗါပဲပင်များကို စိုက်ပျိုးပြီးလျှင် ကျွဲနွားစာအတွက် ပင်စည်များကို ပဌမအကြိမ် ရိတ်သိမ်းကြသည်။ နောက်တကြိမ် အစေ့များအတွက် ရိတ်သိမ်းရပြန်သည်။ ဤအပင်များနှင့် သင့်တော်သည့် ရာသီဥတု ကြာရှည်ခဲ့သော် ထပ်မံ မစိုက်မပျိုးရဘဲ အကြိမ်ကြိမ် ရိတ်သိမ်းနိုင်သည်။

အယ်လဖါးဖါးပင်ကဲ့သို့ ကလိုဗါပဲပင်၏ အမြစ်များသည်လည်း ရှည်လျားကြသဖြင့် မြေဆီအောက်ခံလွှာတွင်ရှိသော အပင်အာဟာရဓါတ်ကို ထုတ်ယူသုံးစွဲနိုင်သည်။ ထိုပြင် အပင်၏ အမြစ်များတွင်ရှိသော အဖုငယ်တို့၌ လေထဲမှ နိုက်ထရိုဂျင်ဓါတ်ကို စုတ်ယူ၍ အပင်အာဟာရဓါတ်အဖြစ် ပြောင်းပေးသည့် ဗက်တီးရီးယားများ နေထိုင်ကြသည်။ (နိုက်ထရိုဂျင် — ရှု။) ယင်းသို့ဖြင့် ကလိုဗါပဲပင်များ စိုက်ပျိုးထားသည့် လယ်ခင်းများတွင် နိုက်ထရိုဂျင်ဓါတ် ပြည့်လာသည်။ အလျင်နှစ်က ကလိုဗါပဲပင်များစိုက်ပျိုးခဲ့သည့် လယ်ခင်းတွင် ပြောင်းဖူးပင်များကို တလှည့်စိုက်ပျိုးကြည့်ရာ ပြောင်းဖူးပင်များမှာ သန်စွမ်း၍ ပြောင်းဖူးအထွက် ကောင်းလာကြောင်းကို တွေ့ရှိရခြင်းဖြင့်၊ မြေဩဇာပြုပြင်ရေးတွင် ဤပဲပင်မျိုးသည် များစွာအရေးပါကြောင်း ထင်ရှားပေသည်။

**ကလိုရင်း။** ။ကလိုရင်းသည် စိမ်းလဲ့လဲ့အရောင်နှင့် အသက်ရှူကျပ်စေသောအနံ့ရှိ၍လေထက်ပိုလေးသော ဓါတ်ငွေ့ဖြစ်၏။ ဤဓါတ်ငွေ့သည် ဟယ်လိုဂျင်ဓါတ်ငွေ့အစုတွင် ဖလိုရင်း၊ ဗရိုမင်းနှင့် အိုင်အိုဒင်းဓါတ်ငွေ့တို့နှင့်အတူ ပါဝင်ရာ၊ယင်းတို့၏ ဂုဏ်သတ္တိချင်းမှာ ဆင်တူယိုးမှား ဖြစ်ကြသည်။ ဟယ်လိုဂျင်ဓါတ်ငွေ့စုတွင် ဖလိုရင်းဓါတ်ငွေ့သည် ဓါတ်ပေါင်းစပ်ရာ၌ အထက်မြက်ဆုံးဖြစ်၍ ကလိုရင်းဓါတ်ငွေ့မှာ ဒုတိယ အထက်မြက်ဆုံးဖြစ်၏။ ကလိုရင်းဓါတ်ငွေ့ကို ၁၇၇၄ ခု နှစ်တွင် ဆွီဒင်လူမျိုး ဓါတုဗေဒကဝိ ရှေးလဆိုသူက အဦးဆုံး တွေ့ရှိခဲ့သည်။ ထိုစဉ်က ဒြပ်စင်တခုအဖြစ်ဖြင့် မသိရှိကြဘဲ အောက်ဆီဂျင်နှင့် ရောစပ်နေသော ဒြပ်ပေါင်းတခုဟုသာ ထင်မှတ်ခဲ့ကြ၏။ သို့သော် ၁၈၁၀ ပြည့်နှစ်သို့ ရောက်သောအခါ ဆာဟမ်ဖရီဒေဗီက ကလိုရင်းသည် ဒြပ်ပေါင်းမဟုတ်ဘဲ ဒြပ်စင်တခုဖြစ်ကြောင်း ထုတ်ဖေါ်ပြသခဲ့လေသည်။

ကလိုရင်းဓါတ်ငွေ့သည် အလွန်အဆိပ်ပြင်းထန်၍ လေထက် လေးသောကြောင့်၊ ပဌမ ကမ္ဘာစစ်အတွင်းက အဆိပ်ဓါတ်ငွေ့အဖြစ် အသုံးပြုခဲ့ဘူးရာ လူအမြောက်အမြား သေကြေခဲ့ကြရ၏။ သို့သော် လူတို့အား အကျိုးရှိစေမည့် ကိစ္စအများ၌ ကလိုရင်းသည် မည်မျှ အရေးပါ အရာရောက်စွာ အသုံးဝင်ပုံကို အောက်တွင်တွေ့ရပေမည်။

ကလိုရင်းကို ဓါတ်ငွေ့သန့်သန့် အဖြစ်ဖြင့် သဘာဝအလျောက် မတွေ့ရချေ။ ဒြပ်ပေါင်းအနေနှင့်သာ အတွေ့ရများသည်။ အထူးသဖြင့် ဆိုဒီယမ်၊ပိုတက်ဆီယမ်၊မက်ဂနီဇီယမ်တို့နှင့် ပေါင်းစပ်လျက် တွေ့ရသည်။ ကလိုရင်းသက်သက်သည် အဆိပ်ဖြစ်သော်လည်း၊ဆိုဒီယမ်နှင့် ပေါင်းစပ်ရာမှ ဖြစ်ပေါ်လာသည့် ဆိုဒီယမ်ကလိုရိုက် ဒြပ်ပေါင်းမှာ ကျွန်ုပ်တို့နေ့စဉ်သုံးစွဲလျက်ရှိသော ဟင်းခတ်ဆားပင်ဖြစ်၏။

ကလိုရင်းဓါတ်ငွေ့သန့်သန့်ကို လျှပ်စစ်ဖြင့်ဓါတ်ခွဲနည်းဖြင့်

ရရှိနိုင်သည်။ ဟင်းခတ်ဆား ဖျော်ရည်ထဲတွင် လျှပ်စစ်လွှတ်၍ ခါတ်ခွဲလိုက်သောအခါ ကလိုရင်းဓါတ်ငွေ့သည် ဓါတ်ဖိုတိုင်မှ ထွက်လာ၏။ ကလိုရင်းဓါတ်ငွေ့ကို ဖိအားကောင်းကောင်းဖြင့်ဖိ၍ ကလိုရင်းအရည်အဖြစ်သို့ ပြောင်းသွားစေပြီးလျှင် သံမဏိစည်ကြီးများတွင်ထည့်၍ အကြီးအကျယ် ရောင်းဝယ်ကြသည်။ ထိုကလိုရင်းအရည်ကို မြို့ကြီးပြကြီးများ၌ သောက်ရေအဖြစ် အသုံးပြုသော ရေများတွင် ရောဂါပိုးများသေ၍ သန့်ရှင်းစေရန် အနည်းငယ်ခတ်ပေးရသည်။

ကလိုရင်းသည် အခြားဓါတ်ငွေ့များ၊ သတ္တုများနှင့် ပေါင်းစပ်ရာ၌ အလွန်ထက်မြက်၏။ ဟိုက်ဒရိုဂျင်နှင့် တိုက်ရိုက်ပေါင်းစပ်သောအခါ ဟိုက်ဒရိုဂျင်ကလိုရိုက်ခေါ် ဟိုက်ဒရိုကလောရစ်အက်ဆစ်ကို ရ၍၊ ဤအက်ဆစ်မှာ စက်မှုလက်မှုလုပ်ငန်း တွင်၎င်း၊ ကိုယ်တွင်းအစာချေမှု တွင်၎င်း၊ အလွန် အရေးကြီး အသုံးဝင်သည်။ ဆိုဒီယမ်၊ပိုတက်ဆီယမ်၊မန်ဂနိစသော သတ္တုများနှင့် ပေါင်းစပ်သောအခါ ဆိုဒီယမ်ကလိုရိုက်၊ ပိုတက်ဆီယမ်ကလိုရိုက်၊ မန်ဂနိကလိုရိုက်စသော ကလိုရိုက်အသီးသီးကို ရသည်။

ကလိုရင်း၌ ဝတ္ထုပစ္စည်းများမှ အရောင်အမျိုးမျိုးကို ချွတ်ပစ်နိုင်သော သတ္တိလည်းရှိသည်။ ခြောက်သွေ့သော ကလိုရင်းဓါတ်ငွေ့ ထည့်ထားသည့်ဖန်ဗူးထဲသို့ ခြောက်သွေ့သော သစ်ရွက်စိမ်းတရွက်ကိုဖြစ်စေ၊ ခြောက်သွေ့သောပန်းနီတပွင့်ကို ဖြစ်စေ၊ ခြောက်သွေ့သော အဝတ်အနီကို ဖြစ်စေ၊ ထည့်လိုက်သောအခါ အရောင်ပျက်သွားသည်ကို မတွေ့ရချေ။ သို့သော် ဖန်ဗူးထဲရှိ ပစ္စည်းများ စိုစွတ်သွားအောင် ရေအနည်းငယ် ထည့်ပေးလိုက်သည်နှင့် တပြိုင်နက်၊ ထိုပစ္စည်းတို့၏ အနီရောင် အစိမ်းရောင်တို့သည် ပျောက်ကွယ်၍ ဖြူသွားကြတော့၏။ အရောင်ဖြူသွားရခြင်း၏ အကြောင်းမှာ ကလိုရင်းသည် ထည့်လိုက်သော ရေထဲမှ ဟိုက်ဒရိုဂျင်နှင့် ပေါင်းစပ်သွားပြီးသော် အောက်ဆီဂျင်ကို ထီးတည်းကျန်နေစေသည်။ ထိုအောက်ဆီဂျင်က အရောင်ကို ပျက်အောင်ပြုသဖြင့် အရောင်များ ဖြူသွားရခြင်းဖြစ်၏။ ထို့ကြောင့် ကလိုရင်းကို အရောင်ချွတ်ဆေးများ ဖေါ်စပ်ရာ၌ များစွာ အသုံးပြုကြသည်။

ကလိုရင်းသည် ဆိုးဆေး၊ မီးသတ်ဆေးရည်နှင့် ကလိုရိုဖေါင်းခေါ် မေ့ဆေးများ ဖေါ်စပ်ရာ၌လည်း များစွာ အသုံးဝင်ပေသည်။

**ကလိုးဗစ်ဘုရင်** (ခရစ် ၄၆၆–၅၁၁)။ ။ကလိုးဗစ်ဘုရင်သည် ဖရန့်လူမျိုးများ၏ မျိုးတစု တစုဖြစ်သော ဆေးလယန်းဖရန့်တို့၏ အကြီးအကဲဖြစ်သူ ချိုလဒါရစ်ဘုရင်၏ သားတော်ဖြစ်သည်။ ၄၈၁ ခုနှစ်တွင် ခမည်းတော်၏ အရိုက်အရာကို ဆက်ခံသောအခါ အသက် ၁၅ နှစ်မျှသာ ရှိသေး၏။ ထိုစဉ်က ဖရန့်ဘုရင်များသည် မျိုးတစုများ၏ အကြီးအကဲများသာ ဖြစ်ကြ၍ ကလိုးဗစ်မှာ ထိုဖရန့်ဘုရင်အများတွင် တပါးအပါအဝင် ဖြစ်သည်။ ၄၈၆ ခုနှစ်တွင် ကလိုးဗစ်သည် ဆွားဆွန်း အနီး တိုက်ပွဲ၌ ရောမတို့ကို အောင်နိုင်လိုက်သဖြင့် စိန်းမြစ်ဝှမ်းကို စိုးမိုးရလေသည်။

၄၉၃ ခုနှစ်တွင် ကလိုးဗစ်သည် ကလိုတီးလဒါး အမည်ရှိ ဗါဂန်ဒီမင်းသမီးကို မိဖုရားမြှောက်သည်။ ကလိုတီးလဒါးမှာ ခရစ်ယန်ဖြစ်သည့်အလျောက် ဘုရင်ကြီးအား ခရစ်ယန်အယူဝါဒသို့ ကူးပြောင်းရန် မကြာခဏ တိုက်တွန်းခဲ့၏။ ကလိုးဗစ်သည် သူ၏သားတော် သမီးတော်များအား ရေနှစ်မင်္ဂလာ ခံယူစေခဲ့သော်လည်း သူကိုယ်တိုင်မှာမူ ဂျာမန်အနွယ် အယ်လမန်းနိုင် လူမျိုးတို့အားတိုက်ခိုက်အောင်မြင်ခဲ့ပြီးသည့်နောက်မှ ခရစ်ယန် ဖြစ်လာခဲ့လေသည်။

ကလိုးဗစ်ဘုရင်သည် ဘုန်းလက်ရုံးနှင့် ပြည့်စုံသော ဘုရင်ဖြစ်သည့်အလျောက်၊ အကွဲကွဲအပြားပြား ဖြစ်နေသော ဖရန့်နိုင်ငံကို တစည်းတလုံးတည်း ဖြစ်စေခဲ့သည်သာမက၊ မြောက်ဖက်နှင့် အရှေ့ဖက်တွင် ရိုင်းမြစ်မှ တောင်ဖက် ပီးရနီးတောင်တန်းအထိ ကျယ်ပြန့်သောနိုင်ငံကို တည်ထောင်ခဲ့သည်။ ကလိုးဗစ်ဘုရင် တည်ထောင်ခဲ့သော နိုင်ငံမှာ နောင်အခါတွင် ပြင်သစ်နိုင်ငံ ဖြစ်လာရာ၊ပါရစ်မြို့မှာ ထိုစဉ်ကပင် မြို့တော်ဖြစ်ခဲ့ပေသည်။

ကလိုးဗစ်ဘုရင်သည် ၅၁၁ ခုနှစ်တွင် နတ်ရွာစံလေသည်။



အိန္ဒိယတွင် ဗြိတိသျှအာဏာကို အခြေစိုက်ပေးခဲ့သူ ကလိုက်

**ကလိုက်, အာ** (ခရစ် ၁၇၂၅-၁၇၇၄)။ ။နောင်အခါတွင် ပလက်ဆီးစား ဗဲရွန်ဘွဲ့ရသူ ရောဗတ် ကလိုက်သည် ကား အိန္ဒိယနိုင်ငံတွင် ဗြိတိသျှတို့လွှမ်းမိုးနိုင်ရန် စတင်အခြေစိုက်ပေးခဲ့သူ ဖြစ်ပေသည်။ ထိုပုဂ္ဂိုလ်ကြီးသည် အုပ်ချုပ်ရေးတွင်၎င်း၊စစ်မှုရေးရာတွင်၎င်း၊ထူးခြားလှသော စွမ်းရည်သတ္တိနှင့် ပြည့်စုံသူလည်းဖြစ်လေသည်။ အချို့က လော့နေ့သည် အမေရိကတိုက်သို့ ဗိုလ်ချုပ်ဗါဂွိုင်းကို လွှတ်မည့်အစား ကလိုက်ကိုလွှတ်ခဲ့လျှင် အမေရိကန်လွတ်လပ်ရေးစစ်ပွဲသည် တမျိုးတဖုံ အဆုံးသတ်စရာအကြောင်းရှိသည်ဟုပင် ဆိုလေသည်။

ကလိုက်သည် ရှရော့ရှိုင်ယာနယ်တွင် ၁၇၂၅ ခု စက်တင်ဘာလ ၂၉ ရက်နေ့၌ မွေးဖွားခဲ့၍ ကျောင်းနေစဉ်အခါက ဆိုဆုံးမခက်သော သူငယ်တဦးဖြစ်၏။ အသင့်အတင့်မျှသာ ပညာသင်ကြားတတ်မြောက်ခဲ့၍ ၁၈ နှစ်အရွယ်တွင် အိန္ဒိယနိုင်ငံ အရှေ့အိန္ဒိယကုမ္ပဏီသို့ သွားရောက်ကာ စာရေးအဖြစ် အမှုထမ်းခဲ့သည်။ ထိုအချိန်ကား အရှေ့အိန္ဒိယကုမ္ပဏီသည် ဂွတ်ဒဟုပ်အငူ အရှေ့ဖက်ရှိ ဗြိတိသျှပိုင် နယ်သစ်များကို အုပ်ချုပ်နေရစဉ်အခါဖြစ်၏။ ထို့ပြင် အိန္ဒိယနိုင်ငံရှိ ဗြိတိသျှနှင့် ပြင်သစ်အရှေ့အိန္ဒိယကုမ္ပဏီများသည် အိန္ဒိယ၌ အာဏာလွှမ်းမိုးရန် အကြံချင်းတူနေသဖြင့် ရန်သူများဖြစ်လျက်မာန်စောင်နေကြသောအခါလည်းဖြစ်သည်။

၁၇၄၆ ခု နှစ်တွင်ကား ပြင်သစ်တို့သည် ဗြိတိသျှတို့အား အိန္ဒိယမှ အပြီးအပိုင်နှင်ထုတ်ရန် ရည်ရွယ်ချက်ဖြင့် မဒရပ်မြို့ကို တိုက်ခိုက်ခဲ့လေသည်။ ထိုအခါ စာရေးအလုပ်ဖြင့် ပျင်းပျင်းရိရိ အမှုထမ်းနေရသော ကလိုက်အဖို့ တမျိုးတဖုံ အမှုထမ်းရန် အခါအခွင့်ရရှိခဲ့၏။ ပြင်သစ်တို့ကို ပြန်လည်ခုခံတိုက်ခိုက်သော ကုမ္ပဏီ၏စစ်တပ်တွင် ကလိုက်သည် အလံကိုင် ဗိုလ်အဖြစ် ဝင်ရောက်ဆောင်ရွက်ခဲ့လေသည်။ သို့သော် စစ်မှုရေးရာအစွမ်းအစကို မပြလိုက်ရသေးမီ ပြင်သစ်နှင့်ဗြိတိသျှတို့ စစ်ရပ်စဲလိုက်ကြသည်။

သို့ရာတွင် ကလိုက်သည် သူ၏အစွမ်းအစပြသရန် အခါအခွင့်ကို မကြာမီ ရရှိခဲ့လေသည်။ တခါသော် ပြင်သစ်နှင့်ဗြိတိသျှတို့သည် တိုင်းရင်းသား စော်ဘွားနယ်တနယ်၏ ရိုက်ရာဆက်ခံရေးတွင် တဖက်စီ ဝင်ရောက်စွက်ဖက်ကြရာမှ ယှဉ်ပြိုင်တိုက်ခိုက်ကြရသော အခြေအနေသို့ပင် ဆိုက်ရောက်ခဲ့ကြရ၏။ ပြင်သစ်တို့ကထောက်ခံသော စော်ဘွားလောင်း ချန္ဒာဆာဟစ်သည် အင်အားနည်းသော ဗြိတိသျှတပ်စုတစု စောင့်ရှောက်ထိန်းသိမ်းထားသည့် ထရစ်ချီနေ့ပိုလီမြို့ကို အလုံးအရင်းနှင့်တိုက်ခိုက်သဖြင့် ထိုမြို့ကျဆုံးလုဆဲဆဲ ရှိနေသောအခါ၊ချန္ဒာဆာဟစ်၏ အင်အားကွဲသွားစေရန် ရည်ရွယ်ချက်ဖြင့် ထိုအရေးစတင်ရာ ကာနက်တစ်နယ်၏မြို့တော် အားကော့မြို့ကို အကာအကွယ်မရှိ


ရောဗတ်ကလိုက် အောင်ပွဲရလိုက်သော ပလက်ဆီးတိုက်ပွဲ

သည့်အခိုက်၊ ဥရောပတိုက်သားစစ်သည်တော် ၂၀၀ စစ်ဗါရီ ၃၀၀ မျှနှင့် ကလိုက်သည် တိုက်ခိုက်သိမ်းယူလေသည်။

ထိုအခါ ချန္ဒာဆာဟစ်သည် အင်အားကောင်းလှသော တပ်ကြီးတတပ်ကို သူ့သားကိုယ်တိုင်ဦးစီးစေ၍ အားကော့မြို့ကို ပြန်လည်တိုက်ခိုက်သိမ်းယူရန် စေလွှတ်လိုက်ရာ၊ ကလိုက်တို့လူစုမှာ အင်အားအဆမတန်ကြီးမားသော ရန်သူတပ်ကြီး၏ ဝိုင်းဝန်းတိုက်ခိုက်ခြင်းကို ခံခဲ့ရ၏။ သို့သော် ကလိုက်သည် မြို့ကိုရန်သူတို့လက်သို့မကျအောင် သိမ်းပိုက်ထားခဲ့ပြီးနောက် ၅၃ ရက်တိုင်တိုင် ရန်သူတို့ကို တွန်းလှန်တိုက်ထုတ်နိုင်ခဲ့သည်။ ယင်းသို့ အင်အားချင်းမမျှဘဲ များပြားသည့်ရန်သူတို့ကို တွန်းလှန်နိုင်ခဲ့သည့်အတွက် ကလိုက်၏ ဂုဏ်သတင်းမှာ ထင်ရှားကျော်ကြားလာလေသည်။

ထိုနောက်တွင် ရန်သူတို့၏ အဝိုင်းခံနေရသော ထရစ်ချီနေ့ပိုလီမြို့ကိုလည်း ကလိုက် ကယ်တင်ခဲ့လေသည်။ ထို့ပြင် ကိုဗလောင်းနှင့် ချင်ဂလာပတ် ခံတပ်များကိုလည်း တိုက်ခိုက်သိမ်းပိုက်ခဲ့၏။ သို့နှင့် အင်္ဂလိပ်တို့ထောက်ခံသော စော်ဘွားလောင်း မဟာမက်အလီသည် ကာနက်တစ်နယ် နဝပ်စော်ဘွားအဖြစ် ရရှိသွားလေသည်။

၁၇၅၃ ခု နှစ်တွင် ကလိုက်သည် အင်္ဂလန်သို့ပြန်လာပြီး

သော် အတန်ကြာနေထိုင်ခဲ့သည်။ သို့နေထိုင်စဉ် ပါလီမန်အမတ်အဖြစ် အရွေးခံခဲ့ရ၏။ ၁၇၅၆ ခု နှစ်တွင် ကလိုက်အား အိန္ဒိယသို့ ယခုအခါ မဒရပ်မြို့ဟုခေါ်တွင်သည့် ဖို့စိန်ဒေးဗစ်မြို့၏ ဘုရင်ခံအဖြစ်ခန့်ထား၍ စေလွှတ်ခဲ့သည်။

ထိုအတောအတွင်း စူရားဂျတ်ဒေါင်လာအမည်ရှိ ဗင်္ဂလားနယ် နဝပ်စော်ဘွားသည် ကာလကတ္တားမြို့ကို သိမ်းပိုက်ခဲ့ပြီးနောက် ဗြိတိသျှလူမျိုး ယောကျ်ား မိန်းမနှင့် ကလေး ၁၄၆ ယောက်တို့ကို ကာလကတ္တားရှိ အလုံထောင်အတွင်း ပိတ်လှောင်အကျဉ်းချထားခဲ့ရာ လေကောင်းစွာမရှူရသောကြောင့် တညအတွင်းပင် လူပေါင်း ၁၂၃ ယောက် သေဆုံးခဲ့ကြရ၏။ ထိုကိစ္စကို 'ကာလကတ္တား အလုံထောင်ကိစ္စ' ဟု ခေါ်ဝေါ်ကြ၍ ဗြိတိသျှတို့မှာ မျှားစွာမခံမရပ်နိုင်အောင် ဖြစ်ခဲ့ကြလေသည်။ ထို့ကြောင့် ကလိုက်မှာ မဒရပ်သို့ ရောက်လျှင်ရောက်ခြင်းဆိုသလိုပင် ကာလကတ္တားမြို့ကို ချီတက်သိမ်းပိုက်ရန် တာဝန် လွှဲအပ်ခြင်းခံရသဖြင့် ရေကြောင်းမှချီတက်၍ ကာလကတ္တားမြို့ကို အောင်မြင်စွာ တိုက်ခိုက် သိမ်းပိုက် ခဲ့လေ သည်။ ယင်း သည့် အရေး တွင် အင်အားတောင့်တင်းလှသော စော်ဘွား စစ်တပ်ကြီးကို ကလိုက်သည် အင်အားအဆမတန် နည်းပါးလှသော သူ၏တပ်နှင့် တိုက်ခိုက်အောင်မြင်ခဲ့ပေသည်။

ဤသို့ဖြင့်စော်ဘွားမှာ စစ်ပြေငြိမ်းရန်စကားကမ်းလှမ်းခဲ့ရပြီးသော်၊ဗြိတိသျှတို့အဖို့ အကျိုးရှိစေသည့် စစ်ပြေငြိမ်းရေးစာချုပ်ကို လက်ခံလိုက်ရ၏။ ထိုနောက် ပြင်သစ်ပိုင် ချန္ဒနဂိုရ်မြို့ကိုလည်း တိုက်ခိုက်သိမ်းပိုက် ဖျက်ဆီးပစ်လိုက်လေသည်။ သို့သော် မကြာမီ ကလိုက်သည် ထိုစော်ဘွားအား ရာထူးမှချ၍ စော်ဘွား၏စစ်သေနာပတိ မီရာဂျက်ဖါးအား၊ စော်ဘွား၏နေရာတွင်တင်ရန် အစီအစဉ်တရပ်ကို လျှို့ဝှက်စွာပြုလုပ်ခဲ့လေသည်။ ထို့ကြောင့် ၁၇၅၇ ခုနှစ်တွင် လူ ၃၀၀၀ ပါဝင်သောတပ်နှင့် စော်ဘွား စူရားဂျတ်ဒေါင်လာကိုတိုက်ရန် ထွက်လာခဲ့ရာ ပလက်ဆီးကွင်းပြင်တွင် လူ ၅၀၀၀၀ ပါသော စော်ဘွားတပ်ကြီးနှင့် ဆုံမိလေသည်။ ထိုသို့ အင်အားချင်းမမျှဘဲ ဖြစ်နေသော်လည်း စော်ဘွား၏တပ်ကြီးမှာ ကလိုက်စစ်တပ်၏ ရှုပ်ရှုပ်ချချတိုက်ခိုက်မှုကို မခံရပ်နိုင်သဖြင့် မရှုမလှ အရေးရှုံးနိမ့်ရလေသည်။ ယင်းသို့ ပလက်ဆီးတိုက်ပွဲတွင် အောင်ပွဲရလိုက်ခြင်းဖြင့် ကလိုက်သည် အိန္ဒိယနိုင်ငံ၌ ဗြိတိသျှတန်ခိုးအာဏာကို အထွတ်အထိပ်သို့ရောက်အောင် စွမ်းဆောင်ခဲ့လေသည်။

ထို့ပြင် ကလိုက်၏အကူအညီကြောင့် မီရာဂျက်ဖါးမှာ ဗင်္ဂလားနယ်၏ နဝပ်စော်ဘွား ဖြစ်လာလေရာ ကလိုက်အား ကောင်းစွာကျေးဇူးဆပ်သဖြင့် သူဌေးဖြစ်လောက်အောင် ပစ္စည်းဥစ္စာများ ရရှိခဲ့၏။ ထိုမျှမကသေး မီရာဂျက်ဖါးသည် စော်ဘွားဖြစ်လာသော်လည်း ကလိုက်ကသာ စီမံခန့်ခွဲအုပ်ချုပ်ခဲ့လေသည်။ ၁၇၆၀ ပြည့်နှစ်တွင် ကလိုက်သည် အင်္ဂလန်ပြည်သို့ ပြန်သွား၏။ အင်္ဂလန်သို့ပြန်ရောက်သော အခါ အထူးတလည် ချီးမြှင့်မြောက်စားခြင်းခံရသည့်ပြင် ရှရူးစဗါရီနယ်မှ ပါလီမန်အမတ်အဖြစ်လည်း ရွေးကောက်တင်မြှောက်ခြင်း ခံရသည်။ ၁၇၆၂ ခုနှစ်တွင် ဗဲရွန်အဆင့်အတန်းဖြင့် သူကောင်းပြုခြင်း ခံရလေသည်။

၁၇၆၅ ခုနှစ်တွင် အိန္ဒိယနိုင်ငံရှိ ဗြိတိသျှလူမျိုးတို့၏ အခြေအနေမှာ အတော်ပင် ဆိုးရွားလာသဖြင့် ကလိုက်မှာ အိန္ဒိယသို့ ဗင်္ဂလားနယ်၏ ဘုရင်ခံနှင့်သေနာပတိအဖြစ် ပြန်သွားရပြန်သည်။ ကလိုက်ရောက်သွားသောအခါ မဂိုဧကရာဇ်ဘုရင် ရှာအလမ်နှင့် သင့်တင့်စွာ ဆက်ဆံနိုင်အောင် ဆောင်ရွက်ခဲ့၏။ ထို့ကြောင့်လည်း မဂိုဧကရာဇ်က အရှေ့အိန္ဒိယကုမ္ပဏီအား ဗီဟား၊ ဩရိဿနှင့် ဗင်္ဂလားနယ်တို့မှ အခွန်ကောက်ခံပေးရန် စေခိုင်းခြင်း ခံရလေသည်။ ထိုအခါ အရှေ့အိန္ဒိယကုမ္ပဏီမှာ ထိုနယ်များကို အုပ်ချုပ်သူများသဖွယ် ဖြစ်လာသည့်ပြင် အကျိုးအမြတ်လည်း များစွာခံစားခဲ့ရပေသည်။ ထို့ပြင် ကလိုက်သည် စစ်တပ်ကို ပြန်လည်ပြုပြင်ဖွဲ့စည်းခဲ့၍၊ ဗင်္ဂလားနယ် မြို့ပြ အုပ်ချုပ်ရေးစံနစ်များကိုလည်း တိုးတက်ကောင်းမွန်အောင် ပြုပြင်ပေးခဲ့လေသည်။ ၁၇၆၇ ခုနှစ်တွင် ကလိုက်သည် အင်္ဂလန်သို့ ပြန်သွားပြန်၏။

ယင်းသို့ အိန္ဒိယ၌ ဗြိတိသျှတို့၏အာဏာစက် တည်တံ့ခိုင်မြဲရေးကို ဆောင်ရွက်ခဲ့ပြီးပြန်လာခဲ့သော ကလိုက်အားအောက်လွှတ်တော်တွင် အိန္ဒိယ၌ သူပြုခဲ့သည့် အချို့သောကိစ္စများနှင့်စပ်လျဉ်း၍ မလိုသူများက လာဘ်စားသူတဦးအဖြစ်ဖြင့်၎င်း၊ ကိုယ်ကျိုးရှာသူတဦး အဖြစ်ဖြင့်၎င်း၊ စွပ်စွဲပြောဆိုခြင်း ပြုခဲ့ကြသည်။ ထို့ကြောင့် ပါလီမန်က စုံစမ်းရေးအဖွဲ့ ဖွဲ့စည်းစုံစမ်းစေလျက် သူ၏ဆောင်ရွက်ချက်အချို့ကို ရှုတ်ချသည့်အဆိုများ တင်သွင်းခဲ့သော်လည်း ကလိုက်မှာ ဗြိတိသျှအင်ပိုင်ယာ၏ အကျိုးကိုဆောင်သူအဖြစ် မှတ်တမ်းတင်ခြင်းခံရသည့်ပြင် စွပ်စွဲချက်များမှာလည်း ရှင်းလင်းပြေလည်သွား၏။ သို့သော် ကလိုက်မှာ အိန္ဒိယတွင် အတော်ပင် ကြိုးကြိုးပမ်းပမ်း ဆောင်ရွက်ခဲ့သောကြောင့် ကျန်းမာရေးချို့တဲ့နေခိုက် ထိုသို့စွပ်စွဲပြောဆို အရေးယူခြင်း ခံရသောအခါ စိတ်တွင် အတော်ပင်ထိခိုက်သွားရုံသာမက ကျန်းမာရေးအခြေအနေမှာ ပို၍ဆိုးရွားခဲ့လေရာ ၁၇၇၄ ခု နိုဝင်ဘာလ ၂၂ ရက်နေ့တွင် သူ့ကိုယ်သူ အဆုံးစီရင် လိုက်လေ သည်။ ယင်း သို့ဖြင့် အိန္ဒိယ နိုင်ငံ တွင် ဗြိတိသျှတို့၏ အင် ပိုင် ယာ တည်ဆောက် ပေး ခဲ့ သူ တဦးမှာ မိမိ ဆောင်ရွက် ကြိုး ပမ်း မှုများ အတွက် ဂုဏ်မယူရဘဲ ရှက်စိတ်ကြီးစွာဖြင့် ဘဝသိမ်းသွားရရှာလေသည်။

**ကလိုက်မြစ်။** ။ကလိုက်မြစ်သည် စကော့တလန်ပြည် တောင်ပိုင်း လင်းနာ့ရှိုင်ယာနယ်ရှိ လောက်သား တောင်ကုန်းများမှ မြစ်ဖျားခံ၍ ကလိုက်ဇဒေး ချိုင့်ဝှမ်းဒေသကို ဖြတ်သန်းပြီးလျှင် ကလိုက်မြစ်ဝကျယ်ထဲသို့စီးဝင်လေသည်။

ကလိုက်ဇဒေးချိုင့်ဝှမ်း ဒေသတလျှောက်တွင် ထရောက် ငါးဖမ်းခြင်း လုပ်ငန်းများနှင့် လှပသော ရေ တံခွန်များ ရှိခြင်းကြောင့် ထင်ရှားကျော်ကြားသည်။ ဂလပ်စဂိုးမြို့သို့ ရောက်သည့်အခါ ကလိုက်မြစ်သည် မြစ်ကြောင်းနက်လာပြီးလျှင် ကုန်သွယ်ရေးလမ်းကြောင်းကြီးအဖြစ်ဖြင့် ထင်ရှားလာသည်။ ဂလပ်စဂိုးမြို့အောက်တလျှောက် ဂရင်းနော့မြို့အထိ မြစ်ကမ်းတဖက်တချက်တွင် သင်္ဘောကျင်းများနှင့် သင်္ဘောတည်ရာဝင်းများ တည်ရှိလေသည်။ ထိုဒေသတဝိုက်မှာ ပင်လယ်ကူးသင်္ဘောများ၊ စစ်သင်္ဘောများ တည်ဆောက်ရာဒေသ ဖြစ်သည်။

အလွန်ကြီးမားခမ်းနား၍ ကမ္ဘာကျော်ကြားသည့် 'ကွင်းမေရီ' နှင့် 'ကွင်းအယ်လစ်ဇဗက်' အမည်ရှိသော ပင်လယ်ကူးသင်္ဘောကြီးများကို ကလိုက်မြစ်တွင်းရှိ အဆိုပါ သင်္ဘောကျင်း သင်္ဘောဝင်းများ၌ တည်ဆောက်ခဲ့ကြသည်။ ဂရင်းနော့မြို့အောက်ဖက်သို့ ရောက်သွားသောအခါ အကျယ်မိုင် ၄၀ အလျားမိုင် ၆၀ ခန့်ရှိသော မြစ်ဝကျယ်ကြီးအဖြစ် ပင်လယ်ထဲသို့ စီးဝင်လေသည်။ ထိုမြစ်သည် မြစ်ဖျားမှမြစ်ဝအထိ ၁၀၆ မိုင်မျှရှည်လျား၍ အင်္ဂလန်ပြည်တွင် သိမ်းမြစ်မှလွဲလျှင် သမိုင်းတွင်လောက်အောင် သင်ရှားသော ရေကြောင်းလမ်းမကြီးဖြစ်သည်။



ငှက်ဥတလုံးလုံးကို မျိုချရန်ကြံနေသည့် ကလောင်ငှက်

**ကလောင်ငှက်။** ။ငှက်လောကထဲတွင် ထူးဆန်းအံ့သြဖွယ်ကောင်းသော ငှက်တမျိုးမှာ ကလောင်ငှက်ဖြစ်သည်။ ထိုငှက်ဦးခေါင်းနောက်တွင် မည်းနက်သော အတောင်ရှည်များသည် မတ်ထောင်လျက်ထွက်နေလေရာ ရှေးအခါက စာရေးတော်ကြီးများ၏နားရွက်တွင် ကြက်တောင် ကလောင်တံများ ညှပ်ထားသကဲ့သို့ ထင်ရသည်။ ထို့ကြောင့် ပင်လျှင် 'ကလောင်ငှက်' ဟူသောနာမည်ထူးကိုရရှိသည်။

ကလောင်ငှက်တွင် အလွန်ရှည်လျားသော ခြေထောက်များရှိ၍ ၄ ပေခန့် အယပ်မြင့်သည်။ အမြီးမှာ မြေကြီးနှင့်ထိနေသည်။ နှုတ်သီးမှာ အလွန်သန်မာ၍ ငါးများချိတ်ကဲ့သို့ကောက်ချိတ်နေသည်။မျက်လုံးပတ်လည်ရှိ အရေပြားမှာ လိမ်မော်ရောင်ထနေသည်။ဦးခေါင်း၊လည်ပင်းနှင့် ကျောကုန်းမှာ မဲ့ပြာ၍ အောက်ပိုင်းမှာ မည်းနက်သည်။

ဖါး၊ပိုးမွှား၊အိမ်မြှောင်၊လိပ်ကလေးများ နှင့် မြွေတို့သည် ကလောင်ငှက်၏ အစာဖြစ်၏။ အလွန် အဆိပ်ပြင်းထန်သော မြွေများကိုပင် သတ်ဖြတ်စားသောက်သည်။ သူ၏ ရှည်လျားသော ခြေထောက်များဖြင့် မြွေများကို မပြေးနိုင်အောင် နင်းထားပြီးနောက် သန်မာသောတောင်ပံများဖြင့် ကိုယ်ကိုကာကွယ်ထားလေရာ မြွေဆိပ်မှမစိုးရိမ်ရချေ။

ကလောင်ငှက်သည် ခြေတံရှည်သလောက် လမ်းလျှောက်မြန် အပြေးမြန်သည်။ မြင်းပြေးသလောက် ပြေးနိုင်၏။ တခါတရံမှသာ ပျံသန်းသော်လည်း ကောင်းစွာ ပျံနိုင်သည်။ များသောအားဖြင့် မြေကြီးပေါ်၌သာ နေသည်။ ကြီးမားသောအသိုက်ကို သစ်ပင်ထက်၌ဖြစ်စေ၊ချုံဖုတ်ထဲတွင်ဖြစ်စေ ပြုလုပ်လေသည်။ ဩဂုတ်လတွင် ဥအုရာ ဥများမှာ ဖြူဖွေး၍ အညိုရောင်အစက်များ ပါရှိသည်။

ကလောင်ငှက်၏ နေရင်းဒေသမှာ အာဖရိကတိုက်တောင်ပိုင်းဖြစ်သည်။ မြောက်ဖက်တွင် ဆူဒန်နယ်နှင့် အက်ဗီဆီးနီးယားနိုင်ငံအထိ ကျက်စားသည်။ သူတပါး၏အသားကို သတ်ဖြတ်စားသောက်ရာ၌ အသန်မာဆုံးသော ငှက်မျိုးဖြစ်၏။ လင်းယုန်နှင့် လင်းတငှက်မျိုးတို့နှင့် နီးစပ်သည်ဟု ယူဆရသည်။

**ကလောင်တံ။** ။ကလောင်တံကို လူတိုင်းလိုပင် မြင်ဘူးကြသည်။ ကလောင်တံ သို့မဟုတ် မင်တံဟုခေါ်သော ပစ္စည်းကား စာရေးရာတွင် အသုံးပြုသော ကရိယာဖြစ်သည်။ ကလောင်တံကို ရှေးခေတ်အခါကစ၍ ယခုခေတ်တိုင် အသုံးပြုလျက်ရှိကြသည်။ ယခုခေတ်တွင် အသုံးပြု



ပပိုင်းရပ်ကျူစက္ကူပေါ်၌ ကျူရိုးကလောင်တံဖြင့် စာရေးသည့် ရှေးအီဂျစ်ယဉ်ကျေးမှုခေတ်

သည့်နှင့်အမျှ စာရေးသည့် ကရိယာအမျိုးမျိုးလည်းတိုးတက်လာခဲ့၏။ သို့ရာတွင် အခြေခံသဘောမှာ မပြောင်းလဲခဲ့ပေ။ စက္ကူသည် ပပိုင်းရပ်ကျူစက္ကူများဖြစ်၍ ကလောင်တံများသည်လည်း ကျူရိုးကလောင်တံများသာဖြစ်သည်။ အာရှတိုက်တွင်ကား ကလောင်တံကို များစွာအသုံးမပြုခဲ့ကြဘဲ ရှေးနှစ်ပေါင်းများစွာမှစ၍ ကညစ်နှင့်စုတ်တံများကိုသာ အသုံးပြုခဲ့ကြသည်။ စုတ်တံကို တရုပ်နိုင်ငံ၌ စတင်သုံးစွဲခဲ့၍ နောက်မှ အခြားအရှေ့နိုင်ငံများသို့ပျံ့နှံ့သွားဟန်တူသည်။ စုတ်တံကိုအချို့သုံးစွဲလျက်ပင်ရှိသေးသည်။

လျက်ရှိသော ရိုးရိုးကလောင်တံများမှာ အဖျားတွင် ချွန်ထက်သောကလောင်သွားများ တပ်ဆင်ထားပြီးလျှင် မင်တို့၍ ရေးသားသော လူသုံးပစ္စည်းတခုဖြစ်၏။ ရှေးအခါက ကလောင်သွားဟူ၍ သီးခြားမရှိခဲ့ချေ။ ကလောင်တံပြုလုပ်သော ပစ္စည်းကိုသာ အဖျားချွန်အောင်ပြုလုပ်၍ အသုံးပြုခဲ့ကြသည်။

ကလောင်တံဖြင့် စာရေးခြင်းသည် ရှေးခေတ် အီဂျစ်နိုင်ငံ၌ စတင်ပေါ်ပေါက်ခဲ့သည်။ ဘီစီ ၂၀၀၀ ကျော်က အီဂျစ်လူမျိုးတို့သည် ပပိုင်းရပ်ခေါ် ကျူပင်တမျိုး၏အူမှ ပြုလုပ်ထားသော စက္ကူပေါ်၌ စာရေးလေ့ရှိကြသည်။ စာရေးရာတွင် ကျပ်ခိုးနှင့်ဖျော်သော မင်ကို အဖျားချွန်ထားသောကျူရိုးဖြင့် တို့၍ရေးကြ၏။ ထိုသို့ အဖျားချွန်ထားသောကျူရိုးများမှာ ကလောင်တံအမျိုးမျိုး၏ အစပင်ဖြစ်လေသည်။

အီဂျစ်နိုင်ငံမှတဆင့် ယဉ်ကျေးမှုပျံ့နှံ့သွားသောအခါ စာရေးရာ၌ နည်းသစ်အမျိုးမျိုးကို အသုံးပြုလာကြသည်။ ထိုအခါတွင် ပပိုင်းရပ်ကျူစက္ကူများသာမက သားရေပြားဖယောင်းပြားများ ပေါ်၌လည်း စာရေးလာကြ၏။ ပပိုင်းရပ်ကျူစက္ကူနှင့် သားရေပြားပေါ်တွင် ရေးသောအခါ မာ၍ချွန်ထက်သော ပစ္စည်းအမျိုးမျိုးကို ကလောင်တံပြုလုပ်၍သုံးကြသည်။ ဖယောင်းပြားများပေါ်တွင် စာရေးသောအခါ၌ကား သားကောင်အရိုးကိုချွန်ထားသော 'စတိုင်းလပ်' ခေါ် ကညစ်ကိုသုံး၏။ ထိုနောက် ကြေးနီခေတ်သို့ရောက်သောအခါ ကြေးနီကညစ်များ ပေါ်ပေါက်လာ၏။

နောက်ခေတ်များတွင် စာပေရေးသားမှု တိုးတက်လာ

မြန်မာနိုင်ငံတွင်လည်း ကလောင်တံမှာ နိုင်ငံခြားသားများ ယူဆောင်လာသော စာရေးကရိယာဖြစ်သည်။ ရှေးမြန်မာတို့သည် စာရေးရာတွင် ကလောင်တံကိုမသုံးဘဲ ကန့်ကူ၊ ကညစ်၊ စုတ်စသည့် စာရေးကရိယာများကိုသာ အသုံးပြုခဲ့ကြ၏။ ယခုခေတ်တွင်ကား ကလောင်တံအမျိုးမျိုးကို အသုံးပြုကြပြီးလျှင် ကန့်ကူ၊ကညစ်၊စုတ်စသည့် ရှေးဟောင်းစာရေးကရိယာများမှာ တိမ်ကောလုနီးပါး ဖြစ်နေလေပြီ။

ကလောင်တံကို အသုံးများသော နိုင်ငံများမှာ ဥရောပနိုင်ငံများဖြစ်သည်။ ကျူရိုးကလောင်တံများဖြင့် စာရေးသားခြင်းသည် အီဂျစ်မှအစပြု၍ အခြားအနောက်နိုင်ငံများသို့ တဆင့်ပြန့်ပွားသွားသည်။ အလယ်ခေတ်ကုန်ခါနီးတွင် ဥရောပတိုက်၌ စာပေအရေးအသား တိုးတက်များပြားလာရာ ကလောင်တံအမျိုးမျိုးဖန်တီး၍ အသုံးပြုခဲ့ကြသည်။ သို့သော် ရှေးစံနစ်များနှင့် များစွာမခြားနားခဲ့ပေ။ ဥရောပတိုက် ဘုန်းကြီးကျောင်းများတွင် ကျမ်းစာအုပ်များကို ကူးယူရေးသားရာ၌ ငှက်တောင်များကို အရင်းဖက်မှချွန်၍ မင်တို့ကာရေးခဲ့ကြ၏။ ထိုစံနစ်သည် အလယ်ခေတ် တလျှောက်လုံးတွင်သာမက အတတ်ပညာပြန်လည်ဆန်းသစ်ခေတ်ဖြစ်သော ခေတ်ဆန်းချိန်၌ပင် မတိမ်ကောခဲ့ချေ။ ငှက်တောင်များကို ကလောင်တံအဖြစ် သုံးကြရာတွင် ဥဒေါင်း၊ငန်းစသည့် ငှက်များ၏အတောင်တို့ကို အများအားဖြင့် အသုံးပြုခဲ့ကြသည်။ ငှက်တောင်၏ အရင်းပိုင်းဖြစ်သော အရိုးမာကို မီး၌ကျွမ်းစေပြီးနောက် ဓါးဖြင့် ခြစ်ပစ်လိုက်သောအခါ ချွန်သောအသွားကိုရသည်။ ထို

အသွားချွန်ကို အလယ်မှ မင်စီးရန် အက်ကြောင်းကလေး တခု ခွဲပေးရသည်။ ၁၈ ရာစုနှစ်ခန့်တွင် ငှက်တောင်က လောင်တံများ သိသိသာသာ ကောင်းမွန်လာခဲ့သည်။ ရှေးရိုးငှက်တောင်အချွန်များကို အသုံးနှင့်လိုက်ဖက်အောင် ပြုပြင်ခဲ့ကြရုံမက၊ ငှက်တောင်ကို ငှက်တောင် အတိုင်းမသုံးဘဲ အချွန်ရှိသော အသွားပိုင်းကိုသာယူ၍ အတံကို သစ်သား စသည်တို့ဖြင့် တပ်ဆင်၍ ရေးကြသည်။ ထိုသို့ သစ်သား စသည့်အတံတွင် ငှက်တောင်ရိုးအသွား တပ်၍ရေးခြင်းကို ၁၈၀၉ ခု နှစ်က ဂျိုးဇက် ဗရားမား ဆိုသူက ထွင်ခဲ့သည်။ ထိုခေတ်ကစ၍ ယခုခေတ်သုံး ကလောင်တံများ စတင် ပေါ်ပေါက်လာသည်ဟု ဆိုရပေမည်။ ထိုနောက် ကလောင်တံများမှာ ရှေးကထက် သိသိသာသာ တိုးတက် လာပြီးလျှင် များမကြာမီ သတ္တုကလောင်သွားများ ပေါ်ပေါက်လာလေသည်။

၁၈၁၈ ခုနှစ်တွင် ချားဝပ်ဆိုသူသည် ငှက်တောင်ရိုးရိုး အစား သတ္တုကို အသွားပြုလုပ်၍သုံးခဲ့သည်။ ထိုအချိန်မှာ ဥရောပတိုက်၌ စက်မှုလက်မှုထွန်းကားစပြုလာသော အချိန် ဖြစ်ရကား သတ္တုကလောင်သွားများကို ၁၈၂၂ ခုနှစ်တွင် စက်ဖြင့်ပြုလုပ်ခဲ့လေသည်။ သတ္တုကလောင်သွားများဖြင့် စာရေးရာ၌ ပဌမတွင် မာကျောပုံချင်းမတူ၍ အချို့က ငှက် တောင်ဖြင့်ပြုလုပ်သော ကလောင်တံများကိုသာ ဆက်လက် သုံးစွဲကြ၏။ သို့ရာတွင် သတ္တုကလောင်သွားများ တစတစ တိုးတက် ကောင်းမွန် လာသောကြောင့် ၁၇၃၀ ပြည့်နှစ် လောက်တွင် ငှက်တောင်ကလောင်တံများ ကွယ်ပျောက် သလောက် ဖြစ်ခဲ့သည်။ သတ္တုကလောင်သွားများ တိုးတက်ကောင်းမွန်လာအောင် ပြုပြင်ရာတွင် ယခုခေတ်သုံး ဖြစ်သော ဖေါင်တိန်ပင် များကို ၁၈၁၉–၂၀ ခုနှစ်ခန့်က စမ်းသပ်ပြုလုပ်ခဲ့ရာ အသင့်အတင့် အောင်မြင်ခဲ့လေသည်။ သို့ရာတွင် မင်လိုက်ညီ၍ မင်ကိုလိုသောအခါ မှထွက်စေရန် ထိန်းထားနိုင်သော ဖေါင်တိန်ပင်မျိုးကို ၁၈၈၄ ခုနှစ်ခန့်ကမှ ဖြစ်မြောက်ခဲ့၏။ ထိုသို့ ဖေါင်တိန်ပင်များ ဖြစ်ထွန်း ပေါ် ပေါက်လာသောအခါ ဂရိတ်ဗြိတိန်နှင့် အမေရိကန် နိုင်ငံတို့တွင် ဖေါင်တိန်ပင်လုပ်ငန်းများ ဖွံ့ဖြိုးလာခဲ့သည်။ ၁၈၉၀ ပြည့်နှစ်ခန့်တွင် အသွားများကို ရွှေ သို့မဟုတ် ကာရက်ရွှေဖြင့်ပြုလုပ်၍ အဖျား၌ မာကျောချောညက်စေရန် ပလက်တီနမ် သို့မဟုတ် အိုင်ရစ်ဒီယမ်သတ္တုများတင်၍ သုံးခဲ့ကြလေသည်။ ကလောင်သွားလုပ်နည်းများတွင် ဤနည်းသည် ယခုခေတ်တိုင် အကောင်းဆုံးဖြစ်လေသည်။

ယခုခေတ်တွင် ကလောင်တံနှင့် ကလောင်သွား အမျိုးပေါင်းများစွာရှိ၍ အမျိုးမျိုးသောသတ္တုများဖြင့် ပြုလုပ်ထားသည်ကို တွေ့ရပေသည်။ ကလောင်သွားများတွင် အတိုးအချွန်စသည်ဖြင့် စာရေးသူ၏သဘောအတိုင်း လိုရာကို အသုံးပြုနိုင်၏။ ရိုးရိုးကလောင်သွားများကို ကြေးဝါ၊သံ၊ သံမဏိစသည့် မာကျောသောသတ္တုတို့ဖြင့် ပြုလုပ်ထား




**ကလောင်တံ၏ အဆင့်ဆင့်တိုးတက်လာပုံ (၁) ငှက်တောင်ကလောင် (၂) သတ္တုအသွားတပ်ကလောင် (၃) ပုံဆွဲကလောင်**



နောက်ဆုံး ခေတ်သစ်ပေါ် ဖေါင်တိန်ပင်များ

သည်။ အထူးသဖြင့် ပုံဆွဲဆရာတို့သုံးသော ကလောင်သွားများကို သံမဏိဖြင့်လုပ်သည်။ ဖေါင်တိန်ပင်များမှာမူ စာရေးရာတွင် တောက်လျှောက် ရေးသွားနိုင်ရန် နှင့် တာရှည်အသုံးခံရန်အတွက် မင်၌ပါသော အညစ်အကြေးဖြင့် အလွယ်တကူမပျက်စီး နိုင်သော ရွှေ၊ ကာရက်ရွှေ စသည်တို့ကို သုံးရလေရာ၊ ရိုးရိုးကလောင်များထက် တန်ဖိုးများသည်။ သုံးစွဲရာတွင်လည်း ပိုမိုတွင်ကျယ်၍ အချိန်ကို ချွေတာရာလည်း ရောက်ပေသည်။

ဖေါင်တိန်ပင်များကို ရှေးဦးစွာတီထွင်ခါစက အသွားပိုင်းနှင့်မင်အိမ်ပိုင်းကို ဖြုတ်နိုင်တပ်နိုင်သော အစိတ်အပိုင်းများအဖြစ် ပြုလုပ်၍၊ မင်ထည့်လိုသောအခါဖြုတ်၍ မင်ထည့်ပြီးလျှင်ပြန်တပ်ရသည်။ ဤနည်းကို ယခုခေတ်တိုင် သုံးစွဲလျက်ပင်ရှိသေးသော်လည်း ထိုသို့မဖြုတ်ဘဲ မင်ကိုစုတ်ယူနိုင်ရန်စီမံထားသော နည်းသစ်များစွာကိုလည်း ထွင်ခဲ့ကြသည်။ ထိုနည်းများမှာ အများအားဖြင့် လေ၏ဖိအားကို အသုံးပြုသော နည်းများဖြစ်သည်။

လေဖြင့်စုတ်ယူသောဖေါင်တိန်ပင်များကို ၁၈၁၅–၁၈၁၆ ခုနှစ်ခန့်က စမ်းသပ်အောင်မြင်ခဲ့ကြသည်။ ရှေးဦးစွာ အောင်မြင်သောနည်းမှာ ဖေါင်တိန်ပင်အတွင်း၌ ရော်ဘါပိုက်ငယ်တပ်ဆင်ထားပြီးလျှင် ထိုပိုက်ငယ်ကို အပြင်မှ မောင်းဖြင့် ဖိပေးသောနည်းဖြစ်သည်။ အပြင်မှမောင်းဖြင့် ဖိလိုက်သောအခါ ရော်ဘါပိုက်သည် ပြားသွားပြီးလျှင် အတွင်းရှိလေများကို ထုတ်ပစ်၏။ ထိုသို့ပြားနေစဉ် အသွားပိုင်းကို မင်အိုး၌နှစ်၍ တဖန် မောင်းကိုလွှတ်လိုက်သောအခါ ရော်ဘါပိုက်ငယ်ထဲသို့ မင်ရည်များဝင်လာသည်။ ထိုနည်းကို ယခုတိုင် သုံးလျက်ရှိကြသော်လည်း လေ၏ဖိအားကိုသုံးသည့်နည်းသစ်များစွာလည်း ပေါ်ပေါက်လျက်ရှိလေသည်။

မင်ထည့်နည်းများသာလျှင် ဆန်းသစ်လာသည်မဟုတ်၊ အသွားတပ်ပုံများလည်း အမျိုးမျိုးဆန်းကြယ်လာခဲ့သည်။ အချို့ဖေါင်တိန်ပင်များတွင် မင်ရည်မသုံးဘဲ မင်ခဲမင်စေး စသည်တို့ကို ထည့်၍သုံးပြီးလျှင် အဖျား၌ သံမဏိအလုံးကလေးများ တပ်ထားသော အသွားလုံးဖေါင်တိန်ပင်များလည်း ပေါ်ပေါက်ခဲ့သည်။

ဖေါင်တိန်ပင်များကို အများအားဖြင့် စယ်လျူလွိုက်ခေါ် ကော်ဖြင့်ပြုလုပ်၍ အချို့မှာ မင်ကိုဖေါက်ထွင်းမြင်နိုင်စေရန် မှန်ကဲ့သို့ကြည် လင်အောင် ပြုလုပ်ထားသည်။ ယခုခေတ်တွင် ဖေါင်တိန်ပင်များကို ဈေးနှုန်းသက်သာစွာဝယ်ယူအသုံးပြုနိုင်ကြပြီဖြစ်ရာ ရိုးရိုး မင်တို့၍ ရေးရသောကလောင်တံများမှာ ခေတ်မစားလှတော့ချေ။

**ကလိုင်ဒိုစကုပ်။** ။ကလိုင်ဒိုစကုပ်ဆိုသည်မှာ လူကြိုက်များသော ရုပ်စုံမှန်ပြောင်းကလေးပင်ဖြစ်၏။ ကြည့်နေစဉ် မှန်ပြောင်းကို လှည့်ပေးသောအခါ၊ တခုမှတခုသို့ ပြောင်းသွားသော တောက်ပြောင်လှပသည့် ရောင်စုံပုံစံအမျိုးမျိုးကို တွေ့မြင်ရသည်။ ထိုကရိယာကို ဆာဒေးဗစ်ဗရူးစတား ဆိုသူက ၁၈၁၇ ခုနှစ်တွင်တီထွင်ခဲ့လေသည်။

ကလိုင်ဒိုစကုပ်သည် ကစားစရာ တမျိုးဖြစ်သော်လည်း သိပ္ပံပညာနှင့်ယှဉ်သော ကစားစရာဟု ဆိုနိုင်ပေသည်။ အလျား ၁၂ လက်မ၊အချင်း ၃ လက်မခန့်ရှိသော ပြောင်းတခုရလျှင် ကလိုင်ဒိုစကုပ်ကို ပြုလုပ်နိုင်၏။ ထိုပြောင်းတွင် ရှည်လျားလျား ဖြတ်ထားသော ကြေးမုံ (ကြည့်မှန်) သုံးချပ်ကို အနားချင်းထိ၍ ထည့်ထားပါ။ ထိုအခါ အဆိုပါကြေးမုံသုံးချပ်သည် ပြောင်းအတွင်း၌ တြိဂံပုံ (သုံးမြှောင့်ပုံ) ပြောင်းသဖွယ် ရှိနေလိမ့်မည်။

ပြောင်းဝတဖက်တွင် အတွင်းဖက်၌ ကြည်လင်သောမှန်တချပ်၊ အပြင်ဖက်၌ အရောင်မှိန်မှန်တချပ်ဖြင့် အကန့်ကလေးတခု လုပ်ထား၍၊ထိုအကန့်ကလေးထဲ၌ အရွယ်အမျိုးမျိုး ပုံအမျိုးမျိုးရှိသည့် ရောင်စုံ ဖန်ကွဲဖန်စကလေးများကို ထည့်ထားသည်။ မျက်စိဖြင့်ကြည့်ရမည့် ပြောင်းဝတွင်လည်း ကြည်လင်သောမှန်တချပ်ကို တပ်ဆင်ထားသည်။ ထိုမှန်ချပ်ကို အလယ်တွင် မတ်လုံးခန့် အပေါက်ငယ်ပါသောစက္ကူဖြင့် အုပ်ထား၍ စက္ကူပေါက်မှကြည့်လျှင် မြင်ရပုံမှာ ပို၍ကောင်းသည်။

ကလိုင်ဒိုစကုပ်ကို လှည့်ပေးစဉ် ရောင်စုံပုံစံအမျိုးမျိုးကို မြင်ရခြင်းမှာ လှည့်လိုက်တိုင်း နေရာရွှေ့နေသော အဆိုပါ ရောင်စုံဖန်စကလေးများကို ကြေးမုံများက ထပ်တလဲလဲ ရောင်ပြန်ဟပ်ပေးခြင်းကြောင့် ဖြစ်ပေသည်။ ကလေးလောကတွင် ကစားစရာအနေဖြင့် အသိများသော ဤကရိယာကို ကော်ဇော၊ခန်းဆီး စသည်တို့အတွက် ရောင်စုံ ပန်းပုံစံထွင်ရသူများက ပန်းကွက်ပုံစံအမျိုးမျိုးဖေါ်ယူရန် အသုံးချလေ့ရှိကြသည်။

**ကလပ်။** ။ဝါသနာချင်းတူညီကြသော ကိစ္စတခုကို ဆောင်ရွက်ရန်ဖြစ်စေ၊ အချင်းချင်း ရင်းနှီးစွာ ပေါင်းသင်းဆက်ဆံ၍ စိတ်လက်ပျော်ရွှင်မှု ရရှိစေရန်ဖြစ်စေ၊ တည်ထောင်ဖွဲ့စည်းထားသော အသင်းအဖွဲ့မျိုးကို ကလပ်ဟုခေါ်သည်။ကလပ်မှာ အင်္ဂလိပ်စကားဖြစ်၍ လူစုဟု အနက်ရသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ကလပ်ကို မိတ်ဆက်ရုံဟု မြန်မာမှုပြုခဲ့ဘူးသည်။ အစဉ်အလာအားဖြင့် ကလပ်တခုသည် ပြည်သူလူအများနှင့် သက်ဆိုင်သော အဖွဲ့အစည်းမျိုးမဟုတ်ဘဲ၊ မိမိတို့အသင်းဝင်များနှင့်သာ တိုက်ရိုက်သက်ဆိုင်သော အသင်းအပင်းမျိုးဖြစ်သည်။ ထို့ကြောင့် ကလပ်စည်းမျဉ်းဥပဒေများတွင် အသင်းဝင်ဖြစ်နိုင်သည့် အရည်အချင်းကို သတ်မှတ်ထားလေ့ရှိသည်။

ကလပ်များ၏ သမိုင်းအစကိုလေ့လာလျှင် ကလပ်များသည် ဂရိနှင့် ရောမလူမျိုးတို့ခေတ်ကပင် စတင်ပေါ်ပေါက်ခဲ့ကြောင်း တွေ့ရသည်။ ထိုအခါက ကလပ်များမှာ သက်မွေးဝမ်းကျောင်းပညာရပ်များအတွက်သော်၎င်း၊ အယူဝါဒနှင့် ကိုးကွယ်မှုအတွက်သော်၎င်း တည်ထောင်ခဲ့ကြသည်။

ကမ္ဘာ့အရပ်ရပ်၌ ယခုအခါ ထွန်းကားတည်ရှိနေကြသော ကလပ်တို့သည် ၁၆ ရာစုနှင့် ၁၇ ရာစုနှစ်များတွင် ခေတ်စားခဲ့သော ကာဖီဆိုင်များ၊ ကွန်းထောက်စခန်းဆိုင်များမှ ပေါက်ပွားလာကြသည်။ လန်ဒန်မြို့တွင် အစ ဦးစွာ တည်ထောင်ခဲ့သောကလပ်မှာ ဗရက်လမ်းရှိ မားမိတ်တက်ဗန်ခေါ် ရေသူမဆိုင်ဖြစ်သည်။ ထိုကလပ်တွင် ရှိတ်စပီးယား၊ ဗင်ဂျွန်ဆန်၊ဗိုးမွန့်၊ဖလက်ချားနှင့် ဒွန်း အစရှိသော စာဆိုကြီးများသည် အသင်းဝင်များဖြစ်ကြသည်။ ၁၆ ရာစုနှစ်နောက်ပိုင်း၌ အင်္ဂလန်ပြည်တွင် ကလပ်ပေါင်းမြောက်မြားစွာ ပေါ်ပေါက်လာခဲ့သည်။ မားမိတ်တက်ဗန်၊ အပေါ်လိုကလပ်နှင့် စာပေကလပ်တို့မှာ အင်္ဂလိပ်စာဆိုကြီးများ၊ ပြဇာတ်ဆရာကြီးများ၊စာရေးဆရာကြီးများ တွေ့ဆုံရာဌာနများ ဖြစ်ကြ၏။

ဗြိတိသျှအစိုးရလက်ထက်တွင် အရာရှိကြီးများနှင့် ဥရောပတိုက်သား ကုန်သည်ကြီးများသည် မြန်မာနိုင်ငံတွင် ကလပ်များကို စတင်တည်ထောင်ခဲ့ကြသည်။ ၁၈၆၇ ခုနှစ်တွင် ရန်ကုန်မြို့ရှိ ဂျာမန်လူမျိုးတစုက ဂျာမန်ကလပ်ကို တည်ထောင်ကြသည်။ ထိုနောက် ပဲခူးကလပ်နှင့် ဂျင်မခါနာကလပ်များ ပေါ်ပေါက်လာသည်။ ပဲခူးကလပ်ကို ၁၈၇၁ ခုနှစ်တွင် ချီလမ်း၌ ဖွင့်လှစ်၍ ၁၈၈၂ ခုနှစ်တွင် ပြည်လမ်းသို့ ပြောင်းရွှေ့ခဲ့သည်။ ရန်ကုန်မြို့တွင် မြင်းပြိုင်ပွဲများကို ၁၈၈၇ ခုနှစ်ခန့်က စတင်ကျင်းပခဲ့သော်လည်း၊ ၁၉၀၀ ပြည့်နှစ်တွင်မှ ကာလကတ္တားတပ်ကလပ်အသင်း၏ စည်းမျဉ်းများအတိုင်း လိုက်နာခဲ့ကြသည်။

ဒုတိယကမ္ဘာစစ် မဖြစ်မီက ပဲခူးကလပ်နှင့် ဂျင်မခါနာကလပ်တို့မှာ အထူး ထင်ရှားကျော်စောခဲ့သည်။ ထိုကလပ်များသို့ ဥရောပတိုက်သားများသာ ဝင်ခွင့်ရသဖြင့်၊ မြန်မာနိုင်ငံ စီးပွားရေး၊ နိုင်ငံအုပ်ချုပ်ရေးတို့ကို ထိုကလပ်များမှနေ၍ အချင်းချင်းညှိနှိုင်းကာ ကြိုးကိုင်ခဲ့ကြသည်ဟု ပြောစမှတ်မှုကြသည်။ မြန်မာအရာရှိကြီးများပင် အဆိုပါကလပ်များသို့ ဝင်ခွင့်မရရှိသည်နှင့် မြန်မာအရာရှိကြီးအချို့က ကြီးမှူးကာ အိုရီယင့်ကလပ်ခေါ် အရှေ့တိုင်းသားကလပ်ကို တည်ထောင်ခဲ့ကြသည်။



ယခင်က ဘုတ်ကလပ်ဟုတွင်ခဲ့သော ရန်ကုန်မြို့ ကန်တော်ကြီးစောင်းရှိ ပြည်ထောင်စုကလပ်

မြန်မာနိုင်ငံတွင် လူမျိုးမရွေးအယူဝါဒမရွေးအသင်းဝင်ခွင့်ရရှိပြီးလျှင် စေတနာ့ဝန်ထမ်း လုပ်ငန်းများကြောင့် နာမည်ကျော်ကြားလျက်ရှိသော ကလပ်တခုမှာ ရန်ကုန်ရိုတရီကလပ်ဖြစ်သည်။ ထိုကလပ်သည် အပြည်ပြည်ဆိုင်ရာ ရိုတရီကလပ်အဖွဲ့ဝင်ဖြစ်၍၁၉၂၉ခုနှစ်တွင် တည်ထောင်ခဲ့သည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီကမန္တလေး၊ လာရှိုးနှင့်ဟင်္သာတမြို့များတွင် အဖွဲ့ခွဲများရှိခဲ့သည်။ ဤအသင်းကအလုပ်လက်မဲ့ပြဿနာများကို ဖြေရှင်းပေးခြင်း၊ ရေဘေးမီးဘေးဒုက္ခသည်များကို ကူညီစောင့်ရှောက်ခြင်း စသည့် လူမှုဝန်ထမ်းအလုပ်ကို ဆောင်ရွက်ခဲ့သည့်အပြင်၊ တီဗီလူနာများ၊ ကုဋ္ဌလူနာများအတွက်စောင့်ရှောက်ရေးအဖွဲ့များ ဖွဲ့စည်းပေးခြင်းမိဖမဲ့ကျောင်းများဖွင့်လှစ်ပေးခြင်း အစရှိသော ဝန်ထမ်းလုပ်ငန်းများကိုလုပ်ဆောင်လျက်ရှိကြ၏။

မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးနောက် ပဲခူးကလပ်နှင့် ဂျင်မခါနာကလပ်များမှာ ခေတ်မှိန်သွားတော့သည်။ ထိုကလပ်များအစား ပြည်ထောင်စုကလပ်သည် ထင်ရှားလာသည်။ ပြည်ထောင်စုကလပ်ကို ယခင်က ဘုတ်ကလပ်ခေါ်ကန်တော်ကြီးလှေအသင်းဟောင်း နေရာတွင် ဖွင့်လှစ်ထားသည်။ ယခုအခါ ပြည်သူ့ကလပ်၊အတွင်းဝန်ရုံးကလပ်၊ရခိုင်ဆိုရှယ်ကလပ်၊အကောက်ဌာနကလပ်၊ရန်ကုန်ဆိပ်ကမ်း ဌာနကလပ် စသည်ဖြင့် အရပ်ဒေသအလိုက်သော်၎င်း၊ အလုပ်ဌာနအလိုက်သော်၎င်း၊ ကလပ်များ ဖွဲ့စည်းထားကြသည်။ ၁၉၅၀ ပြည့်နှစ်နောက်ပိုင်း၌ မြန်မာနိုင်ငံတွင် ကလပ်များအထူးခေတ်စားလာခဲ့သည်။ များစွာသော ကလပ်ဝင်များမှာ အားလပ်ချိန်တွင် ပျော်ရွှင်မှုရရှိစေရုံသာ မရည်ရွယ်ဘဲပေါင်းသင်းဆက်ဆံမှုနယ် ကျယ်ဝန်းစေရန်နှင့် စီးပွားရေး နိုင်ငံရေးလုပ်ငန်းများတွင် အထောက်အကူများ ရရှိစေရန်အတွက် အသင်းသားအဖြစ် ပါဝင်ကြလေသည်။

**ကလပ်မက်ဆွဲ, ဂျေ** (ခရစ် ၁၇၃၁–၁၇၇၉)။ ။၁၇၆၄ ခုနှစ်တွင် သင်္ချာကဝိ ဂျိမ်းကလပ်မက်ဆွဲသည် လျှပ်စစ်သံလိုက်လှိုင်းများ ရှိကြောင်းကို သင်္ချာနည်းဖြင့် တွက်ချက်၍ ပြဆိုခဲ့လေသည်။ ယခုအခါတွင် ထိုလှိုင်းများကို တွေ့ရှိခဲ့သောကြောင့် ရေဒီယို အသံလွှင့်အသံဖမ်းစက်များ၊တယ်လီဗစ်ရှင်း ရုပ်လွှင့်ရုပ်ဖမ်းစက်များ၊ ရေဒါများကို တီထွင်နိုင်ကြပေပြီ။ ကလပ်မက်ဆွဲသည် ထိုလျှပ်စစ်သံလိုက်လှိုင်း၏ အတိုင်းအတာနှင့် ဂုဏ်သတ္တိတို့ကိုလည်း သင်္ချာနည်းဖြင့် တွက်ချက်ပြဆိုခဲ့သေးသည်။

ကလပ်မက်ဆွဲ၏ လျှပ်စစ်သံလိုက်လှိုင်းနှင့် စပ်လျဉ်းသောယူဆချက် (သီအိုရီ) ကို မယုံကြည်သူများသဖြင့် နှစ်ပေါင်းအတော်ကြာ ခေတ်မစားဘဲ တိမ်မြုပ်နေခဲ့သည်။ သို့သော် ၁၇၇၃ ခုနှစ်တွင် သူ၏ 'လျှပ်စစ်နှင့်သံလိုက်ဓါတ်' ဟူသောစာအုပ် ထွက်ပေါ်လာမှ သူ၏ယူဆချက်ကို လက်ခံခဲ့ကြလေသည်။ ထိုမှတပါး ထူးခြားသည်မှာ သူနှင့်လုပ်ဖော်ကိုင်ဖက်ဖြစ်သော ရူပဗေဒပညာရှင်လူငယ်များသည် သူ၏ယူဆချက်များကို စွဲစွဲမြဲမြဲ ယုံကြည်ခဲ့သော်လည်း ထိုယူဆချက်များကိုမှီး၍ လက်တွေ့စမ်းသပ်မှုများကို မပြုလုပ်ခဲ့ခြင်းပင်ဖြစ်၏။ ထို့ပြင် သိပ္ပံကဝိ အများအပြားပင် သူ၏လျှပ်စစ်သံလိုက်လှိုင်း သီအိုရီကို လက်မခံခဲ့ကြချေ။ သို့သော် နောက်ဆုံးတွင် ဂျာမန်လူမျိုး ရူပဗေဒကဝိ ဟိုင်းနရစ်ဟက်ဇသည် လျှပ်စစ်သံလိုက်လှိုင်းများကို တွေ့ရှိသောအခါမှသာ လက်ခံလာကြလေသည်။ ကလပ်မက်ဆွဲကို ၁၇၃၁ ခုနိုဝင်ဘာလ ၁၃ ရက် နေ့ တွင် စကော့ တလန်ပြည် အက်ဒင်ဗါရာမြို့၌ စကော့လူမျိုးလူကုံထံမိဖများမှ ဖွားမြင်လေသည်။



ဂျိမ်း ကလပ်မက်ဆွဲ

အက်ဒင်ဗါရာ တက္ကသိုလ်နှင့် ကိမ်းဗရစ် တက္ကသိုလ်များတွင် ပညာသင်ကြားခဲ့ပြီးနောက်၊ အဗါဒင်းမြို့ မာရှယ်ကောလိပ်ကျောင်း၌ သဘာဝ ယထာဘူတပညာ (ရူပဗေဒ) ပါမောက္ခအဖြစ်ဖြင့်၎င်း၊လန်ဒန်မြို့ ဘုရင့်ကောလိပ်ကျောင်း၌ ရူပဗေဒနှင့် နက္ခတ္တဗေဒပညာရပ်များဆိုင်ရာ ပါမောက္ခအဖြစ်ဖြင့်၎င်း၊အမှုထမ်းခဲ့လေသည်။

၁၇၇၁ ခုနှစ်မှစတင်၍ ကိမ်းဗရစ်တက္ကသိုလ်၌ ရူပဗေဒ သုတေသန ပါမောက္ခအဖြစ်ဖြင့် ဆောင်ရွက်နေခဲ့စဉ်၊ကဗင်းဒစ်ဓါတ်ခွဲခန်းကို ဆောက်လုပ်ရန် စီမံခဲ့လေသည်။

ရူပဗေဒပညာရပ်ဆိုင်ရာ အချက်အလက်များကို မူလစတင် စူးစမ်းရှာဖွေခဲ့သော ဖါးရဒေးနှင့် အက်ဒီဆင်စသည့် ပုဂ္ဂိုလ်တို့သည် ရူပဗေဒပညာရပ်ဆိုင်ရာ အချက်အလက်များကို သင်္ချာနည်းဖြင့် တွက်ချက်၍မဟုတ်ဘဲ လက်တွေ့ စမ်းသပ်ရှာဖွေတွေ့ရှိသဖြင့် သိပ္ပံပါရဂူများအဖြစ် ထင်ရှားလာခဲ့ကြလေသည်။ ကလပ်မက်ဆွဲမှာမူ သင်္ချာနည်းဖြင့် သဘာဝနိယမများကို ရှာဖွေထုတ်ဖော်ပြခဲ့သူ ဖြစ်ပေသည်။ ကလပ်မက်ဆွဲသည် ဖါးရဒေး၏ လျှပ်စစ်နှင့်သံလိုက်ဓါတ်အကြောင်း စမ်းသပ်ချက်များတွင် စိတ်ဝင်စားသည့်အလျောက်၊အလင်း၊လျှပ်စစ်နှင့် သံလိုက်ဓါတ်တို့၏ သဘာဝနိယမများကို သင်္ချာနည်းဖြင့် ရှာဖွေပြီးလျှင် တိကျစွာဖော်ပြခဲ့လေသည်။ နောင်အခါများတွင် သိပ္ပံပညာရှင်တို့သည် ကလပ်မက်ဆွဲ၏ သင်္ချာနည်းများကိုမှီး၍ လက်တွေ့

စမ်းသပ်မှုများကို အောင်မြင်စွာ ပြုလုပ်နိုင်ခဲ့ကြလေသည်။

ကလပ်မက်ဆွဲသည် ၁၇၇၉ ခု နိုဝင်ဘာလ ၅ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ကလျာဏီကျောက်စာ။** ။ကလျာဏီကျောက်စာမှာ သက္ကရာဇ် ၈၄၁ ခုနှစ်တွင် ဟံသာဝတီဘုရင် ဓမ္မစေတီမင်းကြီး ထိုးစိုက်ခဲ့သော ကျောက်စာဖြစ်၍၊ ယခုအခါ ပဲခူးမြို့အနောက်မျက်နှာ မဇင်းချောင်းရပ်ကွက် ရွှေသာလျောင်းဘုရားလမ်း ကလျာဏီသိမ်တော်ကြီး၏ တောင်ဖက်အနီးတွင် တည်ရှိသည်။

ဓမ္မစေတီမင်းသည် ဟံသာဝတီသား မထေရ်ကြီးများကို တောင်းပန်၍ သက္ကရာဇ် ၈၃၇ ခု တပို့တွဲလတွင် သီဟိုဠ်ကျွန်းသို့စေလွှတ်ကာ သိက္ခာသစ် တင်စေသည်။ မထေရ်ကြီးများသည် သက္ကရာဇ် ၈၃၈ ခု ဒုတိယဝါဆိုလတွင် မြတ်စွာဘုရားရေသုံး သပ်တော်မူခဲ့သော ကလျာဏီမြစ်၌ မဟာဝိဟာရဝါသီဂိုဏ်းမြတ်၏ အဆက်အနွယ်ဖြစ်သော ရဟန်းသံဃာတော်များထံမှ ရဟန်းအဖြစ်ထပ်မံခံယူလျက် နတ်တော်လဆန်း ၈ ရက် တနင်္ဂနွေနေ့တွင် ဟံသာဝတီ သို့ ပြန်ရောက်လာ၍ ကလျာဏီသိမ်ကို သမုတ်ကြသည်။ ယင်းကိုအကြောင်းပြု၍ ဓမ္မစေတီမင်းက ကျောက်စာစိုက်ထူထားရာ ကလျာဏီကျောက်စာဟုတွင်သည်။

ထိုကျောက်စာကို ပါဠိဘာသာ၊မွန်ဘာသာတို့ဖြင့် ရေးထိုးထားသည်။ ကျောက်စာတိုင်အမြင့် ၇ ပေ၊ အကျယ် ၄ ပေ ၂ လက်မ၊ ထု ၁ ပေ ၃ လက်မ၊ ၂ မျက်နှာစီရေး၊တမျက်နှာလျှင် စာကြောင်းရေ ၇၀ ရှိ၍ တလက်မအလျားတွင် စာလုံး ၃ လုံးစီဝင်အောင် ရေးထိုးထားသည်။

ဓမ္မစေတီမင်း စိုက်ထူထားခဲ့သည့် ကလျာဏီကျောက်စာ။





ပဲခူးမြို့ မဇင်းချောင်းရပ်ကွက်ရှိ ကလျာဏီသိမ်တော်ကြီး။

မြောက်ဖက်ကျောက်စာတိုင် ၃ ချပ်တွင် ပါဠိဘာသာကို မြန်မာအက္ခရာဖြင့် ရေးထိုးသည်။ တောင်ဖက်ကျောက်စာတိုင် ၇ ချပ်တွင် ပါဠိဘာသာကျောက်စာ ၃ ချပ်၏ အဓိပ္ပါယ်ကို မွန်ဘာသာဖြင့်ရေးထိုးထားသည်။ ထိုကျောက်စာများကို ကမ္ဘည်းကျောက်စာဌာနမှ ကျောက်စာရုံဆောက်လုပ်ကာ စောင့်ရှောက်သိမ်းဆည်းထားသည်။

ကျောက်စာထိုး သက္ကရာဇ်များမှာ အတိတ်သာသနာ ၂၀၂၁၊အနာဂတ်သာသနာ ၂၉၇၇၊ အတိတ်ကလိယုဂ်နှစ် ၄၅၈၀၊ အနာဂတ် ကလိယုဂ်နှစ် ၄၂၇၄၂၀၊ ကောဇာသက္ကရာဇ် ၈၄၀၊ ခရစ်နှစ် ၁၄၇၉ အသီးသီးဖြစ်သည်။

ယင်းကျောက်စာများတွင် မဇ္ဈိမဒေသ သာသနာဝင်၊ ပုဂံသာသနာဝင်၊ ဟံသာဝတီ သာသနာဝင်၊ ကလျာဏီသိမ်သမုတ်ခြင်း အကြောင်း၊ ရာမည တိုင်း စေတီသမိုင်း၊ ရွှေမော်ဓော စေတီသမိုင်း စသည်တို့ကိုအကျယ်တဝင့် အသေးစိတ်ရေးထိုးဖော်ပြထားသဖြင့် သာသနာဝင်နှင့် သမိုင်းအဖို့ များစွာအထောက်အပံ့ရသည်။

ကလျာဏီကျောက်စာ၌ပါရှိသည့်ပါဠိများကို ရန်ကုန်မြို့ ဘုရားဖြူတိုက်ဆရာတော် အသျှင်ရာဇိန္ဒသည် သက္ကရာဇ် ၁၃၀၀ ပြည့်နှစ်တွင် မြန်မာဘာသာနိသျ ပြန်ဆိုခဲ့သည်။ ထိုထက်စော၍ သက္ကရာဇ် ၁၁၁၁ ခုနှစ်ကလည်း ပုဂံမြို့နှင့် မြစ်တဖက်ကမ်း တန့်ကြည့်တောင်အနောက် တောင်မြင့်ရွာ သုံးထပ်ကျောင်းဆရာတော် အသျှင်ဓမ္မစာရီ မထေရ်သည်နိသျပြန်ဆိုခဲ့ဘူးသည်။

**ကဝမြို့။** ။ပဲခူးမြို့တောင်ဖက် ပဲခူးမြစ်အရှေ့ဖက်ကမ်းနဖူးပေါ်တွင် ကဝမြို့တည်ရှိ၍ မြို့ပိုင်ရုံးစိုက်သည်။ ရန်ကုန် —

ပဲခူးမီးရထားလမ်းမှသွားလျှင် ထုံးကြီးဘူတာမှဆင်း၍ တမိုင်ခန့် ကတ္တရာစေးလမ်းအတိုင်း သွားပြီးနောက် ကဝမြို့ဖက်သို့ကူးတို့နှင့် ကူးသွားနိုင်သည်။ မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ်ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ၂၃၃၆ ယောက်မျှရှိသည်။

ကဝမြို့နယ်တွင် သူကြီးပိုင်ကျေးလက် ၉၃ ပိုင်ရှိသည်။ ကဝမြို့နယ်၏ အရှေ့ဖက်အကျဆုံး နေရာတနေရာဖြစ်သည့် သမ္မန်ဆိပ်ရွာမှာ ပင်လယ်ကမ်းနှင့် ကပ်လျက်နေသည်။ ထိုရွာသည် သထုံခရိုင်မှ ကျိုက်ထီးရိုးတောင်၊ ကေလာသတောင်များနှင့် မျက်နှာချင်းဆိုင်တည့်လျက်ရှိသည်။ ကဝမြို့ နယ် တခွင်လုံးမှာ မြေပြန့်ကွင်းဖြစ်၍ စပါးအကြီးအကျယ်စိုက်ပျိုးသည်။ ကဝမြို့နယ်မှာ စစ်တောင်းမြစ်နှင့် ပဲခူးမြစ်အကြားတွင်တည်ရှိသည်။ ပင်လယ်ကမ်းခြေနှင့် နီးကပ်သွားသောနေရာများတွင် ဆားအသင့်အတင့်ချက်လုပ်သည်။ ကဝမြို့မှ လွယ်အိတ်နှင့် ချည်လုံချည်များထွက်၍ ကဝလွယ်အိတ်ကို လူသိများလေသည်။

**ကဝါလမိုင်း**။ ။ကမ္ဘာဦးအစပိုင်းတွင် ဗေဒင်ကျမ်းဂန်များ၌ အလွန်ကျမ်းကျင်တတ်မြောက်သော ကဝါလမိုင်းအမည်တွင်သည့် ပုဂ္ဂိုလ်တဦး ပေါ်ထွန်းခဲ့၏။ သူသည် နက္ခတ်ကျမ်း ဗေဒင်ကျမ်းတို့တွင် တဖက်ကမ်းခပ် တတ်မြောက်သော ဣန္ဒိဝိဇ္ဇ ရသေ့ကြီး ဝင်စားသည်ဟုဆို၏။

ကဝါလမိုင်း၏ပညာစွမ်းကို စုံစမ်းအံ့သောငှါ သိကြားမင်းသည် လူ၏အသွင်ဖြင့် လူ့ပြည် သို့ ဆင်း သက် လာ၍၊ ယခုအချိန်၌ သိကြားမင်းသည် အဘယ်အရပ်တွင်ရှိသနည်းဟု ကဝါလမိုင်းအားမေး၏။ ကဝါလမိုင်းသည် သေချာကျနစွာတွက်ချက်ပြီးနောက် သိကြားမင်းသည် လူ့ပြည်တွင်ရှိကြောင်း၊အသင်ပင်ဖြစ်ကြောင်းဟောကြားလေလျှင် များစွာနှစ်ထောင်းအားရရှိလေသည်။

တရံရောအခါ အာသီမည်သော ဗြဟ္မာမင်းနှင့် သိကြားမင်းတို့သည် ဗေဒင်ဆိုင်ရာ ပြဿနာတခုအတွက် အငြင်းဖြစ်ပွားကြရာ၊နောက်ဆုံး၌ လူ့ပြည်မှ ကဝါလမိုင်းဆရာ၏ အဆုံးအဖြတ်ကို ခံယူပြီးသော် နိုင်သူကရှုံးသူကို ဦးခေါင်းဖြတ်စတမ်းဟု သဘောတူညီကြသည်။ ကဝါလမိုင်း က သိကြားမင်း၏အယူအဆမှန်ကန်ကြောင်း အဆုံးအဖြတ်ပေးလိုက်၏။ သို့သော် သိကြားမင်းက ဗြဟ္မာမင်း၏ဦးခေါင်းကိုမဖြတ်လိုသောကြောင့်၊ ဗြဟ္မာမင်းက အဓိဋ္ဌာန်ပြု လျက် မိမိ၏ဦးခေါင်းကိုပြုတ်စေ၏။

ထိုအခါ သိကြားမင်းသည် ဗြဟ္မာကြီး၏ကိုယ်တွင် တပ်ဆင်ရန်အတွက် မြောက်အရပ်မှာတွေ့သော သတ္တဝါတဦး၏ ဦးခေါင်းကို ဆောင်ယူခဲ့ရန် ကဝါလမိုင်းအား ပြောကြားသည်။ ကဝါလမိုင်းလည်း ပိဂ်လဆင်၏ဦးခေါင်းကိုယူ၍ သိကြားမင်းအားပေးရာ၌ သိကြားမင်းသည်နတ်ရေစင်ဖျန်း၍ ဗြဟ္မာမင်း၏ကိုယ်တွင် တပ်ဆင်လိုက်သောအခါ မဟာပိန္နဲနတ် ဖြစ်လာသည်ဟုဆိုသည်။ မဟာပိန္နဲကား နတ်ကြီးငါးပါးအပါအဝင်တည်း။

ဗြဟ္မာကြီး၏ဦးခေါင်းကို သမုဒ္ဒရာတွင်ပစ်သော် ရေခန်းခြောက်မည်။ မြေပြင်တွင်ပစ်သော် တလောကလုံး မီးဟုန်းဟုန်းလောင်ကျွမ်းမည်။ ထိုကြောင့် သိကြားမင်းသည် ပြောက္ကု၊ ရဿကာ အစရှိသော နတ် သမီး ခုနစ်ပေါ် အား ဗြဟ္မာကြီး၏ဦး ခေါင်း ကို အလှည့်ကျ ပွေ့ချီထားစေသည်။ နတ်သမီးတဦးလက်မှတဦးသို့ ပြောင်းလွှဲပေးသောကာလမှာ လူတို့အရေအတွက်အားဖြင့် တနှစ်ပြည့်မြောက်သောအချိန်နှင့် ညီမျှလေသည်။ ထိုသို့ပြောင်းလွှဲပေးသည်ကို သင်္ကြန်ဦးခေါင်းပြောင်းသည်ဟု ခေါ် စမှတ်ပြုကာ အတာသင်္ကြန်ပွဲများကျင်းပကြောင်း ဖေါ်ပြထားသည်။

ဤအကြောင်းခြင်းရာမှာ ကျမ်းကြီးကျမ်းခိုင်တို့တွင် မလာရှိချေ။ ရှေးစကားအဖြစ် အဆင့်ဆင့်မှတ် သားပြောဆိုခြင်းသာဖြစ်သည်။ သို့ရာတွင် သံဒိဋ္ဌသင်္ကြန်ကျမ်း၊ စကားပြင်သစ်၊သင်္ကြန်လက်ရိုးနောက်ဆက်တွဲ စသည်တို့၌ကဝါလမိုင်းတွက်ချက်နည်းဟူ၍တွက်နည်းတမျိုးတွေ့နိုင်လေသည်။

**ကသ္မီရပြည်နယ်**။ ။ကသ္မီရပြည်နယ်သည် အိန္ဒိယနိုင်ငံ၏အနောက် မြောက် ဖက် ဟိမဝန္တာ တောင်တန်းဒေသတွင်တည်ရှိ၍ တောင်ထူထပ်သည့်ပြင် တောင်ထိပ်တောင်ထွတ်တို့မှာ နှင်းများဖုံးအုပ်လျက်ရှိသည်။ ကသ္မီရပြည်နယ်မှာ အိန္ဒိယနိုင်ငံ၏အနောက်မြောက်ဖက် တံခါးပေါက်နှင့်ဆက်စပ်နေသည့်ပြင် တိဗက်ပြည်၊ဆိုဗီယက်နိုင်ငံ၊ဥရောပတိုက် အရှေ့ပိုင်းဒေသတို့နှင့်လည်း ကူးလူး ဆက်ဆံရန် လွယ်သဖြင့် ပထဝီဝင်အရသော်၎င်း၊နိုင်ငံရေးအရသော်၎င်း၊အထူးအရေးပါသောပြည်နယ်ဖြစ်သည်။ ထိုပြည်နယ်ကိုရှေးအခါကဟိန္ဒူမင်းများနှင့် မွတ်စလင်မင်းများ နိုင်ရာ နိုင်ရာ အုပ်စိုးခဲ့ကြသည်။ ၁၅၈၆ ခုနှစ်တွင် မဂိုဘုရင် အက္ကဗါ၏လက်အောက်သို့ ကျရောက်ခဲ့သည်။ ၁၈၄၂ ခုနှစ် တွင် အမ္ဗရစ် ဆာ စာချုပ်အရ ကသ္မီရပြည်နယ်ကို ဂုလပ်ဆင်း၏လက်သို့ အပ်လိုက်သည်။ ထိုမှစ၍နောက်ဆုံးစိုးစံသောမဟာရာဇာ ဆာဟရီဆင်း လက်ထက်အထိ သားစဉ် မြေးဆက် အုပ်စိုးခဲ့ကြသည်။ သို့သော် ဗြိတိသျှအစိုးရတို့၏ဩဇာလွှမ်းမိုးမှု မကင်းသည့်အပြင် အိန္ဒိယဘုရင်ခံချုပ်နှင့်လည်း အသင့်အတင့်ဆက်ဆံရလေသည်။

ထိုပြည်နယ်၏လျှိုမြောင်ချောက်ကမ်းပါးကြီးများ၊ ချိုင့်ဝှမ်းလွင်ပြင်ကြီးများနှင့် စိမ်းစိုသောသစ်တောကြီးများမှာ ကြည်နူးဖွယ်ကောင်းသော ရှုခင်းကြီးများ ဖြစ်ကြသည်။ အိန္ဒုမြစ်နှင့် ယင်း၏လက်တက်များဖြတ်သန်းစီးဆင်းသဖြင့်



ကူးသန်းရောင်းဝယ်ရေး၌ အချက်အချာဖြစ်သော ကသ္မီရပြည်နယ်၏မြို့တော် ဆရီနဂါ

မြစ်ဝှမ်းတလျှောက်၌ မြေဩဇာကောင်းမွန်သည်။ ကသ္မီရပြည်နယ်၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၈၂,၂၅၈ ခန့်ရှိ၍ ၁၉၅၀ ပြည့်နှစ်သန်ကောင်စာရင်းခန့်မှန်းခြေအရ လူဦးရေ ၄,၃၇၀,၀၀၀ ခန့်မျှရှိသည်။ မြို့တော်မှာ ဆရီနဂါဖြစ်၍ လူဦးရေ ၂ သိန်း ၇ ထောင် ကျော်မျှမှီတင်းနေထိုင်သော ကြီးကျယ်စည်ကားသည့် မြို့ကြီးဖြစ်သည်။

ကသ္မီရပြည်နယ်တွင် အောက်တိုဘာလမှ မတ်လအထိ နှင်းများကျတတ်သည်။ နွေဦးပေါက်လများတွင် မိုးများစွာရွာသွန်းလေ့ရှိသည်။ ရာသီဥတုမှာ အပူအအေး မျှတ ညီညွတ်၍ ကျန်းမာရေးအတွက် သင့်လျော်သည်။ လှပ သာယာသော ရှုခင်းများကြောင့်၎င်း၊ မျှတညီညွတ်သော ရာသီဥတုကြောင့်၎င်း၊ ကသ္မီရပြည်နယ်သို့ ဥရောပတိုက်သားများနှင့် လူချမ်းသာတို့ အများအပြားပင်သွားရောက် အပန်းဖြေလေ့ရှိကြသည်။ ထိုအကြောင်းများကြောင့် ကသ္မီရပြည်နယ်ကို 'ပျော်စရာချိုင့်ဝှမ်း' ဟူ၍၎င်း၊ 'အိန္ဒိယကြ ၎န်းနတ်ဘုံနန်း' ဟူ၍၎င်း ခေါ်ဝေါ်ကြသည်။

ပြည်နယ်အတွင်းတွင် မွတ်စလင်ဦးရေမှာ အများဆုံးဖြစ်၍ ဟိန္ဒူအယူဝါဒီ၊ဗုဒ္ဓအယူဝါဒီနှင့် ဆစ်အယူဝါဒီတို့လည်း ရှိကြသည်။ အုပ်ချုပ်ရေးဖက်တွင်ကား ဟိန္ဒူများကြီးစိုးသည်။ ဆန်စပါး၊နှံစားပြောင်း၊မုယောစပါး၊ရှရီမိန်နှင့် သစ်သီးဝလံများ စိုက်ပျိုးဖြစ်ထွန်းသည်။ ထွက်ကုန်များအနက် ရှောစောင်မှာ ကမ္ဘာတွင်ကျော်စောခဲ့သည်။ ၁၈၇၀ ပြည့်နှစ် ပြင်သစ်—ပရပ်ရှားစစ်ပွဲကြောင့် အငတ်ဘေးဆိုက်ခဲ့ရာ ရှောစောင်လုပ်ငန်းကို အကြီးအကျယ် ထိခိုက်ခဲ့လေသည်။ သို့သော် ကော်ဇောလုပ်ငန်းဖြင့် အစားထိုးလုပ်ကိုင်ခဲ့ကြသည်။ ယခုအခါ ကသ္မီရပြည်နယ်တွင် ပိုးထည်လုပ်ငန်းမှာ တိုးတက်လျက်ရှိသည်။ ပန်းပု၊ ငွေထည်နှင့် စက္ကူလုပ်ငန်းများလည်း တွေ့နိုင်သည်။

ကသ္မီရလူမျိုးတို့သည် အနုပညာရပ်များတွင် ဝါသနာထုံ၍ ရှေးဟောင်းအနုပညာရပ်များကို ဖေါ်ထုတ်ခြင်း၊ထိန်းသိမ်းခြင်းများပြုကြသည်။ ရှေးရိုးသီချင်းများကိုလည်း နှစ်ခြိုက်စွာသီဆိုတတ်ကြသည်။ ၁၉၄၅ ခုနှစ်ခန့်က အနုပညာကောလိပ်ကျောင်း ၄ ကျောင်းနှင့် အရှေ့တိုင်းပညာကောလိပ်ကျောင်းများ ဖွင့်လှစ်ခဲ့သည်။ တက္ကသိုလ်ကျောင်းကြီးကိုမူ ၁၉၄၉ ခုနှစ်တွင် တည်ထောင်ဖွင့်လှစ်ခဲ့လေသည်။

ယခင်ကအိန္ဒိယဟုတွင်ခဲ့သောနိုင်ငံကြီးကို ပါကစ္စတန်နိုင်ငံ နှင့် အိန္ဒိယနိုင်ငံဟု ခွဲခြားသတ်မှတ်လိုက်ပြီးနောက် ထိုနှစ်နိုင်ငံစလုံးကပင် ကသ္မီရပြည်နယ်ကို မိမိတို့နိုင်ငံတွင်းသို့ သိမ်းသွင်းလိုကြသည်။ ပြည်နယ်သားအချို့က အိန္ဒိယနှင့် အချို့ကမူ ပါကစ္စတန်နှင့်ပူးပေါင်းလိုကြသည်။

၁၉၄၇ ခုနှစ်တွင် ပြည်နယ်တွင်းဆူပူမှုများ စတင်လာခဲ့သည်။ အနောက်မြောက်နယ်ခြားအရပ်မှ မွတ်စလင်များသည် ပြည်နယ်တွင်းရှိမွတ်စလင်များကို ကူညီရန်ဟုအကြောင်းပြလျက် ချင်းနင်းဝင်ရောက်ကြသည်။ ထိုနောက်



ကသ္မီရပြည်နယ်၌ လူမျိုးစုံတွေ့ရသော ဆပင်နဂါမြို့ရှိ ကမ္ဘာကျော်ရှာလီမာဥယျာဉ်

လုယက်သတ်ဖြတ် ဖျက်ဆီးခြင်းများပြုကြသည်။ နောက်ဆုံး ဆရီနဂါမြို့တော်ကိုပင် ထိပါးမည့်လက္ခဏာများထင်ရှားလာသောအခါ ထိုနှစ် အောက်တိုဘာလ ၂၇ ရက်နေ့တွင် အိန္ဒိယနိုင်ငံနှင့် ပူးပေါင်းလိုက်ကြောင်း ကျေညာ၍မဟာရာဇာစော်ဘွားသည် ဂျမ္မူးနယ်သို့ တိမ်းရှောင်နေလေသည်။ ထိုနောက်ကသ္မီရပြည်နယ်၏လုံခြုံရေးအတွက် အိန္ဒိယ တပ်မတော်က တာဝန်ယူ၍ ကာကွယ်စောင့်ရှောက်ခဲ့သည်။ ထိုအတောအတွင်း အိန္ဒိယကိုလိုလားသောအစ္စလမ်အယူဝါဒီသမား ရှိတ် မဟာမက် အဗ္ဗဒူလာ ခေါင်းဆောင်၍ အုပ်ချုပ်ခဲ့၏။ တဖန် ပါကစ္စတန်နှင့်ပူးပေါင်းလိုသူ ဆာဒါ မဟာမက် အီဗရာဟင် က အဇတ်ကသ္မီရအစိုးရအဖွဲ့ကို စင်ပြိုင်ဖွဲ့စည်းလေသည်။ သို့ဖြင့် နယ်ခြားဒေသတွင် အိန္ဒိယ တပ်မတော်နှင့် ကျူးကျော်သူတို့ တိုက်ခိုက်မှုများ ဆက်လက်ဖြစ်ပွားကြသည်။ ဤသို့ကျူးကျော်စော်ကားခြင်းပြုသူတို့မှာ ပါကစ္စတန်အစိုးရနှင့် အဆက်အသွယ်မကင်းဟု ကသ္မီရအစိုးရနှင့် အိန္ဒိယအစိုးရတို့က စွပ်စွဲခဲ့သည်။ ၁၉၄၈ ခု ဇန္နဝါရီလတွင် အိန္ဒိယအစိုးရက ဤကိစ္စကို ကုလသမဂ္ဂလုံခြုံရေးကောင်စီသို့ တိုင်တန်းတင်ပြခဲ့သည်။ ကုလသမဂ္ဂမှ ပုဂ္ဂိုလ် ၅ ဦးပါဝင်သော စုံစမ်းရေးအဖွဲ့တခုကို စေလွှတ်ခဲ့လေသည်။ ကုလသမဂ္ဂ၏ ကြိုးစားချက်ဖြင့် ပစ်ခတ်မှုရပ်စဲရေးကို ဒီဇင်ဘာလ ၃၁ ရက်နေ့မှစ၍ ပါကစ္စတန်၊ အိန္ဒိယ နှစ်နိုင်ငံစလုံးကပင် လိုက်နာလက်ခံကြသည်။ သို့သော် အခြားကျန်ရှိသောပြဿနာရပ်များကား မပြီးပြတ်သေးချေ။

၁၉၄၈–၄၉ ခုနှစ်တွင် ကသ္မီရပြည်နယ်၌ လယ်ယာမြေပြုပြင် ပြောင်းလဲရေးအတွက် လယ်မြေ ၂၂ ဧကခွဲထက်ပိုမိုပိုင်ဆိုင်သော မြေပိုင်ရှင်တို့၏လယ်မြေကို သိမ်းယူ၍ ထွန်ယက်စိုက်ပျိုးသူ စစ်စစ်တို့အားသာ ဝေငှပေးရန်စီမံလေသည်။ ဤကိစ္စနှင့်စပ်လျဉ်း၍ မဟာရာဇာစော်ဘွားကြီးနှင့် ဝန်ကြီးချုပ် ရှိတ် အဗ္ဗဒူလာတို့သဘောကွဲလွဲကြရကား စော်ဘွားကြီးသည် ဘုံဘိုင်မြို့သို့ ထွက်ခွာသွားလေသည်။

၁၉၅၂ ခု နိုဝင်ဘာလတွင် ကသ္မီရပြည်နယ်၌ အစဉ်အလာအရ စော်ဘွားအုပ်ချုပ်မှုစံနစ်ကို ပယ်ဖျက်၍ ပြည်နယ်ဥက္ကဋ္ဌကို ၅ နှစ်တကြိမ်ရွေးကောက်တင်မြှောက်ရန် တိုင်းပြည်ပြုလွှတ်တော်က ဆုံးဖြတ်ခဲ့လေသည်။ ပဌမဆုံးအကြိမ်ပြည်နယ်ဥက္ကဋ္ဌအဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံရသူမှာ တိုင်းပြည်မှထွက်ခွာသွားသော မဟာရာဇာစော်ဘွားကြီး၏သား အသက် ၂၁ နှစ်သာရှိသေးသည့် ကာရန်ဆင်းဖြစ်သည်။ ၁၉၅၃ ခုဩဂုတ်လ ၉ ရက်နေ့တွင် ဝန်ကြီးချုပ်ရှိတ် အဗ္ဗဒူလာနှင့် အပေါင်းပါတစုတို့သည် ကသ္မီရပြည်အား သီးခြားလွတ်လပ်သောနိုင်ငံအဖြစ် ထူထောင်ရန်ကြိုးစားသည်ဟူ၍၎င်း၊ ပြင်ပ လက်နက်နိုင်ငံကြီးများ၏သြဇာကို ခံယူရန် ကြံစည်သည်ဟူ၍၎င်း၊ စွပ်စွဲ ဖမ်းဆီးခံကြရသဖြင့် ပါတီအင်အားအကောင်းဆုံးဖြစ်သူ ဗက်ရှီဂူလမ်မဟာမက်က အစိုးရအဖွဲ့သစ်ကိုဖွဲ့စည်းလိုက်လေသည်။

ကသ္မီရပြဿနာကို အေးဆေးစွာဖြေရှင်းနိုင်ရန် အိန္ဒိယဝန်ကြီးချုပ် နေရူးနှင့် ပါကစ္စတန်ဝန်ကြီးချုပ် မဟာမက် အလီတို့ မကြာခဏတွေ့ဆုံဆွေးနွေးခဲ့ကြသည်။ ကသ္မီရဝန်ကြီးချုပ် အဖမ်းခံရပြီးနောက် ဝန်ကြီးချုပ် နှစ်ဦး တို့သည် နယူးဒေလီမြို့၌တွေ့ဆုံဆွေးနွေးကြပြန်သေးသည်။ ဆွေးနွေးမှုများအပြီး ၁၉၅၃ ခုစက်တင်ဘာလ ၂၁ ရက်နေ့တွင် ကျေညာချက်တစောင်ကို ပူးတွဲထုတ်ဝေခဲ့သည်။ ထိုကျေညာချက်တွင် ကသ္မီရပြည်နယ်အုပ်ချုပ်ရေးကို လူထုဆန္ဒပွဲဖြင့် ဆုံးဖြတ်ရန် သဘောတူညီကြသည့်အပြင်၊ ဆန္ဒပေးပွဲ ကြီးကြပ်ရေးအရာရှိကို ၁၉၅၄ ခု ဧပြီလကုန်တွင် ခန့်အပ်မည် ဟုဖေါ်ပြထားလေသည်။

**ကသာခရိုင်**။ ။ကသာခရိုင်သည် အထက်မြန်မာပြည် စစ်ကိုင်းတိုင်း အပါအဝင်ဖြစ်၏။ ခရိုင်၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၅,၉၄၃ ရှိသည့်အနက်၊ စတုရန်းမိုင် ၃,၇၀၀ ခန့်မှာ ရှေးကသီးခြားနယ်ဖြစ်ခဲ့သော ဝန်းသိုနယ်ဖြစ်သည်။ အင်္ဂလိပ်တို့ အထက်မြန်မာပြည်ကိုသိမ်းယူသည့်အခါ၊ ဝန်းသိုစော်ဘွား ပုန်ကန်ခြားနားရာ အင်္ဂလိပ်အစိုးရက နှိမ်နင်းအောင်မြင်ခဲ့၍ ဝန်းသိုနယ်ကိုသိမ်းယူပြီးလျှင် ၁၈၉၀ ပြည့်နှစ်တွင်ကသာခရိုင်အတွင်းသို့ သွတ်သွင်းခဲ့လေသည်။ ၁၉၂၀ ပြည့်နှစ်တွင် ရှေးက ပတ္တမြားကျောက်တွင်းခရိုင်ဟုခေါ်သော မိုးကုတ်နယ်ကိုလည်း ကသာခရိုင်အတွင်းသို့ ထည့်သွင်းခဲ့၏။ သို့သော် မိုးကုတ်နယ်ကို ဒုတိယကမ္ဘာစစ်ပြီးသောအခါ ရွှေဘိုခရိုင်အတွင်းသို့ ပြောင်းလဲထည့်သွင်းခဲ့လေသည်။

ကသာခရိုင်၏မြောက်ဖက်တွင် ဗန်းမော်ခရိုင်နှင့် မြစ်ကြီးနားခရိုင်၊တောင်ဖက်တွင် ရွှေဘိုခရိုင်နှင့် အနောက်ဖက်တွင် အထက်ချင်းတွင်းခရိုင်တို့ရှိလေသည်။

ကသာခရိုင်ကိုဖြတ်သန်းနေသော တောင်တန်း ၃ ခုမှာ မင်းဝံ၊ဂန့်ဂေါ်နှင့် မှန်ကင်းတောင်တန်းတို့ဖြစ်၏။ ထိုတောင်တန်းသုံးခုသည် ဧရာဝတီမြစ်၊ မဲဇာမြစ်နှင့် မူးမြစ်တို့၏အကြား၌ တည်ရှိလေသည်။ မင်းဝံတောင်တန်းမှာ ပေပေါင်း ၁,၅၀၀ မှ ၂,၀၀၀ အထိမြင့်၍ တောင်နှင့်မြောက်တန်းလျက် ရှေး ကသာခရိုင်နှင့် ရှေး ဝန်းသိုနယ်တို့ကို ပိုင်းခြားလျက်ရှိ၏။ ဂန့်ဂေါ်တောင်တန်းမှာ မြောက်ဖက်မှဆင်းလာ၍ ထီးချိုင့်မြို့အနီး ဧရာဝတီမြစ်ကမ်းပေါ်ရှိ မြသိန်းတန်ဘုရားတွင် ဆုံးသည်။ ဂန့်ဂေါ်တောင်တန်း၏အမြင့်ဆုံးတောင်ထိပ်မှာ ပေ ၄,၄၀၀ မြင့်သော်လည်း တောင်တန်းတခုလုံးမှာ ပျမ်းမျှပေ ၅၀၀ မှ ၂,၀၀၀ အတွင်းသာမြင့်လေသည်။ မှန်ကင်းတောင်တန်းမှာ ဝန်းသိုနယ်ဖက်တွင်ရှိ၍ ပေ ၅,၄၅၀ မြင့်သောမိုင်းသုံတောင်ထိပ်မှာ အမြင့်ဆုံးဖြစ်၏။ ကသာခရိုင်အတွင်း ထင်ရှားသောမြစ်များမှာ ဧရာဝတီမြစ်၊ မဲဇာမြစ်၊ ရွှေလီမြစ်၊ဒေါင်းယူးမြစ်နှင့် မူးမြစ်တို့ဖြစ်ကြ၏။ ဒေါင်းယူးကား မြစ်ပင်ဖြစ်သော်လည်း ဒေါင်းယူးချောင်းဟုတွင်၍ မူးမြစ်ထဲသို့စီးဝင်သည်။

ကသာခရိုင်၏အလယ်လောက် နဘားအနီးတွင် အလျား ၃ မိုင်၊ အနံတမိုင်ခန့်ကျယ်သော အင်းတော်ရှိသည်။ ထို အင်းတွင် တံငါလုပ်ငန်း တွင်ကျယ်၍ ဧရာဝတီမြစ်ကမ်းတလျှောက်တွင်လည်း တံငါလုပ်ငန်းအနည်းငယ်စီရှိလေသည်။

ကသာခရိုင်သည် မြေအောက်အဖိုးတန်တွင်းထွက်ပစ္စည်းများဖြင့် ကြွယ်ဝ၏။ ဝန်းသိုနယ်ဖက်တွင် ရွှေ၊ ကြေးနီ၊ သံနှင့် ခဲထွက်သည်။ မော်နိုင်၊မော်ခါး၊ကဗါး၊နမ္မား၊မော်ဟိုင်း၊မော်ခွင်၊မော်အင်း၊မန်စီနှင့် ဆိုတောတဝိုက်တွင်ရှိသောချောင်းများမှ ရွှေနှင့် မော်လူးအနီးမှ ကျောက်စိမ်းများထွက်သည်။

ကသာခရိုင်၏လူဦးရေမှာ နောက်ဆုံးခန့်မှန်းခြေ သန်ကောင်စာရင်းအရ ၂၄၁,၄၂၂ မျှရှိ၏။ လူဦးရေတဝက်ခန့်မှာ မြန်မာလူမျိုးဖြစ်၍ ကျန်တဝက်မှာ ရှမ်းနှင့်သက် (လွို) လူမျိုးများဖြစ်ကြသည်။

ခရိုင်၏ အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးရေးဖြစ်၍ ဆန်စပါးအမြောက်အမြားစိုက်သည်။ တောင်ကုန်းဒေသတို့၌ လက်ဖက်၊ ဝါဂွမ်းနှင့် နှမ်းစိုက်ပျိုးကြ၏။ သစ်တောထူထပ်၍ ကျွန်း၊ပျဉ်းကတိုး၊ယမနေ စသောအဖိုးတန်သစ်များလည်းထွက်လေသည်။

ကသာခရိုင်အတွင်းရှိ တန်ခိုးကြီးဘုရားနှင့်စေတီများမှာ ကသာမြို့ရှိ မြစေတီ၊ ရွှေဂူကြီးစေတီနှင့် အလယ်ရွာ (မိုးတား) ၏အရှေ့မြောက် ဧရာဝတီမြစ်ကမ်းပေါ်ရှိ အိုင်တလူးစေတီတို့ဖြစ်ကြသည်။ ဂန့်ဂေါ်တောင်တန်းအစွန်၌တည်ထားသော မြသိန်းတန်စေတီမှာ ထင်ရှား၏။ ထီးချိုင့်မြို့တွင် ရှေးမြန်မာမင်းများလက်ထက် တရုပ်စစ်သည်များ တပ်စွဲစဉ်ကတည်ခဲ့သော မြို့ရိုးပျက်ကြီးမှာ သမိုင်းတွင်ထင်ရှားလေသည်။

ကသာခရိုင်ကို ကသာ၊အင်းတော်၊ထီးချိုင့်၊ဗန်းမောက်၊ ကောလင်း၊ ပင်လည်ဘူးနှင့် ဝန်းသိုမြို့နယ် ၇ နယ်ခွဲ၍ အုပ်ချုပ်လေသည်။

**ကသာမြို့**။ ။ကသာခရိုင် အစိုးရဌာနအသီးသီးတို့၏ဗဟိုရုံးစိုက်ရာမြို့ကြီးဖြစ်သော ကသာမြို့သည် ဧရာဝတီမြစ်အနောက်ဖက်ကမ်းပေါ်တွင်တည်ရှိ၍ မြစ်ကြောင်းဆိပ်ကမ်းမြို့တမြို့ဖြစ်သည်။ ထိုပြင် စစ်ကိုင်း — မြစ်ကြီးနားမီးရထားလမ်းသည် နဘားမှတဆင့်၊ မီးရထားလမ်းခွဲဖြင့် ကသာမြို့နှင့်ဆက်သွယ်လျက်ရှိသောကြောင့် စည်ကားလေသည်။ မြို့၏အကျယ်အဝန်းမှာ ၄ဂဂ ကေဖြစ်၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၇,၆၄၇ ခန့်ရှိသည်။ ခရိုင်မြို့ကြီးဖြစ်သည့်အတိုင်း တရားရုံးတော်များ၊ရဲဌာန၊ဆေးရုံ၊



**အင်္ဂလန်သမိုင်း၌ ထင်ရှားခဲ့သော ကန်တာဗါရီကသီဒရယ်ဘုရားရှိခိုးကျောင်းကြီး**

ဈေး၊စာတိုက်၊ကြေးနန်းရုံ၊ဗိုလ်တဲ၊ သစ်သိုလှောင်ရာဌာနနှင့် အကျဉ်းထောင်ကြီးများရှိသည်။

ကသာမြို့လယ်တွင် ထင်ရှားသော မြစေတီဘုရားတည်ရှိ၍ မြို့၏မြောက်ပိုင်းနှင့်တောင်ပိုင်းကို ခွဲခြားထား၏။ မြစေတီမှာ သီရိဓမ္မာသောကမင်းတရားကြီးတည်ခဲ့သော စေတီများတွင် အပါအဝင်ဖြစ်သည်ဟုဆိုကြသည်။ မြောက်ပိုင်း၌ဘိုးတော်ဘုရားတည်ခဲ့သော ရွှေဂူကြီးစေတီရှိလေသည်။

**ကသီဒရယ်ဘုရားရှိခိုးကျောင်း။** ။အလယ်ခေတ်အစဆီတွင် ဥရောပတိုက်ရှိနိုင်ငံများ၌ ဘာသာရေးကို များစွာအလေးအမြတ်ပြုခဲ့ကြသည်။ ထိုခေတ်အခါက လက်တင်စာပေတတ်မြောက်သော ဗရင်ဂျီဂိုဏ်းဝင် ဘုန်းကြီးများနှင့် လူပညာရှိများသည် ခရစ်ယန်တရားစာပေတို့ကို ဟောပြောကြလေသည်။ လူအများနှင့်သက်ဆိုင်သော သာသနာရေးဆိုင်ရာ ကျောင်းများကိုတည်ဆောက်ကြရာ၌ မြို့ပြပြည်ရွာလည်း ကျက်သရေရှိ၊ ဘာသာရေးကိုလည်း ရိုသေကိုင်းရှိုင်းရာရောက်စေခြင်းငှါ၊အမြင့်ဆုံးအပေါ် လွှင်ဆုံးဖြစ်သော အဆောက်အအုံများကို ဆောက်လုပ်ခဲ့ကြ၏။ မြန်မာနိုင်ငံတွင် မြို့ပြပြည်ရွာ၏ ကျက်သရေဆောင် အဖြစ် မြို့ဦးရွာဦး၌ ရွှေရောင်တပြောင်ပြောင်တောက်ပသော ကျောင်းကန်ဘုရား စေတီပုထိုးစသည့်သာသနာရေးဆိုင်ရာ အဆောက်အအုံများ ဆောက်လုပ်တည်ထားကြသကဲ့သို့ပင် အဆောက်အအုံများကိုအထူးကောင်းမွန်လှပအောင် သုခုမပညာလက်ရာများဖြင့် ခြယ်လှယ်မွမ်းမံထားကြသည်။

ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးများကို မြင့်မားစွာဆောက်လုပ်လေ့ရှိခြင်းမှာ ဘာသာရေးကို အထွတ်အထိပ်သို့ တင်ထားခြင်းပင်ဖြစ်၍ ထိုဘုရားရှိခိုးကျောင်းများ၌နေထိုင်ကြသော ဘုန်းကြီးများကို အမြင့်မြတ်ဆုံးပုဂ္ဂိုလ်များဟု အသိအမှတ်ပြုထားသည်လည်းမည်ပေသည်။

ထိုသို့ မြင့်မားခန့်ညားသော ဘုရားရှိခိုးကျောင်းကြီးများကို တည်ဆောက်ရာတွင် ဂေါ့သဗိသုကာလက်ရာများမှာ များစွာအဖိုးတန်၍ ခေတ်စားခဲ့ကြသည်။ အဘယ်ကြောင့်ဆိုသော် ဂေါ့သပုံစံတွင် ပေါင်းအမျိုးမျိုး ခုံးအစိပ်စိပ်ခံကာ အဆောက်အအုံကို လိုသလောက်အမြင့်အထိ ခိုင်ခံ့စွာ ဆောက်လုပ်နိုင်သောကြောင့်ဖြစ်သည်။ မြင့်မားသော ဆောင်ပုံများတွင် ပြတင်းတံခါးရှည်ကြီးများ ထားရှိခြင်းကြောင့် အဆောက်အအုံ၏အတွင်းဖက်သို့ အလင်းရောင်လုံလောက်စွာဝင်နိုင်ရုံမက၊ထိုပြတင်းရှည်ကြီးများကို ရောင်စုံမှန်များဖြင့် ခြယ်လှယ်ထားပြန်သဖြင့် ကျက်သရေဖွံ့ဖြိုးလှပေသည်။ ပြတင်းမှရောင်စုံမှန်တို့၏အရောင်သည် အတွင်းဆောင်များကိုပါ တောက်ပြောင်ထွန်းလင်းစေသည်။ပုံသဏ္ဌာန်အမျိုးမျိုးဖြင့် ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးများကိုတည်ဆောက်ခဲ့ကြသော်လည်း ဂေါ့သပုံစံမှာ ပင်ရင်း ဖြစ်ပေသည်။

ဥရောပတိုက်တခွင်ရှိထင်ရှားသော ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးများ၏ အဆင်အပြင် အနေအထားမှာ ၃ မျိုးရှိသည်။ ပဌမအမျိုးမှာ မြင့်မားသော အမိုးချွန်ကြီးများဖြင့်ဆောက်လုပ်သည့် ရှေးဘုရားရှိခိုးကျောင်းကြီးများဖြစ်၍၊ ဒုတိယအမျိုးမှာ အနုစိတ်လက်ရာများဖြင့် မွမ်းမံထားသည့် ပုံစံဖြစ်ပြီးလျှင် အတွင်းဖက်၌ရှင်း၊အပြင်ဖက်၌ရှင်း၊ လှပဆန်းကြယ်သောပန်းကြွ ရုပ်လုံးကြွများဖြင့် တန်ဆာဆင်ထားလေသည်။ တတိယအမျိုးမှာ ကျောက်တိုင်စိုက်ထူသကဲ့သို့ သေးသေးသွယ်သွယ်နှင့် မားမားမတ်မတ် တည်နေသောပုံစံဖြစ်သည်။ အင်္ဂလန်ပြည် ကန်တာဗါရီ ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးမှာ ထိုအမျိုးအစားပင်ဖြစ်၏။

ပြင်သစ်နိုင်ငံ ရိမ်းမြို့ရှိကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးကိုလည်း ဂေါ့သပုံစံဖြင့် တည်ဆောက်ခဲ့ကြသည်။ ထိုဘုရားရှိခိုးကျောင်းကြီးမှာ ပဌမကမ္ဘာစစ်ဖြစ်စဉ်က ဂျာမန်တို့၏အမြောက်ဆန်များထိမှန်သဖြင့် အတော်အတန် ပျက်စီးသွားရာ စစ်ပြီးသောအခါ ထပ်မံပြင်ဆင်ရလေသည်။ ထပ်မံပြင်ဆင်ရာတွင် မူလဂေါ့သလက်ရာကိုမပျက်စေရန် အသစ်မထွင်ဘဲပြင်ဆင်ခဲ့သဖြင့် နှစ်ပေါင်းများစွာကြာသည်။ ထိုနောက်လူအများအသုံးပြုရန်ပြန်လည်ဖွင့်လှစ်ခဲ့လေသည်။

ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးများမှာ ဆောက်လုပ်ပြီးစီးရန် နှစ်ပေါင်းများစွာကြာသလောက် အခွန့်ရှည်စွာတည်တံ့ခိုင်မြဲကြပေသည်။ ထို့ကြောင့် အလယ်ခေတ်တွင် အများအပြား ဆောက်လုပ်ခဲ့ကြသော ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးများသည် ယခုထက်တိုင် မပြိုမပျက် တည်ရှိနေကြခြင်းဖြစ်ပေသည်။ ထိုဘုရားရှိခိုးကျောင်းကြီးများတည်ဆောက်သည့်အလေ့အထမှာ အလယ်ခေတ်ကုန်ဆုံးသည်တွင် လုံးဝပျောက်ကွယ်သွားတော့၏။ နှောင်းခေတ်တွင် တည်ဆောက်ခဲ့သော ဘုရားရှိခိုးကျောင်းကြီးများမှာ ရောမမြို့ စိန်ပီတာ ကသီဒရယ်ဘုရားရှိခိုးကျောင်းနှင့် လန်ဒန်မြို့ စိန်ပေါ ကသီဒရယ် ဘုရား ရှိခိုးကျောင်းကြီးများဖြစ်၍ အတတ်ပညာပြန်လည်ဆန်းသစ်ခေတ်ဖြစ်သည့် ခေတ်ဆန်းချိန်အတွင်းက ခေတ်စားခဲ့သောပုံစံများဖြစ်လေသည်။ ထိုကဲ့သို့သော အဆောက်အအုံကြီးများ ဆောက်လုပ်သောအလေ့အထသည် ၂၀ ရာစုနှစ်ဆန်းစတွင် ပြန်လည်ထွန်းကားလာပြန်သည်။ ရေဖျန်းဂိုဏ်းမှ လီဗါပူးမြို့နှင့် ဂီးလဖို့မြို့တို့၌ရှင်း၊ဗရင်ဂျီဂိုဏ်းမှဝက်စမင်စတာမြို့နှင့် လီဗါပူးမြို့တို့၌ရှင်း၊ ဆောက်လုပ်ထားသော ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီးများမှာထင်ရှားသောသာဓကများဖြစ်၏။



အမေရိကန်နိုင်ငံနယူးယော့မြို့ရှိ စိန်ပက်ထရစ်ကသီဒရယ်



ပြင်သစ်နိုင်ငံရိမ်းမြို့ရှိကသီဒရယ်

**ကသစ်ပင်။** ။ကသစ်ပင်တွင် ပင်လယ်ကသစ်၊ ရေကသစ်၊ကုန်းကသစ်၊တောင်ကသစ်စသည်ဖြင့် အမျိုးမျိုးရှိရာ၊ ယင်းတို့အနက် ပင်လယ်ကသစ်မှာ သစ်ကြီးခုနစ်ပင်တွင်ပါ



ကသစ်ရွက်နှင့်အဖူးများကို အနီးကပ်ရိုက်ပြထားပုံ။

ဝင်၍ တာဝတိံ သာ၏ အထိမ်း အမှတ် ဖြစ် သဖြင့် ထင်ရှား သောအပင်ဖြစ်လေသည်။

နွယ်ပင်ဖြစ်သော ကသစ်မှတပါး ကျန်ကသစ်မျိုးဝင် အပင်အားလုံးလိုလိုတွင်ဆူးရှိသည်။ အမြင့်ပေ ၄၀ မှ ၆၀ အထိရှိသော ပင်လတ်မျိုးဖြစ်ကြ၍ မြန်မာနိုင်ငံအထက်ပိုင်းနှင့်အောက်ပိုင်း မိုးပါးသောသစ်တောများတွင် ပေါက်ကြသည်။ သို့သော် ရေကသစ်ပင်ကို တနင်္သာရီတိုင်း၊ သောင်ရင်းနယ်၊ အတ္တရံနယ်နှင့် ပဲခူးရိုးမတောင် တန်း ပေါ်တွင်၎င်း၊ကုန်းကသစ်ပင်ကို တောင်ငူနယ်နှင့် ပင်လယ်ကမ်းခြေတ လျှောက် တွင် ၎င်း၊ ကသစ် နွယ်ပင်ကို ကချင်တောင်များပေါ်၌၎င်း တွေ့ရများသည်။ ကသစ်ပင်တို့သည် အခေါက်ထူပွ၍ အရောင်မှာ ဝါမွဲမွဲဖြစ်ကာ ပတ်ကြောင်းများထူ၍ နွေရာသီတွင် အရွက်ကြွေသည်။ မတ် — ဧပြီလအတွင်း နီရဲသောအပွင့်များပွင့်ကြ၍၊ဇွန် — ဇူလိုင်လများအတွင်း အစေ့ပါသောအသီးတောင့်များသီးကြသည်။

ကသစ်သားတို့၏အရောင်မှာ ဖြူသည်။ ပွ၍ပျော့သော်လည်း တောင့်တင်းသည်။ ရေနှင့်ထိနေလျှင် တာရှည်ခံသည်။ ထို့ကြောင့် ကသစ်သားကို ရေတန်လျှောက်များ၊ လှေများလုပ်ရာတွင် အသုံးပြုနိုင်သည်။ သေတ္တာရိုးရိုးနှင့် ယွန်းသေတ္တာများ၊ကလေးကစားစရာများ ပြုလုပ်ရာ၌လည်း ကသစ်သားကို အသုံးပြုနိုင်၍ ပျဉ်လည်းခွဲနိုင်သည်။ ရေကသစ်သားမှာ ပေါ့ပါး၍ အတော်အသင့်တာရှည်ခံသဖြင့် အထက်ပါပစ္စည်းများအပြင် ဓါးအိမ်၊ လုံစွပ်အိမ်များ လည်း ပြုလုပ်နိုင်သည်။ အိန္ဒိယနိုင်ငံ၌ ဖန်ချက်လုပ်ငန်း၊သားရေနယ်လုပ်ငန်း၊ဆပ်ပြာလုပ်ငန်း စသည်တို့တွင် အသုံးပြုရသော ပါး လအက် ခေါ် ပိုတက် ဆီ ယမ် ကာ ဗွန် နိတ် ဓါတ် ဆားပြာ တမျိုးကို အပင်အမျိုးမျိုး မှထုတ်ယူရရှိရာ ကသစ်ပင်များမှလည်း ထိုပြာကိုထုတ်ယူကြလေသည်။

ထိုမှတပါး ပင်လယ်ကသစ်ပင်၏အခေါက်ကို အဖျားရောဂါအတွက်၎င်း၊ အရွက်ကို ကိုယ်ပေါ်တွင်ပေါက်သော အနာအတွက်၎င်း၊ ဆေးအဖြစ် သုံးနိုင်ကြောင်း သိရသည်။

**ကသည်းလူမျိုး။** ။မြန်မာမင်းများလက်ထက်ကတည်းကပင် မဏိပူရ ပြည်သားများ မြန်မာနိုင်ငံအတွင်းသို့ ရောက်ရှိနေထိုင်လာခဲ့ကြသည်။ ထိုမဏိပူရ ပြည်သားများနှင့် ယင်းတို့မှဆင်းသက်ပေါက်ဖွားလာသူတို့ကို မြန်မာဝေါဟာရအားဖြင့် ကသည်းဟုခေါ်သည်။

ပြောဆိုသော မူရင်း ဘာ သာစ ကား အရ ထို ကသည်းတို့မှာ ကုကီချင်းအစုဝင် ချင်းလူမျိုးတမျိုးဖြစ်ကြောင်းတွေ့ရသည်။ ကုကီချင်းအစုကို မေထေးနှင့်ချင်းရိုးရိုးဟု နှစ်စုခွဲထားရာ၊ကသည်းတို့မှာ ပဌမအစုဖြစ်သော မေထေးတို့တွင် အပါအဝင် ဖြစ် သည်။ မေထေးမှာ မဏိပူရ ပြည်သားတို့ကိုခေါ်သော အမည်တမျိုးပင်ဖြစ်သည်။ အမှန်အားဖြင့် မဏိပူရ ပြည်နှင့် ထိုမေထေးတို့ကို မြန်မာတို့က ကသည်းပြည်နှင့် ကသည်းလူမျိုးဟုပင် ခေါ်ဝေါ်ကြသည်။

၁၉၃၁ ခုနှစ် သန်းကောင်စာရင်း အရ မြန်မာနိုင်ငံ တွင် ကသည်းလူမျိုး ၆,၀၀၀ မျှရှိကြောင်း၊ယင်းတို့အနက် ၄,၀၀၀ မျှသာ ကသည်းစကားကို ပြောဆိုနိုင်ကြောင်းသိရသည်။ ကသည်းတို့မှာ များသောအားဖြင့် ဟိန္ဒူအယူဝါဒီများဖြစ်ကြသည်။ ၁,၅၀၀ ခန့်မျှသာ ဗုဒ္ဓအယူဝါဒကို သက်ဝင်ယုံကြည်ကြသည်။ မြန်မာနိုင်ငံအတွင်း သူတို့နေထိုင်ရာအချက်အခြာဒေသမှာ မန္တလေးခရိုင်ဖြစ်၍ ထိုခရိုင်တွင် ကသည်းဦးရေ ၄,၅၀၀ ကျော်မျှတွေ့ရသည်။

မြန်မာနိုင်ငံ တွင်းသို့ ကသည်း လူမျိုး တို့ ရောက် ရှိ လာ ပုံ သမိုင်း အကျဉ်းမှာ အောက်ပါအတိုင်းဖြစ်၏။ ခရစ်နှစ် ၁၇၅၈ ခု အလောင်းဘုရားလက်ထက်၊ ၁၇၆၄ ခုနှစ် ကုန်းဘောင်ဆင်ဖြူရှင်မင်းတရားလက်ထက်၊ ၁၈၁၉ ခုနှစ် ဘကြီးတော်လက်ထက်တို့တွင် မြန်မာတို့က မဏိပူရ ကသည်းပြည်ကို တိုက်ခိုက်သိမ်းပိုက်ကြပြီးသည့်နောက်၊ မဏိပူရ ကသည်းပြည်သူပြည်သားအများကို မြန်မာနိုင်ငံသို့ ခေါ်ဆောင်လာခဲ့ကြသည်။ ခေါ်ဆောင်လာသူတို့တွင် ပိုးထည်ရက်လုပ်ရာ၌ ဆန်းကြယ်လှပ ခက်ခဲသောအဆင် များ ကိုပေါ်အောင် ရက် လုပ် တတ် သည့် ရက် ကန်း ပညာ သည် များ၊ အာကာသ သျှတ္တရကျမ်း၊ နက္ခတ်ပညာ၊ ဗေဒင်ပညာ၊သဘင်ပညာတို့တွင် ထူးချွန်ကြသော ပညာသည် များ နှင့် မြင်းစီးအတတ်တွင် ကျွမ်းကျင်ကြသော မြင်းသည်တော်တို့ပါဝင်ကြသည်။ ဤကဲ့သို့ ထက်မြက်လှသော လက်မှုပညာ၊သုခုမပညာ စသည်တို့ဖြင့်မင်းမှုထမ်း နိုင်ကြ စေရန် ကုန်းဘောင်ခေတ်ဘုရင်တို့သည် ထိုမဏိပူရ ကသည်း လူမျိုး တို့အား နေပြည်တော်တဝိုက်ဖြစ်သည့် ယခုမန္တလေးခရိုင်တွင် နေရာချ

ထားခဲ့ခြင်းဖြစ်သည်။ လောကီကျမ်း၊ နက္ခတ်နှင့်ဗေဒပညာတို့တွင် ထူးချွန်ကြသော ကသည်းပညာသည်တို့မှာ ဘုရင်ကေရာဇ်တို့၏ အတိုင်ပင်ခံ မင်းဆရာများအဖြစ် အမှုထမ်းရသည့်အဆင့်သို့ပင် တက်ရောက်ခဲ့သည်ကိုတွေ့ရသည်။

မဏိပူရကသည်းလူမျိုးအချို့တို့မှာ အမျိုးမြတ်သော ဗြာဟ္မဏအနွယ်ဝင်များဖြစ်ကြသည့်အတိုင်း ဟိန္ဒူဘာသာဝင် ဗြာဟ္မဏများကဲ့သို့ အခြားအမျိုးအနွယ် အခြားဇာတ်ဝင်တို့က ပေးလှူပူဇော်ကြသည်တို့ကို ခံယူစားသောက်ကြသည်။ ဗြာဟ္မဏအနွယ်ဝင်မဟုတ်သော ကသည်းလူမျိုးတို့မှာမူ အထက်၌ဆိုခဲ့သော လက်မှုပညာ၊သုခုမပညာလုပ်ငန်းများအပြင် လယ်ယာလုပ်ကိုင်ခြင်း စသည်ဖြင့် အသက်မွေးဝမ်းကျောင်းကြလေသည်။

မဏိပူရ ကသည်းတို့မှာ မြင်းစီးအတတ်တွင် ကောင်းစွာကျွမ်းကျင် ကြသည့် အတိုင်း ကုန်းဘောင်ခေတ် အလျင်မြန်မာနိုင်ငံ ကစဉ့်ကရဲဖြစ်နေချိန်များတွင် မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်ကာ ထိပါးတိုက်ခိုက်နိုင်ခဲ့ကြလေသည်။ သို့ထိပါးတိုက်ခိုက်ခဲ့သည်ကို တုံ့ပြန်သောအားဖြင့် ကုန်းဘောင်ခေတ်တွင် အထက်၌ဆိုခဲ့သည့်အတိုင်း မြန်မာတို့က သွားရောက်တိုက်ခိုက်ခြင်းသာဖြစ်ပေသည်။ မြင်းသည်ကျော်တို့သာ ကစားနိုင်သော ဂူလီကစားနည်းမှာ မဏိပူရကသည်းပြည်မှ စ၍ပေါ်ပေါက်ခဲ့သည်ဟု အချို့ပညာရှိတို့ကယူဆကြသည်။ အလောင်းမင်းတရားကြီးလက်ထက်မှစ၍ဖွဲ့စည်းလာခဲ့သော ကသည်းမြင်းတပ်မှာ သီပေါမင်းလက်ထက်ရောက်သည်တိုင်အောင် တည်ရှိခဲ့လေသည်။ သီပေါမင်းလက်ထက်တွင် ဖွဲ့စည်းထားသော မြန်မာတပ်မတော်ကြီး၏ စုကြီးအမှုထမ်းတွင်ပါဝင်သော မြင်းအမှုထမ်းတို့တွင် ကသည်းမြင်းတပ်အင်အားမှာ ထမ်းကို ၆၂၂ ဖြစ်၍ မြင်းတပ်၏နောက်ထောက်အင်အားမှာ ၆,၂၂၀ ဖြစ်ကြောင်းသိရသည်။ ထိုမှတပါး မြန်မာဘုရင်လက်ထက်တွင် ပြန်တမ်းရိုးခံရသောဝန်အဖြစ် ကသည်းဝန်တဦးကို ကသည်းလူမျိုးထဲမှ ခန့်ထားသည်ကိုတွေ့ရသည်။

ဝတ်စားဆင်ယင်ပုံမှာ အိန္ဒိယတိုင်းသားဟိန္ဒူများနှင့် ဆင်သော်လည်း မြန်မာနိုင်ငံတွင် အနေကြာပြီဖြစ်သည့်အတိုင်း ကိုယ်အထက်ပိုင်းတွင် မြန်မာကဲ့သို့ဝတ်ဆင်၍ ကိုယ်အောက်ပိုင်းတွင် ဒိုတီကိုခါးတောင်းကျိုက်၍ဝတ်ကြသည်။ အချို့မှာမူ မြန်မာတို့ကဲ့သို့ပင် ဝတ်ဆင်ကြသည်။ မိမိတို့၏မူရင်းဘာသာစကားအပြင် မြန်မာစကားကိုလည်း ပြောဆိုကြသည်။ မြန်မာတို့နှင့်အတူ ဆက်ဆံနေထိုင်ကြသော်လည်း ရပ်ကွက်ကျေးရွာများတွင် မိမိတို့အစုနှင့်မိမိတို့သီးခြားနေထိုင်ကြလေသည်။ ဦးဘရှင်။

**ကာကျူပွတ်ပင်**။ ။ကာကျူပွတ်ပင်သည် အရှေ့အိန္ဒိယကျွန်းစု၊ ပသျှူးကျွန်းဆွယ်နှင့် ဩစတြေးလီးယားတိုက်အပူပိုင်း ဒေသများ၌ ပေါက်သော သစ်ပင်တမျိုး ဖြစ်၍ မြန်မာနိုင်ငံတွင် မြိတ်နယ်၌တွေ့ရသည်။ ကလန်ပင်ဟူ၍လည်းခေါ်ကြသည်။

ဤအပင်၏အရွက်မှ ဆေးဖက်ဝင်သည့်ကာကျူပွတ်ဆီသို့မဟုတ် ကာပူတီဆီကို ထုတ်ယူရရှိ၍ မြန်မာနိုင်ငံသို့ ပသျှူးကျွန်းဆွယ်ဖက်မှ တင်သွင်းရောင်းချလေ့ရှိခဲ့သည်။ ဆီအမြောက်အမြားကိုမူ စလီးဗီးကျွန်းမှရရှိ၏။

ကာကျူပွတ်ဆီသည် အငွေ့ပျံလွယ်သောဆီဖြစ်သည်။ အနံ့မှာ တာရပင်ဆီနှင့် ပရုတ်ရောစပ်ထားသော အနံ့ကဲ့သို့ဖြစ်၍ အလွန်စူးရှသည်။ ဤဆီကို ရှမက်တစ်ဇင်ရောဂါ (အရိုးအဆစ်ရောင်နာ) များတွင် လိမ်းရ၍



ကုန်းဘောင်ခေတ် ကသည်းမြင်းတပ်မှ စစ်သည်တော်တဦး



ကာကျူပွတ်ရွက်နှင့် အပွင့်များ။

ကာလဝမ်းရောဂါနှင့် အခြားရောဂါများအတွက်လည်း လေးညှင်းဆီသဘောကဲ့သို့ အသုံးပြုကြသည်။

**ကာကွယ်ရေးဝန်ကြီးဌာန။** ။၁၉၃၅ ခု ဩဂုတ်လ ၂ ရက်နေ့တွင် ၁၉၃၅ ခုနှစ် မြန်မာပြည်အက်ဥပဒေကို ဗြိတိသျှအစိုးရက အတည်ပြုထုတ်ပြန်ခဲ့သည်။ အထူးအရေးကြီးသောဌာနများကို အိန္ဒိယနိုင်ငံ ဘုရင်ခံချုပ် ကိုယ်တိုင်ကြပ်မ အုပ်ချုပ် စေရန် အာဏာအခွင့်အရေးများကို အပ်နှင်းခဲ့သော်လည်း၊ထိုဥပဒေ အပိုဒ် ၇ (၁) အရ မြန်မာပြည်ဘုရင်ခံသည် မြန်မာပြည်ကို အိန္ဒိယပြည် အုပ်ချုပ်ရေးနယ်ပယ်ထဲမှ ခွဲထုတ်လိုက်သော ၁၉၃၇ ခု ဧပြီလ ၁ ရက်နေ့မှစ၍ တာဝန်ခံ အုပ်ချုပ်ခဲ့လေသည်။ ထိုနေ့၌ပင် ကာကွယ်ရေးဌာနကို အတွင်းဝန်များရုံးတွင် ဖွင့်လှစ်ခဲ့သည်။

အခြားဌာနများတွင် မြန်မာအမျိုးသားများကို ဝန်ကြီးများခန့်အပ်၍ ကြီးကြပ်စီမံ ခန့်ခွဲစေခဲ့သော်လည်း အရေးကြီးသော ကာကွယ်ရေးဌာနတွင်မူ မြန်မာအမျိုးသားဝန်ကြီး မခန့်ဘဲ၊ဘုရင်ခံ အတိုင်ပင်ခံအရာရှိများကို မြန်မာပြည်အက်ဥပဒေ အပိုဒ် ၇ (၂) အရ၊ ၃ ယောက်ထက်မများခန့်၍ ဘုရင်ခံကိုယ်တိုင် စီမံခန့်ခွဲ အုပ်ချုပ်ခဲ့လေသည်။ ဘုရင်ခံက ခန့်ထားသော ထိုအတိုင်ပင်ခံအရာရှိကြီးများမှာ များသောအားဖြင့် ဗြိတိသျှအစိုးရ၏သစ္စာတော်ကို အထူး ကာကွယ် စောင့်ရှောက် သော အိန္ဒိယ ပဋိညာဉ်ခံ ဝန်ထမ်းအဖွဲ့ဝင် အိုင်စီအက် (စ) အရာရှိကြီးများသာ ဖြစ်၏။

အမည်အားဖြင့် ကာကွယ်ရေးဌာနဟု ခေါ်သော်လည်း ထိုဌာနတွင် စီမံခန့်ခွဲခဲ့သော လုပ်ငန်းများမှာ တိုင်းပြည်ကာကွယ်ရေး၊ ခရစ်ယန်ဂိုဏ်းများအုပ်ချုပ်ရေး၊ရှမ်းစော်ဘွားများနယ်ပယ်၊ ရခိုင်တောင်ရိုးဒေသ၊ ချင်းတောင်များဒေသ၊ ကချင်တောင်တန်းဒေသများ၊ ဆွန်မရဒေသ၊ တြိဂံနယ်ဒေသ၊ အထက်ချင်းတွင်းမြောက်ဖက် ဟူးကောင်းတောင်ကြားဒေသ၊ သံလွင်နယ်တို့နှင့် အခြားမဖွံ့ဖြိုးသေးသော လူမျိုးများနေထိုင်သော ဒေသများအုပ်ချုပ်ရေး၊ ငွေရေးကြေးရေး၊ ဒင်္ဂါးနှင့် ငွေစက္ကူများ ထုတ်လုပ်ရေး၊ နိုင်ငံရေးနှင့် မြန်မာနိုင်ငံအတွင်းရှိ မြန်မာပြည်အစိုးရက အုပ်ချုပ်ခြင်းမပြုနိုင်သေးသော ဒေသများနှင့် ဆက်ဆံရေးများ ပါဝင်လေသည်။

ဗြိတိသျှအင်ပိုင်ယာဝင် တိုင်းပြည်အသီးအသီးနှင့် ဆက်ဆံရေး၊ လွတ်လပ်သော အခြားတိုင်းပြည်များနှင့် ဆက်ဆံရေးအာဏာများကိုမူ ဗြိတိသျှဘုရင့်အစိုးရက တိုက်ရိုက်စီမံခန့်ခွဲလေသည်။

အထက်ပါ ဖော်ပြခဲ့သည့် အရေးကြီးသော လုပ်ငန်းများကို ဘုရင်ခံကိုယ်တိုင် စီမံခန့်ခွဲအုပ်ချုပ်ရမည်ဟု မြန်မာပြည်အက်ဥပဒေ အပိုဒ် ၇ (၁) အရ ပြဋ္ဌာန်းထားခဲ့သော်လည်း၊ အရေးကြီးသော ကိစ္စဟူသရွေ့တွင် မြန်မာပြည်ဘုရင်ခံက ဗြိတိသျှဘုရင့်အစိုးရထံသို့ မြန်မာပြည်ဆိုင်ရာ အတွင်းဝန်ထံမှတဆင့် အမိန့်တောင်းယူပြီးမှသာ ဆုံးဖြတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ရလေသည်။ မြန်မာပြည်တွင်းရေးနှင့်သာ လုံးဝသက်ဆိုင်သော ကိစ္စအဝဝတို့တွင် ဘုရင်ခံနှင့် သူ၏အတိုင်ပင်ခံအရာရှိများ၏ ထောက်ခံချက်များကို ဘုရင့်အစိုးရက များသောအားဖြင့် လိုက်လျောခဲ့သည်။ အင်ပိုင်ယာနိုင်ငံများနှင့် အိမ်နီးချင်းတိုင်းပြည်များသို့ ဂယက်ရိုက်စေမည့် ကိစ္စများတွင်မူ ဘုရင့်အစိုးရသဘောအတိုင်း စီမံခန့်ခွဲခဲ့သည်။

ကာကွယ်ရေးဌာနဆိုင်ရာ ဥပဒေပြဋ္ဌာန်းချက် အဆိုများကို ဘုရင်ခံထံ ကြိုတင် အမိန့်မခံဘဲ လွှတ်တော် ၂ ရပ်လုံးတွင် ဆွေးနွေးပြုလုပ်နိုင်ခွင့် မရှိချေ။

မြန်မာပြည်ကာကွယ်ရေးဌာနကို ၁၉၃၇ ခုဧပြီလ ၁ ရက်နေ့မှ စတင်ဖွင့်လှစ်ခဲ့သောအချိန်၌ မြန်မာပြည်ကြည်းတပ်မတော်တွင် ခြေလျင်တပ်ရင်း ၄ ခု၊အရံတပ် ၂ ခု၊နယ်စောင့်အရံတပ် ၂ ခု၊အရာရှိအရံတပ်ဖွဲ့ ၁ ခု၊နယ်ခြားတပ်အနည်းငယ်နှင့် မြို့စောင့်တပ်တို့ ရှိခဲ့သည်။

အထက်ပါတပ်များအနက် ခြေလျင်တပ်ရင်းများ၊ အရံတပ်များနှင့် အရာရှိအရံတပ်ဖွဲ့များတွင် ဝင်ရောက်အမှုထမ်း

သော အရာရှိအရာခံ၊တပ်သားများမှာ အရေးရှိက မြန်မာပြည်နယ်နိမိတ်ကို ကျော်လွန်၍ တိုင်းတပါးသို့ သွားရောက်အမှုထမ်း တိုက်ခိုက်ရန် တာဝန်ယူ လက်မှတ်ရေးထိုးကြရသည်။ နယ်စောင့်အရံတပ်၊ နယ်ခြားတပ်များ နှင့် မြို့စောင့်တပ်များကိုမူ နယ်စပ်ကိုကျော်လွန်၍ တိုက်ခိုက်ရန် အမိန့်ပေးနိုင်ခွင့်မရှိချေ။

ခြေလျင်တပ်ရင်းများတွင် တောင်တန်းဒေသသားများကို အရာခံဗိုလ်များနှင့် စစ်သားများအဖြစ် ခန့်အပ်၍ မြန်မာလူမျိုး တစုံတယောက်ကိုမျှ ခန့်အပ်ခြင်း မပြုခဲ့ချေ။ သူတို့အကြောင်းပြချက်မှာ မြန်မာလူမျိုးများသည် ပျင်းရိခြင်း၊ စိတ်မြန်ခြင်းတို့ကြောင့် စစ်သားမပီသနိုင်ဟု ဆိုထားလေသည်။ နိုင်ငံရေးအခြေအနေအရ ၁၉၃၉ ခုနှစ်တွင် ခြေလျင်တပ်ရင်းများတွင် မြန်မာလူမျိုးများကိုလည်း ဝင်ခွင့်ပေးမည်ဟု ဆုံးဖြတ်ခဲ့၏။ သို့သော် ၁၉၄၀ ပြည့်နှစ်လောက်တွင်မှ မြန်မာလူမျိုးထဲမှ ဆာမောင်ကြီးကို အတိုင်ပင်ခံအရာရှိကြီးအဖြစ် ခန့်ထားပြီးလျှင်၊မြန်မာစစ်သားများသာပါဝင်သောမြန်မာတပ်စိပ်တခုလောက်ကို ပြန်လည်ဖွင့်လှစ်ရန် ဆုံးဖြတ်ခဲ့၍ ထိုသူများကို အခြားတပ်ရင်းများတွင်လည်း အနည်းငယ်စီခွဲ၍ သွတ်သွင်းစမ်းသပ်ထားရန် မူအားဖြင့် သဘောတူသည်။ သို့ရာတွင် ထိုအချိန်နှင့် မရှေးမနှောင်း၌ပင် အရှေ့ဖျားမှ ဂျပန်ရန်သည် နီးသည်ထက်နီးလာသဖြင့် ကြည်းတပ်မတော်ကို အပြင်းတိုးချဲ့ရန် ဆုံးဖြတ်ပြီးနောက် စစ်ရဲတပ်များ၊နယ်ခြားတပ်များကို တပ်မတော်ခြေလျင်တပ်ရင်းများဖွဲ့၍ ရရှိနိုင်သမျှသော အရာရှိအရံတပ်ဖွဲ့ဝင်များကို ခေါ်ယူပြီးလျှင် ထိုတပ်များတွင် အရာရှိများခန့်ထားကာ တနင်္သာရီတိုင်းမှဂျပန်ရန်ကိုခုခံစေခဲ့သည်။

မြန်မာလူမျိုးတဦးကို ဘုရင်ခံ၏ အတိုင်ပင်ခံအရာရှိကြီးအဖြစ် ခန့်အပ်သည့်နှစ်၌ပင် မြန်မာပြည် အပျော်တမ်းရေတပ်အဖွဲ့နှင့် အပျော်တမ်းလေတပ်အဖွဲ့တို့ကို စတင်ဖွဲ့စည်းခဲ့သည်။ သို့သော် လေတပ်အဖွဲ့တွင် လေယာဉ်ပျံဟူ၍ ကိုယ်ပိုင်မရှိသေးဘဲ ရေတပ်အဖွဲ့တွင်သာ ကမ်းစောင့်သင်္ဘောငယ်ကလေး အနည်းငယ်လောက်နှင့် စတင်တည်ထောင်ခဲ့လေသည်။

ဂျပန်တပ်မတော်နှင့်ပူးတွဲ၍ ဗမာ့လွတ်လပ်ရေးတပ်မတော်သည် ယိုးဒယားနိုင်ငံကို ဖြတ်ကာ တနင်္သာရီမှ ဒလကြမ်းဝင်လာသောကြောင့် ရန်ကုန်နေပြည်တော်ရှိ ကာကွယ်ရေးဌာနနှင့်တကွ ကာကွယ်ရေးတပ်ဖွဲ့ အသီးအသီးတို့ကို ၁၉၄၂ ခုဖေဖွာရီလ ၂၁ ရက်နေ့တွင် မေမြို့မှတဆင့် အိန္ဒိယသို့ ပြောင်းရွှေ့သွားလေသည်။ ထိုဌာနအောက်ရှိ တပ်ဖွဲ့အသီးအသီးတို့လည်း ဖရိုဖရဲ ပြိုကွဲပြီးသော် အချို့တပ်သားများ တပ်ဗိုလ်များမှာ အိန္ဒိယသို့ပါသွားကြ၍ အချို့မှာ မိမိတို့နေရပ်များသို့ ပြန်သွားနေထိုင်ကြသည်။

၁၉၄၂ ခု ဇွန်လအလယ်လောက်တွင် ကာကွယ်ရေးဌာနကို အိန္ဒိယပြည် ဆင်းမလားမြို့တွင် ပြန်လည်ဖွဲ့စည်း ရုံးထိုင်လေသည်။ ပြိုကွဲပျက်စီးလာသော ကြည်းတပ်ဖွဲ့ အသီးအသီးကိုလည်း ပြန်လည်စုဆောင်းပြီးသော် မြန်မာပြည်သို့ ပြန်ဝင်တိုက်ခိုက်နိုင်ရန် ကြိုးစားကြပြန်သည်။ ရေတပ်နှင့် လေတပ် အဖွဲ့ဝင် အရာရှိ အရာခံများ ကိုမူ၊ အိန္ဒိယရေတပ်နှင့် ဗြိတိသျှဘုရင့်လေတပ်မတော်တို့တွင် အသီးအသီး ထည့်သွင်းပေးခဲ့လေသည်။

၁၉၄၅ ခု မတ်လတွင် ရန်ကုန်နေပြည်တော်ကို ဗြိတိသျှတပ်များ ပြန်လည်သိမ်းပိုက်ပြီးနောက် စစ်အုပ်ချုပ်ရေးက အုပ်ချုပ်နေခဲ့သောကြောင့် ကာကွယ်ရေးဌာနကို ၁၉၄၅ ခု နိုဝင်ဘာလ ၂၃ ရက်နေ့တွင်မှသာ ဆင်းမလားမြို့မှ ရန်ကုန်နေပြည်တော်သို့ ပြောင်းရွှေ့ခဲ့လေသည်။

မြန်မာပြည်ကို ပြန်လည်သိမ်းပိုက်ပြီးနောက် ၁၉၄၆ ခု စက်တင်ဘာလ ၂၈ ရက်နေ့တွင် နိုင်ငံရေးအခြေအနေမှာ အထူးလှုပ်ရှားလျက်ရှိသောကြောင့် ဗိုလ်ချုပ်အောင်ဆန်းအား ပဌမအကြိမ် မြန်မာလူမျိုးထဲမှ ဘုရင်ခံအတိုင်ပင်ခံ အရာရှိကြီးအဖြစ် ကာကွယ်ရေးဌာနတွင် ခန့်အပ်ခဲ့လေသည်။ ဗိုလ်ချုပ်အောင်ဆန်း ကာကွယ်ရေး အတိုင်ပင်ခံ အရာရှိကြီးအဖြစ် ဆောင်ရွက်နေစဉ် နိုင်ငံခြားရေးဌာနကို ခွဲထုတ်ရန် အစီအစဉ်များ ပြုလုပ်ခဲ့သည်။

ဒင်္ဂါး နှင့် ငွေစက္ကူများ ထုတ်လုပ်ရေးကိုမူ ဘဏ္ဍာရေးနှင့် အခွန်တော်ဝန်ကြီးဌာနသို့ ပြောင်းပြီးသားဖြစ်၍ ရှမ်းပြည်တောင်တန်းဒေသများ၊ မဖွံ့ဖြိုးသေးသောနယ်ပယ်များ အုပ်ချုပ်ရေးကိစ္စများကိုမူ တောင်တန်းဒေသဆိုင်ရာ အုပ်ချုပ်ရေးဌာနသို့ လွှဲအပ်ပြီးဖြစ်လေသည်။

ကာကွယ်ရေး ဌာနသည် ထိုအချိန်မှစ၍ တိုင်းပြည် ကာကွယ်ရေးကိစ္စများကို လုံးလုံး လျားလျားတာဝန်ယူပြီးလျှင် အနည်းငယ်ရှိသော ခရစ်ယန်ဂိုဏ်းအုပ်ချုပ်ရေးကိစ္စများကို ဆက်လက်လုပ်ကိုင်ခဲ့သည်။ ၁၉၄၇ ခု ဇူလိုင်လ ၁၉ ရက်နေ့တွင် ဗိုလ်ချုပ်အောင်ဆန်း လုပ်ကြံခြင်းခံရ၍ ဗိုလ်မှူးချုပ် လက်ျာကို အတိုင်ပင်ခံအရာရှိကြီးအဖြစ်ခန့်အပ်လေသည်။

၁၉၄၇ ခု ဒီဇင်ဘာလ ၂၄ ရက်နေ့တွင် မြန်မာပြည် အပျော်တမ်းလေတပ်နှင့် အပျော်တမ်းရေတပ် အဖွဲ့အစည်းများကို မြန်မာလေတပ်မတော်နှင့် မြန်မာရေတပ်မတော် အဖြစ်သို့ ပြောင်းပြီးလျှင် ကိုယ်ပိုင်စစ်လေယာဉ်ပျံများနှင့် သင်္ဘောများကို ဝယ်ယူကာ စတင်ဖွဲ့စည်းခဲ့လေသည်။ ရေတပ်မတော်တွင် ပဌမဆုံး အလံတင်သင်္ဘောမှာ ယူဗီအက် (၈) မေယု စစ်သင်္ဘောဖြစ်သည်။

၁၉၄၈ ခု ဇန်နဝါရီလ ၄ ရက် တနင်္ဂနွေနေ့တွင် နိုင်ငံတော်အလံကို လွှင့်တင်ပြီးနောက် လွတ်လပ်ရေး ကြေညာသည့်နေ့မှစ၍ ၁၉၃၅ ခုနှစ် မြန်မာပြည်အက်ဥပဒေသည် သက်

တမ်းကုန်ဆုံးခဲ့ပြီးလျှင် နိုင်ငံတော်ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေများကို ပြဋ္ဌာန်းကျေညာခဲ့လေသည်။

ထိုနေ့မှစ၍ ကာကွယ်ရေးဌာနတွင် နိုင်ငံတော်ကာကွယ် ရေးကိစ္စ တခုတည်းကိုသာ စီမံခန့်ခွဲခဲ့လေသည်။ မြန်မာ ကြည်းတပ်မတော်၊မြန်မာရေတပ်မတော်၊ မြန်မာ လေတပ်မ တော်များသည် ပွင့်သစ်စပန်းများကဲ့သို့ ငွားငွားစွင့်စွင့် ကိုယ့်အလံ ကိုယ့်တံဆိပ်များဖြင့် တလူလူ ပေါ်ထွက်လာ တော့သည်။ မြန်မာ့ကာကွယ်ရေးတပ်မတော် အသီးအသီး တို့ကိုလည်း မြန်မာ့သားကောင်းရတနာများ ဦးစီးပြီးလျှင် နိုင်ငံတော် ကာကွယ်ရေး၊ တိုးတက်ရေး၊ ဖွံ့ဖြိုးရေး၊ သာယာ ရေးပန်းတိုင်များသို့ရောက်အောင် မြန်မာ့အလိုအတိုင်း ပြု ပြင်ချဲ့ထွင်ကြ နိုင်ပေတော့သည်။ မြန်မာ့သားကောင်းရတ နာများသည်လည်း ရှေးရှေးကကဲ့သို့ ဗြိတိသျှဘုရင့်အစိုး ရ၏ အကျိုးကိုသာ ရှေးရှု၍ ကာကွယ်ရခြင်း ကိစ္စများ မှ ကျွတ်လွတ်ပြီးဖြစ်ရကား၊ဇာတိသွေးဇာတိမာန် တက်လျှမ်း ကာ အမျိုး၊ ဘာသာ၊ သာသနာများကို စောင့်ရှောက်ရန် တည်းဟူသော မှန်မြတ်သော ဝတ္တရားများကို ထမ်းဆောင် ကြရတော့သည်။ (မြန်မာတပ်မတော် — ရှု။)

ပြည်ထောင်စုမြန်မာနိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံ အ ခြေခံဥပဒေအရ၊ ကာကွယ်ရေး ဝန်ကြီးဌာန အတွက် လိုအပ် သော ဥပဒေများကို ပါလီမန်လွှတ်တော် ၂ ရပ်တွင် အများ ဆန္ဒအရ ရေးဆွဲလျက် စီမံခန့်ခွဲသည်။ အရေးကြီးသော ကိစ္စအရပ်ရပ်များကို တဦးတည်းသောဘုရင်ခံ အမိန့်အစား အစိုးရဝန်ကြီး အဖွဲ့သို့တင်၍ အမိန့်များကို နာခံကြသည်။

ကာကွယ်ရေးဌာန အတွက် စီမံ ခန့် ခွဲ ရန် ကာကွယ်ရေး အတိုင်ပင်ခံအရာရှိအစား ကာကွယ်ရေးဝန်ကြီးဟူ၍ ပဋ္ဌမ အကြိမ် ပေါ်ပေါက်ခဲ့သည်။ ယင်းဌာနအောက်တွင် ကြည်း တပ်မတော်ဌာနချုပ်ရုံး၊ ရေတပ်မတော်ရုံး၊လေတပ်မတော် ရုံးများ ထားရှိလေသည်။

၁၉၄၇ ခု ဧပြီလ ၇ ရက်နေ့တွင် မြန်မာနိုင်ငံတော်စစ်ရုံး၊ ကာကွယ်ရေး ဌာန အောက်တွင်ရှိသော ဌာနအသီး အသီး တို့ကို နေသားတကျ အကောင်အထည်ဖော်ပြီးလျှင် စစ်ရုံး အမြဲတမ်းအတွင်းဝန်ဌာနဟူ၍ အမည်ပြောင်းခဲ့လေသည်။

**ကာကွယ်ရောင်**။ ။သဘာဝသည် တောနေတိရစ္ဆာန် များအား အသက် ဘေး အန္တရာယ်မှ ကာကွယ် နိုင် စေရန် ယင်းတို့၏ အသွေးအရောင်နှင့် တော၏ သဘာဝရောင်များ ကို ဆင်တူပိုးမွှား ဖြစ်လောက်အောင် ဖန်တီး ပေး ထား သည်။ ယင်းသို့ ရန်သူ့ဘေးအန္တရာယ်မှ ကင်းလွတ်စေရန် သဘာဝက ဖန်တီးပေးထားသော အရောင်များကို ကာ ကွယ်ရောင်ဟူ၍ သိရသည်။

အစာရှာထွက်ကြသည့် ငှက်များအနက် အချို့သည် အ စာဖြစ်သည့် ပေါက်ဖတ်များကို မမြင်နိုင်လောက်အောင် မျက်စိမှောက်ကြရခြင်းမှာ၊သဘာဝက ထိုပေါက်ဖတ်များကို သူတို့ရှိရာ သစ်ကိုင်းများ၏ အရောင်နှင့်တူအောင် ဖန်တီး ထားသောကြောင့်ပင် ဖြစ်သည်။ ငါးများတွင် အကြေး များ ပြာလဲ့လဲ့ရှိနေသည်မှာလည်း ထိုနည်းတူပင်ဖြစ်သည်။

တခါတရံ၌မူ သဘာဝက ဖန်တီးပေးသည့် အရောင်များ ကြောင့်ပင်လျှင် တိရစ္ဆာန်များသည် သားကောင်များကို ဖမ်းယူစားသောက်နိုင်ကြသည်။ ကျား၏အရောင်စင်းများ သည် တောနက်ကြီး ထဲတွင် တော၏ သဘာဝ ရောင် နှင့် ဆင်တူနေသဖြင့် အချို့သားကောင်များသည် ကျားကို လုံး လုံးမမြင်ရသောကြောင့် ကျား၏ ဖမ်းဆီးစားသောက်ခြင်း ခံကြရသည်။ မြစ်တွင်းရှိ မိကျောင်းတို့၏ အရောင်သည် လည်း ရေတွင်မျောနေသော သစ်တုံးကဲ့သို့ ထင်ယောင် ထင်မှား ဖြစ်စေသောကြောင့် သားကောင်များ မကြာ ခဏ မိကျောင်းစာ ဖြစ်ကြရသည်။

ဘေးအန္တရာယ် အစဉ်ဝန်းရံလျက်ရှိသည့် သတ္တဝါများကို သဘာဝသည် ယင်းတို့နေထိုင်ရာ ပတ်ဝန်းကျင်နှင့် တူညီ နိုင်သမျှ တူညီအောင် ဖန်တီးပေးသည်။ အထူးသဖြင့် မိမိ ကိုယ်ကို မိမိ မကာကွယ်နိုင်သည့် သတ္တဝါမျိုးကို သဘာဝ သည် အရောင်များဖြင့် ပို၍ ကာကွယ်ပေးတတ်ပေသည်။ ထိုကြောင့် ကြီးနိုင်ငယ်ညှဉ်း တိရစ္ဆာန်လောကအတွင်း၌ နေကြရသော အားနည်းသတ္တဝါများသည် တာရှည် အသက် ရှင်နေနိုင်ကြခြင်း ဖြစ်ပေသည်။

ပင်လယ်၌ ကူးသွားနေသော ရေသတ္တဝါကလေးများ သည် ထုတ်ချင်းပေါက်မြင်နိုင်သော ကိုယ်များ ရှိတတ်ကြ၍ ထိုသတ္တဝါကလေးများကို ရေထဲတွင် ကောင်းကောင်းမမြင် နိုင်ချေ။ ကြိုးပြားပုံသဏ္ဌာန်ရှိသည့် ရွှံ့ငယ်များသည် ဖန် ကဲ့သို့ ကြည်လင်သည့် အရောင်များရှိကြသည်။ ငါးများ သည် ရန်သူနှင့်ဆိုင်မိလျှင် ထွက်ပြေးရုံမှလွဲ၍ အခြား ခုခံ ကာကွယ်စရာ မရှိပေ။ ထိုကြောင့် ကျောပေါ်တွင် ပြာ လဲ့လဲ့ အရောင်ကလေးကိုသာလျှင် အားကိုးအားထား ပြု ကြရ၏။ ထိုအရောင်ကြောင့် ရေနက်သို့ ရောက်သွားသော အခါ ယင်းတို့ကို မမြင်နိုင်လောက်အောင် ဖြစ်သွားသည်။ သဲကန္တာရရှိ သတ္တဝါများကို ကြည့်ပြန်လျှင်လည်း ယင်း တို့၏ အရောင်များကို မြေကြီးအရောင် သို့မဟုတ် သဲအ ရောင်နှင့် ဆင်တူယိုးမှား တွေ့ရသည်။ဤသို့ဖြစ်ခြင်းမှာ ရန် သူများ၏အန္တရာယ်မှ ကာကွယ်ပေးသည့်အနေဖြင့် သဘာဝ က ဖန်တီး ပေး ထား ခြင်း ပင် ဖြစ် သည်။ သစ်ရွက်များကို စားသောက်၍ နေထိုင်ကြသည့် ပိုးကောင်ကလေးများမှာ လည်း သဘာဝအလျောက်ပင် သူတို့နေထိုင်ရာဒေသရှိ အ ရောင်များ နှင့် တူစေ ရန် အစိမ်း ရောင် သော်၎င်း ၊အစိမ်း ပြောက်ကလေးများသော်၎င်း ရှိတတ်ကြသည်။ ကွင်းပြင်




သဘာဝကာကွယ်ရောင်၏ ထူးဆန်းသော သာဓကများ

(၁) သစ်ကိုင်းနှင့် သစ်ခြောက်ပိုး (၂) သစ်ရွက်ခြောက်နှင့် မြေဝပ်ငှက် (၃) မိကျောင်းကို သစ်တုံးထင်မိသော တောဝက်ငယ်၏ ကံကြမ္မာ (၄) သစ်ရွက်နှင့် လိပ်ပြာ (၅) ထိတ်လန့်စဉ် မည်းနက်သွားသော နက်ဆောငါး (၆) နက်ဆောငါး၏ နဂိုရောင်

တွင် နေထိုင်ကြသည့် သတ္တဝါများ၏ အရောင်မှာမူ သဘာဝ အလျောက် အညိုရင့်ရောင် ဖြစ်ကြ၏။ ထိုသတ္တဝါမျိုး ရှိမှန်း ကို ယင်းတို့ နေထိုင်ရာနေရာမှ ထွက်ခွာသောအခါ ကျမှ တွေ့မြင်သိရှိနိုင်လေသည်။

အချို့ သတ္တဝါမျိုးသည် ဝပ်၍နေတတ်ကြသည်။ ထိုသတ္တဝါမျိုးသည် ဝပ်၍နေသည့်အခါ သေနေသကဲ့သို့ ထင်မှတ်ရသဖြင့် တွေ့သည့်အခါ ကောက်၍ပင် ယူမိတတ်သည်။ သတ္တဝါများသည် နိုးနေသည့်အခါများတွင် တိမ်းရှောင်နိုင်ကြသဖြင့် ဘေးအန္တရာယ် မများလှသော်လည်း အနားယူနေသည့် အခါ၌ဖြစ်စေ၊ အိပ်နေသည့် အခါ၌ဖြစ်စေ၊ ပို၍ ဘေးအန္တရာယ်များသည်။ ထို့ကြောင့် သဘာဝအရောင်များသည် သတ္တဝါများကို ထိုအခါများ၌ ပို၍ ကာကွယ်ပေးနိုင်ရန် အရေးကြီးပေသည်။

သဘာဝအလျောက် ဖြစ်ပေါ်သည့် ကာကွယ်ရောင်၏ သတ္တိသည် အထူးသဖြင့် ငှက်များ တွင် ပိုမိုထင်ရှားပေါ်လွင်သည်။ ဥများကို ဝပ်၍နေစဉ် ရန်သူ မမြင်နိုင်ရန်မှာ အရေးကြီးသဖြင့် ငှက်မများတွင် ငှက်ဖိုကဲ့သို့ ပြောင်လက်သော အရောင်များမရှိဘဲ ပတ်ဝန်းကျင်မှ အရောင်များသာ ရှိကြသည်။ ငှက်ဖိုများသည် ရန်သူနှင့် တွေ့ကြုံသည့်အခါ ခုခံနိုင်ကြပြီးလျှင် ပျံပြေးလိုက ပျံပြေးနိုင်ကြသောကြောင့် မိမိကိုယ်ရေးအတွက် ကောင်းစွာ ကာကွယ်နိုင်ကြသည်။ ငှက်မများမှာ ဥများကို ဝပ်ပေးရသည့်တာဝန်ရှိနေသဖြင့် အဖိုများကဲ့သို့ တောက်ပသည့်အရောင်များသာ ရှိခဲ့လျှင် အချို့တိရစ္ဆာန်တို့၏ ရန်မူခြင်းကို မုချ ခံကြရပေမည်။ အချို့ငှက်ဖိုများ၌လည်း ငှက်မများကဲ့သို့ပင် သဘာဝအရောင်များ ရှိတတ်ကြသည်။ အဘယ်ကြောင့်ဆိုသော် ထိုငှက်ဖိုများသည် ငှက်မများကဲ့သို့ပင် ဥများကို ဝပ်ပေးတတ်ကြသောကြောင့် ဖြစ်၏။ အချို့ရန်သူများသည် ထိုငှက်မျိုးကို ရှာဖွေ၍ စားသောက်နိုင်ကြခြင်းမှာ အနံ့ ခံနိုင်ကြခြင်း ကြောင့်ဖြစ်သည်။

ခါတို့၏အရောင်များမှာ သူတို့ကျက်စားရာကွင်းများမှ မြက်ခြောက်များ၏ အရောင်ကဲ့သို့ ရှိကြသည်။ စနိုက်ကြီးတို့၏ အရောင်များမှာ သဘာဝ အလျောက်ပင် တောမှ သစ်ရွက်ခြောက်များ၏ အရောင်ကဲ့သို့ ရှိကြသည်။ အချို့သော တိရစ္ဆာန်များသည် မိမိတို့၏အရောင်များကို သဘာဝ အလျောက် ရာသီကိုလိုက်၍ ပြောင်းလဲတတ်ကြရာ၊ နှင်းကျသော ဒေသများ၌ နေထိုင်ကြသည့် တိရစ္ဆာန်တို့၏ အရောင်သည် ဆောင်းဥတု၌ အဖြူရောင်သို့ ပြောင်းလဲသွားတတ်လေသည်။

**ကာချင်း**။ ။ကာချင်းသည် ရှေးကျသော မြန်မာကဗျာ အဖွဲ့အနွဲ့တမျိုးဖြစ်သည်။ ထိုကဗျာမှာ သီချင်းသဘောလည်း သက်ဝင်၍၊ ပင်းယခေတ်တွင် ဒိုင်းများ ကာများကိုကိုင်ဆောင်ကာ စစ်ဟန်ခင်းကျင်း ကခုန်ယင်း သီဆိုလေ့ရှိသဖြင့် ကာသီချင်း ကာချင်းဟု ခေါ်ဆိုခြင်းဖြစ်သည်။

မြန်မာဂန္ထဝင် တွင် ကာချင်း အနည်းငယ်မျှသာ တွေ့ရသည်။ ပြည်မင်း မျက်နှာရှည် လက်ထက် ရေးသားခဲ့သော 'အုံ့ကာမည်း၊ကြည်းကာရိုက်ကြိုး၊ပျဉ်ထောင်မိုး' အစချီ ကာချင်း တပုဒ်၊ သက္ကရာဇ် ၆၇၄ ခုနှစ် ပင်းယ တစီးရှင် သီဟသူမင်းလက်ထက် ရေးသားခဲ့သော 'ခါးပတ်တော်မှာ ရွှေခြည်စုံ၊ မှိုင်းလုံး ရွှေဝတ်လုံ၊ မလုံသာချမ်းအေး' အစချီ ကာချင်းတပုဒ်အပြင် သက္ကရာဇ် ၇၀၄ ခုနှစ် မြင်စိုင်း ငါးစီးရှင်ကျော်စွာမင်းကိုယ်တိုင် သီဆို ကခုန်ခဲ့သော 'တမောင်း တမောင်း၊ တိုတမောင်းသည်၊ တမောင်း ဘကောင်း သားလော၊ဘကောင်း ဘကောင်း' အစချီ ကာချင်းနှင့် 'တာဝတိံသာ နတ်ရွာလော၊နတ်ရွာလော၊ဟုတ်တည်း သျှင်ချင်း သျှင်ချင်း' အစချီသော ကာချင်းတို့ကိုသာလျှင် ယခုအခါ တွေ့ရတော့သည်။

ပင်းယ ခေတ် လွန်ပြီး နောက် အင်းဝခေတ် ကုန်းဘောင်ခေတ်များတွင် ကာချင်းများစပ်ဆိုသည်ကို မတွေ့ရချေ။ ကာချင်းတွင် အဲ အဏ်တို့တွင် ကဲ့သို့ ရာသီပန်းမာလ် မြို့ပြအခြေအနေများကို ထည့်သွင်း စပ်ဆိုလေ့ရှိသည်။ ကာကိုကိုင်၍ ကရသော သီချင်းဖြစ်သော်လည်း ရဲတင်းရဲချင်းအဖွဲ့အနွဲ့ များလောက် စစ်စိတ် စစ်သွေး ဇာတိမာန် ကိုနှိုးဆော်သော သီချင်းမျိုးကား မဟုတ်ချေ။



ဂျာကိုးမိုး၏ ဖခင်
လူဝီ ဒါ ကာဆာဗျန်ကာ

ကာချင်း၏ ကာရန်စံနစ်မှာ လေးလုံးစပ် မဟုတ်သော်လည်း လေးလုံးစပ်မှ ဆက်ပွားသော စံနစ်ပင် ဖြစ်သည်။ လူးတားများတွင် ရတုညှပ်သကဲ့သို့ ကာချင်းတွင်လည်း သံပေါက်ညှပ်၍ စပ်ဆိုလေ့ရှိသည်။

**ကာဆာဗျန်ကာ, အယ်** (ခရစ် ၁၇၅၅–၁၇၉၈)။ ။လူဝီ ဒါ ကာဆာဗျန်ကာသည် ကော်စီကားကျွန်းသား ဆွေကြီးမျိုးကြီးမှ ဆင်းသက်သူဖြစ်သည်။ ၁၇၅၅ ခုနှစ်တွင် ကော်စီကားကျွန်း၌ ဖွားမြင်၍ ငယ်စဉ်ကပင် ပြင်သစ်ရေတပ်တွင် ဝင်ရောက်အမှုထမ်းခဲ့သည်။ ၁၇၉၈ ခုနှစ်တွင် ဗြိတိသျှရေကြောင်းဗိုလ်ချုပ် နယ်လဆင်၏ သင်္ဘောတပ်နှင့် ပြင်သစ်ရေတပ်တို့ ယှဉ်ပြိုင်တိုက်ခိုက်ခဲ့ရသော နိုင်းမြစ်တိုက်ပွဲ၌

ပြင်သစ်ရေကြောင်းဗိုလ်ချုပ်၏ သင်္ဘောဖြစ်သည့် လာအိုရီယင့် သင်္ဘောကို ကပ္ပိတန်အဖြစ် ဦးစီးအုပ်ချုပ်ခဲ့ရသည်။

ကာဆာဗျန်ကာသည် အထက်ပါတိုက်ပွဲ၌ သူ၏ ၁၀ နှစ်အရွယ် သားကလေး ဂျာကိုးမိုး ကို သူနှင့်အတူ သင်္ဘောပေါ်သို့ ခေါ်လာခဲ့သည်။ တိုက်ပွဲတွင် နယ်လဆင်၏ သင်္ဘောတပ်က အရေးသာ၍ ပြင်သစ်သင်္ဘောများမှာ အဆက်မပြတ် ပစ်ခတ်ခြင်းခံရရာ၊ပြင်သစ်သင်္ဘောတပ်ကို အုပ်ချုပ်သူ ရေကြောင်းဗိုလ်ချုပ် ဗရူးဝီးမှာ ကျည်သင့်ကျဆုံး၍ ကာဆာဗျန်ကာမှာလည်း ဒဏ်ရာရသွားလေသည်။ သို့ရာတွင် ကာဆာဗျန်ကာသည် ပြင်သစ်သင်္ဘောတပ်ကို ကွပ်ကဲကာ ဆက်လက်၍ တိုက်မြဲတိုက်နေ၏။ စိုးရိမ်စရာဖြစ်လာသော အချိန်တွင် သူ၏ သားကလေး ဂျာကိုးမိုး အား ကုန်းပတ်တနေရာသို့ ပို့ပြီးလျှင် 'ငါ့သား သည် နေရာက ဘယ်မှမသွားနှင့်' ဟု မှာထားခဲ့လေသည်။ လာအိုရီယင့် သင်္ဘောကြီးမှာ နယ်လဆင်၏ရေတပ်က ဝိုင်းညှပ်၍ ပစ်ခတ်ခြင်းကြောင့် နောက်ဆုံးတွင် မီးစွဲလောင်လေတော့သည်။ သို့သော် ကာဆာဗျန်ကာသည် ထိုအချိန်အထိ အလျှော့မပေးသေးဘဲ ဆက်လက်၍တိုက်ခိုက်ယင်း ကျဆုံးသွားလေသည်။

သူ၏သားကလေး ဂျာကိုးမိုးကား ဖခင်၏မှာထားချက်ကို မပျက်မကွက် လိုက်နာပေသည်။ သင်္ဘောကုန်းပတ်တခုလုံးသို့ မီးတဖြည်းဖြည်း ကူးစက်တောက်လောင်လာသော်လည်း၊သူ၏ဖခင်ထံမှ အခွင့်မရသဖြင့် ထားခဲ့သောနေရာမှ ခြေတလှမ်းမျှ မရွေ့ဘဲ၊နောက်ဆုံး၌ သင်္ဘောပေါ်ရှိ ယမ်းတိုက်ပေါက်ကွဲရာတွင် အသက်ဆုံးရှုံးခဲ့၏။ ထိုကြေကွဲဖွယ် သားဖွယ် အဖြစ်အပျက်ကား ၁၇၉၈ ခု ဩဂုတ်လ ၁ ရက်နေ့တွင် ဖြစ်ပွားခဲ့လေသည်။

ကာဆာဗျန်ကာ သားအဖ ၏ အဖြစ်အပျက်ကို ကဗျာလင်္ကာ အမျိုးအပြား ဖွဲ့နွဲ့ခဲ့ကြသည်။ ယင်းတို့အနက် မစ္စက်ဟယ်မန်း၏ 'ကာဆာဗျန်ကာ' ကဗျာကို လူသိများကြပေသည်။



စိန်လောရင့်မြစ်ကို စတင်တွေ့ရှိသူ ဇက် ကာတီယေး

**ကာတီယေး, ဂျေ** (ခရစ် ၁၄၉၁–၁၅၅၇)။ ။မြောက်အမေရိကတိုက်၌ ပြင်သစ်ကိုလိုနီနယ်သစ်များ စတင်ထူထောင်နိုင်ရန် အခြေခံချပေးခဲ့သူကား ဇက် ကာတီယေး ဖြစ်သည်။ ကာတီယေးသည် ပြင်သစ်နိုင်ငံ၏ သင်္ဘောသားကောင်းတို့ထွက်ပေါ်ရာ ဗရစ်တနီနယ် စန်မာလိုမြို့သားတဦး ဖြစ်ကြောင်းမှတပါး သူ၏ငယ်ရွယ်စဉ်က အဖြစ်အပျက်များကို မသိရပေ။

သူ၏အကြောင်းကို စတင်သိရှိရသည်မှာ ၁၅၃၄ ခုနှစ်တွင် ပြင်သစ်ဘုရင် ပဌမ ဖရန်စစ်က သူ့အား ရေသစ်မြေသစ်ရှာဖွေရန်နှင့် တရုပ်နိုင်ငံဖက်သို့ လမ်းပေါက်ရှာရန် စေလွှတ်သည့်အခါမှဖြစ်၏။ ထိုစဉ်က ကာတီယေးသည် စန်မာလိုမြို့မှ သင်္ဘောငယ် ၂ စင်းဖြင့် ဧပြီလ ၂၀ ရက်နေ့တွင် စတင်ခရီးထွက်ခဲ့ရာ နျူးဖေါင်းလန်းဒေသသို့ မေလ ၁၀ ရက်နေ့ တွင် ရောက်ရှိခဲ့သည်။ ကာတီယေးသည် လာဗရာဒေါ တောင်ဖက်ကမ်းရိုးတန်းကို ဆန်တက်သွားပြီးနောက် ဗဲလအိုင်း ရေလက်ကြားမှ စိန်လောရင့်ပင်လယ်ကွေ့ထဲသို့ ရောက်သွားလေသည်။ ထိုနောက် ဂက်စပေးကျွန်းဆွယ်ကို ပြင်သစ်ပိုင်အဖြစ် သိမ်းယူခဲ့၏။ ယင်းသို့ဖြင့် မြောက်အမေရိကတိုက်၌ ပြင်သစ်ကိုလိုနီကို စတင်တည်ထောင်ခဲ့လေသည်။

၁၅၃၅ ခုနှစ်တွင် နယ်သစ်တည်ထောင်ရန် သင်္ဘော ၃ စင်းဖြင့် အမေရိကတိုက်သို့ ခရီးထွက်ခဲ့ပြန်သည်။ စိန်လောရင့်ပင်လယ်တွေ့ထဲသို့ ရောက်ပြီးနောက် အနောက်ဖက်သို့ ဆန်တက်ကြည့်ရာ ထိုရေပြင်ကြီးမှာ မြစ်ကြီးတမြစ်ဖြစ်ကြောင်းကို တွေ့ရသည်။ ထိုသို့သိရသောနေ့ (ဩဂုတ်လ ၁၀ ရက်နေ့) မှာ စိန်လောရင့်သူတော်စင်၏ ပွဲတော်နေ့ဖြစ်နေသဖြင့် ကာတီယေးသည် ထိုမြစ်ကို စိန်လောရင့်မြစ်ဟု အမည်ပေးခဲ့လေသည်။

မြစ်ကြောင်းအတိုင်း ဆန်တက်ခဲ့ရာ ယခု မွန်းထရီးအော မြို့တည်ရာတွင် တိုင်းရင်းသားလူရိုင်းတို့၏ ဟိုချီလာဂါရွာကလေးကို တွေ့ရသည်။ ထိုရွာကလေးအနီးရှိ မိုးမိုးမားမား တည်နေသော တောင်ကြီးတတောင်ကို ကာတီယေးသည် မွန်းထရီးအောဟု အမည်ပေးခဲ့၏။ နေ့ခင်းတွင် ရွာကလေး

တိုးတက်စည်ပင်လာ၍ မြို့ဖြစ်လာသောအခါတောင်၏ အမည်ကိုစွဲ၍ မွန်းထရီးအောမြို့ဟု ခေါ်ကြလေသည်။

၁၅၄၁ ခုနှစ်တွင် တတိယအကြိမ် အမေရိကတိုက်ဖက်သို့ ခရီးထွက်ခဲ့ရပြန်၏။ ထိုအကြိမ်တွင် ကျောက်မျက်ရတနာများ ပေါ်များသည်ဟုဆိုသော ဆက်ဂနေးနယ်ကို ပြင်သစ်ဘုရင်အတွက် ရှာဖွေပေးရန် ဖြစ်သည့် ဆီညာ ဒါ ရိုဗါဗါး တို့အဖွဲ့အတွက် ကာတီယေးက ရှေ့တော်ပြေး လမ်းထွင်ပေးရန်ဖြစ်သည်။ ကာတီယေးသည် လာရှင်းရေမော်များကို စူးစမ်းရှာဖွေခဲ့ပြီးနောက် ပြင်သစ်နိုင်ငံသို့ ပြန်ခဲ့သည်။

ရိုဗါဗါးသည် ကာတီယေး ပြန်သွားပြီးမှ ရောက်လာ၍ တာဝန်ယူခဲ့သည့်အတိုင်း အဖိုးတန်ရတနာများ ထွက်သည့်ဒေသကို စူးစမ်းရှာဖွေသော်လည်း မတွေ့ရချေ။ ထို့ကြောင့် ပြင်သစ်ဘုရင်သည် ရိုဗါဗါး အားပြန်ခေါ်ရန် ကာတီယေးကို ၁၅၄၃ ခုနှစ်တွင် စေလွှတ်လိုက်ပြန်သည်။ ထိုနောက်တွင် ကား ခရီးမထွက်တော့ဘဲ စန်မာလိုမြို့ရှိ ဘုရင်ကပေး သနားထားသော ခြံများနှင့် အိမ်ကြီးတွင် အေးချမ်းစွာနေ ယင်းစိတ်ဝင်စားဖွယ်ကောင်းသော သူ၏ ခရီးသွားမှတ်တမ်းများကို ရေးသားခဲ့သည်။ ကာတီယေးသည် ၁၅၅၇ ခု စက်တင်ဘာလ ၁ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ကာတွန်းရုပ်ပြောင်**။ ။ရုပ်ပြောင်ကာတွန်း — ရှု။

**ကာဒင်နယ်ဂိုဏ်းချုပ်**။ ။ဗရင်ဂျီရဟန်းမင်း၏ အတိုင်ပင်ခံပုဂ္ဂိုလ်ကို ကာဒင်နယ်ဂိုဏ်းချုပ်ဟု ခေါ်သည်။ ဗရင်ဂျီဂိုဏ်းတွင် ပုပ်ရဟန်းမင်း မှအပ၊ ကာဒင်နယ်ဂိုဏ်းချုပ်တို့သည် တန်ခိုးအာဏာအရှိဆုံး ဘုန်းကြီးများဖြစ်လေသည်။

ကာဒင်နယ်ဆိုသောစကားမှာ ပတ္တာဟု အနက်ထင်သော လက်တင်ဘာသာစကား ကာဒိုမှ ဆင်းသက်လာ၍၊ ကြီးမြတ်သည်ဟု အဓိပ္ပါယ်ရသည်။ ရှေးအခါက အဆောက်အအုံတခုတွင် တံခါးကို ပတ္တာဖြင့် တွယ်ကပ် ထားသကဲ့သို့ ဘုရားရှိခိုးကျောင်းတခုကို ကြည့်ရှု အုပ်ချုပ် နေရသော ခရစ်ယန်ဘုန်းကြီးများကို ကာဒင်နယ်ဂိုဏ်းချုပ်ဟု ခေါ်၏။

သို့ရာတွင် ၅ ရာစုနှစ် နောက်ပိုင်းလောက်ကစ၍ ရောမမြို့ရှိ ပုပ်ရဟန်းမင်းလက်အောက် ခံဘုန်းတော်ကြီးများကိုသာ ကာဒင်နယ် ဂိုဏ်းချုပ်ဟု ခေါ်ကြသည်။ ထိုပြင်နှောင်းအခါများတွင် အရေးပါသောဘုရားရှိခိုးကျောင်းကြီးများမှ ထင်ရှားသော ဘုန်းကြီးများကို ကာဒင်နယ် ဂိုဏ်းချုပ်ဟု ခေါ်ပြန်သည်။ သို့သော် ၁၅၆၇ ခုနှစ် သို့ရောက်သည့်အခါ ပုပ်ရဟန်းမင်းလက်အောက်ရှိ ရောမဘုန်းတော်ကြီးများကိုသာ ကာဒင်နယ်ဂိုဏ်းချုပ်ဟု ခေါ်လေတော့သည်။ ၁၅၈၉ ခုနှစ်မှစ၍ ကာဒင်နယ်ဂိုဏ်းချုပ်များပါဝင်သည့် ကာဒင်နယ်ကောလိပ်ခေါ် ကာဒင်နယ်ဂိုဏ်းချုပ်အဖွဲ့ကို ဖွဲ့စည်းခဲ့လေသည်။ ပုပ်ရဟန်းမင်း တပါး ပျံလွန်လျှင် ထိုအဖွဲ့သည် ပုပ်ရဟန်းမင်းအရိုက်အရာဆက်ခံမည့်သူကို မိမိတို့အထဲမှ ရွေးချယ်တင်မြှောက်ရလေသည်။ ထိုအခါမျိုးတွင် ကာဒင်နယ်ဂိုဏ်းချုပ်များသည် ပုပ်ရဟန်းမင်းကို အများသဘောတူ ရွေးချယ်မပြီးမခြင်း လျှို့ဝှက်သောအခန်းထဲတွင် ဆက်လက်စည်းဝေးရလေသည်။


ဝတ်စုံဆင်ယင်ထားသော ကာဒင်နယ်ဂိုဏ်းချုပ် ရစ်ရှလျူး

ပုပ်ရဟန်းမင်းကိုယ်တိုင် ကာဒင်နယ်ဂိုဏ်းချုပ်များကို ရွေးချယ်ခန့်အပ်ရသည်။ ကာဒင်နယ်ဂိုဏ်းချုပ်အဖြစ် ခန့်အပ်ခြင်းခံရသူတို့သည် တနှစ်အတွင်း ပုပ်ရဟန်းမင်းထံမှ ရာထူးတံဆိပ်အမှတ်အသားဖြစ်သော ဦးထုပ်နီလက်ခံပွဲ အခမ်း

အနားသို့ တက်ရောက်ရန် ရောမမြို့သို့ လာရောက်ကြရလေသည်။ ယင်းဦးထုပ်နီကို အခမ်းအနားတွင်သာ တကြိမ်ဆောင်းပြီးနောက်တွင် မည်သည့်အခါမျှ မဆောင်းတော့ချေ။ သို့သော် သူကွယ်လွန်သောအခါ သူ၏ခေါင်းသေတ္တာပေါ်တွင် တင်ထားရလေသည်။ ဘာသာရေးနှင့်စပ်လျဉ်းသော ကိစ္စများတွင် ကာဒင်နယ်ဂိုဏ်းချုပ်တို့သည် ပုပ်ရဟန်းမင်းအား အကြံ ဉာဏ်ပေး၍ ကူညီရလေသည်။

အရေးကြီးသော ဘာသာရေးဆိုင်ရာဝါဒများကို ထုတ်ပြန်ကျေညာရန်ကျင်းပသည့် ကာဒင်နယ်ဂိုဏ်းချုပ် အစည်းအဝေးများတွင် ပုပ်ရဟန်းမင်းကိုယ်တိုင် သဘာပတိအဖြစ်ဆောင်ရွက်လေသည်။ ထိုအစည်းအဝေးများကို 'ကွန်စစ္စတိုရီ' ဟု ခေါ်သည်။ ဂိုဏ်းစီမံအုပ်ချုပ်ရေးကိစ္စများကိုလည်း ကာဒင်နယ်ဂိုဏ်းချုပ် အမှုဆောင်အဖွဲ့များက ကြီးကြပ်အုပ်ချုပ်ရ၍၊ထိုအမှုဆောင်အဖွဲ့များကို 'ကွန်ဂရီဂေးရှင်း' ဟု ခေါ်သည်။

ကာဒင်နယ်ဂိုဏ်းချုပ်များကို 'ကာဒင်နယ်အသျှင်မြတ်' (အင်းမိနင့်) ဟုဘွဲ့တပ်၍ ခေါ်ရလေသည်။ ဤကဲ့သို့ ဗရင်ဂျီဂိုဏ်းကို အုပ်ချုပ်စီမံရာ၌ ပုပ်ရဟန်းမင်းမှတပါး အမြင့်ဆုံးသောရာထူးကို ထမ်းဆောင်ရသော်လည်း ကာဒင်နယ်ဂိုဏ်းချုပ်များသည် ဘာသာရေးတွင် ဂိုဏ်းအုပ်၊ဂိုဏ်းချုပ်စသော ဘုန်းကြီးရဟန်းများကဲ့သို့ အခွင့်အရေးမရှိကြပေ။

၁၅၈၆ ခုနှစ်မှစ၍ ကာဒင်နယ်ဂိုဏ်းချုပ်ရာထူးပေါင်း အများဆုံး ၇၀ အထိ သတ်မှတ်ခဲ့၍ ကာဒင်နယ်ဂိုဏ်းချုပ်ရာထူးသက်တမ်းမှာ တသက်ပတ်လုံးဖြစ်၏။ သို့သော် ၁၉၄၆ ခုနှစ်အထိ ကာဒင်နယ်ဂိုဏ်းချုပ်ပေါင်း ၇၀ ပြည့်သည်ဟု မရှိခဲ့ပေ။ ထိုပြင် ကာဒင်နယ်ဂိုဏ်းချုပ်အဖွဲ့တွင် နိုင်ငံတိုင်းမှ ကိုယ်စားလှယ်များ ပါဝင်ရန် ရည်ရွယ်ရင်းရှိသော်လည်း ဣတာလျံ လူမျိုးသာ အပါများလေသည်။ ၁၉၄၆ ခုနှစ်တွင် ၁၂ ဆက်မြောက် ပိုင်းယပ် ပုပ်ရဟန်းမင်းသည် ကာဒင်နယ်ဂိုဏ်းချုပ်အဖွဲ့တွင် အဖွဲ့ဝင်ဦးရေပြည့်အောင် ကာဒင်နယ်ဂိုဏ်းချုပ် အသစ် ၃၂ ဦး ထပ်မံခန့်ထားခဲ့သည်။ ထိုသို့ခန့်ထားရာတွင် ဘာသာရေးသည် တကမ္ဘာလုံးနှင့်သက်ဆိုင်သည်ဟူသော သဘော ပေါ်လွင်အောင် ၁၉ နိုင်ငံမှ ရွေးချယ်ခန့်ထားခဲ့လေသည်။

ကာဒင်နယ်ဂိုဏ်းချုပ်တို့၏ အဆောင်အယောင်များတွင် ဦးထုပ်သာမက ဝတ်ရုံများမှာလည်း အနီရောင်ဖြစ်သည်။ စတုတ္ထ အင်နိုဆင့် ပုပ်ရဟန်းမင်းလက်ထက်မှစ၍ ကာဒင်နယ်ဂိုဏ်းချုပ်များအား မိမိတို့၏ ဘာသာရေးဂိုဏ်းအတွက် သွေးမြေကျ ကြိုးပမ်းဆောင်ရွက်မည့်သူများဟူသော အထိမ်းအမှတ်ဖြင့် အနီရောင်ဦးထုပ်နှင့် ဝတ်ရုံများကို ဝတ်ဆင်စေခဲ့သည်။ ထို့ကြောင့်ပင် အနီရောင်များထဲတွင် အနီသွေးတမျိုးကို ကာဒင်နယ်အနီရောင်ဟု ခေါ်စမှတ်ပြုကြသည်။

**ကာဒင်နယ်ငှက်**။ ။ကာဒင်နယ်ငှက်ဟု အမည်တွင်သော ငှက်မျိုးမှာ ဖင့် စာကလေးမျိုးရင်းတွင် ပါဝင်သည်။ ထိုငှက်မျိုးကို အမေရိကန်ပြည်ထောင်စု၊မက္ကဆီကိုနိုင်ငံနှင့် ဗြိတိသျှဟွန်းဒူးရပ် ပြည်များတွင် တွေ့ရသည်။

ကာဒင်နယ်ငှက်သည် အလျား ၈ လက်မခန့်သာရှိ၍ သေးငယ်သောငှက်ဖြစ်၏။ ပုံပန်းကျနစွာ အတောင်များမှာ လှပသည်။ အသံမှာလည်း သာယာချိုအေး၍ တေးကို ကောင်းစွာသီဆိုနိုင်သည်။

ကာဒင်နယ်ငှက်မများတွင်လည်း အမောက်ရှိ၍ နူးညံ့သော အမွေးအတောင်များရှိသည်။ တေးဆိုရာ၌ ငှက်ဖိုများကဲ့သို့ပင် ချိုလွင်စွာ ဆိုနိုင်လေသည်။ အမြဲစိမ်းသစ်ပင်များ၌ အသိုက်လုပ်လေ့ရှိသည်။ တမြုံလျှင် ဥနှစ်လုံးမှလေးလုံးအထိ ရှိတတ်သည်။ ဥ၏အရောင်မှာ အညိုရောင် ထနေလေသည်။

**ကာနက်ဂီ, အေ** (ခရစ် ၁၈၃၅–၁၉၁၉)။ ။လူမှုရေးရာ ကောင်းစားရေးကို မြင်သိသော အမေရိကန်သဌေးကြီး အင်ဒရူး ကာနက်ဂီသည် ဇာတိအားဖြင့် စကော့လူမျိုးဖြစ်၏။ စကော့လူမျိုးများသည် ပင်ကိုယ်ဉာဏ် ထက်သန်



ကမ္ဘာကျော်သဌေးကြီး အင်ဒရူး ကာနက်ဂီ

ကြည့်ပြင် ညီညွတ်မျှတသော စိတ်သဘောလည်းရှိကြ၏။ သူတို့၏ အတွေးအခေါ် အယူအဆများမှာ ယထာဘူတကျ၏။ မာနကြီးရာ ခေါင်းမာရာတွင်လည်း ကမ္ဘာ့စံချိန်ပြုသူများ ဖြစ်ကြသည်။ တစုံတခုကို ပြုလုပ်မည်ဟု စိတ်ပိုင်းဖြတ်ပြီးက နောက်ဆုတ်လေ့မရှိကြပေ။ ထိုလူမျိုးသည် ငွေကိုခင်၏။ သို့ရာတွင် ပညာကို သာ၍ပင် ခင်မင်ကြလေသည်။ ထို အချက်များ ကို အထောက်အထား ပြုလျှင် အင်ဒရူး ကာနက်ဂီသည် ကမ္ဘာကျော် သဌေးကြီး တဦးဖြစ်လာခဲ့သည်မှာ အံ့သြဖွယ်ရာမရှိပေ။ ထို့ပြင် သူစုဆောင်းခဲ့သော ဒေါ်လာငွေ သန်း ၃၀၀ ကျော် စည်းစိမ်ဥစ္စာများကို နောက်ဆုံးတွင် လူထုကောင်းစားရေးအတွက် ရက်ရောစွာ အသုံးချခဲ့ခြင်းမှာလည်း ထူးဆန်းသည်ဟု ယူဆဖွယ်ရာ မဟုတ်တော့ပေ။

အင်ဒရူးကာနက်ဂီသည် စကော့တလန်ပြည် ဒန်ဖါးမလင်းမြို့၌ ၁၈၃၅ ခု နိုဝင်ဘာလ ၂၅ ရက်နေ့တွင် ဖွားမြင်၏။ အင်ဒရူး ၁၃ နှစ်သားအရွယ်တွင် သူ၏ဖခင်သည် အမေရိကန်ပြည်ထောင်စု ပင်ဆီလဗေးနီးယားပြည်နယ်သို့ ပြောင်းရွှေ့နေထိုင်ခဲ့၏။ ထိုအခါက အင်ဒရူး၏ဖခင်တွင် သင်္ဘောစရိတ်မှလွဲ၍ ငွေပိုတပြားတချပ်မျှ မပါချေ။ ထို့ကြောင့် အင်ဒရူးသည် ကလေးဘဝကပင် အသက်မွေးမှုအတွက် အလုပ်လုပ်ရရှာသည်။ ရှေးဦးစွာ ဝါစက်တခုတွင် လုပ်ကိုင်လျက် နောင်တွင် ကြေးနန်းရုံတခုသို့ ပြောင်းရွှေ့လုပ်ကိုင်ခဲ့၏။ ထိုနောက် ပင်ဆီလဗေးနီးယား မီးရထားကုမ္ပဏီမှ အရာရှိကြီး တဦး သည် အင်ဒရူး၏ လူစွမ်းလူစ ရှိပုံကို သိရှိအကဲခတ်မိသဖြင့် အင်ဒရူးအား သူ၏အတွင်းရေးမှူးအဖြစ် ခေါ်ယူခန့်ထားခဲ့လေသည်။ ကြီးပွားလိုသောစိတ်ဖြင့်ကြိုးစားဆောင်ရွက်လာရာ၊ အင်ဒရူး ကာနက်ဂီသည် အသက် ၂၃ နှစ်အရွယ်တွင် မီးရထားဌာနခွဲတခုကို အုပ်ချုပ်ရသော အရာရှိတယောက် ဖြစ်လာလေသည်။

ထိုနောက် ကိုယ်ပိုင်စီးပွားရေး လုပ်ငန်းတခုကို လုပ်ကိုင်လိုသော အာသာဆန္ဒကြောင့် ရေနံလုပ်ငန်းတွင် ဝင်ရောက်လုပ်ကိုင်ခဲ့လေသည်။ အမေရိကန်ပြည်တွင်းစစ် ဖြစ်ပွားသောအခါ အင်ဒရူး ကာနက်ဂီသည် စစ်ထဲသို့ဝင်၍ ရှေ့တန်းစစ်မျက်နှာမှ အမှုထမ်းရွက်ခဲ့၏။ ပြည်ထောင်စုဖက်မှဒဏ်ရာရသူထဲတွင် တတိယမြောက်ဖြစ်ခဲ့လေသည်။

စစ်ပြီးသွားသောအခါ ရေနံလုပ်ငန်းသည် သံလုပ်ငန်းလောက် အလားအလာမကောင်းသည်ကို တွေ့မြင်လာသဖြင့် သံနှင့်သံမဏိလုပ်ငန်းသို့ ပြောင်းရွှေ့လုပ်ကိုင်ခဲ့၏။ အင်ဒရူး ကာနက်ဂီသည် သံလုပ်ငန်းတခုတွင် အစုဝယ်ယူခဲ့၏။ ထိုနောက် များမကြာမီ မိတ်ဆွေအချို့နှင့်ပူးပေါင်း၍ ယူနီယန်သံစက်ကုမ္ပဏီကို တည်ထောင်လိုက်လေသည်။ မ တည်သောငွေရင်းမှာ ဒေါ်လာ ၂၅၀,၀၀၀ မျှသာ ဖြစ်ခဲ့သော်လည်း ထိုငွေရင်းမှာ ထိုအချိန်အခါက အင်ဒရူးအဖို့ တရင်းတနှီးပင်ဖြစ်လေသည်။

အင်ဒရူး၏ လုပ်ရည်ကိုင်ရည် ထက်မြက်မှုကြောင့် ယူနီယန်သံစက်ကုမ္ပဏီသည် တရှိန်ထိုး တိုးတက်ခဲ့၏။ အင်ဒရူးသည် စကော့သွေးပီပီ အခွင့်ကောင်းကို မလွတ်တမ်း အသုံးချနိုင်ခဲ့လေသည်။ စရိတ်နည်းနည်းဖြင့် သံမဏိကောင်းကောင်း ပြုလုပ်နိုင်သည့် နည်းလမ်းများကို ရှာဖွေအသုံးပြုပြီးလျှင် ကုမ္ပဏီနာမည်ထွက်အောင်ပြုခဲ့၏။ အကင်းပါးသော အင်ဒရူးသည် အင်္ဂလန်ပြည်သို့ တခေါက် သွားရာတွင် ဗက်ဆီမာနည်းဖြင့် သံမဏိပြုလုပ်နည်းကို အတုရလာ၍ ထိုနည်းဖြင့် သံမဏိထည်တို့ကို အကြီးအကျယ် လုပ်ကိုင်ရောင်းချခဲ့လေသည်။ သို့ဖြင့် အင်ဒရူးသည် နှစ်အနည်းငယ်အတွင်း၌ပင် ဒေါ်လာငွေ ၅,၀၀၀,၀၀၀ မျှ အကျိုးဖြစ်ထွန်းခဲ့လေသည်။

ကုန်ထုတ်လုပ်ရာတွင် စရိတ်သက်သာစေရန် အင်ဒရူးသည် တဆင့်တက်၍ကြံပြန်သည်။ မီးရထားနှင့် မီးသင်္ဘောများကို အပိုင်ဝယ်ယူ၍ စက်ရုံများ၌ လိုသောသတ္တုရိုင်းများကို သယ်ယူပို့ဆောင်စေသည်။ သယ်ပို့စရိတ်ကျဉ်း၍ သူ၏အလုပ်ရုံမှ သံထည်ပစ္စည်းများကို ဈေးနှုန်းချိုသာစွာနှင့် ရောင်းချနိုင်သောအခါ အပြိုင်အဆိုင်များကို ချိုးနှိမ်လာနိုင်သည်။ ဤသို့ဖြင့် ၁၈၈၈ ခုနှစ် ရောက်သည်တွင် အင်ဒရူး ကာနက်ဂီသည် မီးရထားလမ်း မိုင်ပေါင်း ၄၂၅ မိုင်နှင့် မီးသင်္ဘောအများကို ပိုင်ဆိုင်၍၊ သံလုပ်ငန်းအပြင်၊ ကျောက်မီး သွေး လုပ်ငန်း၊ ရေနံလုပ်ငန်း၊ သင်္ဘောကျင်းလုပ်ငန်းနှင့် အခြားစက်မှုလက်မှုလုပ်ငန်း အများအပြားကိုကြိုးကိုင်နိုင်သောအခြေသို့ ရောက်ရှိလာခဲ့သည်။ ၁၈၉၉ ခုနှစ်တွင် သူပိုင်လုပ်ငန်းအရပ်ရပ်ကို စုပေါင်းကာ ကာနက်ဂီ သံမဏိကုမ္ပဏီဟူ၍ ဖွဲ့စည်းတည်ထောင်လေသည်။

၁၉၀၁ ခုနှစ်သို့ ရောက်သောအခါတွင်ကား ကာနက်ဂီ၏ လက်ထဲတွင် ဒေါ်လာ ၅၀၀,၀၀၀,၀၀၀ မျှ ပိုင်ရှိနေလေပြီ။ ထိုအခါ သူသည် အလုပ်ခွင်မှအနားယူပြီးလျှင် သူ၏စည်းစိမ်ဥစ္စာများကို စံနစ်တကျ အသုံးချရန်ဆန္ဒ ဖြစ်ပေါ်လာတော့၏။ ဤသို့ဖြင့် ထိုနှစ်တွင်ပင် အမေရိကန်ပြည်ထောင်စု သံမဏိလုပ်ငန်းအဖွဲ့ကြီးကို ဖွဲ့စည်းတည်ထောင်ပြီးလျှင် သူပိုင်ဆိုင်သောလုပ်ငန်းများကို ထိုအဖွဲ့ကြီးသို့ အားလုံးလွှဲအပ်လိုက်လေသည်။

'လူတယောက်သည် မိမိစည်းစိမ်ဥစ္စာ အမြောက်အမြားကို ပေးကမ်းလှူဒါန်းနိုင်ပါလျက် မပေးကမ်းမလှူဒါန်းဘဲ ထား၍ သေဆုံးသွားခဲ့လျှင် ထိုသေခြင်းကား အကျိုးမရှိသေခြင်းသာတည်း။' ဤကား သဌေးကြီး အင်ဒရူး ကာနက်ဂီ၏ စွဲမြဲသော ယုံကြည်ချက်ပင်ဖြစ်သည်။ သူသည် စုဆောင်းခဲ့သော ပစ္စည်းဥစ္စာများကို ဆင်းရဲသားတို့၏ အကူအညီ

ဖြင့် မြေကြီးထဲမှတူးဖေါ် ရရှိခဲ့၏။ သို့ဖြစ်၍ ထိုပစ္စည်းဥစ္စာများကို ဆင်းရဲသားလူထု၏လက်ထဲသို့ ပြန်အပ်ရန်မှာ သူ၏တာဝန်ဖြစ်သည်ဟု ယူဆထားလေသည်။ အင်ဒရူး၏ အတွင်းသန္တာန်တွင် ငါ့စည်းစိမ် ငါ့ဥစ္စာတည်းဟူသော ငါစွဲမထားဘဲ၊ မိမိရရှိခဲ့သော စည်းစိမ်ဥစ္စာများသည် လူထု၏ စည်းစိမ်ဥစ္စာများသာဖြစ်၍ မိမိက ခေတ္တမျှ ထိန်းသိမ်းစောင့်ရှောက်ထားရခြင်း ဖြစ်သည်ဟုယူဆလေသည်။

ပိုက်ဆံကို ရအောင်ရှာရခြင်းထက် ရပြီးသောပိုက်ဆံကို အကျိုးရှိအောင် အသုံးချရခြင်းမှာ သာ၍ခက်ခဲကြောင်းကို အင်ဒရူးသည် ကောင်းစွာ သိထားနှင့်၏။ သို့အားလျော်စွာ သူ၏စည်းစိမ်ဥစ္စာများကို လူ့လောကအတွက် အကျိုးဖြစ်ထွန်းစေရန် မည်သို့မည်ပုံ အသုံးချရမည်ဟူသော ပြဿနာကို နှစ်ပေါင်းများစွာကပင် နက်နက်နဲနဲ စဉ်းစား လာခဲ့၍ နောက်ဆုံး၌ ပညာရေးအတွက် အသုံးချရန် ဆုံးဖြတ်လိုက်လေသည်။ ထိုသို့ ဆုံးဖြတ်လိုက်ပြီးနောက် သူ၏ဇာတိဖြစ်သော စကော့တလန်ပြည်ရှိ တက္ကသိုလ်ကျောင်းကြီးလေးကျောင်းသို့ ဒေါ်လာ ၁၀,၀၀၀,၀၀၀ လှူဒါန်းလိုက်၏။ ထိုနောက် အမေရိကန်ပြည်ထောင်စု ပစ္စဗတ်မြို့နှင့် ဝါရှင်တန်မြို့များတွင် ကာနက်ဂီ အမည်ဖြင့် ပညာမြှင့်တင်ရေးအဖွဲ့များကို တည်ထောင်ထားခဲ့၏။ သူ၏ ချက်မြှုပ် ဒေသဖြစ်သော ဒန်ဖါးမလင်းမြို့ရှိ စာသင်ကျောင်းများအတွက်လည်း ငွေအမြောက်အမြား လှူဒါန်းခဲ့လေသည်။

ထို့ပြင် သူရဲကောင်းများချီး မြှင့်ရေး၊ ကပ္ပလီလူမျိုး များအား ပညာသင်ပေးရေးနှင့် အင်္ဂလိပ်စာလုံးပေါင်း ပြုပြင်ရေးကိစ္စများအတွက်လည်း ရန်ပုံငွေအမြောက်အမြားကို သီးသန့်ထားခဲ့သည်။ အသက်အရွယ်ကြီးရင့်၍ အလုပ်မလုပ်နိုင်တော့သော ကျောင်းဆရာများအားလည်း အငြိမ်းရိက္ခာထောက်ပံ့ထားခဲ့၏။ ကမ္ဘာပေါ် ရှိ စာကြည့်တိုက် များ ကိုလည်း ငွေအမြောက်အမြား ထောက်ပံ့လှူဒါန်းခဲ့လေသည်။ သဌေးကြီး ကာနက်ဂီ၏ အထောက်အပံ့ဖြင့် တည်ထောင်ဖွင့်လှစ်ထားသော စာကြည့်တိုက်ပေါင်းမှာ ကမ္ဘာ့အရပ်ရပ်တွင် ၃,၀၀၀ ခန့်မျှရှိသည်။ ထို့မှတပါးလည်း ကမ္ဘာပေါ်၌ စစ်မက်တိုက်ခိုက်မှုများ ပပျောက်ကာ ထာဝစဉ်ငြိမ်းချမ်းရေးရရှိစေရန် ရည်သန်၍ အနယ်နယ်အရပ်ရပ်သို့ လှည့်လည်တရားဟောပြောခြင်း၊ စာအုပ်စာတမ်းများ ရေးသားထုတ်ဝေခြင်း အစရှိသည့် ငြိမ်းချမ်းရေးလုပ်ငန်းများ အတွက်လည်း ငွေသန်းပေါင်းများစွာ လှူဒါန်းခဲ့လေသည်။

နောက်ဆုံး၌ အင်ဒရူး၏လက်ထဲတွင် ဒေါ်လာ ၂၅,၀၀၀,၀၀၀ မျှသာချန်လှပ်၍ ဒေါ်လာ ၁၂၅,၀၀၀,၀၀၀ မျှကို ထိန်းသိမ်းစောင့်ရှောက်ရန် နယူးယောက်မြို့တွင် ကာနက်ဂီကော်ပိုရေးရှင်းဟူ၍ ထရတ်အဖွဲ့တခုကို ဖွဲ့စည်းပြီးလျှင် လူ့လောကအကျိုးစီးပွား ဖြစ်ထွန်းစေမည့်ကိစ္စဟူက မည်သည့်အကြောင်းကိစ္စအတွက်မဆို ထိုငွေထဲမှ ထုတ်နုတ်အသုံးပြုရန် မှာကြားအပ်နှံထားခဲ့လေသည်။ ကိုယ်ပိုင်စည်းစိမ်ဥစ္စာတို့ကို မိမိတဦးတည်းအတွက် အသုံးချမှုမှာ ကျဉ်းမြောင်းလှသည့်အလျောက် အကောင်းဆုံးသော အသုံးချနည်းမှာ အများအတွက် လှူဒါန်းပေးကမ်းခြင်းသာလျှင်ဖြစ်သည်ဟူသော သာဓကကို ပြသွားသည့် သဌေးကြီး ကာနက်ဂီသည် ၁၉၁၉ ခု ဩဂုတ်လ ၁၁ ရက်နေ့တွင် အနိစ္စရောက်လေသည်။

**ကာနေးရှင်းပင်။** ။ဇော်မွှားကြီးပင် — ရှု။

**ကာပေသီယန်တောင်တန်း။** ။ကာပေသီယန်တောင်တန်းမှာ ဥရောပတိုက်တွင် ဒုတိယအထင်ရှားဆုံးသော တောင်တန်းဖြစ်၍၊ ချက်ကိုဆလိုဗါးကီးယားနိုင်ငံမှ ရူမေးနီးယားနိုင်ငံအထိ တည်ရှိပြီးလျှင် မိုင် ၈၀၀ ခန့် ရှည်လျားသည်။ ထိုတောင်တန်းကြီးသည် ဥရောပအလယ်ပိုင်းရှိ မြေဩဇာထက်သန်သော လွင်ပြင်ဒေသကို ဝန်းရံထားသကဲ့သို့ရှိ၍ တောင်ဖက်မှလာသောမိုးကို ရစေလျက် အရှေ့မြောက်ဖက်မှလာသော လေအေးကို ကာကွယ်ပေးသည်။ တောင်စောင်း တောင်ခါးပန်းတို့တွင် ထင်းရှူးတောကြီးများရှိသော်လည်း တောင်၏အထက်ပိုင်းတွင် သစ်ပင်ကြီးများ မပေါက်နိုင်ဘဲ တောင်ထိပ်၌ ရေညှိပင်နှင့် သစ်ကပ်မှော်တို့သာ ပေါက်ရောက်ကြသည်။

တောင်တန်းကြီးတလျှောက် များသောအားဖြင့် ပေ ၃,၀၀၀ မှ ၅,၀၀၀ အထိ မြင့်သော်လည်း၊ အချို့သော တောင်ထိပ်များမှာမူ ပေ ၈,၀၀၀ ကျော် ၉,၀၀၀ နီးပါးမျှ မြင့်ကြ၏။ အမြင့်ဆုံးအပိုင်းမှာ ချက်ကိုဆလိုဗါးကီးယားနိုင်ငံ၌ရှိသော တားထရားတောင်စု ဖြစ်သည်။ မြင့်မားသော တောင်ထိပ်များမှာ တနှစ်လျှင် ၉ လခန့်မျှ နှင်းဖုံးအုပ်နေကြ၏။ အချို့တောင်ထိပ်များပေါ်တွင် ရေငန်အိုင်များရှိ၍ ထိုအိုင်များမှာ ပင်လယ်နှင့် တနည်းတလမ်း ဆက်သွယ်နေသည်ဟု အချို့က ယူဆကြသည်။

ထိုတောင်တန်းကြီး တည်နေရာမှာ ဥရောပတိုက်တွင် တွင်းထွက် ပစ္စည်း အကြွယ်ဝဆုံးသော ဒေသဖြစ်၍ ရွှေ၊ ငွေ၊ ကြေးနီ၊ ခဲ၊ သွပ်၊ သံ၊ ကျောက်မီးသွေး နှင့် ရေနံ များ ထွက်လေသည်။ ကုန်းမြင့်ပိုင်းများတွင် သိန္ဓောဆား အမြောက်အမြား တူးဖေါ် ရရှိသည်။ ထိုတောင်တန်းဒေသရှိ တောကြီးများတွင် ဝက်ဝံ၊ ဝံပုလွေ နှင့် ကြောင်မြီးတို စသော သားရဲများနှင့် လင်းယုန်၊ ဝံလို စသော ငှက်ရဲများရှိကြသည်။

# အရသာထူးကဲ၍ လူအများစွဲမက်သည့် အဖျော်ရည်

**ကာဖိပူပူနွေးနွေးကို ကမ္ဘာအရပ်ရပ်၌ လူတိုင်းလိုပင် နှစ်ခြိုက်ကြသည်။ သို့သော် ကာဖီ၏သမိုင်းကိုမူ လူတိုင်းသိကြမည် မဟုတ်ချေ။ အောက်တွင် ကာဖီခင်းမှ ကာဖိပွဲသို့တိုင်အောင်အဆင့်ဆင့် ရောက်ရှိလာပုံအကြောင်းကို ဖေါ်ပြထားသည်။**

**ကာဖီ။** ။ယခုအခါ မြန်မာနိုင်ငံနှင့်တကွ ကမ္ဘာအနှံ့အပြားတွင် ကာဖီကို သောက်သုံးနေကြသည်မှာ မျက်မြင်ကိုယ်တွေ့ပင် ဖြစ်၏။ ဤမျှ လူကြိုက်များလာသော ကာဖီအကြောင်းကို သိအပ်လှပေသည်။ ၁၇ ရာစုနှစ် မတိုင်မီက ဥရောပတိုက် ရှိလူများသည် ကာဖီကို သောက်ရမှန်း မသိခဲ့ကြသေးချေ။ သို့ရာတွင် ထိုစဉ်က အက်ဗီဆီးနီးယား နိုင်ငံနှင့် အာရေဗျ ကျွန်းဆွယ်တို့၌ ကာဖီကို မြိန်ရှက်စွာဖြင့် သောက်သုံးလျက် ရှိနေကြပေပြီ။ မည်သည့်အချိန်က စတင်သောက်ခဲ့ကြသည်ကိုကား အတိအကျ မပြောနိုင်ချေ။



ချယ်ရီသီး နှင့် သဏ္ဍာန်တူသော ကာဖီသီးအမှည့်များ

ကာဖီကို စတင်တွေ့ရှိပုံ အကြောင်းနှင့် စပ်လျဉ်း၍ သမိုင်းပုံပြင် အမြောက်အမြားပင်ရှိသည်။ ပုံပြင်တခုက ဤသို့ဆို၏။ ၃ ရာစုနှစ် အကုန်လောက်တွင် အာရေဗျမှ ခရစ်ယန်ဘုန်းကြီး တစုသည် နှိပ်စက်ညှဉ်းပန်းမှု ဘေးရန်များကြောင့် အက်ဗီဆီးနီးယားနိုင်ငံရှိ တောတောင်ထူထပ်ရာဒေသသို့ ထွက်ပြေးတိမ်းရှောင်ခဲ့ကြသည်။ တခါသော် ထိုဘုန်းကြီးများ မွေးမြူထားသည့် သိုးနှင့်ဆိတ်တို့သည် ညအိပ်ချိန် ရောက်သော်လည်း အိပ်ရမှန်းမသိဘဲ လရောင်အောက်တွင် မြူးထူးခုန်ပေါက်၍ သွားလာနေကြသည်ကို တအံ့တသြ တွေ့မြင်ကြရ၏။ ညဆက်ပင် ထိုသို့ဖြစ်နေကြသည့်အတွက် ကျောင်းထိုင်ဘုန်းကြီးကိုယ်တိုင် သိုးနှင့်ဆိတ်တို့ စားသောက်လေ့ရှိသော အပင်များကို လိုက်လံစစ်ဆေး၍ စားသုံးကြည့်ရာမှ အပင်ကလေးတမျိုး၏ အရွက်နှင့်အသီးတို့ကြောင့် ဖြစ်ရကြောင်းကို တွေ့ရှိရ၏။ ထိုအပင်ကား ကာဖီပင်ဖြစ်၍ အဆိုပါ ကာဖီရွက်နှင့် ကာဖီသီးများကို စားကြည့်မိသော ဘုန်းကြီးမှာ စိတ်ရွှင်မြူးပြီးလျှင် အိပ်၍ မပျော်နိုင်အောင် ဖြစ်ခဲ့သည်ဟု ဆိုလေသည်။

ထိုသမိုင်းပုံပြင်မှာ ယုံတမ်းမျှသာ ဖြစ်ကောင်းဖြစ်ပေမည်။ သို့ရာတွင် ၁၅ ရာစုနှစ်လောက်က မက္ကာမြို့သို့ ဘုရားဖူးသွားကြသော မွတ်စလင်တို့သည် မိမိတို့ဘာသာအလျောက် ညဖက်တရားအားထုတ်ချိန်များ၌ အိပ်ငိုက်ပြေစေရန် ကာဖီစေ့ကိုလှော်၍ အမှုန့်ကြိတ်ပြီးလျှင် ရေဖြင့်ဖျော်ကာ သောက်သုံးလေ့ရှိခဲ့ကြောင်း အထောက်အထားများရှိသည်။ နောင်သော် ကာဖီသောက်ခြင်းအလေ့သည် တစတစ ပျံ့နှံ့လာပြီးလျှင် တရုပ်နိုင်ငံ၌ လက်ဖက်ရည်ကို ကြိုက်နှစ်သက်သကဲ့သို့ပင် အာရေဗျကျွန်းဆွယ်၌လည်း ကာဖီကို အထူး နှစ်သက်လာကြလေသည်။

၁၇ ရာစုနှစ်သို့ ရောက်သောအခါ ဥရောပတိုက်သို့လည်း ကာဖီသောက်ခြင်းအလေ့ ကူးစက်လာ၍ ကာဖီဆိုင်များသည် နေရာအနှံ့အပြားမှာပင် ပေါ်ပေါက်လာကြသည်။ အင်္ဂလန်ပြည်တွင် ကာဖီဆိုင်များကို ၁၆၅၂ ခုနှစ်မှစ၍ တည်ထောင်ခဲ့ကြ၏။ ထိုခေတ်လောက်တွင် ကာဖီဆိုင်များ မည်မျှ ခေတ်စားသနည်းဟူမူ ကာဖီဆိုင်များသည် ကဗျာဆရာ၊ စာရေးဆရာနှင့် နိုင်ငံရေးသမားတို့ မကြာခဏ တွေ့ဆုံရာဌာနများ ဖြစ်လာကြရုံမက နိုင်ငံခြားမှ နောက်ဆုံး သတင်းထူးများကိုလည်း ထိုကာဖီဆိုင်များမှပင် ကြားကြရလေသည်။ ထိုကြောင့် ပြည်ပိုင်ဘုရင်များပင် ထိုခေတ်ကာဖီဆိုင်များ၏ အပြုအမူကို မျက်ခြည်မပြတ် ထောက်လှမ်းစုံစမ်းခဲ့ကြရလေသည်။

၁၇ ရာစုနှစ် အကုန်လောက်တိုင်အောင် ဥရောပတိုက်ရှိ လူများသည် အနံ့အရသာနှင့် ပြည့်စုံသော မိုးကားခေါ် အာရေဗျ ကာဖီကို သာလျှင် သောက်သုံးခဲ့ကြလေသည်။ မိုးကားဟု တွင်ရခြင်းမှာ မိုးကားမြို့မှလာသောကြောင့်

ဖြစ်၏။ ထိုနောက် ကာဖီကို ဂျားဗါးကျွန်းနှင့် သီဟိုဠ်ကျွန်းများတွင် စတင်စိုက်ပျိုးလာကြ၍ ထိုမှတဆင့် အပူပိုင်းဒေသများသို့လည်း တစတစ ပြန့်ပွားသွားလေသည်။ ယခုအခါ ကမ္ဘာတွင် ကာဖီအများဆုံး စိုက်ပျိုးလျက်ရှိသည့် ဒေသကား တောင်အမေရိကတိုက်ရှိ ဗရာဇီးနိုင်ငံ ဖြစ်၏။

ကာဖီပင်သည် ပူနွေးသော တိုင်းပြည်များ၌ အထူးသဖြင့် ပင်လယ်ပြင်မှအထက် ပေပေါင်း ၁,၂၀၀ နှင့် ပေ ၂,၀၀၀ ကြားရှိ ရေကောင်းစွာရသော ကုန်းမြင့်ဒေသများတွင် ကောင်းစွာ ဖြစ်ထွန်းလေ့ရှိသည်။ ကာဖီပင်သည် အမြဲစိမ်းအပင်ကလေးမျိုးဖြစ်၍ အလိုအလျောက် ပစ်ထားလျှင် ပေ ၂၀ ကျော် မြင့်တတ်သည်။ သို့သော် စိုက်ပျိုးထားသော ခြံများတွင် အသီးများကို လွယ်လင့်တကူ ဆွတ်ခူးနိုင်စိမ့်သောငှါ အပင်များကို ချိုင်ပေးလေ့ ရှိကြသည်။ ကာဖီပင်တွင် အရွက်နှင့်အကိုင်းများဆုံသည့်အရွက်ညှာခွမျာတွင် အလွန်မွှေးကြိုင်သည့် ပန်းဖြူများ အစုလိုက် ပွင့်တတ်ကြသည်။ ကာဖီပင်များသည် ၃ နှစ်သားအရွယ်ခန့်တွင် စတင်သီးပွင့်ကြ၍ ၅ နှစ်သားအရွယ်တွင် သီးအားပြည့်စုံလာသည်။ တပင်လျှင် အနှစ် ၂၀ မျှကြာအောင် သီးပွင့်လေ့ရှိသည်။ အသီးများသည် ပဌမ၌ အစိမ်းရောင်ဖြစ်၏။ ထိုနောက် ဝါလာပြီးလျှင် နောက်ဆုံးတွင် နီသွားသည်။ ရာသီဥတုကောင်းသော ဒေသများတွင် ကာဖီပင်သည် တနှစ်လျှင် နှစ်ကြိမ်သုံးကြိမ်တိုင်အောင် ပွင့်နိုင်သီးနိုင်၍ တပင်တည်းမှာပင် အပွင့်နှင့် အသီးစိမ်း၊ အသီးမှည့်များကို တပြိုင်နက် တွေ့ရတတ်သည်။

ကာဖီသီးများ မှည့်သောအခါ အသီးများကို ခူး၍ဖြစ်စေ၊ အောက်မှ အဝတ်ခံကာ အပင်ကို လှုပ်ပေး၍ဖြစ်စေ သိမ်းယူရသည်။ ထိုနောက် နည်းအမျိုးမျိုးဖြင့်အခြောက်လှန်းခြင်း၊ အစေ့ချွတ်ထုတ်ခြင်းများ ပြုလုပ်ကြသည်။ သို့သော် အသီးမှည့်တွင် အစေ့အပြင်ဖက်၌ အသားဖတ် ရှိနေရုံမက အစေ့ပေါ်တွင်လည်း အမြှေးခွံများ ၂ ထပ်မျှကပ်နေသေးသည့်အတွက် အစေ့ချွတ်သည့်အလုပ်မှာ မလွယ်ကူလှပေ။ အစေ့များမှ အမြှေးစင်သွားအောင် လုပ်ရာတွင် အစေ့များကို တနည်းနည်းနှင့် အခြောက်လှန်းပြီးနောက် ဒလိမ့်များနှင့် လှိမ့်ပေးခြင်း၊ ပွတ်ထုတ်ပစ်ခြင်းများ ပြုလုပ်ရသည်။ နောက်ဆုံး၌ အစေ့များကို ချွတ်ပြီးသောအခါ အရွယ်အလိုက် အစားစားခွဲပြီးလျှင် အိတ်ကြီးများတွင်ထည့်၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချကြသည်။

အနံ့အရသာနှင့် ပြည့်စုံသည့် ကာဖီကို သောက်သုံးနိုင်ရန်အတွက် ကာဖီစေ့ အစိမ်းများကို ညိုဝါရောင်ရအောင် လှော်ပေးရသေးသည်။ ဤသို့လှော်ရာတွင် ဂရုတစိုက်ပြုလုပ်ရန် လို၏။ သို့မဟုတ်လျှင် လိုသည့်အနံ့အရသာ ထွက်မလာဘဲ နေတတ်သည်။ ရှေးက ကာဖီစေ့များကို အိမ်မှာပင် လှော်ယူကြသော်လည်း ယခုအခါ၌မူ ဤအလုပ်ကို ရုံကြီးများတွင် အကြီးအကျယ် လုပ်ကိုင်လျက်ရှိပေပြီ။



**ကာဖီလုပ်ငန်းဌာနကြီးတခုရှိ ကာဖီနမူနာများကို လှော်ကြိတ်ပေးသည့် စက်ယန္တရားများ။ ဤစက်ယန္တရားများဖြင့် လှော်ကြိတ်ပေးသော ကာဖီနမူနာများကို ကာဖီမြည်းသမားက မြည်းစမ်းကြည့်ရသည်။**

ကာဖီစေ့များကို လှော်ပြီးသောအခါ အမှုန့်ကြိတ်ရပြန်၏။ ကာဖီအမျိုးမျိုးကို ရောစပ်ရာတွင် အချို့အလုပ်ရုံကြီးများ၌ အရသာ ကောင်းမကောင်းကို စမ်းသပ်ရန်အတွက် ကျွမ်းကျင်သော ပုဂ္ဂိုလ်များကိုပင်လျှင် ငှါးရမ်းထားကြရသည်။ ကာဖီကို အမှုန့်ကြိတ်ပြီးလျှင်ပြီးခြင်း ဖျော်သောက်နိုင်လျှင် အကောင်းဆုံးဖြစ်သည်ကို တွေ့ရသည်။

ကာဖီတွင် ကက်ဖီအင်း ခေါ် ဓါတ်တမျိုး ပါဝင်သည်။ ထိုဓါတ်မှာ လက်ဖက်ခြောက်တွင် ပါဝင်သော သီးအင်းနှင့် အတူတူပင် ဖြစ်သော်လည်း သီးအင်းဓါတ်ထက် ပို၍ ပြင်းသည်။ ကာဖီကို စွဲခြင်းမှာ ထိုဓါတ်ကြောင့်ပင် ဖြစ်၏။ ကာဖီကို အားပျော့စေလိုလျှင် အခြားပစ္စည်းများ ရောစပ်ပေးခြင်းဖြင့် ထိုဓါတ်ကို လိုသလောက် လျှော့ထားနိုင်သည်။ အထူးသဖြင့် ဥရောပတိုက်တွင် ချစ်ကိုရီခေါ် သစ်မြစ်တမျိုးကို အမှုန့်ကြိတ်၍ ကာဖီနှင့်ရောစပ်ကာ ရောင်းချသောက်သုံးလေ့ရှိကြသည်။ အချို့ မရိုးဖြောင့်သော ကုန်သည်များသည် ချစ်ကိုရီသာမက အခြားသစ်မြစ် သစ်စေ့များနှင့် တမာ်လာ ရောစပ်၍ ရောင်းချသည့် အခါမျိုးလည်း ရှိသေးသည်။

ကာဖီအမျိုးပေါင်း ၁၀ ခန့် ရှိ၏။ သို့သော် အာရေဗျန်နှင့် လိုက်ဗီးရီးယန်းကာဖီပင် နှစ်မျိုးကိုသာ အများအပြားစိုက်ပျိုးလေ့ရှိကြပေသည်။ ကမ္ဘာပေါ်တွင် ဗရာဇီးနိုင်ငံနှင့် အနောက်အိန္ဒိယကျွန်းစု တို့မှလွဲ၍ ကာဖီကို အကြီးအကျယ်စိုက်ပျိုးသော ဒေသများမှာ အမေရိကတိုက် အလယ်ပိုင်း၊ မက္ကဆီကိုနိုင်ငံ၊ အာရေဗျကျွန်းဆွယ်၊ အာဖရိကတိုက်နှင့် အိန္ဒိယနိုင်ငံရှိ အချို့ဒေသများ၊ သီဟိုဠ်ကျွန်း၊ ဆုမတြားကျွန်း၊ ဂျားဗါးကျွန်းနှင့် ပစိဖိတ်သမုဒ္ဒရာ အတွင်းရှိ ကျွန်းများဖြစ်ကြသည်။

ကာဖီကို ဖျော်သောက်ရာတွင် ရေဆူဆူဖြင့် ကောင်းစွာနှပ်ပေးဖို့အရေးကြီးသည်။ ကာဖီရည်ကို သူ့ချည်းသက်သက် သောက်သူလည်း ရှိ၍၊ နွားနို့ သကြားတို့နှင့် ဖြစ်စေ၊ ကြက်ဥအကာနှင့် ဖြစ်စေ၊ ဖျော်သောက်သူများလည်း ရှိသည်။ အချို့ ပျော်ပွဲစားရုံကို ယခုအခါ ကာဖေးဟုလည်း ခေါ်လေ့ရှိကြရာ ထိုစကားမှာ ကာဖီ သို့မဟုတ် ကာဖီဆိုင်ဟု အဓိပ္ပါယ်ရသော ပြင်သစ်စကား ဖြစ်သည်။

**ကာဗော်လစ်အက်ဆစ်။** ။ဖီနော ဟုလည်း ခေါ်သော ကာဗော်လစ် အက်ဆစ်ကို ကျောက်မီးသွေးကတ္တရာမှ အဆင့်ဆင့် ပေါင်းခံနည်းဖြင့် ထုတ်ယူကြ၏။ သို့သော် အကြီးအကျယ် ရောင်းချရန်အတွက်မူကား ကတ္တရာအဆီ ဖြစ်သော ဗင်ဇင်းမှ ဓါတ်ပေါင်းစပ်ယူကြရသည်။ ဓါတ်ပေါင်းစပ်ယူနည်းမှာ ဗင်ဇင်းကို အခိုးငွေ့ တထောင်းထောင်း ထွက်နေသော ဆာလဖျူရစ် အက်ဆစ်နှင့် ရော၍ ဗင်ဇင်းဆာလဖွန်နစ် အက်ဆစ် ဖြစ်စေ၏။ ထိုနောက် ဗင်ဇင်းဆာလဖွန်နစ် အက်ဆစ်ကို တဖန် ကော့စတစ်ဆိုဒါနှင့်



ကာဖီသုပ်င်နး္ဌာနကြီးတခုမှ 'ကာဖီမြဲသမား' တဦး။ သူ၏တာဝန်မှာ ကာဖီအမျိုးမျိုးကို စံမှီမမှီ စမ်းသပ်ရန်ဖြစ်၏။

ရောကျို၍ ဆိုဒီယမ်ကာဗိုလိတ် ဖြစ်စေ၏။ ထိုမှအဆင့်ဆင့် ပေါင်းခံ၍ ကာဗော်လစ်အက်ဆစ်ကို ထုတ်ယူသည်။

ကာဗော်လစ်အက်ဆစ် အရိုင်းသည် ဆီဖြစ်၍ ညိုပုပ်သော အရောင်ရှိ၏။ ထိုဆီအရိုင်းထဲမှ အညစ်အကြေးများကို သန့်စင်လိုက်သောအခါ အရောင်ကင်းသော ပုံဆောင်ခဲ (ခရစ္စတယ်) များကို ရရှိ၏။ ထိုပုံဆောင်ခဲများသည် အပူချိန် စင်တီဂရိတ် ၄၂.၅°-၄၃° တွင် အရည်စပျော်၍ ၁၈၁.၃° တွင်ဆူ၏။ ပြင်းထန်သော အဆိပ်ပစ္စည်းဖြစ်၍ ထူးခြားသော အနံ့ရှိ၏။ ကာဗော်လစ်အက်ဆစ်သည် အလွန်စားတတ်သော သတ္တိရှိသဖြင့် အသားအရေပေါ်သို့ ကျရောက်လျှင် အနာများဖြစ်တတ်၍ ပျောက်ကင်းရန် ခဲယဉ်းသည်။ သို့သော် ရေအပုံတရာတွင် ကာဗော်လစ်အက်ဆစ် သုံးပုံမျှ ရော၍ရသော ကာဗော်လစ်အက်ဆစ်ဖျော်ရည်ကိုမူကား အနာများ ဆေးကြောရန်အတွက် အသုံးပြုနိုင်ပေသည်။

ကာဗော်လစ်အက်ဆစ်ဆီကို ပိုးနှိမ်ဆေးနှင့် အန်တီဆက်ပတစ် (အပုပ်နိုင်ဆေး၊ အနာမယဉ်းဆေး) များအဖြစ်လည်း အသုံးပြုကြ၏။ ဤမျှမကသေး၊ ရေမွှေး၊ ဆပ်ပြာ၊ သွားတိုက်ဆေးမှုန့်၊ ဆိုးဆေး၊ ဓါတ်ပုံ ပုံဖေါ်ဆေးနှင့် ဆေးဝါးများ ဖေါ်စပ်ပြုလုပ်ရာ၌လည်း အလွန်အသုံးဝင်၏။ ထို့ပြင် ပလပ်စတစ်နှင့် ပလပ်စတစ်ကဲ့သို့သော ပစ္စည်းများ လုပ်ကိုင်ရာတွင် အထူးသဖြင့် ကာဗော်လစ်အက်ဆစ်ကို များစွာ အသုံးပြုကြ၏။ (ပလပ်စတစ် — ရှု။) ပဌမကမ္ဘာစစ်တွင် အလွန်ပြင်းထန်စွာ ပေါက်ကွဲစေတတ်သော ခဲယမ်းမီးကျောက်များ ပြုလုပ်ရာ၌ ကာဗော်လစ်အက်ဆစ်ကို စတင် အသုံးပြုခဲ့ကြသည်။ အသုံးပြုနည်းမှာ နိုက်ထရစ်အက်ဆစ်နှင့် ဆာလဖျူရစ်အက်ဆစ် အပြင်းရည်ကို ထပ်မံထည့်လိုက်ခြင်းဖြင့် ပစ်ကရစ်အက်ဆစ်ကို ရရှိနိုင်၏။ ပစ်ကရစ်အက်ဆစ်သည် ဝါထိန်သော အရောင်ရှိသည့် အခဲကလေးများဖြစ်၍ မီးတိုက်ပေးလိုက်သည့် အခါ၌ဖြစ်စေ၊ ထုရိုက်လိုက်သည့် အခါ၌ဖြစ်စေ၊အလွန်ပြင်းထန်စွာ ပေါက်ကွဲသည်။ ပစ်ကရစ်အက်ဆစ်ကို ပဌမကမ္ဘာစစ်တွင် များစွာ အသုံးပြုခဲ့လေသည်။

**ကာဗိုဟိုက်ဒရိတ်**။ ။အသက်နှင့် ခန္ဓာကိုယ် တည်မြဲနေသမျှ လှုပ်ရှားသွားလာမှုရှိရာ၊ ထိုလှုပ်ရှားသွားလာမှုကို လူကိုယ်ခန္ဓာ၌ စွမ်းအင်မရှိဘဲနှင့် မပြုလုပ်နိုင်ချေ။ ထိုလှုပ်ရှားမှုအတွက် လိုအပ်သော စွမ်းအင်ကို ကျွန်ုပ်တို့ နေ့စဉ်စားသောက်သော အစာ အာဟာရများ ထဲ၌ ပါရှိသော ကာဗိုဟိုက်ဒရိတ်ဓါတ်က ပေးသည်။

ခန္ဓာကိုယ်ကြီး လှုပ်ရှားမှုများလေ စွမ်းအင်ကို လိုလေဖြစ်သဖြင့် ကလေးထက် လူကြီးမှာ အစားအစာကို ပိုမိုစား



ကာဗိုဟိုက်ဒရိတ်ဓါတ် ပါရှိသော ဟင်းသီးဟင်းရွက်များ

သောက်ရသည်။ လှုပ်ရှားမှု ပိုမိုများပြား၍ အရွယ်တက်နေသော လူငယ်လူရွယ်များမှာ ကလေးလူကြီးများထက် အစားအစာပိုမိုစားသောက်နိုင်ကြသည်။ ကာဗိုဟိုက်ဒရိတ်သည်ခန္ဓာကိုယ်ကြီးပူနွေးနေစေရန်လည်း အပူဓါတ်ကို ပေးလေရာ၊ အေးသောတိုင်းပြည်တွင် နေထိုင်သူများသည် အပူဓါတ်ပေးနိုင်သည့် ကာဗိုဟိုက်ဒရိတ်ပါသောအစာများနှင့် အဆီများသော အစာများကို များစွာ စားသောက်ပေးရန် လိုအပ်ပေသည်။

အဆီနှင့်နှိုင်းစာလျှင် ကာဗိုဟိုက်ဒရိတ်မှာ အဆီ၏ တဝက်ခန့်မျှလောက်သာ ခန္ဓာကိုယ်ကြီးကို အပူဓါတ် ပေးနိုင်စွမ်းသည်။ ကာဗိုဟိုက်ဒရိတ် တပေါင်လျှင် အပူဓါတ် ကယ်လိုရီ ၁,၈၂၀ ပါရှိ၍ အဆီတပေါင်လျှင် ကယ်လိုရီ ၄,၀၀၀ မျှ အပူဓါတ် ပါရှိသည်။

ကယ်လိုရီ (အပူ ဧက မူ) ဆိုသည်မှာ ကိုယ်ခန္ဓာကို ပူနွေးစေသည့် အပူ ဓါတ်၏ အတိုင်းအဆဖြစ်သည်။ လူတို့သည် သွားလာနေထိုင် လှုပ်ရှားနိုင်မှုအတွက် အင်အားလည်းဖြစ်စေ၍ အပူငွေ့လည်းပေးသည့် ဓါတ်ကို အရွယ်အလိုက် တနေ့လျှင် မည်မျှလိုအပ်သည်ဟု ကယ်လိုရီဖြင့် တိုင်းဆ၍ ပြောဆိုကြရသည်။ ၁၂-၁၃ နှစ်ရွယ် ယောကျ်ားကလေးတယောက်သည် ကယ်လိုရီ ၂,၃၀၀-၂,၇၀၀ မျှ နေ့စဉ်လိုအပ်၍ မိန်းကလေးမှာ ကယ်လိုရီ ၁,၈၀၀ မှ ၂,၁၅၀ အထိ လိုသည်။ ထို့ထက် တနှစ်မျှကြီးသော ယောကျ်ားကလေးတယောက်သည် ကယ်လိုရီ ၂,၅၀၀ မှ ၂,၉၀၀ အထိ

လိုအပ်၍ မိန်းကလေးမှာ ကယ်လိုရီ ၁,၉၅၀ မှ ၂,၂၅၀ အထိ လိုလေသည်။ ယောကျ်ားကြီးများမှာ သူတို့၏ လှုပ်ရှားသွားလာမှု အနည်းအများကိုလိုက်၍ ကယ်လိုရီ ၂,၅၀၀ မှ ၄,၅၀၀ အထိလို၍ မိန်းမများမှာ ကယ်လိုရီ ၂,၁၀၀ မှ ၃,၀၀၀ အထိ နေ့စဉ် လိုအပ်သည်။

ကာဗိုဟိုက်ဒရိတ်ပါသော အစားအစာများတွင် အာလူး၊ ပေါင်မုံ့၊ ပြောင်းဖူး၊ ဆန်၊ သကြား၊ ငှက်ပျောသီး၊ လိမ်မော်သီး၊ ပန်းသီး၊ ခရမ်းချဉ်သီး၊ ဆီးသီး၊ မုန်လာဥဝါ၊ ပဲနှင့် ဟင်းသီးဟင်းရွက်များ ပါဝင်သည်။ အစားအစာများကို ကျွန်ုပ်တို့ စားသောက်လိုက်သောအခါ အစာအိမ်အတွင်းသို့ ရောက်သွားလျှင် အစာကြေချက်ခြင်းဖြင့် ကာဗိုဟိုက်ဒရိတ် စသည့်ဓါတ်များ ဖြစ်လာစေသည်။ ထိုသို့ ဓါတ်များ ဖြစ်လာသောအခါကိုယ်ခန္ဓာကြီးပွားအားရှိလာရန် ဆောင်ရွက်ပေးကြသည်။ ဖော်ပြခဲ့သော အစားအစာများထဲတွင် သကြားသည် ကြွက်သားများ သန်စွမ်းရေးအတွက် အထူးအားပေးသည်။

**ကာဗွန်**။ ။အမျိုးသမီးများ အထူးသဖြင့် တန်ဖိုးထားကြသည့် စိန်နှင့် ကမ္ဘာ့နေ့စဉ်သုံး ပစ္စည်းတခု ဖြစ်သော ခဲတံတွင်ပါရှိသည့် ဂရက်ဖိုက် (ခဲနက်) တို့သည် အခြား မည်သည့်ပစ္စည်းနှင့်မျှ မရောသော ကာဗွန်အစစ်များသာလျှင် ဖြစ်ကြ၏။ ကျောက်မီးသွေးနှင့် မီးသွေးတို့သည် ကာဗွန်အစစ်များ မဟုတ်ကြသော်လည်း ကာဗွန်အများဆုံးပါရှိသော ပစ္စည်းများ ဖြစ်ကြ၏။ အချို့သော ကျောက်မီးသွေး အကောင်းစားများတွင် ကာဗွန် ရာခိုင်နှုန်း ၉၀ အထိ ပါရှိသည်။

အခြားပစ္စည်းများနှင့် ရောနှော ပေါင်းစပ်လျက်ရှိသော ကာဗွန်ဒြပ်ပေါင်းများမှာ အများအပြားရှိ၏။ ကာဗွန်ဒြပ်ပေါင်း မည်မျှ များပြားသနည်းဟူမူ ဓါတုဗေဒပညာကို အင်ဩဂဲနစ် ကင်မစ္စတြီနှင့် ဩဂဲနစ် ကင်မစ္စတြီ ဟူ၍ နှစ်မျိုး နှစ်စားပင် ခွဲခြားထားရသည်။ ဩဂဲနစ်ကင်မစ္စတြီ ဆိုသည်မှာ ကာဗွန်ဒြပ်ပေါင်းများ အကြောင်းချည်း သက်သက်နှင့်သာ သက်ဆိုင်သော ဓါတုဗေဒ ဖြစ်၍၊ ယနေ့အထိ သိရှိထားသော ကာဗွန်ဒြပ်ပေါင်း အရေအတွက်မှာ ၃ သိန်းနီးပါးရှိသည်ဟု ဆိုသည်။

ကာဗွန်ပါသော ပစ္စည်းကို လေထဲတွင် ဖြစ်စေ၊ အောက်ဆီဂျင်ထဲတွင် ဖြစ်စေ၊ မီးတိုက်ပေးလိုက်လျှင် ကာဗွန်ဒိုင်အောက်ဆိုက် ဓါတ်ငွေ့ ဖြစ်ပေါ်လာသည်။ အောက်ဆီဂျင် လုံလုံလောက်လောက် မရရှိသည့်အခါ ကာဗွန်မွန်အောက်ဆိုက် ဓါတ်ငွေ့ ဖြစ်ပေါ်လာ၏။ ကာဗွန်နှင့် ဟိုက်ဒရိုဂျင်တို့ ဓါတ်ပေါင်းစပ်သောအခါ မက်သိန်းဓါတ်ငွေ့ကိုင်း၊ ဓါတ်ဆီကဲ့သို့သော ဟိုက်ဒရိုကာဗွန် ဒြပ်ပေါင်းများကိုင်း၊ ရရှိသည်။ အောက်ဆီဂျင်၊ ဟိုက်ဒရိုဂျင် နှစ်မျိုးလုံးနှင့် ဓါတ်ပေါင်းစပ်သောအခါတွင် အက်ဆီတစ်အက်ဆစ် ကဲ့သို့သော ဩဂဲနစ်အက်ဆစ်များ နှင့် အယ်လကိုဟော ကဲ့သို့သော ကာဗိုဟိုက်ဒရိတ် ဒြပ်ပေါင်းများကို ရရှိသည်။ ကာဗွန်သည် သတ္တုများနှင့်လည်း ပေါင်းစပ်နိုင်ရာ ထိုဒြပ်ပေါင်းများကို ကာဗိုက်ဟု ခေါ်၏။ အထင်ရှားဆုံးသော ကာဗိုက်မှာ ကယ်လဆီယမ်ကာဗိုက် ဖြစ်၏။ ကယ်လဆီယမ်ကာဗိုက် အပေါ်တွင် ရေအနည်းငယ် လောင်းချလိုက်လျှင် အဆက်တီလင် ဓါတ်ငွေ့ ဖြစ်ပေါ်လာ၏။ ကာဗွန်သည် သက်ရှိအရာများတွင် အရေးကြီးသော ဓါတ်ဖက်ပစ္စည်း တခုအဖြစ် ပါရှိသည်ကို တွေ့ရသည်။

စိန်နှင့် ခဲနက်တို့သည် ပုံဆောင်ခဲဖြစ်သော ကာဗွန်များ ဖြစ်ကြ၏။ ပုံဆောင်ခဲမဟုတ်သော ကာဗွန်မျိုးများလည်း ရှိသေးသည်။ ဆီမှိုင်း၊ မီးသွေး၊ အရိုးမီးသွေး စသည်တို့မှာ ပုံဆောင်ခဲမဟုတ်သော ကာဗွန်များဖြစ်၏။ ရေနံကို မီးရှို့လိုက်သောအခါ၌ ဆီမှိုင်းကို ရရှိ၍၊ မော်တော်ကား တိုင်ယာများ ပိုမိုခိုင်ခံ့အောင် ပြုလုပ်ရာ၌၎င်း၊ ပုံနှိပ်မင် ပြုလုပ်ရာ၌၎င်း၊ အကြီးအကျယ် အသုံးဝင်၏။ မီးသွေးကို ဓါတ်ငွေ့ကာ မျက်နှာဖုံးတွင် အသုံးချရ၏။ အရိုးကို လေလုံ မီးဖိုတွင် မီးကျွမ်းစေသောအခါ အရိုးမီးသွေးရရှိ၍၊ ထိုအရိုး မီးသွေးကို သကြားလုပ်ငန်းတွင် သကြားအဝါကို အဖြူရောင်ဖြစ်အောင် ချွတ်ရာ၌ အသုံးပြုရ၏။

ကာဗွန်သည် တိရစ္ဆာန်နှင့် အပင်တို့ အသက်ရှင်၍ ကြီးထွားသန်မာလာစေရန် အရင်းခံ ပစ္စည်းတခု ဖြစ်သောကြောင့်၊ မည်သည့် အစားအစာ မည်သည့်အဝတ်အစား၌မဆို ကာဗွန်ပါရှိ၏။ သကြား၊ ကာဖီ၊ ထောပတ်၊ လက်ဖက် ခြောက် စသော စားကုန်သောက်ကုန်များနှင့် အင်္ကျီ လုံချည် အစရှိသော အထည်အဝတ်များမှာ ကာဗွန်အရင်းခံ၍ ဖြစ်လာကြသော ပစ္စည်းများပင် ဖြစ်သည်။

ကာဗွန်သည် ဒြပ်စင်တခုဖြစ်၍ အက်တမ်အလေးဆ ၁၂ ရှိပြီးလျှင် အက်တမ်နံပတ်စဉ်မှာ ၆ ဖြစ်၏။ (ကျောက်မီးသွေး၊ ဂရက်ဖိုက်၊ စိန်၊ မီးသွေး — ရှု)။

**ကာဗွန်ဒိုင်အောက်ဆိုက်**။ ။ကာဗွန် ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) သည် ကာဗွန် အက်တမ် တခုနှင့် အောက်ဆီဂျင် အက်တမ် နှစ်ခုတို့ ပေါင်းစပ်ဖွဲ့စည်း၍ ရရှိသော ဓါတ်ငွေ့ဖြစ်၏။ ဓါတုသင်္ကေတမှာ $CO_2$ ဖြစ်၏။ ထိုဓါတ်ငွေ့သည် လေထု၏ အပုံတသောင်းတွင် လေးပုံမျှ ပါဝင်လျက်ရှိ၏။ အရွက်စိမ်းလန်းသော အပင်များသည် အစာအာဟာရ အဖြစ်ဖြင့် ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) ကို ရှူသွင်း၍ အောက်ဆီဂျင် (ဓါတ်ငွေ့) ကို ရှူထုတ်ကြ၏။ လူနှင့် တိရစ္ဆာန် တို့ကမူ အောက်ဆီဂျင် (ဓါတ်ငွေ့) ကို

ရှူသွင်း၍ ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) ကို ရှူထုတ်ကြ၏။ ဤနည်းဖြင့် သက်ရှိသတ္တဝါများက ရှူထုတ်လိုက်သော ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) ကို အရွက်စိမ်းလန်းသော အပင်များက အစာအာဟာရအဖြစ် ရှူသွင်းကြ၍၊ ထိုအပင်များမှ ရှူထုတ်လိုက်သော အောက်ဆီဂျင် (ဓါတ်ငွေ့) ကိုတဖန် သက်ရှိသတ္တဝါများက အာဟာရအဖြစ်ဖြင့် ရှူသွင်းကြပြန်၏။ ထိုကြောင့် လေထု၏အပုံတသောင်းတွင် လေးပုံမျှ ပါဝင်သော ကာဗွန်ဒိုင်အောက်ဆိုက်၏ အချိုးသည် မည်သည့်အခါမျှ မပြောင်းလဲဘဲ တည်မြဲလျက်ရှိသည်။

ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) သည် လေထက် တဆခွဲမျှပို၍ လေးသောကြောင့် ဂူများ၊ တောင်ကြားများ၊ မီးတောင်များ၏ အောက်မြေပြင်တလျှောက်တို့တွင်သာ ရှိတတ်၏။ ရေကဲ့သို့ တနေရာမှ တနေရာသို့ ခွက်များဖြင့် ထည့်၍ ယူသွားနိုင်ပြီးလျှင် သွန်ချနိုင်၏။ ထိုဓါတ်ငွေ့သည် အရောင်ကင်း၍ အနံ့လည်းမရှိ။ သို့သော် ရေတွင်ပျော်ဝင်၍ ထိုဖျော်ရည်ကို ကာဗွန်နစ်အက်ဆစ်ဟု ခေါ်၏။ ထိုဖျော်ရည်ကို ဆိုဒါ၊ လင်မနစ် စသော ဗိလတ်ရည်များ ပြုလုပ်ရာ၌ များစွာအသုံးပြုကြသည်။ ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) ကို ထုံးရည်ကြည်ထဲသို့ ထည့်၍လှုပ်လိုက်လျှင် နို့ရည်ကဲ့သို့ ဖြူသွား၏။ ထိုဓါတ်ငွေ့သည် ရေမှာထက် အယ်လကိုဟောတွင် ပို၍ ပျော်ဝင်လွယ်သည်။




**ပတ်ဝန်းကျင်လေထဲ၌ ကာဗွန်ဒိုင်အောက်ဆိုက် တည်ရှိပုံ**

အသက်ရှူခြင်း၊ လောင်ကျွမ်းခြင်း၊ ပုပ်သိုးခြင်းနှင့် ညဉ့်ဖက်အပင်တို့သည် ကာဗွန်ဒိုင်အောက်ဆိုက် အဆိပ်ဓါတ်ငွေ့ကို ထုတ်ပေးကြ၏။ သို့သော် ထိုဓါတ်ငွေ့ကို နေရောင်ရသော နေ့ဖက်တွင် အပင်များက အသုံးပြုခြင်းဖြင့် လေကို သန့်ရှင်းစေပြန်သည်။

ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) သည် အောက်ဆီဂျင် (ဓါတ်ငွေ့) နှင့် အနည်းငယ်မျှ မတူချေ။ မီးလောင်ကျွမ်းခြင်းကို အားမပေးသည့်ပြင် မီးကိုငြိမ်းစေသည်။ ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) ရှိသော အဝကျယ်ကျယ် ပုလင်းထဲသို့ မီးထွန်းထားသော ဖယောင်းတိုင်ကို ထည့်လိုက်လျှင် မီးငြိမ်းသွားသည်ကို တွေ့နိုင်သည်။ ထိုကြောင့် အချို့သော မီးသတ်ဆေးဗူးများတွင် ရုတ်တရက် မီးဘေးကိစ္စ ပေါ်ပေါက်၍ အသုံးပြုသောအခါ ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) များကို ထုတ်ပေးနိုင်စေရန် ဓါတ်ဆေးရည်တမျိုးကို ထည့်ထားတတ်၏။ တိုက်ရိုက်အားဖြင့် အဆိပ်ရှိသည်ဟု မဆိုသာသော်လည်း ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) စစ်စစ်ကို ဖြစ်စေ၊ ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) — အမြောက်အမြား ပါရှိသော လေကိုဖြစ်စေ၊ရှူမိလျှင် အောက်ဆီဂျင် လုံလောက်အောင် မရနိုင်သောကြောင့် မွန်း၍သေဆုံးတတ်သည်။

ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့) ကို ဖေါ်ယူသောနည်းမှာ ကယ်လဆီယမ် ကာဗွန်နိတ် ဖြစ်သော စကျင်ကျောက် သို့မဟုတ် ထုံးကျောက်ထဲသို့ ဟိုက်ဒရိုကလောရစ်အက်ဆစ် အပေါ့ရည် လောင်းထည့်သောနည်း ဖြစ်၏။ ဥဒါဟရဏ်



$$CaCo_3 + 2HCl = CaCl_2 + H_2O + CO_2$$

စကျင်ကျောက် + အက်ဆစ် ဓါတ်ဆား + ရေ + ကာဗွန်ဒိုင်အောက်ဆိုက် (ဓါတ်ငွေ့)




**ကာဗွန်မွန်အောက်ဆိုက် ဖြစ်ပေါ်တတ်သည့် နေရာများ**

မီးသွေး ကျောက်မီးသွေး စသည်တို့ မီးလောင်စဉ် လေ အလုံအလောက် မရလျှင် အဆိပ်ပြင်းသော ကာဗွန်မွန်အောက်ဆိုက်ဓါတ်ငွေ့ ဖြစ်ပေါ်တတ်ရာ၊ ပုံတွင် အဆိုပါအကြောင်းကြောင့် ဤဓါတ်ငွေ့ ဖြစ်ပေါ်တတ်သည့် သာဓကအချို့ကို ဖေါ်ပြထားသည်။

ရောင်းဝယ် ဖေါက်ကားရန် အတွက်မူ မက်ဂနီဇီယမ် ကာဗွန်နိတ်နှင့် ဆိုဒီယမ် ကာဗွန်နိတ်တို့တွင် ဆာလဖျူရစ် အက်ဆစ် ထည့်၍ ကာဗွန် ဒိုင်အောက်ဆိုက်ကို အကြီး အကျယ် ဖေါ်ယူထုတ်လုပ်ကြသည်။

**ကာဗွန်မွန်အောက်ဆိုက်**။ ။ကာဗွန်မွန်အောက်ဆိုက်သည် အရောင်ကင်း၍ အနံ့အရသာ မရှိသော ဓါတ်ငွေ့ဖြစ်၏။ ရေတွင် အနည်းငယ်သာ ပျော်ဝင်၏။ လေလောက်ပင်လေး၍ ကိုယ်တိုင် မီးလောင်နိုင်သော်လည်း မီးလောင်မှုကို အားမပေးချေ။ အလွန် အဆိပ်ပြင်းထန်သောကြောင့် ထိုဓါတ်ငွေ့ကို လူတိရစ္ဆာန်တို့ ရှူရှိုက်မိသော် အသက်အန္တရာယ် ဖြစ်နိုင်သည်။ ကာဗွန် မွန်အောက်ဆိုက် ဓါတ်ငွေ့ကို သဘာဝတွင် အလိုအလျောက် တွေ့ရခဲ၏။ မီးတောင် ပတ်ဝန်းကျင်တွင် ရှိသော လေထဲ၌ အနည်းအကျဉ်းမျှသာ တွေ့ရ၏။ မီးထွန်းသော ဓါတ်ငွေ့များတွင် ကာဗွန်မွန်အောက်ဆိုက် ပါတတ်သောကြောင့်၊ ထိုဓါတ်ငွေ့ကိုအနည်းငယ်မျှ ရှူရှိုက်မိလျှင်ပင် ဘေးအန္တရာယ် ဖြစ်စေတတ်သည်။ မော်တော်ကား အိပ်ဇောပိုက်များမှ ထုတ်လိုက်သော အငွေ့များတွင်လည်း ကာဗွန်မွန်အောက်ဆိုက် ပါလာသောကြောင့်၊ လူရှိနေခိုက် မော်တော်ကားကို စက်နှိုး၍ မော်တော်ကားရုံကို လေလုံအောင် ပိတ်မထားမိရန် အထူး သတိပြုအပ်ပေသည်။

ကာဗွန်မွန်အောက်ဆိုက်နှင့် ကာဗွန်ဒိုင်အောက်ဆိုက်တို့ ခြားနားပုံမှာ ကာဗွန်မွန်အောက်ဆိုက်၏ မော်လီကျူး တခုတွင် ကာဗွန်အက်တမ် တခုနှင့် အောက်ဆီဂျင်အက်တမ် တခုသာ ပါရှိ၏။ ယင်း၏ ဓါတုသင်္ကေတမှာ CO ဖြစ်သည်။

ကာဗွန်မွန်အောက်ဆိုက် ရရှိလိုသော် မီးသွေးကို လေ အလုံအလောက် မပေးဘဲ မီးရှို့ပါက မီးသွေးရှိ ကာဗွန်နှင့် လေအတွင်းရှိ အောက်ဆီဂျင်တို့သည် ပူးပေါင်း၍ ကာဗွန်မွန်အောက်ဆိုက် ဖြစ်လာသည်။

**မီးသွေး + အောက်ဆီဂျင် (မလုံမလောက်) = ကာဗွန်မွန်အောက်ဆိုက်**

ကာဗွန်မွန်အောက်ဆိုက်ကို ကာဗွန်ဒိုင်အောက်ဆိုက်မှလည်း ရရှိနိုင်၏။ ကာဗွန်ဒိုင်အောက်ဆိုက် ဓါတ်ငွေ့ကို ရဲရဲတောက်နေသော မီးကျီးခဲများ အပေါ်မှ ဖြတ်သန်းသွားစေခြင်းဖြင့် ကာဗွန်မွန်အောက်ဆိုက် ဓါတ်ငွေ့ကို ရရှိနိုင်သည်။



$$CO_2 + C = 2\,CO$$

**ကာဗွန်ဒိုင်အောက်ဆိုက် + မီးကျီးခဲ = ကာဗွန်မွန်အောက်ဆိုက်**

**ကာမမြို့**။ ။ကာမမြို့သည် မြန်မာနိုင်ငံ အလယ်ပိုင်း သရက်ခရိုင်တွင် မြို့နယ်ရုံးစိုက်ရာ ဖြစ်သည်။ သရက်မြို့ တောင်ဖက် ၂၃ မိုင်အကွာ ဧရာဝတီမြစ် အနောက်ဖက်ကမ်း အတွင်းပိုင်းကျကျတွင် တည်ရှိသည်။ မြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၅၇၅ ခန့်ရှိ၍ ၁၉၅၃ ခုနှစ်တွင် ကျေးရွာပေါင်း ၁၅၇ ရွာ၊ သူကြီးပိုင် ၅၂ ပိုင်ပါဝင်သည်။ မြို့နယ်တွင် အိမ်ခြေပေါင်း ၉,၄၅၉ ခန့်နှင့် လူဦးရေ ၄၄,၅၂၀ ရှိသည်။ မြို့ပေါ်တွင်မူ အိမ်ခြေ ၉၀၆၊ လူဦးရေ ၃,၅၂၃ ရှိသည်။

ကာမမြို့ကို ကံမမြို့ဟု ရှေးက ခေါ်တွင်ခဲ့သည်ဟု ဆိုသည်။ ကံမ သို့မဟုတ် ကမ္မဟု ခေါ်တွင်ခြင်းမှာ သက္ကရာဇ် ၅၂၀ခု နှစ်လောက်တွင် အလောင်းစည်သူမင်းသည် ဖေါင်တော်ဖြင့် ဧရာဝတီမြစ်အတိုင်း စုန်ဆင်းလာရာ၊ မြို့နေရာအနီးတွင် ဖေါင်တော် ရပ်တန့်နေသဖြင့် အကြောင်းကို စုံစမ်း၍ ဖေါင်တော်အောက်တည့်တည့်ရှိ ဗုဒ္ဓရုပ်ပွားတော်ကို ဖေါ်ယူပင့်တင်ပြီးလျှင် ဥပနာကာစေတီတည်သည်။ ထိုစေတီကို ဘုရားပေါ်ဘုရားဟုဘွဲ့ချီ၍ မြို့အမည်ကိုလည်း ကံထောက်မ၍ ဘုရားရုပ်ပွားတော်ကို ဖူးတွေ့ရခြင်းကြောင့် ကံမမြို့ဟု သမုတ်ခေါ်တွင်စေသည်ဟု ဆိုလေသည်။ ထိုစေတီမှာ ယခုအခါ ဘုရားဘော်ဟု တွင်သည်။ ဘုရားဆယ်ယူရန် ရွှေဖျင်ကို ယူဆောင်ဆက်သသော အရပ်ကို ရွှေဖျင်ဆောင်ရွာဟုသမုတ်ရာ ယခုအခါ သပျင်ဆောင်ရွာဟု အမည်တွင်လျက်ရှိသည်။

ကာမမြို့ကို သက္ကရာဇ် ၄၅၀ ပြည့်နှစ် မတိုင်မီက မေခဝတီမြို့ဟု ခေါ်တွင်၍ မေခဝတီမြို့စား ဦးဆောင်းသည် ရွှေမြင်



သရက်ခရိုင် ကာမမြို့၏ မြင်ကွင်းတရပ်




ကာဇန်ဥယျာဉ်ကို ဖြတ်ကျော်တွေ့မြင်ရသော ကာလကတ္တားမြို့၏ ရှုခင်းတရပ်

မိ (ယခုရွှေမြင်တင်) ဆုတောင်းပြည့်စေတီကို တည်ထားခဲ့သည်ဟုလည်း အဆိုရှိသည်။ ထိုစေတီအနီးရှိ ပေ ၄၀ ကျော်မြင့်သော ခြင်္သေ့ရုပ် ၂ ခုမှာလည်း ဦးဆောင်း၏ ကောင်းမှုဖြစ်သည်ဟု ဆိုသည်။

ကာမမြို့မှာ အရောင်းအဝယ် စည်ကားသော မြို့ကလေးဖြစ်သည်။ ကာမမြို့နယ်တွင် ဆေးများစိုက်ပျိုး၍ ဆေးပြင်းလိပ်များကို အကြီးအကျယ် ထုတ်လုပ်သည်။ ဂျမ်းထောင်ကာမဆေးမှာ မြန်မာတနိုင်ငံလုံး ထင်ရှားသော ဆေးမျိုးကောင်းတရပ် ဖြစ်သည်။ ဆေးအပြင် ကြက်သွန်၊ ငရုတ်၊ အထည်အလိပ်၊ ဝါး၊ ဖျာများ ထွက်ရှိသေးသည်။ ကာမမြို့နယ်မှထွက်သော ကျွန်းသစ်မှာ မြန်မာနိုင်ငံမှ ပြည်ပသို့ ပို့ထုတ်သော ကျွန်းသစ်များ၏ ၁၅ ပုံ ၁ ပုံခန့် ရှိ သည်။

ကာမမြို့နယ်တွင် ထင်ရှားသော အဆောက်အအုံများမှာ မဒေးဝ ရပ်ကွက်ရှိ မေခဝတီမြို့စားတည် ရွှေမြင်မိဘုရား၊ မြင်ဒင်ကုန်းရှိ အလောင်းစည်သူမင်းကြီးတည် ရွှေမြင်တင်ဘုရား၊ ကန်ဦးကုန်းရှိ ဘုရားဘော်ဘုရား၊ နတ်မီးကုန်းရှိ ဖေါင်တော်ဦးဘုရား၊ မုဋ္ဌောကုန်းရှိ ရွှေမုဋ္ဌောဘုရား စသည်တို့ ဖြစ်သည်။

**ကာလကတ္တားမြို့။** ။ကာလကတ္တားမြို့သည် အိန္ဒိယနိုင်ငံတွင် အကြီးဆုံးမြို့ဖြစ်၍၊ ဂင်္ဂါမြစ်၏ အနောက်ဖက်ဆုံး မြစ်ခွဲဖြစ်သော ဟူဂလီမြစ် ကမ်းပေါ်တွင် တည်ရှိသည်။ ဗင်္ဂလားအော်မှ ၈၆ မိုင်ခန့် ကွာဝေးသော်လည်း နက်ရှိုင်းကောင်းမွန်သော ဆိပ်ကမ်းရှိခြင်းကြောင့် ပင်လယ်ကူး သင်္ဘောကြီးများ ဝင်ထွက်သွားလာနိုင်သည်။ ဂင်္ဂါမြစ်ဝှမ်းနှင့် ဗြဟ္မပုတ္တရမြစ်ဝှမ်းတို့မှ ထွက်သော ဝါ၊ ဂုံလျှော်၊ ဘိန်း၊ စပါး၊ လက်ဖက်ခြောက်၊ သကြား၊ ပိုး၊ သားရေစိမ်း စသော ကုန်စည်များသည် မြစ်လမ်းမှရင်း၊ တူးမြောင်းလမ်းမှရင်း၊ ကာလကတ္တားမြို့သို့ စုရုံး ရောက်ရှိလာကြသည်။ မီးရထားလမ်းကြီး ၃ ခုကလည်း ကာလကတ္တားမြို့၌ဆုံကြသည်။ မြို့တွင်းနှင့် မြို့ပတ်ဝန်းကျင်တို့တွင် ဝါစက်၊ ဂုံလျှော်စက်၊ သကြားစက် စသည့် စက်ရုံကြီးများလည်း ရှိသည်။ ဟူဂလီမြစ် ကမ်းတလျှောက်၌ ရှိသော ၁၀ မိုင်ခန့်ရှည်လျားသည့် ကမ်းကပ်ဆိပ်များနှင့် သင်္ဘောကျင်းများမှာလည်း မြစ်ကြောင်းသွား လှေ သင်္ဘောကလေးများနှင့် ပင်လယ်ကူးသင်္ဘောကြီးများ ကုန်စည်ချင်းဖလှယ်ကာ သယ်ယူပို့ဆောင်ရာ ဆိပ်ကြီးသဖွယ် ဖြစ်နေသည်။ ထိုအကြောင်းတို့ကြောင့် ကာလကတ္တားမြို့သည် အိန္ဒိယနိုင်ငံ၏ တံခါးမကြီးတခု ဖြစ်နေသည်သာမက၊ ကမ္ဘာ့ရောင်းဝယ်ရေး၌လည်း အထူးပင် ထင်ရှားလျက်ရှိလေသည်။ တဖက်ကမ်းရှိ ဟောင်ရာမြို့သို့ ပေပေါင်း ၁,၅၃၀ ရှည်သော ဖေါ့ခံတန်တားကြီးတခု ဖေါက်လုပ်ထားရာ ထို



ကာလကတ္တားမြို့ရှိ ပန်းပုလက်ရာပြောက်လှသော ဂျိုင်းအယူဝါဒ ဘုရားကျောင်း




ကာလကတ္တားမြို့ရှိ ဟောင်ရာဗေါ့ခ်တန်တား။ ကမ္ဘာအရှေ့ပိုင်း၌ အစည်ကားဆုံး တန်တားတခုဖြစ်၏။

တန်တားကြီးမှာ အရှေ့ဖျား တိုင်းပြည်များတွင် အစည်ကားဆုံး တန်တားတခုဟု ဆိုကြသည်။ ယခုအခါ ဟောင်ရာမှာ ကာလကတ္တားမြို့၏ ဆင်ခြေဖုံး ရပ်ကွက်တခု ဖြစ်လျက် စက်မှုလုပ်ငန်း ထွန်းကားနေလေသည်။

ကာလကတ္တားမြို့သည် ၁၉၁၂ ခုနှစ်တိုင်အောင် အိန္ဒိယအစိုးရ၏ ရုံးစိုက်ရာ မြို့တော်ဖြစ်ခဲ့၏။ ရှေးဟောင်းမြို့ကြီးဖြစ်သဖြင့် လမ်းများမှာ ဖြောင့်တန်းခြင်းမရှိဘဲ ကွေ့ကောက်သည်က များသည်။ ဆင်ခြေဖုံး ရပ်ကွက်တို့တွင် လမ်းများမှာ အလွန်ကျဉ်းမြောင်း၍ ညစ်ပတ်ပေရေနေကြ၏။ သို့ရာတွင် မိုင်ဒန်ကွင်း အရှေ့ဖက်ရှိ ဥရောပတိုက်သားတို့ နေထိုင်ရာ ရပ်ကွက်မှာမူ သန့်ရှင်းစင်ကြယ်၍ ခမ်းနားထည်ဝါသောတိုက်အိမ်ကြီးများဖြင့် ခန့်ညားလှပေသည်။ မိုင်ဒန်ကွင်းကြီး၏ အလယ်တွင် ဖို့ဝီလျံခေါ် ရှေးဟောင်းခံတပ်ကြီးရှိ၏။ ထိုခံတပ်ကြီးကို ၁၇၅၇ ခုနှစ်တွင် စစ်ဗိုလ်ချုပ် လော့ကလိုက် အသစ်ပြင်ဆင် တည်ဆောက်ခဲ့ရာ ၁၇၇၃ ခုနှစ်တွင်မှ လက်စသတ်ခဲ့သည်။ ခံတပ်၏ မြောက်ဖက်၌ အစိုးရအိမ်တော်တည်ရှိ၍ တောင်ဖက်တွင် ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီး၊ မြင်းပြိုင်ကွင်း နှင့် ဝိတိုရိယဘုရင်မကြီး အထိမ်းအမှတ် ခန်းမဆောင်ကြီးတို့ တည်ရှိကြသည်။

ကာလကတ္တားမြို့၏ အလယ်တွင် တက္ကသိုလ်ကျောင်းတိုက် တည်ရှိရာ အပေါင်းပါ ကောလိပ်ကျောင်းပေါင်း ၈၀ ကျော်ခန့် ပါဝင်လျက် ကျောင်းသားပေါင်း ၄၀,၀၀၀ ကျော်ခန့် ရှိသဖြင့် ကမ္ဘာပေါ်တွင် ကျောင်းသားအရေအတွက် အများဆုံးသော တက္ကသိုလ်တခု ဖြစ်ပေသည်။ တိုင်းရင်းသား ရပ်ကွက်တို့တွင် အိန္ဒိယ စော်ဘွားများ၏ ခမ်းနားသော နန်းတော်အနည်းငယ် ရှိလေသည်။

ကာလကတ္တားမြို့ကို အရှေ့အိန္ဒိယကုမ္ပဏီ၏ ကိုယ်စားလှယ်ချုပ်ကြီး ဂျိုဗချားနော့သည် ၁၆၉၀ ခုနှစ်တွင်တည်၍ အခြေစိုက်ခဲ့၏။ သို့ရာတွင် ထိုနယ်၏ အခြေအနေမှာ ၁၆၉၆ ခုနှစ်တွင် ဖို့ဝီလျံခံတပ်ကြီး တည်ဆောက်ပြီးမှသာ တိုးတက်ခဲ့လေသည်။ ဗင်္ဂလားပြည်နယ် နဝပ်စော်ဘွား စူရာဂျွတ် ဒေါင်လာသည် ဖို့ဝီလျံခံတပ်ကို ၁၇၅၆ ခုနှစ်တွင် ဒလကြမ်းတိုက်၍ သိမ်းပိုက်လိုက်၏။ ထိုတိုက်ပွဲတွင် အမှတ်တရ ဖြစ်ခဲ့သည်မှာ စူရာဂျွတ် ဒေါင်လာသည် အင်္ဂလိပ်လူမျိုး ၁၄၆ ယောက်ကို အလျား ၁၈ ပေ အနံ ၁၄ ပေမျှသာရှိသော အလုံထောင်ကလေးအတွင်းသို့ သွတ်သွင်းပိတ်လှောင်ထားခဲ့၏။ ထိုနွေညမှာ ပူအိုက်သော နွေဥတုညတည ဖြစ်သဖြင့် ကျဉ်းကျပ်လှောင်အိုက်သော ဒဏ်ကြောင့် နောက်တနေ့တွင် အကျဉ်းသား ၂၃ ယောက်သာလျှင် အသက်ရှင်လျက် ကျန်တော့၏။ နောင်တွင် ထိုနေရာကို 'သေတွင်း' ဟု ခေါ်တွင်ခဲ့လေသည်။ ၁၇၅၇ ခုနှစ်တွင် လော့ကလိုက်သည် ထိုနေရာကို ပြန်လည်တိုက်ခိုက်သိမ်းပိုက်လိုက်၍ ဖို့ဝီလျံ ခံတပ်သစ်ကြီးနှင့် မိုင်ဒန်ကွင်းကြီးကို တည်ဆောက် ဖွင့်လှစ်ပြီးလျှင် မြို့သစ်တည်ခဲ့လေသည်။ အိန္ဒိယပြည်၏ ပဌမဘုရင်ခံချုပ် ဖြစ်သော ဝေါရန်ဟေးစတင်းသည် ၁၇၇၂ ခုနှစ်တွင် ကာလကတ္တားမြို့ကို အစိုးရရုံးစိုက်ရာ မြို့တော် ပြုလုပ်ခဲ့၏။ ထိုအချိန်မှစ၍

၁၉၁၂ ခုနှစ်တွင် ဒေလီမြို့ကို မြို့တော်သစ်အဖြစ် ရွေးချယ်လိုက်သည့် အခါတိုင်အောင် ကာလကတ္တားမြို့ သည် အိန္ဒိယပြည်၏ မြို့တော်ဖြစ်ခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အတွင်း၌ မဟာမိတ်တို့သည် မြန်မာပြည်တိုက်ပွဲ ဆင်နွှဲရန် ကာလကတ္တားမြို့ကို အခြေခံစခန်း ပြုလုပ်ကြသဖြင့် ဂျပန်တို့သည် ထိုမြို့ကို အကြိမ်ကြိမ် ဗုံးကြဲခဲ့ကြသေး၏။ သို့ရာတွင် ပြောပလောက်အောင် ပျက်စီးခြင်း မရှိခဲ့ချေ။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနိုင်ငံကို ဒိုမီနီယန်နိုင်ငံ ၂ ခုအဖြစ်သို့ ခွဲလိုက်သောအခါ ကာလကတ္တားမြို့သည် အိန္ဒိယဒိုမီနီယန်နိုင်ငံ အနောက်ဗင်္ဂလား ပြည်နယ်ထဲသို့ ပါဝင်သွားလေသည်။ ဟောင်ရာမြို့နှင့် ဆင်ခြေဖုံး ရပ်ကွက်များကိုပါ စုပေါင်း ရေတွက်ခဲ့သော် ကာလကတ္တားမြို့၏ လူဦးရေမှာ ၃,၄၉၀,၂၈၁ (၁၉၅၁)ဖြစ်သည်။

**ကာလာသောကမင်း**။ ။ကာလာသောကမင်းမှာ သာသနာတော်ရေးဆိုင်ရာ ဒုတိယသင်္ဂါယနာ တင်သောမင်းအဖြစ်ထင်ရှားကျော်ကြားသည်။

ထိုမင်းသည် သုသုနာဂမင်း၏ သားတော်ဖြစ်၍ သာသနာအနှစ် ၉၀ ပြည့်တွင် ခမည်းတော်၏ အရိုက်အရာဖြစ်သော ဝေသာလီပြည်ကို ဆက်ခံစိုးစံသည်။ ထိုမင်းလက်ထက် ဝဇ္ဇီတိုင်းသား ရဟန်းများသည် ဝိနည်းတော်နှင့် မညီသော အမှုဝတ္ထု(ဆယ်ပါး တို့ကို ကျင့်သုံးနေကြသဖြင့် ဒုတိယသင်္ဂါယနာတင်ရန် အကြောင်းအချက် ဖြစ်ပေါ်လာသည်။ ကောသမ္ဗီပြည်၌ သီတင်းသုံးနေတော်မူသော သျှင်မဟာယသထေရ်သည် ဝဇ္ဇီတိုင်းသား ရဟန်းတို့ ဝိနည်းတရားပျက်ပြားကြောင်း ကြားသိရလျှင် များစွာစိတ်မချမ်းမသာ ဖြစ်လေ၏။ သျှင်ရေဝတထေရ်၊ သျှင်သဗ္ဗကာမိထေရ် စသော ရဟန္တာတို့အား တိုက်တွန်းနှိုးဆော်လျက် အလဇ္ဇီရဟန်းတို့၏ မိစ္ဆာဝါဒကို တွန်းလှန်ဖြေရှင်းရန် ဝေသာလီပြည် ဝါလိကာရာမ ကျောင်းတိုက်သို့ ကြွတော်မူ၏။ ဝေသာလီပြည် မဟာဝုန်ကျောင်းတိုက်၌ ရှိကြသော ဝဇ္ဇီတိုင်းသား ရဟန်းတို့က သျှင်မဟာယသထေရ် အမှူးရှိသော ရဟန်းတို့သည် မိမိတို့အား ရန်ပြုရန်လာပါသည်ဟု ကာလာသောကမင်းကြီးအား ကုံးချောကြကုန်၏။ မင်းကြီးလည်း ယုံစားမိသဖြင့် သျှင်မဟာယသထေရ် အမှူးရှိသော ရဟန္တာ ၇၀၀ တို့ မလာရအောင် တားဆီးကြချေဟု ခိုင်းတော်မူ၏။ သို့ရာတွင် မင်းကြီးစေလွှတ်သော အမတ်များနှင့် သျှင်မဟာယသထေရ်တို့ မဆုံမိကြလေ။ နောက်ဆုံးတွင် အလဇ္ဇီရဟန်းတို့၏ ကောက်ကျစ်သော အကြံအစည်ကို သိရှိသောအခါ မင်းကြီးသည် နောင်တကြီးစွာ ရပြီးလျှင် ကောသမ္ဗီရဟန်းတို့ထံကိုယ်တိုင်သွားရောက် ဆည်းကပ်လျက် ပစ္စည်းလေးပါး ဒါယကာ အဖြစ် ခံယူလေသည်။

နှစ်ဦးနှစ်ဖက် ရဟန်းပရိသတ်တို့ ဆုံမိကြလျှင် သျှင်ရေဝတထေရ်၊သျှင်သဗ္ဗကာမိထေရ်တို့က တရားမှန်ကို ညွှန်ပြဆုံးမတော်မူလေသည်။ ဝဇ္ဇီတိုင်းသား ရဟန်းတို့လည်း မိမိတို့အမှားများကို ဝန်ခံ၍ ဝိနည်းတရားမှန်ကို လက်ခံဆောက်တည်ကြကုန်၏။ ထိုနောက် မြတ်စွာဘုရား၏ တရားတော်များ နောင်အခါ တိမ်းပါးချွတ်ချော်ခြင်း မရှိစေဘဲ ခိုင်မြဲသည်ထက် ခိုင်မြဲစေရန် သင်္ဂါယနာ တင်သင့်ကြောင်း ဆွေးနွေးကြသည်။ ကာလာသောကမင်းကြီးလည်း ကျောင်းသင်္ခမ်း အစရှိသော လိုဖွယ်ကိစ္စတို့ကို ကပ်လှူတော်မူသည်။ ဤသို့လျှင် မဟာယသထေရ် အမှူးရှိသော ရဟန္တာခုနစ်ရာတို့သည် သာသနာအနှစ် ၁၀၀ ပြည့်တွင် ၈ လတိုင်တိုင် ဒုတိယသင်္ဂါယနာ တင်တော်မူကြသည်။ ဒုတိယသင်္ဂါယနာ တင်ရာ၌ ပဌမသင်္ဂါယနာ မှာကဲ့သို့ပင် နှုတ်ဖြင့်သာ ရွတ်ဖတ်ညှိနှိုင်းကာ တင်ဆိုကြလေသည်။

ထိုစဉ်အခါတွင် အကြီးအမှူး ပြုကြကုန်သော သျှင်မဟာယသထေရ်၊ သျှင်ရေဝတထေရ်၊ သျှင်သဗ္ဗကာမိထေရ်၊ သျှင်သာဠှထေရ်၊ သျှင်ခုဇ္ဇသောဘိတထေရ်၊ သျှင်သမ္ဘူတထေရ်တို့မှာ မြတ်စွာဘုရားသခင်အား မျက်ဝါးထင်ထင် ဖူးတွေ့လိုက်ကြရသည့်အပြင် ရှင်အာနန္ဒာနှင့် အတူနေ ရဟန်းများလည်း ဖြစ်ကြကုန်သည်။

ယင်းသို့ ဒုတိယသင်္ဂါယနာ တင်သည့်အကြောင်းကို 'ဝေသာလီ ပြည်ကြီးရှင်၊ဘုရင်ကာလာသောက မင်းတရားလက်ထက်၊ ဆယ်ချက်သော အဓမ္မိက၊ ဥဗ္ဗိနယ ဝါဒီဖြင့်၊ ဝဇ္ဇီတိုင်းသား ရဟန်းများတို့၊ ဖေါက်ပြားသည်ကို အကြောင်းမူ၍၊ နိဗ္ဗုတာရုံ၊ ပြည့်စုံလက်ရှိ၊ သိဒ္ဓိမြောက်ပြီး၊ ထေရ်ကြီးခုနစ်ရာ၊ ရဟန္တာတို့သည်၊ ရှင်မဟာယသ၊ ထေရိန္ဒကို၊ ဂဏပါမောက်၊ အကြီးမြောက်၍၊ မေးလျှောက်ဖြေပြန်၊ အတ္ထန္တရ၊ ပေါ်ပြလင်းလင်း၊ ရှင်းပစေလျက်၊ ကိုးထွေအင်္ဂါ၊ ဒေသနာကို၊ မုခါရဠိ၊ ပေါင်းညီရွစ်လ၊ ရွတ်အံကြ၍၊ ဒုတိယသံဂါယနာ တင်ပါသည်' ဟု ဦးပုည၏ သာသနာလျှောက်အခမ်းတွင် ရေးသားထားလေသည်။

**ကာလီဒါသ**။ ။ကာလီဒါသသည် လွန်ခဲ့သော နှစ်ပေါင်း ၂၀၀၀ ခန့်က အိန္ဒိယနိုင်ငံ ဥဇ္ဇေနီပြည် ဝိကြမာဒိတျမင်းကြီး၏ ပညာရှိ စာဆိုတော်ကြီးတဦး ဖြစ်သည်။ ကာလီဒါသခေတ်ကို အချို့က ဘီစီ ၁ ရာစုနှင့် အေဒီ ၆ ရာစုနှစ်ကာလဟု အသီးသီး မှန်းဆ၍ အချို့ကမူ သူ၏ စာအရေးအသားကို ထောက်ဆကာ အေဒီ ၄ ရာစုနှစ် ကာလဟု မှန်းဆသည်။ သက္ကရာဇ် အတိအကျ ပေါ်ပြသောကျမ်း မတွေ့ရှိချေ။ မြန်မာဘာသာကျမ်းများ၌ ကာသိကရာဇ်တိုင်း ဗာရာဏသီပြည် နန္ဒိရာဇာမင်းနှင့် ဘာနုမန္တီမိဖုရားလက်ထက်ဟု ပေါ်ပြသည်။

ကာလီဒါသ ထင်ရှားရခြင်းမှာ သူ၏ ယခုတိုင် ထင်ရှားသော 'သကုန္တလ' ဝတ္ထုကြောင့် ဖြစ်သည်။ ထိုဝတ္ထုကို မူလသက္ကတဘာသာဖြင့် ရေး၍ နောက် ဘင်္ဂါလီဘာသာ၊ ဒေဝနာဂရီဘာသာများသို့ ပြန်ဆိုသည်။ ၁၇၈၉ ခုနှစ်တွင် ဆာဝီလျံဂျုန်းက အင်္ဂလိပ်ဘာသာသို့ ပဌမဆုံး ပြန်ဆိုသဖြင့် သက္ကတဘာသာကို အနောက်တိုင်းမှ ပိုမို စိတ်ဝင်စား လာကြသည်။ ထိုနောက် ဂျာမန်ဘာသာ၊ ပြင်သစ်ဘာသာများသို့လည်း ပြန်ဆိုကြသည်။ ရုပ်ရှင်ဇာတ်ကားအဖြစ်လည်း ရိုက်ကူးထားသည်။

ကာလီဒါသသည် အခြားပြဇာတ်များကိုလည်း ရေးသေးသည်။ ယင်းတို့မှာ 'ဝိကြမောဝါသီ' နှင့် 'မာလာဝိကနှင့်အဂ္ဂိမိတြ' ဇာတ်များ ဖြစ်သည်။ သက္ကတဂန္ထဝင်၌ လွန်စွာ ထင်ရှားသည်။ ထိုဇာတ်များကိုလည်း ဘာသာအသီးသီးသို့ ပြန်ဆိုထားသည်။

ကာလီဒါသသည် သက္ကတဘာသာဖြင့် ဆန်းကြယ်နက်နဲသော ကဗျာများစွာကိုလည်း ရေးရာ အထင်ရှားဆုံးမှာ တိမ်စေတမာန်ခေါ် 'မေဃဒူတ' ကဗျာ ဖြစ်သည်။ နှစ်၏ ရာသီ ၆ ပါး သာယာပုံသဘာဝကို ဖွဲ့ဆိုသော 'ရိတုသမ္ဘာရ' ကဗျာမှာလည်း ထင်ရှားသည်။ ထိုကဗျာများပြင် ရာမမင်းသား ဇာတ်အိမ်ဖွဲ့သော 'ရာဂုဝံသနှင့် ကုမာရသမ္ဘဝ' ကဗျာကိုလည်း ရေးသည်။ စိတ်ကူးနက်နဲ၍ အဖွဲ့အနွဲ့ ယဉ်ကျေးသိမ်မွေ့သည်။

မြန်မာကျမ်းဂန်များတွင် ကာလီဒါသဟူသော ပညာရှိဆရာကြီး၏ အကြောင်းကို ဤသို့ ဖော်ပြလေ့ရှိသည်။

ရှေးအခါ ဗာရာဏသီပြည်၌ နန္ဒိရာဇာမင်းနှင့် ဘာနုမန္တီမိဖုရားကြီးလက်ထက်တွင် ပညာရှိ ကာလီဒါသဆရာ ရှိသည်။ စိတ္တရံသီ ဟူသော ပန်းချီဆရာတဦးလည်း ရှိသည်။ ကာလီဒါသသည် အသံကြားရုံဖြင့် ရုပ်ပုံကို ဆုံးဖြတ်နိုင်စွမ်းရှိ၍ မိဖုရားကြီး၏ ပုံတူရေးရန် တာဝန်ကျသော စိတ္တရံသီ ပန်းချီဆရာကို ကူညီသည်။ ပန်းချီဆရာသည် မိဖုရား၏ပုံ၌ လျှို့ဝှက်သော နေရာတွင် မှဲ့ရှင် ၃ လုံး ရှိပုံကိုပါ ရေးဆွဲ၍ ဆက်သရာ ပန်းချီဆရာအား မိဖုရားနှင့် မသက်သာသဖြင့် စစ်ဆေးသည်။ ကာလီဒါသ ပြောပြကြောင်း သိသော် ကာလီဒါသကို သတ်စေသည်။ ကမ္မသိဒ္ဓိကာ အမတ်က ဝှက်ထား၍ အသက်ချမ်းသာသည်။

တနေ့သော် မင်း၏သားတော် သုဒေဝသည် တောကစားရာမှအပြန် ဝံသူတော် သင်ကြားလိုက်သော (သ–သေ–မိ–ယ) စကားလေးလုံး ရရှိခဲ့ရာ အဓိပ္ပါယ်ကို မည်သူမျှ မဖော်နိုင်လျှင် ကာလီဒါသသည် အမတ်ကြီး၏ သမီးအဟန်ဖြင့် တင်းတိမ်တွင်းမှ ဖြေဆိုသည်။ ဘုရင်က စစ်မေးသော် ကာလီဒါသဖြစ်ကြောင်း သိ၍ ရှေးကအပြစ်ကို လွှတ်ကာ ချီးမြှောက်ပြန်သည်။

တနေ့သော် ကြာဖူးတခုတွင် ပိတုန်းဝင်သဖြင့် လေမလာဘဲ အလိုလိုလှုပ်ရာ ဘုရင်က အကြောင်းရင်းကို ဖြေဆိုနိုင်က ယောကျ်ားဖြစ်လျှင် အမတ်ကြီးအရာ မိန်းမဖြစ်လျှင် မိဖုရားအရာ ပေးမည်ဟု စည်လည်စေသည်။ ပြည့်တန်ဆာမတဦးက ကာလီဒါသပျော်ပါးခိုက် မေးပြီးသိ၍ ဆရာပေါ်မည် စိုးသောကြောင့် ကာလီဒါသ အိပ်ပျော်စဉ် သတ်လိုက်သည်။ ပြည့်တန်ဆာမသည် ဘုရင်ထံ အဖြေပေးနိုင်သော်လည်း စစ်မေးရာ အပြစ်ပေါ်၍ ဒဏ်သင့်ရသည်။ ဤသို့အားဖြင့် ကာလီဒါသဆရာ အနိစ္စရောက်သည်ဟု အဆိုရှိသည်။

**ကာလီဖိုးနီးယားပြည်နယ်။** ။သိင်္ဂါရွှေပြည် ဟူ၍လည်း ခေါ်ကြသော ကာလီဖိုးနီးယား ပြည်နယ်သည် ပစိဖိတ်သမုဒ္ဒရာ ကမ်းခြေတွင် ရှိ၍ အမေရိကန်ပြည် ထောင်စုတွင် အပါအဝင် ပြည်နယ်တနယ် ဖြစ်သည်။ သိင်္ဂါရွှေပြည်ဟု ခေါ်ကြခြင်းမှာ ကမ္ဘာ့အဖိုးတန် ရွှေတွင်းများ ရှိခြင်းကြောင့်ဖြစ်၏။

၁၆ ရာစုနှစ်လောက်က နယူးစပိန်ဟု အမည်တွင်ခဲ့သော မက္ကဆီကိုနိုင်ငံ၌ လာရောက် နေထိုင်ကြသည့် စပိန်လူမျိုးတို့သည် မြောက်ဖက်တွင် သိင်္ဂါရွှေပြည်အရပ် ရှိသည်ဟု စိတ်ကူးယဉ်ယဉ်နှင့် တွေးတော ပြောဆိုခဲ့ကြသည်။ ထိုသို့ ပြောဆိုကြသော သတင်းစကားကြောင့် ၁၅၄၂–၄၃ ခုနှစ်များတွင် ဟွမ် ရိုဒရီဂေ့ ကားဗရီးဟိုး ဆိုသူ ပေါ်တူဂီလူမျိုးတဦးသည် စပိန်သင်္ဘော တစင်းဖြင့် ရွှေတွင်းများရှိရာ အရပ်ကို စူးစမ်းရှာဖွေရန် ခရီးထွက်ခဲ့ရာ ဆန်ဒီယေးဂိုးပင်လယ်အော်ထဲသို့ ရောက်ရှိခဲ့လေသည်။

၁၅၇၉ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဆာ ဖရန်စစ် ဒရိတ်သည် ကာလီဖိုးနီးယား ကမ်းခြေပေါ်သို့ ပဌမဆုံး တက်ရောက်ခဲ့သည်။ ထိုနောက် ပင်လယ်ခရီးတွင် စွန့်စားဝံ့သော အခြား ပုဂ္ဂိုလ်များလည်း ကာလီဖိုးနီးယား ကမ်းခြေသို့ ရောက်ခဲ့ကြ၏။ သို့သော် နောက်နှစ်ပေါင်း ၂၀၀ ခန့်ကြာမှ ကာလီဖိုးနီးယားတွင် လူများ အတည်တကျ နေထိုင်စ ပြုခဲ့လေသည်။ ရှေးဦးစွာ လာရောက်နေထိုင်သူများမှာ မက္ကဆီကိုမှ ဖရန်စစ္စကန် ဘုန်းကြီးများ ဖြစ်သည်။ ထိုနောက် ၁၇၆၉ ခုနှစ် နှင့် ၁၇၇၀ ပြည့် နှစ်များတွင် စပိန်အစိုးရသည် ကာလီဖိုးနီးယား ပြည်နယ်ကို သိမ်းပိုက်လိုက်၏။ မွန်းထရေးမြို့သည် ကာလီဖိုးနီးယားပြည်နယ်၏ ပဌမဆုံးမြို့တော် ဖြစ်ခဲ့သည်။

စပိန်အစိုးရ လက်ထက်တွင် ကာလီဖိုးနီးယား ပြည်နယ်သည် ငြိမ်းချမ်းသာယာ၍ စည်ပင်ဝပြောသည်။ စပိန်တို့၏ လက်အောက်တွင် နှစ်ပေါင်း ၅၀ ကျော်မျှ ကျရောက်ခဲ့၏။ ထိုခေတ်မှ ကြွင်းကျန်ခဲ့သော အရာများအနက် ဖရန်



ဆန်ဖရန်စစ္စကိုမြို့ အရှေ့ဖက်ရှိ ကင်နဒီရွှေတွင်း။ တမိုင်ကျော်နက်သဖြင့် ကမ္ဘာ့တွင် အနက်ဆုံးတခုဖြစ်၏။



ကမ်းကပ်ဆိပ်၊ ကုန်လှောင်ရုံ၊ မီးရထားလမ်းများဖြင့် စံနစ်တကျ တည်ဆောက်ထားသော လော့စိန်းဂျလီးမြို့ သင်္ဘောဆိပ်

# ကာလီဖိုးနီးယားပြည်နယ်



ကာလီဖိုးနီးယားပြည်နယ်ရှိ သဲခုံများဖြင့်ပြည့်နှက်ကာ ပင်လယ်ပြင်အောက် ပေ ၂၀၀ ကျော်နိမ့်သည့် 'သေမင်းချိုင့်ဝှမ်း'

စစ္စကန် သာသနာပြုအဖွဲ့များနှင့် ယင်းတို့ တည်ဆောက်ခဲ့သော ထူးခြားသည့် အဆောက်အအုံများမှာ စိတ်ဝင်စားဖွယ် ဖြစ်ပေသည်။ ၁၈၂၂ ခုနှစ်တွင် မက္ကဆီကိုနိုင်ငံသည် စပိန်အစိုးရကို တော်လှန်ပုန်ကန် ခဲ့ပြီးနောက်လွတ်လပ်လာသောအခါ ကာလီဖိုးနီးယား ပြည်နယ်သည် မက္ကဆီကိုနိုင်ငံ၏ လက်အောက်ခံနယ် ဖြစ်လာလေသည်။

နှစ်ပေါင်းအစိတ်ခန့် မက္ကဆီကိုနိုင်ငံ လက်အောက်တွင် ရှိခဲ့ပြီးနောက် မက္ကဆီကိုစစ်ပွဲအပြီး ၁၈၄၈ ခုနှစ်တွင် ချုပ်ဆိုခဲ့သော စာချုပ်အရ အမေရိကန်အစိုးရသည် ကာလီဖိုးနီးယား ပြည်နယ်ကို သိမ်းပိုက်လိုက်လေသည်။ ထိုနှစ်အတွင်း၌ပင် ရွှေကို စတင်တွေ့ရှိလေရာ အမေရိကန်တို့သည် ကာလီဖိုးနီးယား ပြည်နယ်ထဲသို့ တသဲသဲ ဝင်ရောက်လာကြသည်။ ယင်းသို့ ရွှေရှာလာသူများကြောင့် စည်ကားလာ၍ ၁၈၅၀ ပြည့်နှစ်တွင် အမေရိကန် ပြည်ထောင်စုအတွင်းသို့ ပြည်နယ်တခုအဖြစ် ပါဝင်ခဲ့လေသည်။ ထိုအခါ ကာလီဖိုးနီးယား ပြည်နယ်သည် အဖက်ဖက်မှ တိုးတက်လာ၏။ ဆည်မြောင်းများ ဖေါက်ခြင်းဖြင့် ကန္တာရ အရပ်ဒေသများကို စိုက်ပျိုးလုပ်ကိုင်နိုင်အောင် ပြုပြင်ခဲ့လေသည်။ အမေရိကန်ပြည်ထောင်စု အရှေ့ပိုင်းမှ စတင်၍ ကာလီဖိုးနီးယားပြည်နယ်ရှိ ဆီယယ်ရာ နီဗားဒ တောင်တန်းကို ဖြတ်ကာ ပစိဖိတ်သမုဒ္ဒရာ ကမ်းအရောက် မီးရထားလမ်း ဖေါက်လုပ်ခဲ့၏။ ၁၉၀၆ ခုနှစ်တွင် ငလျင်ကြောင့် မီးလောင်ပျက်စီးခဲ့သော ဆန်ဖရန်စစ္စကို မြို့ကိုလည်း ၃ နှစ်အတွင်း ပြန်လည်တည်ဆောက်ခဲ့လေသည်။

ကာလီဖိုးနီးယား ပြည်နယ်သည် မြောက်ဖက်တွင် ဩရိဂန်ပြည်နယ်၊ အရှေ့ဖက်တွင် နီဗားဒနှင့် အယ်ရီဇိုးနားပြည်နယ်၊ တောင်ဖက်တွင် မက္ကဆီကိုနိုင်ငံတွင်းရှိ အောက်ပိုင်း ကာလီဖိုးနီးယားနယ်၊ အနောက်ဖက်တွင် ပစိဖိတ်သမုဒ္ဒရာ တို့ဖြင့် နယ်နိမိတ် ပိုင်းခြားသတ်မှတ် တည်ရှိလေသည်။ ထိုပြည်နယ်သည် အမေရိကန် ပြည်ထောင်စုဝင် ပြည်နယ်များတွင် ဒုတိယ အကျယ်ဝန်းဆုံး ဖြစ်သည်။ စတုရန်းမိုင် ၁၅၈,၆၉၃ ကျယ်ဝန်း၍၊ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ၁၀,၅၈၆,၂၂၃ မျှ ဖြစ်သည်။ ကာလီဖိုးနီးယား ပြည်နယ်၏ ရာသီဥတုမှာ ကမ္ဘာပေါ်တွင် အသာယာဆုံးဖြစ်သည်ဟု ဆိုလေသည်။

ကာလီဖိုးနီးယား ပြည်နယ်တွင် ဆန်စပါး၊ ဂျုံ၊ မုယော၊ ဝါဂွမ်း၊ သကြားမုန်လာ စသည့် ကောက်ပဲသီးနှံများအပြင် သစ်သီးဝလံများလည်း စိုက်ပျိုးသည်။ သစ်သီးများအတွက် နာမည်ထင်ရှားသော ပြည်နယ်ဖြစ်သည်။ စိုက်ပျိုးရေး လုပ်ငန်းအပြင် သစ်သီး၊ အသား၊ ငါးနှင့် ဟင်းသီးဟင်းရွက်များကို စည်သွတ်သော လုပ်ငန်းနှင့် ရေနံချက်လုပ်ငန်း၊ သစ်လုပ်ငန်း၊ ရုပ်ရှင်လုပ်ငန်း စသည်တို့မှာ အခြားထင်ရှားသော လုပ်ငန်းများ ဖြစ်သည်။ ကာလီဖိုးနီးယား ပြည်နယ်သည် သဘာဝအလျောက် သာယာသော ရှုမျှော်ခင်းတို့ ဖြင့် ပြည့်စုံသည့်ပြည်နယ် ဖြစ်ပေသည်။ ထိုပြည်နယ်တွင် သေမင်းချိုင့်ဝှမ်းဟု ခေါ်သော ဆန်းကြယ်သည့် ချိုင့်ဝှမ်းတခု ရှိသည်။ ထိုချိုင့်ဝှမ်းသည် ပင်လယ်ပြင်အောက် ပေ ၂၈၀ မျှ နိမ့်လေသည်။ ကြီးမားလှသော သစ်ပင်ကြီးများ ပေါက်ရောက်၍ ထင်ရှားသည့် ဆီယယ်ရာ နီဗားဒ တောင်တန်းတွင် ရှိသော ဝှစ်တနီ

တောင်ထိပ်သည် အလာစကာ ပြည်နယ်ရှိ တောင်ထိပ် တခုကို ချန်လှပ်လျှင် အမေရိကန် ပြည်ထောင်စုတွင် အမြင့်ဆုံးဖြစ်၍ ပေပေါင်း ၁၄,၄၉၅ ပေမျှ မြင့်သည်။

နီဗားဒ တောင်တန်းနှင့် ကိုစရိန် တောင်တန်း နှစ်ခုကြားတွင် ကာလီဖိုးနီးယား ချိုင့်ဝှမ်းကြီး ရှိလေသည်။ အနောက်ဖက်ရှိ ဝီလဆန် တောင်ပေါ်၌ အမေရိကန် ပြည်ထောင်စုတွင် အရေးပါဆုံး နက္ခတ်မျှော်စင်ကြီးတခု ရှိ၏။ ကာလီဖိုးနီးယား ပြည်နယ်၏ မြို့တော်မှာ ဆက္ကရာမင်တိုမြို့ဖြစ်သည်။ အခြား ထင်ရှားသော မြို့ကြီးများမှာ ပစိဖိတ် သမုဒ္ဒရာကမ်းရှိ ဆန်ဖရန်စစ္စကိုမြို့နှင့် လော့စိန်းဂျလီးမြို့တို့ဖြစ်သည်။ လော့စိန်းဂျလီးမြို့ အနီးတွင် ဟောလီးဝုဒ ရုပ်ရှင်မြို့ကြီး တည်ရှိလေသည်။ မက္ကဆီကို နိုင်ငံဖက်ကျသော ဆန်ဒီယေးဂိုးမြို့နှင့် ဆန်ဖရန်စစ္စကို ပင်လယ်အော် ကမ်းနဖူးတွင် ရှိသော အုတ်ကလန်မြို့ တို့မှာလည်း အတန်ထင်ရှားသော မြို့များဖြစ်ကြပေသည်။

**ကာလိုင်း, တီ** (ခရစ် ၁၇၉၅–၁၈၈၁)။ ။သောမတ် ကာလိုင်းမှာ စကော့လူမျိုး ကမ္ဘာကျော် စာရေးဆရာကြီးတဦး ဖြစ်၏။ ၁၇၉၅ ခုနှစ် ဒီဇင်ဘာလ ၄ ရက်နေ့တွင် စကော့တလန်ပြည် ဒမ်ဖရီးရှိုင်ယာ အက်ကယ်လဖက်ကန် ရွာ၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ ဆင်းရဲနွမ်းပါးသော ကျောက်ပုရန် သမားတဦး ဖြစ်၍၊ ကာလိုင်းသည် သားသမီးရစ်ယောက်တွင် သားအကြီးဆုံး ဖြစ်လေသည်။

အလုပ်သမားတဦးပင် ဖြစ်သော်လည်း အမြော်အမြင်ကြီးသော ကာလိုင်း၏ ဖခင်သည် သားကြီး၏ အရည်အသွေးကို သိမြင်ပြီးဖြစ်သဖြင့် ပညာကို ကောင်းစွာ သင်ယူစေသည်။ ကာလိုင်းသည် ၁၄ နှစ်သား အရွယ်တွင် အက်ဒင်ဗာရာ တက္ကသိုလ်သို့ သွားရောက် ပညာဆည်းပူးခဲ့၏။ ဘာသာရေးကို လေးစားတတ်သော စကော့အနွယ် ဖြစ်သည့်အတိုင်း သာသနာ့ဘောင်တွင် ရဟန်းပြုရန် ရည်ရွယ်ခဲ့သော်လည်း ကျောင်းမှထွက်သောအခါ ကျောင်းဆရာတဦးဖြစ်လာလေတော့သည်။


ကမ္ဘာကျော် စာရေးဆရာကြီး
သောမတ် ကာလိုင်း

ကာလိုင်းသည် စာပေအရေးအသားကို လွန်စွာ ဝါသနာပါ၍ ဆောင်းပါး စာပေများကို ရေးသားလိုသော ဆန္ဒသာ ဖြစ်ပေါ်ခဲ့၏။ သို့ရာတွင် သူလုပ်သော ကျောင်းဆရာအလုပ်မှာ လွတ်လပ်မှုကို အလွန်လိုလားသော ကာလိုင်းအဖို့ အချုပ်အနှောင်များကဲ့သို့ ရှိနေလေသည်။ သို့ဖြစ်၍ ကာလိုင်းသည် ၁၈၁၈ ခုနှစ်တွင် အလုပ်မှ ထွက်လိုက်ပြီးသော် အက်ဒင်ဗာရာ မြို့ပေါ်ရှိ မဂ္ဂဇင်းဂျာနယ် များအတွက် ဆောင်းပါးများကို စတင်ရေးသားခဲ့သည်။

၁၈၂၅ ခုနှစ်တွင် 'ရှီးလား၏အတ္ထုပ္ပတ္တိ' စာအုပ်ကို ရေးသားထုတ်ဝေခဲ့သည်။ နောက်တနှစ်တွင် ဂျိန်းဗေလီဝဲ့ အမည်ရှိသော အမျိုးသမီးတဦးနှင့် လက်ဆက်လိုက်သည်။ ထိုနောက် သူတို့ဇနီး မောင်နှံသည် ဗြိတိန်ကျွန်း၏ ချောင်အကျဆုံး နေရာတခု ဖြစ်သော ကရေဂင် ပတ်တော့ ရွာကလေးသို့ ပြောင်းရွှေ့ နေထိုင်ခဲ့ကြ၏။ ထိုအချိန်သည် ကာလိုင်းအဖို့ ငွေရေးကြေးရေး အကျပ်တည်းဆုံးသော အခါ ဖြစ်လေသည်။

ကာလိုင်းသည် 'ပြင်သစ်တော်လှန်ရေး' အမည်ရှိ စာအုပ်ပဌမတွဲကို ရေးသားပြီးစီးသောအခါ သူ၏မိတ်ဆွေဖြစ်သော ဂျွန်စတူးဝပ် မီး အား ဖတ်ကြည့်ရန် ပေးအပ်ထားခဲ့၏။ တနေ့သ၌မီး၏ အိမ်တွင်ခိုင်းစေထားသော အစေခံမကလေးသည် စာမူကို အသုံးမဝင်သောစာရွက်များသာ ဖြစ်သည်ဟု ထင်မှတ်၍ မီးမွှေးလိုက်လေသည်။

ဂျွန်မီးသည် ထိုအကြောင်းကို သိသောအခါ အတိုင်းမသိ တုန်လှုပ် ချောက်ချားသွား၏။ သူသည် ကာလိုင်းရှိရာသို့ အရူးပမာ ပြေးသွားပြီးလျှင် ဖြစ်သမျှကို ပြောပြလေသည်။ သို့သော် သဘောကြီးလှသော ကာလိုင်းသည် သူငယ်ချင်း၏ ဖြစ်ထွေကို မြင်သောအခါ သူ့ကိုယ်ပင် သနားအားနာမိပြီးလျှင် မိမိ၏ ထိခိုက်သောစိတ်ကို ပြင်ပသို့မပေါ်လွင်အောင် မျိုသိပ်ထားလိုက်သည်။

ဤသို့ ဆုံးရှုံးနစ်နာခြင်း ကြီးစွာ ဖြစ်ရသော်လည်း ကာလိုင်းသည် စိတ်ပျက် အားလျော့ခြင်း မရှိဘဲ သူစိတ်ထဲ၌ မှတ်မိသမျှနှင့်ပင် စာအုပ်ကို ပြန်လည် ရေးသားခဲ့လေသည်။ ကာလိုင်းမှာ အပင်ပန်းခံရကျိုး နပ်ပေသည်။ အကြောင်းမှာ ထိုစာအုပ် ထွက်သည်နှင့်တပြိုင်နက် ကာလိုင်းသည် နာမည်ကျော် စာရေးဆရာကြီးအဖြစ်သို့ ရောက်ရှိလာသောကြောင့်တည်း။

ထင်ပေါ်ကျော်ကြားသော စာရေးဆရာကြီးတယောက်ဖြစ်လာသောအခါ ကာလိုင်းတို့ အိမ်ထောင်သည် လန်ဒန်မြို့ ချဲလဆီးအရပ်သို့ ရွှေ့ပြောင်းခဲ့သည်။ ထိုနေရာတွင် ၄၇ နှစ်ကြာမျှ နေထိုင်ခဲ့၍ စာအုပ်အများ ရေးသားခဲ့၏။ ထိုအိမ်တွင် ထိပ်တန်း စာရေးဆရာကြီးများ ဖြစ်သော ဒစ်ကင်း၊ တင်နီဆန်၊ သက္ကရေး၊ ဂျွန်စတူးဝပ်မီးတို့နှင့် မကြာခဏ တွေ့ဆုံဆွေးနွေးခဲ့လေသည်။

၁၈၆၆ ခုနှစ်တွင် သူ၏စာပေများကို အားတက်သရော ဝေဖန်ပေး၍ မယားဝတ်တရားနှင့် ပြည့်စုံသော ချစ်ဇနီး

ကွယ်လွန် အနိစ္စရောက်လေရာ ကာလိုင်းမှာ မကြုံဘူးအောင် ပူဆွေးခဲ့ရသည်။ ဤသို့ ဇနီးသည် သေဆုံးပြီးနောက် ကာလိုင်းသည် ထူးခြားသော စာအုပ်များကို မရေးနိုင်တော့ဘဲ၊ အသက် ၇၆ နှစ်တွင် အနိစ္စရောက်လေသည်။

ကာလိုင်း၏ လက်ရာများတွင် စာရေးသူ၏ စိတ်နေသဘောထားကို ကြေးမုံပြင်တွင် မြင်ရဘိသကဲ့သို့ ထင်ရှားစွာ တွေ့မြင်ရသည်။ သူသည် အပေါ်ယံဟန်ဆောင်မှု အတုအပများကို လွန်စွာပင် မုန်းတီး၍ ထုံထိုင်းနုံအခြင်းကိုရွတ်ချသည်။ အလဟဿ အချိန်ကုန်ခြင်းထက် အလုပ်လုပ်ခြင်းကို ပိုမို နှစ်သက်မြတ်နိုး၏။ သူ၏အလုပ် ထင်ပေါ်မှုထက် အလုပ်ပြီးစီးခြင်းကြောင့် ရရှိသော နှစ်သိမ့်ခြင်း ပီတိကို ပို၍လိုလားဟန် တူလေသည်။

နှောင်းလူအချို့က စာရေးဆရာကြီး ကာလိုင်း၏ သဘောတရားများကို နာဇီဝါဒနှင့် နှိုင်းရှည့်တတ်ကြ၏။ ကာလိုင်းသည် သူရေးသားပြုစုခဲ့သော စာအုပ်များတွင် တရားနည်းလမ်း မှန်ကန်မှုသည်ပင် အင်အားဖြစ်ကြောင်း၊ လူအချို့သည် ကျန်လူများထက် အဆင့်အတန်းမြင့်ကြောင်း၊ ဒီမိုကရေစီဝါဒမှာ ရယ်စရာကောင်းသော ဝါဒသာဖြစ်ကြောင်း၊ လူတယောက်စီအား လွတ်လပ်မှုကို မပေးနိုင်၊ မပေးသင့်ကြောင်း၊ နိုင်ငံကို အာဇာနည် တဦးဦးက သော်၎င်း၊အာဏာရှင် တယောက်ယောက်က သော်၎င်း၊ စီမံအုပ်ချုပ်သင့်ကြောင်းများကို ရေးသားပေါ်ပြခဲ့လေသည်။ ထိုသဘောတရားများကို သူရေးသားခဲ့သော 'ပြင်သစ်တော်လှန်ရေး'၊ 'အာဇာနည် နှင့် အာဇာနည်ကို လေးစားခြင်း'၊ 'အော်လီဗာ ကရွမ်းဝဲ' အစရှိသော စာအုပ်များတွင် တွေ့ရှိရပေသည်။

**ကာလိုင်းမြို့**။ ။ကာလိုင်းမြို့သည် အင်္ဂလန်ပြည် ကမ်ဗာလန်ခရိုင်၏ ရုံးစိုက်ရာ မြို့ကြီးဖြစ်၍ အီဒင်မြစ်ပေါ်တွင် တည်ရှိလေသည်။ စကော့တလန်ပြည် နယ်စပ်နှင့် ၁၀ မိုင်မျှပင် မကွာဝေးသော နယ်ခြားမြို့တမြို့ ဖြစ်သည်။ ကျော်စောထင်ရှားသော ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီး နှင့် ရဲတိုက်ကြီးများ ရှိရာ၊ ဘုရားရှိခိုးကျောင်းကြီးမှာ ၁၁ ရာစုနှစ်အတွင်းက စတင် တည်ဆောက်ခဲ့ပြီးနောက် ၁၅ ရာစုနှစ်တွင်တဖန် ပြန်လည်တည်ဆောက်ခဲ့ပြန်သည်။ ကာလိုင်းရဲတိုက်ကြီးမှာ ၁၀၉၂ ခုနှစ်တွင် ဒုတိယဝီလျံဘုရင် တည်ဆောက်ခဲ့သော အဆောက်အအုံဖြစ်၍ ယခုအခါ ပျက်စီးချွတ်ယွင်းနေပြီ ဖြစ်သော်လည်း စစ်တန်းလျားအဖြစ် အသုံးပြုနေကြသေးသည်။ ထိုသို့ ရှေးကျလှသော သမိုင်းဝင် အဆောက်အအုံကြီး များ အပြင် ကြီး ကျယ်သော ပြည်သူ့ အဆောက်အအုံကြီးများဖြစ်သည့် မြို့တော်ခန်းမကြီး၊ တရားရုံးတော်၊ ပြတိုက်နှင့် အနုပညာပြခန်းများလည်း ရှိသည်။ ဦးထုပ်လုပ်ခြင်း၊ အထည်အလိပ် ရက်လုပ်ခြင်း၊ ဗီစကွတ်မုံ့လုပ်ခြင်းတို့မှာ ထင်ရှားသော လုပ်ငန်းများ ဖြစ်ကြလျက်၊ သံရည်ကျိုရုံများနှင့် အင်ဂျင်နီယာ အလုပ်ရုံများလည်း ရှိသည်။ မီးရထားလမ်းဆုံမြို့ တမြို့ဖြစ်၍၊ လန်ဒန်မြို့မှ မီးရထားလမ်းအတိုင်း မိုင် ၃၀၀ ခန့် ကွာဝေးသည်။ ကာလိုင်းမြို့ လူဦးရေမှာ ၆၅,၀၀၀ ခန့် ဖြစ်၏။

**ကာဋ္ဌုဒါယီထေရ်**။ ။ကာဋ္ဌုဒါယီသည် ဂေါတမ မြတ်စွာဘုရားအလောင်း သိဒ္ဓတ္ထမင်းသားနှင့် တပြိုင်တည်း ဖွားသော ဖွားဖက်တော်တဦး ဖြစ်သည်။ သူငယ်ပေါင်း ကစားဖက်အဖြစ် ကြီးပြင်းခဲ့ရာ၊ သိဒ္ဓတ္ထမင်းသား၏ ဖခင် သုဒ္ဓေါဒနမင်းကြီးသည် ကာဋ္ဌုဒါယီအား အမတ်အဖြစ် ခန့်အပ်မြှောက်စားသည်။

သိဒ္ဓတ္ထမင်းသားသည် ဘုရားဖြစ်တော်မူပြီး၍ ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံး နေတော်မူသောအခါ၊ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးသည် မြတ်စွာဘုရားကို ဖူးတွေ့လိုသဖြင့် ကြွလာတော်မူရန် အမတ်များကို အကြိမ်ကြိမ်လွှတ်၍ ပင့်စေသည်။ အပင့်လွှတ်သော အမတ်တို့လည်း မြတ်စွာဘုရားထံသို့ ရောက်လျှင် အခြွေအရံများနှင့်အတူ အကျွတ်တရားရ၍ ရဟန္တာ ဖြစ်ကုန်ကြသဖြင့် ခမည်းတော်၏စကားကို မလျှောက်ထားမိဘဲ ရှိကြသည်။ သုဒ္ဓေါဒနမင်းကြီးလည်း မည်သည့်သတင်းစကားမျှ မကြားသိရသဖြင့် စိတ်မချမ်းမသာဖြစ်လျက် နောက်ဆုံးတွင် ကာဋ္ဌုဒါယီအမတ်ကို ခေါ်၍ အခြွေအရံတထောင်နှင့် စေလွှတ်ပြန်သည်။

မြတ်စွာဘုရားထံသို့ ရောက်လျှင်ပင် ကာဋ္ဌုဒါယီအမတ်နှင့် အခြွေအရံများသည် ရဟန္တာဖြစ်ကြပြန်သည်။ သို့ရာတွင် ခမည်းတော် မှာကြားလိုက်သည်ကို မမေ့လျော့ဘဲ ၆၀ မျှသော ဂါထာတို့ဖြင့် ကပိလဝတ်နေပြည်တော်သို့ ပြန်လည်ကြွရောက်ရန် လျှောက်ထားလေသည်။ ထိုဂါထာ ခြောက်ဆယ် လျှောက်ထားချက်များကား၊ မြတ်စွာဘုရား၏ စိတ်သဘောတော် ကြည်နူးညွှတ်ပျောင်းအောင် တပေါင်းလရာသီ၏ ရေမြေတောတောင် ဩကာသလောကသာယာဟန်ကို အဖန်ဖန်ခြီးကျူးကာ ပင့်ဆောင်သော စကားများ ပါဝင်သဖြင့် အလွန် သာယာနာပျော်ဖွယ် ရှိပေသည်။ ထိုအခါမှ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည်မှ ယူဇနာ ၆၀ ကွာသော ကပိလဝတ်ပြည်သို့ ကြွရောက်၍ သာကီဝင်မင်းများအား တရား ဟောကြားတော်မူသည်။

ကာဋ္ဌုဒါယီထေရ်သည် ဒါယကာတို့၏စိတ်ကို သဒ္ဓါကြည်လင် ဖြစ်စေနိုင်သော ဘုရားတပည့်သားတို့တွင် ထူးချွန်မြင့်မြတ်ဆုံးသော ပုဂ္ဂိုလ်အဖြစ် ကုလပ္ပသာဒကဧတဒဂ်ဘွဲ့ ရလေသည်။

**ကားဒစ်မြို့။** ။ကားဒစ်မြို့သည် ဂလာမော်ဂန်ရှိုင်ယာခရိုင်၏ ရုံးစိုက်ရာမြို့ဖြစ်၍ ဝေလပြည်တွင် အကြီးဆုံးမြို့ဖြစ်သည်။ ကမ္ဘာပေါ်တွင် ကျောက်မီးသွေး အများဆုံး သင်္ဘောတင် ထုတ်ရောင်းရာ မြို့တမြို့ ဖြစ်သဖြင့် ဗြိတိသျှကျွန်းစုရှိ ထိပ်တန်း ဆိပ်ကမ်းမြို့ကြီးများတွင် အပါအဝင် ဖြစ်လေသည်။ ဝေလပြည်တောင်ပိုင်း ဆက်ဗန်းမြစ်ဝကျယ်ပေါ်တွင် တည်ရှိ၍ ဗရစ္စတို ရေလက်ကြားကြီးမှ ၃ မိုင်မျှကွာဝေးသည်။ ၁၇၉၄ ခုနှစ်တွင် မာသာတစ်ဗီးမြို့သို့ တူးမြောင်း ဖေါက်လုပ်လိုက်သဖြင့်၎င်း၊ ၁၈၃၉ ခုနှစ်တွင် သင်္ဘောကျင်းများ တည်ဆောက်လိုက်သဖြင့်၎င်း၊ ကားဒစ်မြို့မှာ သိသိသာသာ တိုးတက်စည်ကားလာလေသည်။ မာသာတစ်ဗီးသို့ တူးမြောင်း မဖွင့်လှစ်မီက ကားဒစ်မြို့၏ ကျောထောက်နောက်ခံနယ်များမှ ကျောက်မီးသွေးများကို လားများဖြင့် သယ်ယူ၍ ကားဒစ်မြို့ ဆိပ်ကမ်းသို့ အရောက်ပို့ဆောင်ခဲ့ကြရသည်။

၁၉၀၀ ပြည့်မှ ၁၉၁၁ ခုနှစ်အတွင်း မြို့လယ်ပိုင်းကို ပြန်လည်ပြုပြင် ဆောက်လုပ်ခဲ့သဖြင့် ဗြိတိန်ကျွန်းရှိ စက်မှုလုပ်ငန်း ထွန်းကားသော အခြားမြို့များထက် များစွာသာယာလျက် စိတ်ချမ်းမြေ့ဖွယ်ဖြစ်သော ဥယျာဉ်တို့နှင့် သိုက်မြိုက် ဝေဆာစွာရှိသည်။ ဥယျာဉ် အစုစုပေါင်းမှာ ဧက ၃၀၀ ခန့် ကျယ်ဝန်းရာ၊ ယင်းတို့အနက် ၅၂ ဧကမျှကျယ်သော ကသေးဥယျာဉ်နှင့် အနီးတဝိုက်တွင် ကားဒစ်မြို့၏ ခမ်းနားသော အဆောက်အအုံကြီးများ ရှိလေသည်။ ပေ ၂၀၀ မြင့်သော နာရီစင်ရှိသည့် မြို့တော်ခန်းမအဆောက်အအုံ၊ ယူနီဗါစီတီ ကောလိပ်ကျောင်း၊ ဝေလအမျိုးသားပြတိုက်ကြီး၊ စိန်ဂျွန်း ဘုရားရှိခိုးကျောင်းစသည်တို့မှာ ကားဒစ်မြို့၏ ကျက်သရေဆောင် အဆောက်အအုံများ ဖြစ်ကြလျက် ၁၂ ရာစုနှစ်အတွင်း၌ ဆောက်လုပ်ခဲ့သော ကားဒစ်ရဲတိုက်ကြီးမှာ မြို့၏ဗဟိုချက်မ ဖြစ်လေသည်။ ထိုရဲတိုက်ကြီးကို ၁၉၄၇ ခုနှစ်တွင် မားကွစ်ဘွဲ့ရ ဗျူမြို့စားကြီးသည် ကားဒစ်မြို့ ကော်ပိုရေးရှင်းအဖွဲ့သို့ လှူဒါန်းပေးအပ်လိုက်၏။

ဝေလတောင်ပိုင်းရှိ ကျောက်မီးသွေးထွက်ရာ ဒေသတို့နှင့် တူးမြောင်းများဖြင့်၎င်း၊ မီးရထားလမ်းဖြင့်၎င်း၊ ဆက်သွယ်ထား၍၊ သံ၊ သံမဏိလုပ်ငန်း၊ သံဖြူလုပ်ငန်း၊ သင်္ဘောတည်ဆောက်ပြင်ဆင်သော လုပ်ငန်းတို့တွင် အထူးထင်ရှားသည်။ သင်္ဘောကျင်းတို့မှာ ၇ မိုင်မျှ ရှည်လျား၍ ဧက ၂၀၀ ခန့် ကျယ်ဝန်း၏။ ဒုတိယကမ္ဘာစစ်အတွင်း၌ ဂျာမန်တို့သည် ထိုသင်္ဘောကျင်းတို့ကို တညအတွင်း မီးလောင်ဗုံး တသောင်းခန့် ကြဲချ၍ တိုက်ခိုက်ခဲ့ကြ၏။

ကားဒစ်မြို့သည် စတုရန်း ၂၆ မိုင်မျှ ကျယ်ဝန်း၍ လူဦးရေမှာ ၂၄၃,၆၂၇ မျှရှိလေသည်။



စံနစ်ကျစွာ အကွက်ချ တည်ဆောက်ထားသော ကားဒစ်မြို့လယ်ပိုင်းမှ ကသေးဥယျာဉ်နှင့် မျူနီစီပယ် အဆောက်အအုံများ

**ကားမိုင်းမြို့။** ။မိုးကောင်းမြို့မှ အထက်သို့ မိုးကောင်းချောင်းအတိုင်း ဆန်တက်သော် ရေလမ်းခရီး မိုင် ၇၀ ခန့်အကွာတွင် ကားမိုင်းမြို့ကို တွေ့ရပေမည်။ သို့သော် ကားလမ်းမှဆိုလျှင် ၂၅ မိုင်မျှသာ ဝေးလေသည်။ ကားမိုင်းမြို့မှာ ကချင်ပြည်နယ် မြစ်ကြီးနားခရိုင်၌ ပါဝင်၍ ကားမိုင်းတောင်တန်းနယ်၊ မိုးကောင်း တောင်တန်းနယ်၊ မိုးညှင်းတောင်တန်းနယ်၊ ဟူးကောင်း ပယင်းတွင်းနယ်၊ နာဂတောင်တန်းနယ် နှင့် ကျောက်စိမ်းတွင်းနယ်များ ဆိုင်ရာတောင်တန်းဝန်ထောက် ရုံးစိုက်ရာမြို့ ဖြစ်သည်။

မြို့မှာ စတုရန်းတမိုင် ကျယ်ဝန်း၍ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ လူဦးရေ ၆၁၁ ယောက်မျှ ရှိ၏။ မြို့သူမြို့သားများမှာ အများအားဖြင့် တံငါနှင့် တောင်သူလုပ်ငန်းများကို လုပ်ကိုင်ကြသည်။ မိုးကောင်းချောင်းဖျားရှိ ကော်ဖတ်ခြံများမှ ကော်ဖတ်များနှင့် ကျောက်စိမ်းများကို အရောင်းအဝယ် ပြုကြသည်။

ရာသီဥတုမှာ အေးမြစိုစွတ်သဖြင့် မိုးဥတုတွင် အဖျားအနာ ထူထပ်၏။ ကျောက်စိမ်းစသော တွင်းထွက်ပစ္စည်းများအတွက် အကောက်တော်ရုံးရှိ၍ နှစ်စဉ် အခွန်တော်များစွာ ရရှိလေသည်။

**ကားလမတ်။** ။မတ်,ကားလ — ရှု။

**ကားသေ့နိုင်ငံ။** ။ရှေးနှစ်ပေါင်း ၂၀၀၀ ကျော်လောက်က တန်ခိုးထွားခဲ့သော ကားသေ့နိုင်ငံတော်၏ မြို့တော်ဖြစ်သည့် ကားသေ့မြို့သည် မြေထဲပင်လယ်ထဲတွင် ရောမမြို့နှင့် ခေတ်ပြိုင် ထွန်းကားခဲ့ပေသည်။ ထိုစဉ်က အရောင်းအဝယ် ဖွံ့ဖြိုး၍ ခမ်းနားကြွယ်ဝသော မြို့တမြို့ ဖြစ်ခဲ့၍၊ ယင်းမြို့ကြီး၏ နေရာဟောင်းမှာ အာဖရိကတိုက် မြောက်ဖက်ကမ်းခြေရှိ ယခုခေတ် တျူးနစ်မြို့နှင့် ၃ မိုင်ကွာတွင် တည်ရှိလေသည်။

ကားသေ့မြို့ တည်ခဲ့ခြင်းနှင့် စပ်လျဉ်း၍ အဆိုများ ကွဲပြားနေကြ၏။ နိုင်ငံသမိုင်းအရ ဆိုသော် ကားသေ့မြို့သည် ရှေး ဖီနီရှန်လူမျိုးတို့ ကောင်းစားစဉ်က ဘီစီ ၈၁၃–၈၁၄ ခုနှစ်လောက်တွင် ဆိပ်ကမ်းမြို့ကလေးအဖြစ် တည်ရှိခဲ့၏။ ရှေးသူဟောင်းတို့၏ စကားအရ ဆိုသော် ဘီစီ ၈၅၀ ပြည့်နှစ်လောက်တွင် တိုင်ယာမြို့မှ ထွက်ပြေးလာသော ဖီနီရှန်မင်းသမီး ဒိုင်ဒို တည်ခဲ့သော မြို့ဖြစ်လေသည်။ ရောမ စာဆိုတော် ဗာဂျီ၏ 'အီးနီးယစ်' ကဗျာတွင် ထရိုဂျန်မင်းသား အီးနီးယပ်နှင့် ချစ်လမ်းခင်းခဲ့သော ကားသေ့ဘုရင်မ ဒိုင်ဒိုမှာ ထိုမင်းသမီးပင်ဖြစ်၏။

မြေထဲပင်လယ်ကမ်းခြေတွင် နေခင်းသာသော ကားသေ့မြို့သည် မကြာမီပင် ကူးသန်းရောင်းဝယ်ရာ ဗဟိုဌာနကြီးဖြစ်လာ၏။ ကားသေ့မြို့တွင် သင်္ဘောဆိပ် နှစ်ခုရှိ၏။ တခုမှာ ကုန်သည်သင်္ဘောများအတွက် ဖြစ်၍ အခြားတခုမှာ စစ်သင်္ဘောများအတွက် ဖြစ်၏။ မြေထဲပင်လယ်တဝိုက်တွင် ကုန်ကူးသန်းရောင်းဝယ်ရန် သင်္ဘောများကို အသုံးပြု၍ နေခဲ့ကြရာမှ ကားသေ့လူမျိုးတို့သည် နယ်ပယ်များကို တိုက်ခိုက်သိမ်းပိုက်လာကြ၏။ ဘီစီ ၆၀၀ ပြည့်နှစ်လောက်မှစ၍ ကားသေ့တို့သည် စစ်လိုလားသော လူမျိုးဟူ၍ နာမည်ကြီးလာလေသည်။ ဘီစီ ၃၀၀ ပြည့်နှစ်လောက်တွင် ကားသေ့မြို့သည် မြေထဲပင်လယ်နှင့် စပ်လျက်ရှိသော အာဖရိကတိုက် မြောက်ဖက် ကမ်းခြေတလျှောက်နှင့် စပိန်ကမ်းခြေ တလျှောက် တို့အပြင်၊ ကော်စီကားကျွန်းနှင့် ဆာဒင်နီးယားကျွန်းများ ပါဝင်သော ကားသေ့နိုင်ငံတော်ကြီး၏ မြို့တော်ဖြစ်လာလေသည်။ ဘီစီ ၄၈၀ နှင့် ၂၇၅ ခုနှစ်များ အကြားတွင် ကားသေ့တို့သည် ဆစ္စလီတကျွန်းလုံးကို စိုးမိုးရန် ဂရိတို့နှင့် အကြိမ်ကြိမ် စစ်ပြိုင်ခဲ့ကြသည်။

ရောမတို့သည် ဣတလီကျွန်းဆွယ် တခုလုံးကို သိမ်းပိုက်ပြီးသောအခါ မြေထဲပင်လယ် အနောက်ပိုင်း၌ ကြီးစိုးနေသော ကားသေ့တို့ကို မျက်စိစပါးမွေးစူးလာကြ၏။ သို့ဖြစ်၍ ကားသေ့တို့နှင့် အင်အားချင်းပြိုင်ရန် ရေတပ်အင်အား စုဆောင်းပြီးသောအခါ ဘီစီ ၃ ရာစုနှစ်လောက်တွင် ကားသေ့တို့ကို စတင်တိုက်ခိုက်ကြလေတော့သည်။



ကချင်ပြည်နယ် မြစ်ကြီးနားခရိုင်ရှိ ကားမိုင်းမြို့၏ ရှုခင်းတရပ်



ကားသေ့မြို့ဟောင်း တနေရာရှိ ရှေးခေတ် ရောမဇာတ်ရုံကြီးတရုံ၏ အပျက်အစီး အကြွင်းအကျန်များ

ကားသေ့နှင့် ရောမတို့ ၃ ကြိမ် ၃ ခါ စစ်ဖြစ်ကြရာ ထိုစစ်ပွဲများကို ပျူးနစ် စစ်ပွဲများဟု ခေါ်သည်။ ပဌမ စစ်ပွဲမှာ ဘီစီ ၂၆၄ ခုနှစ်မှ ၂၄၁ ခုနှစ်အထိ ဆစ္စလီကျွန်းတွင် ဖြစ်ပွား၍ ကားသေ့တို့ အရေးနိမ့်သဖြင့် ဆစ္စလီကျွန်းကို ရောမတို့လက်သို့ အပ်လိုက်ရ၏။ သို့သော် ရောမတို့သည် ဆစ္စလီကျွန်းမှတဆင့် ဆာဒင်းနီးယားနှင့် ကော်စီကားကျွန်းများကို သိမ်းပိုက်အုပ်ချုပ်ရန် စီမံနေစဉ် ကားသေ့စစ်ဗိုလ်ချုပ်ကြီး ဟာမီးလကား ဗားကား သည် စပိန်ကျွန်းဆွယ်တွင် နိုင်ငံသစ်များ ထူထောင်ကာ အားသစ် စုရုံးပြန်လေသည်။ ထို့ကြောင့် ရောမတို့သည် စပိန်ရှိ ကားသေ့တို့ကို အနှောင့်အယှက် ပေးကြပြန်သည်။ ထိုအခါ ဟာမီးလကား၏ သားဖြစ်သူ ကားသေ့စစ်ဗိုလ်ချုပ် ဟန်နီဗောသည် စပိန်မှ ကုန်းကြောင်းလမ်းဖြင့် အသွားအလာခက်ခဲသော တောင်တန်းကြီးများကို ဖြတ်ကျော်လျက် ဆင်တပ်၊ မြင်းတပ်၊ ခြေလျင်တပ် အလုံးအရင်းနှင့် ဣတလီနိုင်ငံအတွင်းသို့ ချင်းနင်းတိုက်ခိုက်လေတော့၏။ (ဟန်နီဗော — ရှု။) ထိုစစ်ပွဲကို ဒုတိယပျူးနစ်စစ်ပွဲဟု ခေါ်တွင်၍ ဘီစီ ၂၁၈ ခုနှစ်မှ ၂၀၁ ခုနှစ်အထိ ဖြစ်ပွားခဲ့ကြသည်။

ဟန်နီဗောသည် သူရသတ္တိနှင့် ပြည့်စုံသည့်ပြင် အစီအမံလည်း သေသတ်သဖြင့် ကားသေ့စစ်သည်များကို ရောမစစ်သည်တို့ မယှဉ်နိုင်ကြချေ။ ဘီစီ ၂၁၆ ခုနှစ် ကန္နီးတိုက်ပွဲတွင် ရောမစစ်တပ်ကြီးသည် တပ်လုံးပြုတ်ကာ အရှုံးကြီးရှုံးသွား၏။ သို့ရာတွင် ရောမတို့သည် အလျှော့မပေးကြချေ။ ရောမစစ်ဗိုလ်ချုပ် ဆစ်ပီယိုသည် စပိန်သို့ ကြားဖြတ်သွားရောက်တိုက်ခိုက်ရာ အောင်မြင်သဖြင့် အာဖရိကသို့ စစ်ဦးလှည့်လေသည်။ ကားသေ့မြို့လည်း ရန်မကင်းတော့သဖြင့် ဟန်နီဗောကို ပြန်ခေါ်ရတော့၏။ ဘီစီ ၂၀၂ ခုနှစ်တွင် ကားသေ့မြို့အနီး ဇေးမားအရပ်၌ ကားသေ့တို့နှင့် ရောမတို့ ယှဉ်ပြိုင်တိုက်ခိုက်ရာ ကားသေ့တို့ အရေးနိမ့်လေသည်။ ကားသေ့တို့သည် စပိန်ရှိနယ်များ၊ ကားသေ့ပိုင် စစ်သင်္ဘောတပ်များနှင့် စစ်လျော်ကြေး အမြောက်အမြားကို ရောမတို့အား ပေးရလေသည်။

တတိယ ပျူးနစ်စစ်ပွဲမှာ ဘီစီ ၁၄၉ ခုနှစ်မှ ၁၄၆ ခုနှစ်အထိ ၃ နှစ်ကြာမျှ ဖြစ်ပွားခဲ့၏။ ရောမတို့သည် ကားသေ့တို့ ပြန်လည်ကြီးပွားလာခြင်းကို မရှုဆိတ်ကြချေ။ ကားသေ့တို့၏ ရန်ကိုလည်းကြောက်ရွံ့လျက်ပင် ရှိကြသေးသည်။ ထို့ကြောင့် ကားသေ့တို့ကို အမြစ်ကစ၍ဖြိုဖျက်ရန် အားထုတ်ကြလေသည်။ ကားသေ့တို့သည် အာဖရိကတိုင်းရင်းသား ရန်သူများ၏ တိုက်ခိုက်မှုကို ကာကွယ်ရန် စစ်တပ်ဖွဲ့စည်းသောအခါ ရောမတို့သည် အပြစ်ရှာ၍ ကားသေ့တို့အား တိုက်ခိုက်ကြတော့၏။ ကားသေ့တို့သည် ရန်သူတို့ကို အစွမ်းကုန် ခုခံတိုက်ခိုက်ကြ၏။ သို့ရာတွင် အင်အားချင်း မမျှသဖြင့် အရှုံးခံကြရသည်။ ဘီစီ ၁၄၆ ခုနှစ်တွင် စည်ကားခမ်းနားလှသော ကားသေ့မြို့ကြီးသည်

ရောမတို့လက်တွင် ၁၄ ရက်တိုင်တိုင် မီးဟုန်းဟုန်း တောက်လောင်လျက် ပြာကျသွားလေသည်။

ဘီစီ ၄၅ ခုနှစ်လောက်တွင် ရောမဘုရင် ဆီဇာသည် ကားသေ့ကို ရောမဆင်းရဲသားများ လာရောက်နေထိုင်ရာ နယ်သစ်အဖြစ်ဖြင့် သတ်မှတ်ခဲ့၏။ ထိုအတွက် ကားသေ့သည် စည်ကားလာပြီးလျှင် ရောမပိုင် အာဖရိကနယ်ပယ်များ၏ အချက်အခြာမြို့ကြီး ဖြစ်လာပြန်သည်။ သို့သော် အေဒီ ၄၃၉ ခုနှစ်တွင် ဗင်းဒေါလူမျိုးတို့ ဝင်ရောက်တိုက်ခိုက် လုယက်ဖျက်ဆီးခဲ့သဖြင့် မှေးမှိန်သွားပြီးလျှင် ပင်လယ်ဓါးပြစခန်းအဖြစ်သို့ သက်လျှောခဲ့လေသည်။ အေဒီ ၅၅၃ ခုနှစ်မှစ၍ ဗိုင်ဇင်းတိုင် အင်ပိုင်ယာ၏ လက်အောက်ခံနယ်တခု ဖြစ်ခဲ့ပြီးလျှင် အေဒီ ၆၉၇ ခုနှစ်တွင် အာရပ်လူမျိုးတို့၏ ချေမှုန်းဖျက်ဆီးခြင်းကို ခံခဲ့ရလေသည်။

၁၈၈၁ ခုနှစ်၌ တျူးနစ်ပြည်သည် ပြင်သစ်အစိုးရ ၏ စောင့်ရှောက်ခံနယ်တခု ဖြစ်လာသောအခါ ကားသေ့သည် ဗရင်ဂျီဂိုဏ်းအုပ်တပါး၏ ဌာနချုပ်ဖြစ်လာသည်။ ယခုအခါ၌မူ ရှေးဟောင်း အဆောက်အအုံ အပျက်အစီးများ စုဝေးတည်ရှိရာ မြို့ဟောင်းရာမျှသာ ကျန်ရှိတော့သည်။

**ကိ, ဂျေ** (ခရစ် ၁၇၉၅–၁၈၂၁)။ ။အင်္ဂလိပ်စာပေသမိုင်းတွင် ထင်ရှားသော ကဗျာစာဆိုတဦးဖြစ်သည့် ဂျွန်ကိသည် ၁၇၉၅ ခုနှစ်တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ အညတြ မြင်းထိန်းတဦးသာ ဖြစ်သောကြောင့် သားဖြစ်သူအား အထက်တန်း ပညာရပ်များကို သင်ကြားရန် တက္ကသိုလ်သို့ မစေလွှတ်နိုင်ခဲ့ရှာဘဲ သာမန် စာသင်ကျောင်းကလေးတွင်သာ ပညာသင်ကြားစေခဲ့ရသည်။

ဂျွန်မှာ ငယ်ရွယ်စဉ်ကပင် မဟုတ်မခံစိတ်ဓါတ်နှင့် မြင့်မြတ်သောသဘောထား ရှိသူဖြစ်ရာ ကျောင်းသားတိုင်း ဆရာတိုင်းကပင် သူ့ကို ချစ်ခင်ကြလေသည်။ အထူးသဖြင့် သူနေသောကျောင်းမှ ဆရာကြီး၏သားနှင့် ချစ်ကျွမ်းတဝင် ခင်မင်ခဲ့ရာ ဤအချက်သည်ပင် ဂျွန်၏နောင်ရေးကို ဖန်တီးခဲ့သော အကြောင်းတခု ဖြစ်လာလေသည်။

အင်္ဂလိပ်လူမျိုး ကဗျာဆရာတို့သည် အများအားဖြင့် ဆိတ်ငြိမ်သာယာသော တောရွာဒေသများတွင် အချိန်ကုန်လွန်စေတတ်ကြသော်လည်း ဂျွန်ကိမှာမူ သူ၏ကလေးဘဝကို စည်ကားလှသော လန်ဒန်မြို့တော်ကြီးတွင်သာ ကုန်လွန်စေခဲ့ရလေသည်။ အလှအပကို သဘောကျတတ်ခြင်းကား ကိ၏နဂိုဓါတ်ခံပင်ဖြစ်၏။ 'အလှသည် သစ္စာ၊ သစ္စာသည် အလှ' ဤကား ကိ၏ဝမ်းတွင်းပါယုံကြည်ချက် ဖြစ်သည်။ ကိအဖို့ လောကကြီးတွင် အရေးအကြီးဆုံးသော အရာတခုတည်းသာရှိ၏။ ထိုအရာသည် အခြားမဟုတ် အလှပင်ဖြစ်၏။

ကိသည် သူနှင့် တခေတ်တည်းပေါ် ပေါက်လာသောရှဲလီ၊ ဝပ်ဇဝပ် စသည့် ကဗျာစာဆိုကြီးများကဲ့သို့ ကမ္ဘာကြီးကို ပြောင်းလဲလို၊ တော်လှန်လိုသော ဆန္ဒရှိသည့် စာဆိုမျိုး မဟုတ်ချေ။ အလှအပတည်းဟူသော သာယာသည့်



ကားသေ့မြို့ကို တည်ထောင်ခဲ့သော ဘုရင်မ ဒိုင်ဒိုနှင့် ထရိုဂျန်မင်းသား အီးနီးယပ်တို့ တွေ့ဆုံကြစဉ်



အင်္ဂလိပ်ကဗျာဆရာကြီး ဂျွန်ကီ

လောကဝယ် စိတ်ကူးယဉ်ကာ ပျော်မွေ့နေလိုသော စိတ်ကူးယဉ် အလှစာဆို (ဝါ) အနွဲ့စာဆို တဦးသာလျှင် ဖြစ်ပေသည်။

၁၈၁၁ ခုနှစ်တွင် မိဖနှစ်ပါး ကွယ်လွန်လေရာ ကီ သည် ကျောင်းမှထွက်ပြီးသော် ဆရာဝန်တဦးထံတွင် လက်ထောက်အဖြစ် လုပ်ကိုင်ရ၏။ သို့ရာတွင် ထိုလုပ်ငန်းတွင် စိတ်မဝင်စားဘဲ ကဗျာလင်္ကာများ စီကုံးရေးသားသည့် ဖက်သို့သာ စိတ်ယိုင်လျက်ရှိသည်။ ထို့ကြောင့် ဆေးဝါးကုသသည့်လုပ်ငန်းကို စွန့်ပယ်ကာ သူဝါသနာစူးရှသော စာဆိုလောကသို့ ဝင်ရောက်ခဲ့သည်။

ကီ သည် သူ၏ ပဌမဆုံးကဗျာစာအုပ်ကို ၁၈၁၇ ခုနှစ်တွင် ထုတ်ဝေခဲ့ရာ စာပေအကဲခတ်ပုဂ္ဂိုလ်တို့၏ ပြင်းထန်စွာ ဝေဖန်ရှုတ်ချခြင်းကို ခံရသည်။ သို့ရာတွင် စိတ်ပျက်ခြင်းမရှိဘဲ ‘အင်ဒင်မီယွန်’ အမည်ရှိ ကဗျာရှည်ကြီး တပုဒ်ကို နောက်ထပ် ရေးသားထုတ်ဝေပြန်သည်။ ထိုကဗျာမှာလည်း စာပေ ဝေဖန်ရေးသမားများ၏ အပြစ်ပြောဆိုခြင်း ခံရပြန်၏။ ထို့ကြောင့် ကီ သည် သူ့ကဗျာများ၏ ချွတ်ယွင်းချက်များကို ကိုယ်တိုင်သိမြင်ရကာ ထိုကဗျာတို့ကို ကောင်းသည်ထက်ကောင်းအောင် ထပ်မံပြုပြင် ရေးသားခဲ့၏။

ကီ ၏ နောက်ပိုင်းကဗျာစုကား အင်္ဂလိပ်စာပေလောကတွင် မည်သည့်အခါမျှ တိမ်မြုပ်သွားနိုင်တော့မည် မဟုတ်သော ကဗျာအညွန့်အဖူးများ ဖြစ်လေသည်။ သို့ရာတွင် ကဗျာပါရဂူ ကီ မှာ စိတ်လက် ချမ်းချမ်းသာသာ နေရသည်ဟူ၍ မရှိရှာဘဲ နုနယ်ပျိုမျစ် အသက် ၂၆ နှစ်အရွယ်တွင် ဣတလီနိုင်ငံသို့ ဆေးကုသွားယင်း ချောင်းဆိုးသွေးပါ ရောဂါဖြင့် ကွယ်လွန်အနိစ္စရောက်ခဲ့လေသည်။

**ကိသာဂေါတမီထေရီ။** ။ကိသာဂေါတမီထေရီမှာ ဂေါတမမြတ်စွာဘုရား လက်ထက်တော်တွင် သက်န်းခေါင်းပါးစွာ ခြုံးခြုံ၍ ကျင့်ကြံနိုင်ခြင်းကြောင့် လူခစီဝရဓါရန တေဒဂ်အရာဖြင့် ချီးမြှောက်ခြင်းခံရသော ဘိက္ခုနီ ရဟန္တာမ ဖြစ်သည်။

ကိသာဂေါတမီသည် ပဒုမုတ္တရဘုရားရှင် လက်ထက်တော်ကစ၍ ပါရမီဆည်းပူးခဲ့ရာ ကဿပဘုရားရှင် လက်ထက်တော်တွင် ကိလီမင်းကြီး၏ သမီးတော်ခုနစ်ပါးအနက် ဓမ္မာမင်းသမီး ဖြစ်လာသည်။ ဂေါတမမြတ်စွာဘုရား လက်ထက်တော်တွင် သာဝတ္ထိပြည် သဌေးကြီးတဦး၏ သမီး ဖြစ်လာသည်။ အမည်မှာ ကိသာဂေါတမီဟု တွင်သည်။

အရွယ်ရောက်သော် မိဖများ ဆင်းရဲသွားသဖြင့် ဆင်းရဲပင်ပန်းစွာ နေရသည်။ ထိုအချိန်တွင် သာဝတ္ထိပြည်ရှိ သဌေးကြီးတဦးသည်လည်း သူ၏ပိုင်ဆိုင်သော ရွှေငွေများ အားလုံး မီးသွေးဖြစ်ကာ ဆင်းရဲသွားသည်။ ထိုအခါ မိတ်ဆွေတဦး၏ အကြံပေးချက်အရ ထိုက်တန်သူနှင့်တွေ့လျှင် မီးသွေးများ ရွှေငွေအဖြစ်သို့ ပြန်၍ ပြောင်းလဲလာမည်ဟု ယုံမှတ်ကာ ထိုသဌေးကြီးသည် မီးသွေးများကို ဈေးတွင် ဆိုင်ခင်း၍ ရောင်းချသည်။

တနေ့သ၌ ကိသာဂေါတမီသည် ဈေးသို့သွားရာ ထိုသဌေးဟောင်း၏ဆိုင်မှ မီးသွေးများကို ရွှေများအဖြစ်နှင့်သာ တွေ့မြင်ရသဖြင့် ‘ဤရွှေများကိုကုန်အောင် ဘယ်သူဝယ်နိုင်ပါမည်နည်း’ ဟု ဆိုရှင်သဌေးအား မေးမြန်းမိသည်။ ထိုအခါ သဌေးဟောင်းသည် ဘုန်းကံရှိသူကို တွေ့ရပြီဟု ဝမ်းသာစွာ ကိသာဂေါတမီ၏ နေရပ်များကို မေးမြန်း၍ မိမိသားကြီးနှင့် ထိမ်းမြားရန် စီစဉ်သည်။ ကိသာဂေါတမီ၏ လက်နှင့်ကိုင်ခဲ့သော မီးသွေးများ အားလုံးသည်လည်း ရွှေစင်အတိ ပြန်၍ဖြစ်ခဲ့သည်။ သို့ဖြင့် ကိသာဂေါတမီသည် သဌေးသားနှင့် လက်ထပ်ရလေသည်။

သို့သော် နောက်များမကြာမီ သဌေးကတော် ယောက္ခမကြီးမှာ ရက်စက်ငြိုငြင်တတ်သဖြင့် များစွာ စိတ်မချမ်းမသာ ဖြစ်ရလေသည်။ ထိုနောက် အချိန်ကာလကြာသော် သားတယောက်ကို ဖွားမြင်ရာ သားငယ်ကလေးမှာ သုံးလေးနှစ်အရွယ်တွင် သေဆုံးသွားသည်။ ထိုအခါ ကိသာဂေါတမီသည် သားငယ်ကို ချစ်ခြင်း၊ ယောက္ခမတို့အိမ်တွင် စိတ်ဆင်းရဲခြင်း ပြင်းထန်မှုတို့ကြောင့် ရူးသွပ်ကာ သားငယ်အလောင်းကို ချီပိုးပြေးလွှား၍ နေတော့သည်။

ထိုအခါ ပညာရှိတဦးက ကိသာဂေါတမီအား သင်၏သားငယ်ကို ဂေါတမမြတ်စွာဘုရားက အသက်ရှင်အောင် ကုသပေးနိုင်လိမ့်မည်ဟု တရားရစိမ့်သောငှါ မြတ်စွာဘုရားထံသို့ ညွှန်လိုက်၏။ ကိသာဂေါတမီလည်း ဝမ်းမြောက်စွာဖြင့် သားငယ်အလောင်းကိုပိုက်၍ မြတ်စွာဘုရားထံတော်သို့ သွားလေသည်။ မြတ်စွာဘုရားသည် ကိသာဂေါတမီကို မြင်သောအခါ ကယ်တင်လို၍ ပရိယာယ်ဖြင့် လူမသေဘူးသော အမျိုးအိမ်မှ မုန်ညင်းဆီကို ရအောင်ရှာယူခဲ့လျှင် အသက်ရှင်အောင် ပြုလုပ်ပေးမည်ဟု မိန့်တော်မူသည်။

ကိသာဂေါတမီသည် လူမသေသော အမျိုးအနွယ်အိမ်မှ မုန်ညင်းဆီကို ရရှိရန် တအိမ်တက်ဆင်း လှည့်လည်ရှာဖွေသည်။ ထိုသို့ရှာဖွေရာတွင် လူမသေဘူးသော အိမ်ဟူ၍ မတွေ့ရသည့်ပြင် ကြင်နာသော လူတယောက်က လူမသေဘူးသောအိမ်ကို ရှာဖွေ၍ အဘယ်အခါမျှ တွေ့နိုင်မည်မဟုတ်ကြောင်း ပြောပြလေသည်။ ထိုအခါမှ ကိသာဂေါတမီသည် သတိရကာ မသေခြင်းဟူသည်မရှိဘဲ လူအားလုံးကား သေတတ်သောသဘောတရား ရှိကြောင်းကို ဆင်ခြင်စဉ်းစားမိ၍ သားငယ်အလောင်းကို စွန့်ပစ်လိုက်ပြီးလျှင် မရဏာနုဿတိ ကမ္မဋ္ဌာန်းကို စီးဖြန်းသည်။

ထိုနောက် မြတ်စွာဘုရားထံသို့ ရောက်သောအခါ မြတ်စွာဘုရားက မုန်ညင်းဆီ ရပြီလောဟု မေးသည်။ ကိသာဂေါတမီလည်း မိမိသံဝေဂရပုံကို လျှောက်ထား၏။ ထိုအခါ မြတ်စွာဘုရားက တရားဟောပြော၍ သောတာပတ္တိမဂ်ကိုရကာ ရဟန်းပြုလေသည်။

တနေ့သ၌ ဆီမီးကိုအကြောင်းပြု၍ ခန္ဓာချုပ်ငြိမ်းသောသဘောတရားကို ထင်မြင်ကာ ဝိပဿနာဉာဏ်ရသည်။ ထိုနောက် ရဟန္တာဖြစ်တော်မူရာ ကောင်းမွန်သောသင်္ကန်းကို မတပ်မက်ဘဲ ပံ့သုကူသင်္ကန်းကိုသာ ဆင်းရဲခံ၍ ဝတ်ဆင်တတ်သောကြောင့် မြတ်စွာဘုရားက လူခစိဝရဓါရန တေဒဂ် ဘွဲ့ထူးဖြင့် ချီးကျူးခြင်း ပြုတော်မူသည်။

ထိုမှစ၍ ကိသာဂေါတမီထေရီအဖြစ် ထင်ရှားကျော်ကြားခဲ့လေသည်။

# တူရကီနိုင်ငံတော်သစ်၏ ဖခင်ကြီး

**စစ်မှုရေးရာတွင်လည်း ကျွမ်းကျင် နိုင်ငံရေးတွင်လည်း အရည်ဝသော ကီမားအာတာတပ်သည် စစ်သားဘဝမှနေ၍ နိုင်ငံတော်သမတ ဖြစ်လာသည်အထိ နိုင်ငံနှင့် လူမျိုးအတွက် အမြော်အမြင်ကြီးစွာဖြင့် စွမ်းလွန်းတမံ ဆောင်ရွက်ခဲ့သူဖြစ်၏။ ၂၀ ရာစုနှစ်တွင်ကမ္ဘာ့အရှေ့အလယ်ပိုင်းမှ ပေါ်ပေါက်ခဲ့၍ ကမ္ဘာ့သမိုင်းဝင် ထင်ရှားသည့် ပုဂ္ဂိုလ်ကြီးတဦးပင်တည်း။**

**ကီမားအာတာတပ်** (ခရစ် ၁၈၈၁–၁၉၃၈)။ ။ 'တူရကီတို့၏ဖခင်' ဟု အနက်ထင်သည့် အာတာတပ်အမည်ကို ခံယူသော မွတ်စတာဖါ ကီမားသည် ၁၈၈၁ ခုနှစ်တွင် ဂရိနိုင်ငံ ဆယ်လိုနီးကားမြို့တွင် ဖွားမြင်သည်။ သူ၏ဖခင်မှာ အကောက်အရာရှိတဦး ဖြစ်၍၊ မွတ်စတာဖါ ဖွားမြင်ပြီးနောက် မကြာမီကွယ်လွန်သွားလေသည်။

မွတ်စတာဖါသည် ငယ်စဉ်က ဆယ်လိုနီးကားမြို့ရှိ အခြေခံ စစ်ပညာသင်ကျောင်းတွင် ပညာသင်ကြားခဲ့စဉ်၊ သင်္ချာဘာသာရပ်တွင် သူမတူအောင် ထူးချွန်ခဲ့သောကြောင့်၊ သူနှင့်နာမည်တူ မွတ်စတာဖါအမည်ရှိသော သူ၏ဆရာက အမည်ရင်းတွင် 'ကီမား' ဟူသော အမည်တလုံး တိုးပေးခဲ့လေသည်။ ကီမားမှာ အာရဗီဘာသာဖြင့် ပြည့်ဝခြင်း၊ ပြည့်ဝသူဟု အနက်ရ၏။

မွတ်စတာဖါကီမားသည် ငယ်စဉ်မှစ၍ စစ်မှုကို ထမ်းခဲ့သူဖြစ်သဖြင့် စစ်ရေးစစ်ရာတွင် ထူးချွန်ခဲ့ရုံမက၊ နိုင်ငံရေးတွင်လည်း များစွာ စိတ်ဝင်စားခဲ့သူဖြစ်သည်။ နိုင်ငံရေးတွင် ဤသို့ စိတ်ပါဝင်စားရုံသာမက၊ လျှို့ဝှက်သော နိုင်ငံရေးအသင်းများ ဖွဲ့စည်းခြင်း၊ စစ်အရာရှိ ကြီးငယ်တို့အား နိုင်ငံရေးစိတ်ဓါတ်များ သွင်းပေးခြင်းတို့ကြောင့် မကြာခဏ ဖမ်းဆီးစစ်ဆေးခြင်း ခံရသော်လည်း၊ မွတ်စတာဖါမှာ အလွန်ထူးချွန်၍ စွမ်းရည်ရှိသော စစ်သားကောင်းတယောက် ဖြစ်သဖြင့် ကြီးလေးသော အပြစ်ဒဏ်များမှ ကင်းလွတ်ခဲ့လေသည်။ ဤသို့ဖြင့် မကြာခဏ ဖမ်းဆီးစစ်ဆေးခြင်း ခံရလျက်နှင့်ပင် သူသည် နိုင်ငံရေးကို မစွန့်လွှတ်ခဲ့ချေ။

၁၉၀၄ ခုနှစ်တွင် စစ်ဗိုလ်ရာထူးသို့ တိုးမြှင့်ခန့်ထားခြင်း ခံရသော်လည်း ထိုအချိန်မှာပင် မွတ်စတာဖါမှာ တော်လှန်ရေးအသင်းတခုတွင် ပါဝင်မှုနှင့် ဖမ်းဆီးစစ်ဆေးခြင်း ခံရပြီးနောက် ဒမက်စကပ်မြို့သို့ ပို့ထားခြင်း ခံရလေသည်။ ဒမက်စကပ်တွင်လည်း ၁၉၀၅ ခုနှစ်၌ လျှို့ဝှက်သော နိုင်ငံရေးအသင်းကို ဖွဲ့စည်းပြန်သောကြောင့် ဂျက်ဖါးမြို့သို့ ပြောင်းရွှေ့ခြင်း ခံရပြန်သည်။ ဂျက်ဖါးမှနေ၍ သူ၏ဇာတိဖြစ်သော ဆယ်လိုနီးကားမြို့သို့ တိတ်တဆိတ် ထွက်ပြေးသွား၍ ဥရောပနယ်မြေဖက်တွင် လျှို့ဝှက်သော နိုင်ငံရေးအဖွဲ့ ဖွဲ့စည်းပြန်သည်။ ဆယ်လိုနီးကားတွင် သူဖွဲ့စည်းခဲ့သော အသင်းသည် နောင်အခါတွင် စည်းလုံးတိုးတက်ရေး အသင်းကြီးနှင့် ပူးပေါင်း ဆက်သွယ်လေသည်။ ထိုအခါက ကွန်စတန်တီနိုပယ် အစိုးရက သူ့အားဖမ်းဆီးရန် အမိန့်ထုတ်ခဲ့သော်လည်း၊ မွတ်စတာဖါမှာ လွတ်မြောက်ခဲ့ရုံမက၊ စစ်သားကောင်းတယောက်အဖြစ် အသိအမှတ်ပြု

ထားခြင်း ခံရသူဖြစ်ရကား၊ ၁၉၀၇ ခုနှစ်တွင် အပြစ်မှ လွတ်ငြိမ်းချမ်းသာခွင့်ပေး၍ ရာထူး တိုးတက်ခန့်ထားသည့်ပြင် ဆယ်လိုနီးကားသို့ပင် ပြန်ပို့ခြင်း ခံရလေသည်။ သို့သော် မွတ်စတာဖါကား နိုင်ငံရေးနှင့် တော်လှန်ရေးလုပ်ငန်းများကို ဆောင်ရွက်လျက်ပင်ရှိ၏။

၁၉၀၈ ခုနှစ်တွင် စည်းလုံး တိုး တက် ရေး အသင်း ကြီး ၏ လှုံ့ဆော်မှုဖြင့် တော်လှန်ရေးကြီး ဖြစ်ပွားသည်တွင်၊ တော်လှန်သူတို့က အနိုင်ရလေရာ၊ စူလတန်ဘုရင်လည်း စည်းမျဉ်းခံအုပ်ချုပ်ရေးကို ခွင့်ပြုလိုက်ရလေသည်။ ထိုအခါ ၁၈၇၆ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို ပြန်လည်ပြဋ္ဌာန်းခဲ့သည်တွင် တော်လှန်ရေး ခေါင်းဆောင်များနှင့်မွတ်စတာဖါတို့ သဘောကွဲကြပြီးလျှင်၊ မွတ်စတာဖါသည် နိုင်ငံရေးမှခေတ္တအနားယူ၍ စစ်ဖက်တွင်သာ အားထုတ်၍အလုပ်လုပ်ခဲ့လေသည်။

၁၉၁၁ ခုနှစ်တွင် မထင်မရှားသော အသွင်ဖြင့် ထရစ်ပိုလီနယ်သို့သွား၍ ဣတာလျံတို့နှင့် တိုက်ရသော စစ်ပွဲတွင်ပါဝင်ဆင်နွှဲခဲ့ရာ ဗိုလ်မှူးအဆင့်အတန်းသို့ တိုးမြှင့်ခန့်ထားခြင်း ခံရသည်။ ထရစ်ပိုလီမှ သူမပြန်နိုင်မီ ပဌမဗော်လကန်စစ်ပွဲပြီးဆုံးသွားသော်လည်း၊ ဒုတိယဗော်လကန် စစ်ပွဲတွင် ဂလစ်ပိုလီကျွန်းဆွယ်သို့ စေလွှတ်ရန် ဖွဲ့စည်းသော တပ်ကြီးကို အုပ်ချုပ်၍ ထွက်ခဲ့ရလေသည်။ ထိုအခါက ဒါးဒနဲရေလက်ကြားကို ကာကွယ်ရေးအတွက် လက်တွေ့ အစီအစဉ်များကို လေ့လာခဲ့လေသည်။ စစ်ပြီးသောအခါ မွတ်စတာဖါကီမားမှာ ဗိုလ်မှူးကြီး အဆင့်အတန်းဖြင့် စစ်ဖက်ဆိုင်ရာ တွဲဖက်သံအရာရှိအဖြစ်ဖြင့် ဆိုဖီးယားမြို့သို့ စေလွှတ်ခြင်း ခံရလေသည်။

၁၉၁၄ ခုနှစ်မှ စတင်ဖြစ်ပွားသော ပဌမကမ္ဘာစစ်အတွင်း မွတ်စတာဖါကီမားသည် ဒါးဒနဲရေလက်ကြားကို အောင်မြင်စွာ ကာကွယ်နိုင်ခဲ့ပြီးနောက် ကော်ကေးဆပ်နယ်တွင် တူရကီတပ်များကို အုပ်ချုပ်ရန် စေလွှတ်ခြင်း ခံရပြန်သည်။ ပါရှားဘွဲ့ထူးဖြင့်လည်းချီးမြှင့်ခြင်း ခံရသည်။ ထိုအခါမှစ၍ မွတ်စတာဖါ ကီမား ပါရှား ဟူ၍ တွင်လေသည်။

ကော်ကေးဆပ်နယ်တွင် ရုရှတို့ တိုက်ခိုက်သိမ်းယူထားသော ဗစ်တလစ်နှင့် မုရှ်မြို့များကို ပြန်လည်တိုက်ခိုက်ယူခဲ့၏။ ၁၉၁၇ ခုနှစ်တွင် ဟယ်ဂျက်နယ်သို့ သွားရပြန်သည်။ ထိုအချိန်တွင် ဂျာမန်တို့သည် တူရကီ ပြည်တွင်းရေးများကိုပါ ဝင်ရောက် စွက်ဖက်လာခဲ့သောကြောင့်၊ ကီမားပါရှားသည် ထိုသို့ ဝင်ရောက်စွက်ဖက်မှုများကို ဦးဆောင်၍ အတိုက်အခံပြုခဲ့သည်။ သို့ရာတွင် ဂျာမန်ဩဇာခံ ဖြစ်နေသော စူလတန် ဘုရင်သည်သူ၏အစီရင်ခံစာများကို အရေးမယူဘဲထားသဖြင့် မွတ်စတာဖါလည်း ရာထူးမှ နုတ်ထွက်ခဲ့လေသည်။



ပဌမ တူရကီသမတ ကီမား အာတာတပ်

၁၉၁၈ ခုနှစ်တွင် စူလတန်ဘုရင်က ပြန်လည်ခေါ်ယူသဖြင့် ပါလက်စတိုင်းရှိ တူရကီစစ်တပ်များကို အုပ်ချုပ်ခဲ့ရပြန်သည်။ သို့သော် တူရကီနိုင်ငံမှာ အတော်ပင် အခြေယိုင်နေပြီဖြစ်၍၊ ပြန်လည်အခြေခိုင်အောင် မဆောင်ရွက်နိုင်တော့ပေ။ ထိုနှစ် အောက်တိုဘာလတွင် စစ်ပြေငြိမ်းရန်အရေးဆိုရသောအခါ မွတ်စတာဖါသည် လုံးဝလက်နက်ချလိုက်ရန်ကို သဘောမတူခဲ့သဖြင့် စစ်ပြေငြိမ်းစာချုပ်လက်မှတ်ထိုးပြီးချိန်တွင် စစ်တပ်မှ အနားယူလေတော့သည်။

သို့သော် ၁၉၁၉ ခုနှစ်တွင် အနာတိုးလီးယားနယ်သို့ စစ်ပြေငြိမ်းစာချုပ်ပါ စည်းကမ်းချက်များ အရ တူရကီ စစ်တပ်များကို လက်နက်သိမ်းယူပြီးလျှင် ဖျက်သိမ်းရန် စေလွှတ်ခြင်း ခံရလေသည်။ မွတ်စတာဖါကီမားမှာ တူရကီနိုင်ငံကို ခွဲစိတ်မည့် မဟာမိတ်တို့၏ အစီအစဉ်ကို တိုက်ဖျက်ပစ်ရန် ကြံစည်ထားသူ ဖြစ်ရကား၊ ထိုအရပ်တွင် လျှို့ဝှက်စွာ တူရကီမျိုးချစ်အသင်းအဖွဲ့များ တည်ထောင်ကာသူ၏အကြံ ထမြောက် အောင်မြင်စေရန် ကြိုးပမ်းခဲ့၏။

မွတ်စတာဖါကီမား၏ လှုပ်ရှားမှုများကို စူလတန်ဘုရင့်အစိုးရ သိရှိသောအခါ၊ သူအားကွန်စတန်တီနိုပယ်မြို့သို့ ပြန်ခေါ်ခဲ့သော်လည်း မွတ်စတာဖါသည် မနာခံတော့ဘဲ အာဇရွမ်းမြို့သို့ ထွက်သွားလေသည်။

ထိုအခါ စူလတန်ဘုရင့်အစိုးရသည် မွတ်စတာဖါနှင့် သူ၏နောက်လိုက်များကို ချေမှုန်းရန် အားထုတ်လေသည်။ သို့ရာတွင် ဤသို့အားထုတ်ခြင်းမှာ မွတ်စတာဖါအား အင်အား ဖြည့်လောင်းပေးလိုက်သည်နှင့်သာ တူလေသည်။ အဘယ်ကြောင့်ဆိုသော် စူလတန်ဘုရင်၏ စစ်တပ်နှင့် အရာရှိအရာခံ အများအပြားမှာ မွတ်စတာဖါ၏ နောက်လိုက်များ ဖြစ်သွားကုန်ကြသောကြောင့်တည်း။ ဤသို့ဖြင့် တဖြည်းဖြည်း အင်အားတောင့်တင်းလာပြီးလျှင် မဟာမိတ်တပ်များ သိမ်းပိုက်ထားသော ကွန်စတန်တီနိုပယ်မြို့ရှိ

တူရကီအစိုးရနှင့် အတိုက်အခံပြုလျက်၊ ယာယီအစိုးရအဖွဲ့ကို မွတ်စတာဖါကီမား ခေါင်းဆောင် ဖွဲ့စည်းခဲ့လေသည်။

ကွန်စတန်တီနိုပယ် ပါလီမန်မှ ထွက်ပြေး၍ မွတ်စတာဖါထံ ရောက်လာကြသော မျိုးချစ်အမတ်များသည် ၁၉၂၀ ပြည့်နှစ် ဧပြီလ ၂၃ ရက်နေ့တွင် အန်ကာရာမြို့၌ စည်းဝေးကြပြီးနောက်၊ အမျိုးသားလွှတ်တော်သစ် တည်ထောင်၍ မွတ်စတာဖါကီမားအား အမျိုးသားလွှတ်တော်သစ်တွင် ဥက္ကဋ္ဌအဖြစ် တင်မြှောက်ကြလေသည်။

ထိုအခါမှစ၍ မွတ်စတာဖါသည် တူရကီနိုင်ငံအတွင်း အမျိုးသားတော်လှန်ရေးအတွက် မနေမနား ကြိုးစားဆောင်ရွက်ခဲ့လေသည်။ သူ၏စစ်ရေးစစ်ရာ ကျွမ်းကျင်မှု အမြော်အမြင်ကြီးမှု တို့ကြောင့် အောင်မြင်ခဲ့သည်သာ များလေသည်။

၁၉၂၁ ခုနှစ်တွင် ကျင်းပသော အန်ကာရာ အမျိုးသားလွှတ်တော်က သူ့အား တူရကီစစ်တပ်များအပေါ်တွင် စစ်သေနာပတိချုပ်အဖြစ် ခန့်အပ်သဖြင့် အနာတိုးလီးယားနယ် တခုလုံးလိုလိုကိုပင် ဝင်ရောက်သိမ်းပိုက်ထားသော ဂရိစစ်တပ်များကို တိုက်ခိုက်ခဲ့ရလေသည်။ ဆာကားရီးယားတိုက်ပွဲတွင် ၂၁ ရက်တိတိ နေ့ရောညပါ ကိုယ်တိုင် ပါဝင်တိုက်ခိုက်ခဲ့ရာ ရန်သူတို့အပေါ် အောင်ပွဲရခဲ့လေသည်။ ထိုအခါတွင် မွတ်စတာဖါအား အမျိုးသားလွှတ်တော်က ဂါဇီ (အောင်ပွဲရသူ) ဘွဲ့ဖြင့် ချီးမြှင့်ခဲ့၏။ တနှစ်အတွင်း ဂရိတို့ကို တူရကီနယ်မြေမှ မောင်းနှင်ထုတ်နိုင်ခဲ့လေသည်။ မဟာမိတ်နိုင်ငံများနှင့် တူရကီနိုင်ငံတို့ လိုဇန်းမြို့တွင် ၁၉၂၂ ခုနှစ်၌ ချုပ်ဆိုခဲ့သော စစ်ပြေငြိမ်းစာချုပ်အရ တူရကီနိုင်ငံမှာ နိုင်ငံခြား စိုးမိုးချယ်လှယ်မှုမှ လွတ်ကင်းသွားပြီးလျှင် ကီမားမှာလည်း တူရကီတနိုင်ငံလုံး၏ အရှင်သခင် ဖြစ်သွားလေတော့သည်။ သူသည် စူလတန်ဘုရင်ကို နန်းချ၍ တူရကီအမျိုးသားနိုင်ငံကို တည်ထောင်ခဲ့လေသည်။

၁၉၂၃ ခု အောက်တိုဘာလ ၂၉ ရက်နေ့တွင် ကျင်းပသော အန်ကာရာ အမျိုးသားလွှတ်တော်က တူရကီနိုင်ငံကို သမတနိုင်ငံအဖြစ် ကြေညာပြီးလျှင် မွတ်စတာဖါကီမားအား ပဌမဆုံး သမတအဖြစ် သဘောတူ တင်မြှောက်လိုက်ကြလေသည်။

မွတ်စတာဖါကီမားသည် တူရကီသမတနိုင်ငံ၏ ပဌမဆုံး သမတ အဖြစ်ဖြင့်သာမဟုတ်ဘဲ နိုင်ငံသစ်တည်ထောင်သူအဖြစ်ဖြင့်၎င်း၊ပြုပြင်ရေးသမားကြီး အဖြစ်ဖြင့်၎င်း၊ထင်ရှားခဲ့လေသည်။ သူ၏လက်ထက်တွင် ခေတ်နောက်ကျလျက်ရှိသော စံနစ်ဟောင်း ဓလေ့ဟောင်း အားလုံးကို ပယ်ဖျက်၍၊ တိုးတက်ထွန်းကားလျက်ရှိသော နိုင်ငံကြီးများနည်းတူ ခေတ်မှီစံနစ်သစ် ထုံးစံသစ်များကို အသုံးပြုစေခဲ့လေသည်။ မွတ်စတာဖါကီမားသည် အာဏာရှင်သဖွယ် တူရကီနိုင်ငံကို အုပ်စိုးခဲ့ရာ၊ သူ၏အုပ်ချုပ်နည်းများမှာ တခါတရံ နိုင်ထက်စီးနင်း အကြမ်းဖက်သောနည်းများ ဖြစ်သော်လည်း၊ နိုင်ငံအတွက် အထူးလိုလားအပ်သော ပြုပြင်မှုများကို ထိုအကြမ်းနည်းများဖြင့် ဖြစ်မြောက်အောင် ဆောင်ရွက်ခဲ့လေသည်။

သူ့လက်ထက်တွင် တူရကီအမျိုးသမီးများ ပိုမိုလွတ်လပ်ခွင့် ရလာကြသည်။ သူသည် ပညာရေးကို ပြုပြင်ပေးခဲ့လေသည်။ သူကိုယ်တိုင်လည်း အာရဗီ ဘာသာစကားဖြစ်သော မွတ်စတာဖါဟူသော အမည်နှင့် ပါရှားဟူသော ခေတ်ဟောင်း ဂုဏ်ထူးဘွဲ့ထူးများကို စွန့်ပယ်၍၊ တူရကီတို့၏ ဖခင်ဟု အနက်ရသော 'အာတာတပ်' အမည်သစ်ကို ခံယူလေသည်။

သူ၏ ဆောင်ရွက်ချက်များကြောင့် တူရကီနိုင်ငံမှာ နိုင်ငံတကာနှင့် ယှဉ်သာသော နိုင်ငံသစ်ကြီးတခုအဖြစ်သို့ နေ့ခြင်းညခြင်း ရောက်ခဲ့လေသည်။ သူသည် အုပ်ချုပ်ရေးတွင် သာသနာရေးဆိုင်ရာတို့ ဝင်ရောက်စွက်ဖက်မှုများ လုံးဝ မရှိစေရန် တားမြစ် ပိတ်ပင်လိုက်လေသည်။

ကီမားအာတာတပ်သည် ၁၉၂၇ ခု နိုဝင်ဘာလတွင် တကြိမ်၊ ၁၉၃၁ ခု မေလတွင်တကြိမ်၊ ၁၉၃၅ ခု မတ်လတွင် တကြိမ် သမတအဖြစ် ဆက်ကာဆက်ကာ ရွေးကောက်တင်မြှောက်ခြင်း ခံရ၍၊ ပြည်သူတို့၏ ကြည်ညိုလေးစားမှုကို အသက်ထက်ဆုံး ရရှိသွားသူ ဖြစ်ပေသည်။ ဤသို့ တူရကီနိုင်ငံသစ်ကြီးကို တည်ထောင်ခဲ့သည့် ဗိသုကာကြီးဖြစ်သော တူရကီပြည်သူတို့၏ဖခင် ကီမားအာတာတပ်သည် စတုတ္ထအကြိမ် သမတသက်တမ်းမကုန်မီ ၁၉၃၈ ခု နိုဝင်ဘာလ ၁၀ ရက်နေ့တွင် ကွယ်လွန်အနိစ္စရောက်လေသည်။ (တူရကီနိုင်ငံ — လည်းရှု)။

**ကီယာတန်ညီနောင်။** ။တိရစ္ဆာန် နှင့် ငှက်များအကြောင်းကို ဝါသနာကြီးစွာနှင့် ဦးဦးဖျားဖျား လေ့လာလိုက်စားသူများတွင် ကီယာတန် အမည်ရှိသော ညီအစ်ကို နှစ်ယောက်မှာ အထူးခြားဆုံးဖြစ်သည်ဟု ဆိုရပေမည်။

အစ်ကိုဖြစ်သူ၏ အမည်မှာ ရစ်ချတ် ကီယာတန် ဖြစ်၏။ ၁၈၆၂ ခုနှစ်တွင် အင်္ဂလန်ပြည် ယော့ရှိုင်ယာနယ်၌ ဖွားမြင်၍၊ ဖခင်မှာ မြေပိုင်ရှင် လယ်သမားတဦး ဖြစ်သည်။ အရွယ်ရောက်လာသောအခါ ငှက်များကို ဓါတ်ပုံရိုက်ယူစုဆောင်းရုံမက ငှက်များအကြောင်းကိုလည်း စာအုပ်များ ရေးသားထုတ်ဝေခဲ့ရာမှ ထင်ရှားလာခဲ့သည်။ ကျောင်းများသို့ လှည့်လည်သွားရောက်ကာ ငှက်များအကြောင်း မကြာခဏ ဟောပြောလေ့ရှိ၍၊ သူ၏စာအုပ်များမှာ ယခုတိုင် ထင်ရှားလျက် ရှိပေသည်။ တိရစ္ဆာန်တို့အနက် ငှက်များတွင် ပို၍စိတ်ဝင်စားသည်။ ငှက်များအကြောင်းကိုသာ



ဒိန်းမတ်ကျွန်းဆွယ်ကိုဖြတ်၍ ဖေါက်လုပ်ထားသော ၆၁ မိုင်ရှည်သည့် ဂျာမန်ပိုင် ကီးတူးမြောင်းကြီး

အသက်ထက်ဆုံး အာရုံစူးစိုက်၍ လေ့လာခဲ့ပြီးနောက် ၁၉၂၈ ခုနှစ်တွင် ကွယ်လွန်လေသည်။

ညီဖြစ်သူ ချယ်ရီ ကီယာတန် သည် ၁၇၇၁ ခုနှစ်တွင် ဖွားမြင်သည်။ အစ်ကိုဖြစ်သူနှင့် ဝါသနာအထုံချင်း တူညီသည့်အလျောက် ညီအစ်ကိုနှစ်ဦးသည် အမြဲတစေ တွဲဖက်၍ တိရစ္ဆာန်နှင့် ငှက်များအကြောင်းကို ရှာဖွေ လေ့လာခဲ့ကြသည်။ ထူးခြားချက်တခုမှာ အစ်ကိုကဲ့သို့ ဗြိတိန်နိုင်ငံရှိ တိရစ္ဆာန်များဖြင့်သာ ရောင့်ရဲတင်းတိမ်၍ မနေဘဲ၊ သားရိုင်းတိရစ္ဆာန်များ ပေါများသည့် အာဖရိကတိုက်သို့ပင် သွားရောက်ပြီးလျှင် တောတိရစ္ဆာန် အသီးသီး၏ သဘာဝများကို ရုပ်ရှင်ရိုက်ကူးခဲ့သည်။ ထို့ကြောင့် အစ်ကိုထက်ပင် ထင်ရှား ကျော်ကြားခဲ့ပေသည်။

လူအပေါင်းအား သဘာဝကို နှစ်သက်ခင်တွယ်၍ စိတ်ဝင်စားလာအောင် ပြောနိုင်၊ ပြုနိုင် သူများတွင် ထိုညီအစ်ကိုနှစ်ယောက်ကို မှီသူရှားပေသည်။ တိရစ္ဆာန်များ ငှက်များ အကြောင်းနှင့် စပ်လျဉ်း၍ အဆိုပါ ညီအစ်ကိုနှစ်ယောက် ရေးသားခဲ့သော စာအုပ်စာတမ်းများနှင့် ရိုက်ကူးခဲ့သော ဓါတ်ပုံများမှာ အများပင်ရှိရာ၊ ယင်းတို့တွင် မှတ်သားဖွယ် ကိုယ်တွေ့ ဗဟုသုတနှင့် အသည်းထိတ်စရာ စွန့်စားခန်းများဖြင့် ပြည့်နှက်နေလေသည်။

**ကီးတူးမြောင်း။**　　။ကီးတူးမြောင်းသည် ဒိန်းမတ်ကျွန်းဆွယ်ကို ဖြတ်ကာ မြောက်ပင်လယ်ဖက်ရှိ အဲ့လဗမြစ်ဝကျယ် နှင့် ဗောလတစ်ပင်လယ်ဖက်ရှိ ကီးပင်လယ်အော်တို့ကို ဆက်သွယ်ဖေါက်လုပ်ထားသော တူးမြောင်းဖြစ်၍၊ ပဌမကမ္ဘာစစ်အတွင်းက ဂျာမန်ရေတပ်ကြီး လျှို့ဝှက် စခန်းချရာဒေသ ဖြစ်လေသည်။

ဂျာမနီနိုင်ငံ၏ သင်္ဘောဆိပ်မြို့ကြီးများသည် အများအားဖြင့် ဗောလတစ် ပင်လယ်ကမ်းခြေတွင် ရှိကြ၍၊ ထိုပင်လယ်မှ မိုင် ၂၀၀ ကျော်ခန့် ရှည်လျားသော ဒိန်းမတ်ကျွန်းဆွယ် ကမ်းခြေကို ပတ်ကာ မြောက်ပင်လယ်သို့ ကူးပြီးမှသာလျှင်၊ ဗြိတိန်၊ အမေရိကန် စသော နိုင်ငံကြီးများသို့ ကူးသန်းသွားလာနိုင်သည်။ ထိုသို့ ကွေ့၍သွားရသဖြင့် မလိုအပ်ဘဲ ခရီးကြန့်ကြာခြင်းကို သက်သာစေရန် ဤကျွန်းဆွယ်၏ တနေရာဖြစ်သော ဂျာမနီပိုင်နယ်အတွင်းတွင် ထိုတူးမြောင်းကြီးကို ဖေါက်လုပ်ခဲ့ရာ၊ ၁၇၈၅ ခုနှစ်တွင် စတင်ဖွင့်လှစ်နိုင်ခဲ့လေသည်။

ထိုတူးမြောင်းမှာ အလျား ၆၁ မိုင်ရှည်၍ အနံမှာ ၃၃၅ ပေ ကျယ်ပြီးလျှင် ၃၇ ပေနက်၏။ ထိုတူးမြောင်းကြီးကို စတင်ဖွင့်လှစ်ခဲ့စဉ်က ဤမျှလောက် ကျယ်ဝန်းနက်ရှိုင်းခြင်း မရှိသေးသော်လည်း နောင်အခါတွင် စစ်သင်္ဘောကြီးများ၏ ပမာဏသည် ရှေးအခါကထက် တိုးတက်ကြီးမားလာသည့်အလျောက် တိုးချဲ့ ဖေါက်လုပ်လာခဲ့ရာ၊ ၁၉၁၄ ခုနှစ်တွင် ပြီးမြောက်ခဲ့သည်။ တူးမြောင်း တိုးချဲ့ဖေါက်လုပ်ရာ၌ ပေါင် ၁၀,၀၀၀,၀၀၀ မျှ ကုန်ကျခဲ့လေသည်။

ပဌမကမ္ဘာစစ် ပြီးဆုံးသွားသောအခါ၊ ဗာဆေးစာချုပ်



ယူကရိန်းနိုင်ငံ ကီးယက်မြို့တော်ရှိ ပြည်သူတို့အတွက် ဖွင့်လှစ်ထားသောပြည်သူ့ပြတိုက်

ပါ သတ်မှတ်ထားသော စည်းမျဉ်းများအရ၊ နိုင်ငံအသီးသီးမှ သင်္ဘောကြီးများသည် ထိုတူးမြောင်းကြီးအတွင်းမှ ဖြတ်သန်းသွားလာနိုင်ခွင့် ရရှိခဲ့ကြသည်။ ဒုတိယကမ္ဘာစစ်အတွင်း မဟာမိတ်တို့၏ လေတပ်များက အကြိမ်ကြိမ်ဗုံးကြဲဖျက်ဆီးသည်ကို ခံခဲ့ရသောကြောင့် အတန်ပင် ပျက်စီးခဲ့လေသည်။ သို့သော် ပြန်လည်ပြင်ဆင်ခဲ့ရာ၊ ၁၉၄၅ ခုနှစ်မှစတင်၍ တူးမြောင်းအတွင်းယခင်ကကဲ့သို့ ကူးသန်းသွားလာနိုင်ပြီ ဖြစ်လေသည်။

**ကီးယက်မြို့။** ။ကီးယက်မြို့သည် နီးပါးမြစ်၏ လကျ်ာဖက်ကမ်းပေါ်တွင် တည်ရှိ၍ လူဦးရေ ၇၅၀,၀၀၀ မျှရှိသော မြို့ကြီးဖြစ်ပြီးလျှင်၊ ဆိုဗီယက် ဆိုရှယ်လစ် ယူကရိန်း သမတနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ဆိုဗီယက်ရုရှနိုင်ငံတွင် ရှေးအကျဆုံးသော မြို့ကြီးဖြစ်၍ ထိုမြို့ကို 'မြို့များမိခင်' ဟု ရုရှတို့ ခေါ်ကြသည်။ လယ်ယာနှင့် စက်မှုလုပ်ငန်းများ ထွန်းကားသော ဒေသတွင် တည်ရှိသည့်ပြင် မီးရထားလမ်းဆုံရာ မြို့ကြီးလည်း ဖြစ်သဖြင့် ရုရှနိုင်ငံတွင် တတိယအကြီးဆုံးမြို့ ဖြစ်၏။ ကုန်တင်ကုန်ချ ရှုပ်ရှက်ခတ်မျှ စည်ကားသော ဆိပ်ကမ်းများ၊ သတ္တုရည်ကျိုရုံများ၊ ဂျုံစက်၊ သကြားစက်၊ သားရေနယ်စက်၊ အရက်ချက်စက်၊ ဖန်ချက်စက် စသည်တို့အပြင် ဓါတ်ခွဲခန်းများ၊ စက်မှုလက်မှုပညာသင်ကျောင်းများ၊ ပြတိုက်များ၊ တက္ကသိုလ်ကျောင်းကြီးများနှင့် အမျိုးသားစာကြည့်တိုက်၊ သိပ္ပံပညာတံခွန်အသင်းတို့လည်း ရှိသဖြင့်၊ ကီးယက်မြို့သည် ယခုအခါခေတ်မှီသော မြို့ကြီးလည်း ဖြစ်လေသည်။

ကီးယက်မြို့တွင် အပိုင်းကြီးသုံးပိုင်း ထင်ရှားခြားနားစွာ တည်ရှိ၏။ ပဌမပိုင်းမှာ မြစ်ကမ်းတလျှောက်တွင်ရှိသော ပိုဒိုးခေါ် ကူးသန်းရောင်းဝယ်ရေးရပ်ကွက် ဖြစ်သည်။ ထိုအပိုင်းတွင် ယဟူဒီရပ်ကွက်လည်း ပါဝင်သည်။ ဒုတိယအပိုင်းမှာ တောင်ကုန်း အမြင့်ပိုင်းတို့ အပေါ်တွင်ရှိသော ကီးယက်မြို့ဟောင်းရပ်ကွက် ဖြစ်၏။ တတိယပိုင်းမှာ ပက်ချာစကီ တောင်ကုန်းပေါ်ရှိ လာဗရာ ဘုန်းကြီးကျောင်း ဖြစ်သည်။ လာဗရာကျောင်းတွင် ၁၁ ရာစုနှစ်အတွင်းက ဆောက်လုပ်ခဲ့သော ဂူအမြောက်အမြား ရှိ၏။ ယခင်က လာဗရာကျောင်းသည် မြို့တံတိုင်း၊ မျှော်စင်၊ ဈေးဆိုင်ကန္နား၊ ဘုရားရှိခိုးကျောင်း၊ စာသင်ကျောင်း၊ စာပုံနှိပ်စက် စသည်တို့ဖြင့် သီးခြားမြို့ကလေး တမြို့သဖွယ် တည်ရှိခဲ့သည်။ ၁၉၁၇ ခုနှစ် ရုရှတော်လှန်ရေး မစမီက ရုရှလူမျိုးတို့သည် လာဗရာကျောင်းသို့ နှစ်စဉ် ဘုရားဖူးသွားရောက်လေ့ ရှိကြသည်။ အချို့သော ဘုန်းကြီးများသည် ထိုအရပ်ရှိ ဂူများတွင် အသက်ထက်ဆုံး တရားအားထုတ်လေ့ ရှိကြသည်။ ကီးယက်မြို့ဟောင်းရပ်ကွက်တွင် ၁၁ ရာစုနှစ်အတွင်းက တည်ဆောက်ခဲ့သော ထည်ဝါခန့်ညားသည့် စိန်ဆိုဖီးယား ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီး

ရှိ၏။ ထိုဘုရားရှိခိုးကျောင်းကြီးမှာ ထိပ်ပိုင်းတွင် ရွှေသားဖြင့် ပြုလုပ်ထားသော ခေါင်းလောင်းစင်ကြီး ရှိသည့်အတွက် ထင်ရှားလေသည်။

ကီးယက်မြို့သည် ၅ ရာစုနှစ်အတွင်းက တည်ခဲ့သော မြို့ကြီးဖြစ်၏။ အလယ်ခေတ်တွင် စည်ကားတိုးတက်လျက် ထင်ရှားကျော်ကြားခဲ့သည်။ ထိုမြို့သည် ရုရှနိုင်ငံတွင် ခရစ်ယန် ဘုရားရှိခိုးကျောင်း နှင့် ခရစ်ယန် စာသင်ကျောင်းများ ရှေးဦးစွာ ဖွင့်လှစ်တည်ဆောက်ရာမြို့ ဖြစ်သည့်ပြင်၊ တခါက ဘုရားရှိခိုးကျောင်းပေါင်း ၁၅၀ မျှ ရှိခဲ့ဘူးသဖြင့်၊ ရှေးအခါက ရုရှတို့သည် ထိုမြို့ကို 'ကီးယက်မြို့မြတ်' ဟု ခေါ်စမှတ်ပြုခဲ့ကြ၏။ မွန်ဂိုလူမျိုး၊ လစ်သွေးနီးယန်းလူမျိုး နှင့် ပိုးလူမျိုးတို့သည် ကီးယက်မြို့ကို အသီးသီး ပိုင်ဆိုင်အုပ်စိုးခဲ့ကြဘူး၏။ သို့ရာတွင် ၁၆၆၇ ခုနှစ်၌ ရုရှလူမျိုးတို့က ပြန်လည် သိမ်းပိုက်လိုက်ကြသည်။ ၁၉၃၄ ခုနှစ်တွင် ယူကရိန်းနိုင်ငံ၏ မြို့တော်ဖြစ်လာ၏။ ဒုတိယကမ္ဘာစစ်အတွင်း၌ ဂျာမန်တို့သည် အပြင်းအထန် တိုက်ခိုက်၍ ကီးယက်မြို့ကို ၁၉၄၁ ခုနှစ်မှ ၁၉၄၃ ခုနှစ်အထိ သိမ်းပိုက်ထားခဲ့ကြ၏။ ၁၉၄၃ ခုနှစ်၌ ရုရှတပ်များ ကီးယက်မြို့သို့ ပြန်ရောက်လာသောအခါ မူလလူဦးရေ ၇၅၀,၀၀၀ ခန့်မှ ၃၅,၀၀၀ ခန့်အထိ လျော့ကျသွားသည်ကိုရင်း၊ လူနေအိမ်များနှင့် တကွ တန်တားများ၊ စက်ရုံများ၊ တက္ကသိုလ်ကျောင်း အဆောက်အအုံများနှင့် ရှေးဘုန်းကြီးကျောင်းများမှာ မရှုမလှ ပျက်စီးကုန်ပြီကိုရင်း၊တွေ့ကြရလေသည်။

**ကီးဝီးငှက်**။ ။ကမ္ဘာပေါ်ရှိ မြောက်မြားလှစွာသော ငှက်တို့တွင် ကီးဝီးဟု အမည်တွင်သော ငှက်မျိုးသည် အသွင်အားဖြင့် အံ့သြဖွယ်ရာ အကောင်းဆုံးသော ငှက်မျိုးဖြစ်သည်။ ကီးဝီးငှက်ကို နယူးဇီလန်ကျွန်းမှတပါး အခြားနိုင်ငံများ၌ မတွေ့ရချေ။ ကီးဝီးဟူသော နာမည် မှာ အော်သံကိုအစွဲပြု၍ နယူးဇီလန် တိုင်းရင်းသားများက ပေးထားသော နာမည်ဖြစ်သည်။ သိပ္ပံပါရဂူများကမူ ထိုငှက်၌ ပျံသန်းနိုင်လောက်သော အတောင်များ မရှိသောကြောင့် 'အက်ပတာရစ်' (တောင်ပံမဲ့) ဟု ခေါ်သည်။

ကီးဝီးငှက်တွင် အလွန်ရှည်လျားသော နှုတ်သီးရှိသည်။ အရွယ်မှာ အိမ်၌ မွေးထားသော ကြက်အငယ်စား အရွယ်သာသာ ဖြစ်သည်။ ကီးဝီးတွင် တောင်ပံများရှိ၏။ သို့သော် အလွန်သေးငယ်၍ ပျံသန်းရန်အတွက် အသုံးမကျချေ။ ကိုယ်၌ရှိသော အမွေးများမှာ အလွန်ရှည်၍ တကိုယ်လုံး အမွေးအမှင်များ ဖုံးနေဘိသကဲ့သို့ ထင်ရသည်။ မပျံသန်းနိုင်သော်လည်း ခြေထောက်များမှာ အလွန်သန်မာတောင့်တင်းသည်။ အခြားငှက်များနှင့် မတူသော ထူးခြားချက်တခုမှာ ထိုငှက်၏ နှာခေါင်းပေါက်များသည် ရှည်လျားသော နှုတ်သီးဖျားတွင် ရှိနေခြင်းပင် ဖြစ်၏။ အစာရှာဖွေသောအခါ နှာခေါင်းဖြင့် အနံ့ခံ၍ ရှာဖွေသည်။ သူ၏အစာမှာ တီကောင်၊ ပိုးတောင်မာနှင့် ဗယ်ရီသီးများဖြစ်၏။ တီကောင်ကို နှုတ်သီးဖြင့် ရှုံထဲ၌ ရှာဖွေတတ်သည်။

ကီးဝီးသည် နေ့ခင်းတွင်အိပ်၍ ညအခါ၌သာ အစာရှာဖွေသည်။ ရန်သူကို ခုခံရန်အတွက် ချွန်ထက်သော ခြေသည်းများကို အသုံးပြုသည်။ ငှက်၏ အရွယ်နှင့်စာသော် သူ၏ဥမှာ ကြီးမားသည်ဟု ဆိုရပေမည်။ တကြိမ်လျှင် ဥ ၂ လုံးခန့်အု၍ ငှက်ဖိုက ဥပေါ်၌ ဝပ်သည်။ အသိုက်ပြုလုပ်သော အလေ့အကျင့် မရှိဘဲ မြေကြီး၌ ကျင်းတူး၍ အုတတ်သည်။ နယူးဇီလန် တိုင်းရင်းသားများ၏ သတ်ဖြတ်မှုကြောင့် ကီးဝီးများ အတော် နည်းပါးသွားလေပြီ။ သို့ရာတွင် ယခုအခါ၌ ဤငှက်မျိုးကို မသတ်ဖြတ်ရ ဟု နယူးဇီလန်အစိုးရက ဥပဒေဖြင့်တားမြစ်ထားလေသည်။

**ကုကီးချင်း**။ ။ချင်းလူမျိုး — ရှု။



နယူးဇီလန်ကျွန်းမှ ထူးဆန်းသည့် ကီးဝီးငှက်




**ကုလသမဂ္ဂ။** ။ပဌမ ကမ္ဘာ စစ် ပြီး စီး သည့် နောက် တွင် နိုင်ငံပေါင်းချုပ်အသင်းကြီးပေါ် ပေါက် လာသကဲ့သို့၊ ဒုတိယ ကမ္ဘာစစ်အပြီးတွင် ကုလသမဂ္ဂပေါ် ပေါက်လာလေသည်။ ယူ၊အင်၊ အို ဟုခေါ် သော ကုလသမဂ္ဂ သည် အသင်း ဝင်နိုင်ငံ အများဆုံးနှင့် လူမျိုးအများဆုံးပါဝင်သောအင်အားအကြီး မားဆုံးကမ္ဘာ့အစည်းအရုံးဖြစ် လေသည်။ ရှေးကရှိခဲ့သော နိုင်ငံပေါင်းချုပ်အသင်းကြီးထက်လည်း အင်အားကြီးမား သည်။ နိုင်ငံပေါင်းချုပ်အသင်းကြီးတွင် မပါဝင်ခဲ့သောအ မေရိကန်ပြည်ထောင်စုနှင့် အခြားနိုင်ငံများသည် ကုလ သမဂ္ဂတွင် စိတ်အားထက်သန်သောအဖွဲ့ဝင်များဖြစ်လာကြ လေသည်။ (နိုင်ငံပေါင်းချုပ်အသင်း — လည်းရှု)။

ကုလသမဂ္ဂစာချုပ်ကြီးကိုအခြေခံ၍ ကုလသမဂ္ဂကိုဖွဲ့စည်း ထားသည်။ ကုလသမဂ္ဂဝင်နိုင်ငံများသည် ကြီးငယ်မဟူ၊ လက် ဝဲလက်ျာမ ရွေး၊ ကုလ သမဂ္ဂစာ ချုပ် ကြီး တွင် ပြဋ္ဌာန်း ထားသော တာဝန်ဝတ်တရားများကို လက်ခံပါသည်၊ လိုက် နာပါမည်ဟု ကတိခံဝန်ပြုရ သည်။ ကုလ သမဂ္ဂ၏ အချုပ် အချာ မဏ္ဍိုင်ကား ကုလသမဂ္ဂစာချုပ်ကြီးပင်ဖြစ်လေသည်။ စာချုပ် ကို မကျူး ကျော် မဖေါက် ဖျက် ရချေ။ စာချုပ်က ချပေးထားသောလမ်းစဉ်အတိုင်းသာ လိုက်နာဆောင်ရွက်ရ သည်။ ကုလသမဂ္ဂဝင်တနိုင်ငံသည် ကုလသမဂ္ဂစာချုပ် ကြီး တွင် ပြဋ္ဌာန်း ထား သော တာဝန်ဝတ်တရားများနှင့်၊အ ခြား နိုင်ငံ များ နှင့် ချုပ် ဆို ထား သော စာချုပ် တွင်ပြဋ္ဌာန်း ထားသော တာဝန်ဝတ်တရားများ အပြိုင်အဆိုင်ဖြစ်နေ သော်၊ ကု လ သမဂ္ဂ စာချုပ် ကြီး တွင် ပြဋ္ဌာန်း ထား သော တာဝန်ဝတ်တရားများကိုသာ ဦးစားပေးရမည်ဖြစ်သည်။

ရည်ရွယ်ချက်များတွင် ကုလသမဂ္ဂနှင့် နိုင်ငံပေါင်းချုပ် အသင်းကြီးသည် များစွာမခြားနားလှပေ။

ကမ္ဘာပေါ် တွင် ငြိမ်း ချမ်း ရေး နှင့် လုံခြုံ ရေး တို့တည်မြဲ အောင်လုံးပန်းရန်၊

လူများသည် တူညီသောအခွင့်အရေးများ နှင့် ကိုယ့် ကြမ္မာ ကို ယ် ဖန် တီး ခွင့် များ ရရှိ ရေး ကို အ ခြေ ခံ လျ က်၊ ပြ ည် ထော င် ချင်း ချင်း ချစ် ကြ ည် ရေး ကို ခိုင် မြဲ အောင် ဆော င် ရွက်၍ အခြားလျော်ကန် သောအစီအမံများ ဖြင့် ငြိမ်းချမ်း ရေးခိုင်မြဲအောင်ကြိုးစားရန်၊

အမျိုး၊ဘာသာစကား၊ကျား–မ၊အယူဝါဒမခွဲခြားဘဲ ပြည် ထောင်ချင်းချင်းဆိုင်ရာ စီးပွားရေး၊ လူမှုရေးရာ၊ ယဉ်ကျေး မှု နှင့် လူအချင်းချင်းကြင်နာမှုပြဿနာများကိုဖြေရှင်းရာ၌ ၎င်း၊ လူတို့၏အခွင့်အရေးများနှင့် အခြေခံလွတ်လပ်မှုအခွင့်

အရေး များ ကို ရိုသေလေး စားအောင်ဆောင် ရွက် ရာတွင် ၎င်း၊ ပြုမူဆောင်ရွက်ခွင့်ကိုရရှိစေရန်နှင့်၊

ထိုအချက် များ ထမြောက် အောင် မြင် စေခြင်းငှါ ကုလ သမဂ္ဂသည် နိုင်ငံအသီးသီးတို့၏ပြုမူဆောင်ရွက်ချက်များကို တညီတညွတ် တည်း ဖြစ် အောင်ပြုပြင်မည့်မဏ္ဍိုင်သဖွယ်ဖြစ် စေရန် ကုလသမဂ္ဂကိုဖွဲ့စည်းစဉ်က ရည်ရွယ်လေသည်။

ထို့ပြင် ကုလသမဂ္ဂကိုအောက်ပါသဘောတရားများပေါ် တွင် အခြေခံ၍တည်ထောင်ခဲ့၏။ ယင်းတို့မှာ

(၁) အဖွဲ့ဝင်နိုင်ငံအားလုံးသည် အချုပ်အချာအာဏာ ပိုင်နိုင်ငံများဖြစ်၍ အဆင့်အတန်းချင်းတူညီသည်။

(၂) အဖွဲ့ဝင် နိုင်ငံ အား လုံးသည် စိတ်ကောင်းသဘော ကောင်းနှင့် စာချုပ်ကြီးတွင်ဖော်ပြထားသောတာဝန်ဝတ် တရားများကို ထိန်းသိမ်းဆောင်ရွက်ရန်တာဝန်ခံသည်။

(၃) အဖွဲ့ဝင်နိုင်ငံများသည် ယင်းတို့၏အငြင်းပွားမှုများ ကို အေးချမ်းသောနည်းများဖြင့်ဖြစ်စေ၊ငြိမ်းချမ်းရေး၊လုံခြုံ ရေး နှင့် တရားမျှတရေးတို့ကို မပျက်ပြားစေဘဲဖြစ်စေ၊ ဖြေ ရှင်းရန်တာဝန်ခံသည်။

(၄) နိုင်ငံအချင်းချင်း ဆက်ဆံရာတွင် အဖွဲ့ဝင်နိုင်ငံတခု သည် အခြားတနိုင်ငံ၏နယ်မြေနှင့် လွတ်လပ်မှုအခွင့်အရေး တို့ကို ထိပါးစေသောအကြမ်းမှုကိုမဖက်ရ၊အကြမ်းဖက်မည် ဟုမခြိမ်း ခြောက်ရ၊ သို့မဟုတ် ကုလ သမဂ္ဂ၏ ရည် ရွယ် ချက် များနှင့်ဆန့်ကျင်၍မပြုမူရ။

(၅) ကုလသမဂ္ဂသည် စာချုပ်ပါအချက်အလက်များနှင့် လျော်ညီစွာ ငြိမ်းချမ်းရေးတည်မြဲအောင်နှင့် ငြိမ်းချမ်းရေး ပြန်လည်ရရှိအောင်အရေးယူသောအခါ၊ အဖွဲ့ ဝင် နိုင်ငံ တိုင်း သည် လိုအပ်သောအကူအညီများပေးရမည့်ပြင်၊ အရေးယူ ခြင်းခံရသောနိုင်ငံအား အကူအညီမပေးရန် တာဝန်ခံသည်။

(၆) ငြိမ်းချမ်းရေးနှင့် လုံခြုံရေးကိုစောင့်ထိန်းရန်လိုအပ် သည်နှင့်အမျှ၊အဖွဲ့ဝင်မဟုတ်သောနိုင်ငံများသည်လည်း စာ ချုပ်ပါအချက်အလက်များအတိုင်းဆောင်ရွက် ရေး အတွက် အဖွဲ့ကြီးကစီမံပေးရမည်။

(၇) အဖွဲ့ဝင်နိုင်ငံတခု၏ပြည်တွင်းရေးကိစ္စများတွင် ငြိမ်း ချမ်း ရေး ရရှိ ရန် ဆောင် ရွက် သည့်အခါမှ တပါး၊ ကုလသမဂ္ဂ သည် ဝင်ရောက် စွက် ဖက်ခြင်းမပြုရ စသည်တို့ဖြစ်လေသည်။

ကု လ သ မ ဂ္ဂ ပေါ် ပေါ က် လာ စေ ရန် နိုင်ငံ ကြီးများ သည်အကြိမ်ကြိမ်ဆွေးနွေး တိုင်ပင်၍ ခရီးအဆင့်ဆင့်ဖြတ်ကျော်ခဲ့ရ သည်။ ဒုတိယကမ္ဘာစစ်စတင် ဖြစ် ပွား၍ ၂၂ လမျှ အ ကြာ၊ ၁၉၄၁ ခုဇွန် လ တွင် ဗြိတိသျှအစိုးရနှင့် ၉ နိုင်ငံမှစစ်ပြေးအစိုး ရတို့သည် လန်ဒန်မြို့တော်ရှိ စိန့်ဂျိမ်းနန်း တော် တွင် စ စ် ဖြ စ် စေ သည့် အ ခြေ ခံ အကြောင်း ရင်း များ ကို အမြစ်ကလှန်၍ ဖြိုဖျက်ရန်နှင့် ကမ္ဘာပေါ်ရှိလူမျိုးအသီး သီးအတွက် ဘဝသစ်ဖန်တီးပေးရန် မျက် နှာ စုံညီ ဆွေးနွေး ပြီး သော်၊ စိန့် ဂျိမ်း နန်း တော်ကြေညာစာတမ်း ကိုထုတ် ပြန် လိုက် လေသည်။ ကု လ သ မ ဂ္ဂ ပေါ် ပေါက် ရေး အ တွက် ရှေး ဦး စွာ လမ်း ခင်း ပေး လိုက် သော ကြေညာစာတမ်းပင်ဖြစ်ပေသည်။

ထို့နောက် အမေရိကန်သမ္မတကြီး ရူး ဇဗဲ့ နှင့် ဗြိတိသျှဝန်ကြီးချုပ် မစ္စ တာ ချာ ချီတို့သည် ၁၉၄၁ ခုဩဂုတ်လ၌ အတ္တ လ န္တိတ် သ မုဒ္ဒ ရာ အတွင်း တ နေ ရာ တွင် လျှို့ဝှက်စွာတွေ့ဆုံဆွေးနွေး၍၊ ဩဂုတ်လ ၁၂ ရက်နေ့ တွင် သူတို့နှစ် ဦး ပူး ပေါင်း ကာနောင်အခါတွင် 'အတ္တလန္တိတ်စာ



အထပ်ပေါင်း ၃၉ ထပ်ရှိ ကုလသမဂ္ဂအဆောက်အအုံသစ်ကြီး

ချုပ်' ဟုကျော်ကြားခဲ့သော ကျေညာစာတမ်းတစောင်ကို ထုတ်ပြန်ခဲ့၏။

အတ္တလန္တိတ်စာချုပ်တွင် ကုလသမဂ္ဂကြီး၏အခြေခံရည်ရွယ်ချက်အချို့ပါဝင်လေသည်။

ထိုနှစ်စက်တင်ဘာလ ၂၄ ရက်နေ့တွင် ဂျာမနီသိမ်းပိုက်ထားသောဥရောပနိုင်ငံ ၉ နိုင်ငံနှင့် ဆိုဗီယက်ရုရှအစိုးရများက အတ္တလန္တိတ်စာချုပ်ကို သဘောတူထောက်ခံကြောင်း လက်မှတ်ရေးထိုးခဲ့သည်။ ယင်းသို့အားဖြင့် ကုလသမဂ္ဂပေါ်ပေါက်ရန် ရှေ့သို့တဆင့်လှမ်းခဲ့ပြန်သည်။

၁၉၄၂ ခုနှစ်သစ်ကူးနေ့တွင် 'ကြီးလေးကြီး' ဟုသတင်းစာများကကင်ပွန်းတပ်လိုက်သော အမေရိကန်ပြည်ထောင်စု၊ ဗြိတိန်၊ ဆိုဗီယက်ရုရှနှင့် တရုပ်နိုင်ငံများအပါအဝင်နိုင်ငံပေါင်း ၂၆ နိုင်ငံတို့သည် စစ်အောင်နိုင်ရေးအတွက် တဦးကိုတဦး ကူညီရန်နှင့် သီးခြားငြိမ်းချမ်းရေးစာချုပ် မချုပ်ရန် 'နိုင်ငံပေါင်းစုံကျေညာစာတမ်းကြီး' ကို လက်မှတ်ရေးထိုးခဲ့ကြသည်။

ထိုနှစ်ဆောင်းဦးပေါက်တွင် ကြီးလေးကြီးမှကိုယ်စားလှယ်များသည် မော်စကိုမြို့တော်၌တွေ့ဆုံဆွေးနွေးပြီးသော်၊ငြိမ်းချမ်းရေးအတွက် ကမ္ဘာလုံးဆိုင်ရာအဖွဲ့အစည်းတခုလိုအပ်ကြောင်းဖော်ပြကာ 'မော်စကိုကျေညာစာတမ်း' ကို လက်မှတ်ရေးထိုး၍ထုတ်ပြန်လိုက်လေသည်။

ထိုနောက်ကြီးလေးကြီးကိုယ်စားလှယ်များသည် ၁၉၄၄ခု ဩဂုတ်လ ၂၁ ရက်နေ့မှ အောက်တိုဘာလ ၇ ရက်နေ့အထိ၊ ဝါရှင်တန်မြို့တော်ရှိ ဒမ်ဗာတန်အုတ်အဆောက်အအုံတွင်၊ ကမ္ဘာလုံးဆိုင်ရာအဖွဲ့အစည်းတခုအတွက် အသေးစိတ်လျာထားချက်များကို ထပ်မံစဉ်းစားဆွေးနွေးခဲ့၏။

အမေရိကန်သမတကြီးရူးဇဗဲ့၊ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာချာချီနှင့် ဆိုဗီယက်ရုရှခေါင်းဆောင်ကြီးစတာလင်တို့သည် ၁၉၄၅ ခု ဖေဖွာရီလတွင် ကရိုင်းမီးယားနယ်ယော်လတာမြို့၌တွေ့ဆုံကာ ထိုလျာထားချက်များကိုပြန်လည်ဆွေးနွေးကြသည်။ ထိုအစည်းအဝေးတွင် ကမ္ဘာ့ငြိမ်းချမ်းရေးနှင့်လုံခြုံရေးအတွက် အဖွဲ့ကြီးတခုဖွဲ့စည်းရန်သဘောတူဆုံးဖြတ်ပြီးသော်၊ နိုင်ငံပေါင်းစုံကျေညာစာတမ်းကြီးကို လက်မှတ်ရေးထိုးခဲ့သော ၂၆ နိုင်ငံသာမက၊ဂျပန်နှင့်ဂျာမနီတို့ကိုတိုက်ခိုက်နေသော အခြားနိုင်ငံများအပါအဝင် နိုင်ငံပေါင်းစုံညီလာခံတရပ်ကိုလည်း ၁၉၄၅ ခုဧပြီလ ၂၅ ရက်နေ့တွင်အမေရိကန်ပြည်ထောင်စု ဆန်ဖရန်စစ္စကိုမြို့၌ကျင်းပရန် သဘောတူခဲ့ကြသည်။

၁၉၄၅ ခုဇွန်လ ၂၅ ရက်နေ့တွင် ဆန်ဖရန်စစ္စကိုညီလာခံမှ ကုလသမဂ္ဂစာချုပ်ကို တညီတညွတ်တည်းသဘောတူညီခဲ့ပြီးသော်၊နောက်တနေ့တွင် ပိုလန်နိုင်ငံမှအပ နိုင်ငံပေါင်း ၅၀ မှကိုယ်စားလှယ်များလက်မှတ်ရေးထိုးကြလေသည်။ မူလအဖွဲ့ဝင်တဦးဖြစ်သောပိုလန်နိုင်ငံသည် နောင်တွင်မှလက်မှတ်ရေးထိုးခဲ့၏။ ထိုသို့လက်မှတ်ရေးထိုးပြီးကြ၍ အဖွဲ့ဝင်အားလုံး၏အတည်ပြုချက်ရရှိပြီးသည်၏အဆုံး၌ ကုလသမဂ္ဂသည် ၁၉၄၅ ခုအောက်တိုဘာလ ၂၄ ရက်နေ့တွင် မားမားမတ်မတ်ပေါ်ပေါက်လာလေသည်။ ယခုအခါထိုအဖွဲ့ဝင်နိုင်ငံများတွင် အထိမ်းအမှတ်ပွဲများကျင်းပခြင်းဖြင့် အမြတ်တနိုးပြုလျက်ရှိကြလေပြီ။ (ကုလသမဂ္ဂနေ့ — ရှု။) ကုလသမဂ္ဂ၏မူလအဖွဲ့ဝင်နိုင်ငံပေါင်းမှာ ၅၁ နိုင်ငံဖြစ်၏။

ကုလသမဂ္ဂသို့ဝင်နိုင်ရန်အတွက် ထူးခြားသောအရည်အချင်းများမလိုပေ။ငြိမ်းချမ်းရေးကိုမြတ်နိုးသောမည်သည့်နိုင်ငံမဆို ကုလသမဂ္ဂစာချုပ်ပါတာဝန်ဝတ်တရားများကို လိုက်နာပါမည်ဟုဝန်ခံသောအခါ၊ အဖွဲ့ကြီးက ထိုနိုင်ငံသည် စာချုပ်ပါတာဝန်ဝတ်တရားများကို လိုက်နာလိုသည့်ပြင် လိုက်နာနိုင်မည်ဟုထင်မြင်လျှင် ပါဝင်ခွင့်ပြုလေတော့သည်။

## ကုလသမဂ္ဂဝင်နိုင်ငံများ

### (က) မူလအဖွဲ့ဝင်နိုင်ငံများ။

၁။ ကနေဒါ
၂။ ကော်စတာရီးကား
၃။ ကိုလံဘီးယား
၄။ ကျူးဗား
၅။ ချီလီ
၆။ ချက်ကိုဆလိုဗားကီးယား
၇။ ဂရိ
၈။ ဂွာတီမားလား
၉။ ဆီးရီးယား
၁၀။ ဆော်ဒီအာရေဗျ
၁၁။ ဆိုဗီယက်ရုရှ
၁၂။ တရုပ်
၁၃။ တူရကီ
၁၄။ တောင် အာဖရိက ပြည်ထောင်စု
၁၅။ ဒိုမင်နီကန် ရီပတ်ဗလစ်
၁၆။ ဒိန်းမတ်
၁၇။ နယူးဇီလန်
၁၈။ နယ်သာလန်
၁၉။ နော်ဝေး
၂၀။ နစ်ကရားဂွ
၂၁။ ပနားမား
၂၂။ ပါရဂွေး
၂၃။ ပီးရူး
၂၄။ ပိုလန်
၂၅။ ပြင်သစ်
၂၆။ ဖိလစ်ပိုင်
၂၇။ ဗရာဇီး
၂၈။ ဗဲလဂျီယမ်
၂၉။ ဗိုလစ်ဗီးယား
၃၀။ ဗင်နီဇွဲလား
၃၁။ ဗျဲလိုရုရှ
၃၂။ မက္ကဆီကို
၃၃။ ယူကရိန်း
၃၄။ ယူဂိုစလားဗီးယား
၃၅။ ယူနိုက်တက်ကင်းဒမ်း
၃၆။ လက်ဗနွန်
၃၇။ လိုက်ဗီးရီးယား
၃၈။ လပ်ဇင်ဗတ်
၃၉။ ဟေးတီး
၄၀။ ဟွန်ဒူးရပ်
၄၁။ အမေရိကန် ပြည်ထောင်စု
၄၂။ အာဂျင်တီးနား
၄၃။ အီဂျစ်
၄၄။ အီရက်
၄၅။ အီရန်



ပလပ်ရှင်းမဲဒိုးရှိယာယီဌာနချုပ်တွင် ကုလသမဂ္ဂအထွေထွေလွှတ်တော်ကျင်းပနေစဉ်

၄၆။ အီသီအိုးပီးယား
၄၇။ အုရုဂွေး
၄၈။ အယ်ဆယ်လဗာဒေါ
၄၉။ ဩစတြေးလီးယား
၅၀။ အက်ကွာဒေါ
၅၁။ အိန္ဒိယ

(ခ) နောက်ထပ်ဝင်ခွင့်ရသောနိုင်ငံများ (ခုနှစ်အလိုက်)။

၅၂။ အာဖဂနိစတန် (၁၉၄၆)
၅၃။ အိုက်စလန် (၁၉၄၆)
၅၄။ ဆွီဒင် (၁၉၄၆)
၅၅။ ယိုးဒယား (၁၉၄၇)
၅၆။ ပါကစ္စတန် (၁၉၄၇)
၅၇။ ယေမင် (၁၉၄၇)
၅၈။ မြန်မာ (၁၉၄၈)
၅၉။ အစ္စရီယယ် (၁၉၄၉)
၆၀။ အင်ဒိုနီးရှား (၁၉၅၁)

ကုလသမဂ္ဂတွင် ပါဝင်သော အဖွဲ့ကြီးများ

ကုလသမဂ္ဂ၏ဆောင်ရွက်ဖွယ်များမှာ တကမ္ဘာလုံးနှင့်အကျုံးဝင်နေသည့်အလျောက်

၁။ အထွေထွေလွှတ်တော်
၂။ လုံခြုံရေးကောင်စီ
၃။ စီးပွားရေးနှင့် လူမှုရေးရာအဖွဲ့
၄။ နိုင်ငံငယ်များထိန်းသိမ်းရေးအဖွဲ့
၅။ အပြည်ပြည်ဆိုင်ရာတရားရုံးတော်
၆။ အတွင်းရေးမှူးရုံး ဟူသောအဖွဲ့ကြီး ၆ ဖွဲ့ဖြင့်၎င်း၊ လိုအပ်လျှင် အဖွဲ့ငယ် အဖွဲ့ခွဲ ကလေး များ ဖွဲ့၍၎င်း၊ ဆောင်ရွက်ရလေသည်။

(၁) အထွေထွေလွှတ်တော်။

အထွေထွေလွှတ်တော်သည် နိုင်ငံအများရှိပါလီမန်လွှတ်တော်တို့နှင့် သဘောချင်း တူသည် ဟုဆိုနိုင်ပေသည်။ အထွေ ထွေ လွှတ် တော် သို့ ကုလ သမဂ္ဂဝင် နိုင်ငံ တိုင်း တက်ရောက်နိုင်ခွင့်ရှိ၍ ကိုယ်စားလှယ် ၅ ဦးအထိ စေလွှတ်နိုင်ခွင့်ရှိသော်လည်း၊ မဲပေးသောအခါ တနိုင်ငံလျှင် တမဲသာပေးခွင့်ရှိသည်။ တနှစ်လျှင်တကြိမ်ကျ ကုလသမဂ္ဂတည်ရာဌာနချုပ်၌ ညီလာခံကျင်းပလေသည်။ ကုလသမဂ္ဂဝင်နိုင်ငံများစု ကသော်၎င်း၊ လုံခြုံ ရေး ကောင် စီ က သော်၎င်း၊ အထူး ညီ လာ ခံ များ ကျင်း ပ ရန် တောင်း ဆိုသောအခါ၊ အတွင်းရေးမှူးချုပ်က အထူးညီလာခံခေါ် ပေးရလေသည်။

အထွေထွေလွှတ်တော် ညီလာခံ ကျင်းပတိုင်း ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌများကို မဲဖြင့်ရွေးချယ်ရသည်။

အ ထွေ ထွေ လွှတ်တော် သည် ကုလသမဂ္ဂစာချုပ်တွင်အကျုံးဝင်သောပြဿနာရပ်များ ကိစ္စရပ်များကို၎င်း၊ အခြားအဖွဲ့များ၏အာဏာများ အလုပ်တာဝန်များကို၎င်း၊ ဆွေး

နွေးနိုင်သည်။ ထောက်ခံချက်များပေးနိုင်သည်။ သို့ရာတွင် အငြင်းပွားမှု အခြေအနေ အရပ်ရပ်ကို လုံခြုံရေးကောင်စီက ဖြေရှင်းနေခိုက်တွင်၊ ထိုအငြင်းပွားမှု သို့မဟုတ် အခြေအနေနှင့်စပ်လျဉ်း၍ အထွေထွေလွှတ်တော်သည် စဉ်းစားဆွေးနွေး နိုင် သော်လည်း၊ ထို အဖွဲ့က မတောင်း ဆိုဘဲ ထောက်ခံချက်များမပေးနိုင်ချေ။

အရေး ကြီး သော ပြ ဿနာ များ အဆို များ ကိုဆုံးဖြတ်သော အခါ၊ အစည်း အဝေး တက် ရောက် သော အဖွဲ့ဝင်နိုင်ငံများ၏မဲ ၃ ပုံ ၂ ပုံ ရမှသာ အတည်ဖြစ်သည်။ သာမန်ပြဿနာများ အဆို များ ကို မူကား အစည်း အ ဝေး တက် ရောက်သောအဖွဲ့ဝင်များ၏ မဲ များရာ ဖြင့် ဆုံးဖြတ်လေသည်။

အထွေထွေလွှတ်တော်သို့ အခြား အဖွဲ့ များ က နှစ် ချုပ်အစီရင်ခံစာများ အထူးအစီရင်ခံစာများပေးပို့ရသည်။ ထိုအစီရင်ခံစာများကို စဉ်းစားဆွေးနွေးရန်မှာ အထွေထွေလွှတ်တော်၏တာဝန်ဖြစ်၏။ လုံခြုံရေးကောင်စီ၏ထောက်ခံချက်အရ ကုလသမဂ္ဂဝင်အဖြစ်လက် ခံ ခြင်း ဖြည့် စွက် ခြင်း စသည်တို့ကို အထွေ ထွေလွှတ် တော်က သာလျှင် ဆောင်ရွက်ရလေသည်။ အထွေထွေလွှတ်တော်သည် ကုလသမဂ္ဂကြီးတခုလုံးအတွက် ရသုံး မှန်းခြေစာရင်းကို စဉ်း စား ဆွေးနွေးအတည်ပြုပြီးသော်၊ ကုန်ကျငွေကို အသင်းဝင်နိုင်ငံ များကထည့် ဝင် ရန် ဝေပုံ ကျ သတ် မှတ်ပေးလေသည်။ ကုလသမဂ္ဂ သည် အဖွဲ့ ဝင် နိုင်ငံ များ က ထည့် ဝင် ငွေ များ ဖြင့်တည်မြဲနေရပေသည်။

## (၂) လုံခြုံရေးကောင်စီ။

လုံခြုံရေးကောင်စီတွင် အဖွဲ့ ဝင် နိုင်ငံ ပေါင်း ၁၁ နိုင်ငံမှ ကိုယ်စားလှယ်တဦးစီပါဝင်၍၊ မဲပေးရာ တွင် လည်း တ နိုင်ငံလျှင်တမဲသာပေးနိုင်သည်။အဖွဲ့ဝင်များတွင် ထာဝရအဖွဲ့ဝင် ၅ နိုင်ငံဖြစ်သော ဆိုဗီယက်ရုရှ၊ပြင်သစ်၊တရုပ်၊အမေရိကန်ပြည်ထောင်စု၊ယူနိုက်တက်ကင်းဒမ်းနိုင်ငံများနှင့်အထွေထွေလွှတ်တော်ကမဲဖြင့်ရွေးချယ်၍ သက် တမ်း ၂ နှစ် မျှ သာ ရှိသည့် ထာဝရမဟုတ်သောအဖွဲ့ဝင် ၆ နိုင်ငံတို့ပါဝင်၏။

လုံခြုံရေးကောင်စီသည် ကမ္ဘာ့ငြိမ်းချမ်းရေးနှင့် လုံခြုံရေးတည် ဆောက် ရန် အ တွက် အဓိက တာ ဝန် ယူထား ရလေသည်။ နိုင်ငံအချင်းချင်း ပဋိပက္ခဖြစ်မည့်အခြေအနေတို့ကို စုံစမ်းစစ်ဆေးနိုင်၏။ သက်ဆိုင်ရာနိုင်ငံများအား အငြင်းပွားမှုကိုစေ့စပ်၊ ဖြန်ဖြေ၊ အနုညာတခုံတင်၊ အပြည်ပြည်ဆိုင်ရာတရားရုံးတော်သို့ တင်သွင်းရန်ညွှန်ကြားနိုင်သည်။ ထိုသို့ညွှန်ကြားသည်ကို မလိုက်နာလျှင် ကျူးလွန် သော နိုင်ငံနှင့် နိုင်ငံရေးအဆက်အသွယ်ဖြတ်ရန် ညွှန်ကြားနိုင်သည်။ ထိုနောက် ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံတိုင်းက ပေးပို့ရန်ကတိပြုထားသောစစ်တပ်များကို အသုံးပြုနိုင်သည်။

လုံခြုံရေးကောင်စီ အစည်းအဝေးသည် ဆက် တိုက် ရှိနေသည်ဖြစ်ရာ အဖွဲ့ဝင်နိုင်ငံတိုင်းသည် အမြဲတမ်းကိုယ်စားလှယ်တဦးကျထားရှိရ၏။ ၂ ပတ်လျှင်အနည်းဆုံးတကြိမ်စည်းဝေးရန်လျာထားသော်လည်း ထိုထက်အကြိမ်ပေါင်းပို၍စည်းဝေးလေ့ရှိသည်။ မည်သည့်နေရာတွင်မဆို စည်းဝေးနိုင်သည်။

လုံခြုံရေးကောင်စီဝင် မဟုတ် သော ကုလသမဂ္ဂဝင် နိုင်ငံများသာမက ကုလသမဂ္ဂဝင်မဟုတ်သောနိုင်ငံများကိုလည်း ယင်းတို့၏အကျိုးစီးပွားနှင့် သက်ဆိုင်သောကိစ္စများကိုဆွေးနွေးသော လုံခြုံရေးကောင်စီစည်းဝေးပွဲသို့ ဖိတ်ခေါ်ဆွေးနွေးနိုင်သည်။ သို့သော် ထိုနိုင်ငံများတွင်မဲပေးပိုင်ခွင့်မရှိချေ။ လုံခြုံ ရေး ကောင် စီ၏ ဥက္ကဋ္ဌ ကို အဖွဲ့ ဝင် နိုင်ငံအမည်များ၏ အက္ခရာ စဉ် အ လိုက် လစဉ်အလှည့်ကျ တင်မြှောက်သည်။

ကျင့်ထုံးကိစ္စများတွင် အဖွဲ့ဝင်တို့မဲ ၇ မဲ ရမှ အတည်ဖြစ်သည်။ အခြားကိစ္စများတွင်ကား ထာဝရအဖွဲ့ဝင်များ၏ မဲအားလုံးပါဝင် သောမဲ ၇ မဲရမှသာ အတည်ဖြစ်လေသည်။ သို့ဖြစ်၍ ထာဝရအဖွဲ့ဝင်တဦး၏သဘောမတူ သော မဲ သည် ဆုံးဖြတ်ချက်ကိုပယ်ဖျက်နိုင်သည်။ တနည်းဆိုရသော် ထာဝရအဖွဲ့ဝင်များတွင် ဗီတိုအာဏာရှိလေသည်။

လုံခြုံ ရေး ကောင် စီ ၏ အသေးစိတ် လုပ်ငန်းများကို တွင်ကျယ် စွာ ဆောင် ရွက် နိုင် ရန် အတွက် လုံခြုံ ရေး ကောင် စီ အောက်တွင် ကြီးငါးကြီးမှ စစ်ဦးစီးချုပ်များ ပါဝင်၍ ကုလသမဂ္ဂတပ် များ ၏ စစ် ဆင် မှုကို ကြိုးကိုင်သောစစ်ဦးစီးအဖွဲ့၊ လုံခြုံရေးကောင်စီဝင်နိုင်ငံများနှင့် ကနေဒါနိုင်ငံ တို့ မှ ကိုယ်စားလှယ်တဦးစီပါဝင်သော အနုမြူအင်အားစောင့်ရှောက်ရေးအဖွဲ့၊ လုံခြုံရေးကောင်စီဝင် ၁၁ နိုင်ငံမှ ကိုယ် စား လှယ်များပါဝင်၍ စစ်တပ်နှင့်လက်နက်လျှော့ပေါ့ ကန့် သတ် ရေး အစီအစဉ်များကိုလေ့လာရန်ဖြစ်သော လက်နက်ကန့်သတ်ရေးအဖွဲ့၊စသည့်အကြံပေးအဖွဲ့များရှိလေသည်။ အနုမြူအင်အားစောင့်ရှောက်ရေးအဖွဲ့နှင့် လက်နက်ကန့်သတ်ရေးအဖွဲ့တို့အစား လက်နက်လျှော့ပေါ့ရေးအဖွဲ့ဟူ၍ ၁၉၅၂ ခုနှစ်တွင်အသစ်ဖွဲ့စည်းခဲ့သည်။

## (၃) စီးပွားရေး နှင့် လူမှုရေးရာအဖွဲ့။

စီးပွားရေးနှင့်လူမှုရေးရာအဖွဲ့သည် အပြည်ပြည်ဆိုင်ရာစီးပွားရေး၊လူမှုရေးရာ၊ယဉ်ကျေးမှု၊ပညာရေး၊ကျန်းမာရေးနှင့် အခြား အလား တူ ကိစ္စ များ ကို သော်၎င်း၊ လူ့ အခွင့်အရေးများ၊ အခြေခံလွတ်လပ်ခွင့် များ နှင့် စပ် လျဉ်း ၍ သော်၎င်း၊ လေ့လာ၊ ဆွေးနွေး၊ အစီရင်ခံ၊ ထောက်ခံနိုင်၏။ ထိုကိစ္စရပ်များ ဆိုင် ရာ အ ကြမ်း သ ဘော တူညီ ချ က် များ ကို လည်း အထွေထွေလွှတ်တော်သို့တင်ပြရန် ရေးဆွဲရသည်။ လိုအပ်သည့် အခါအပြည်ပြည်ဆိုင်ရာညီလာခံများ ဖိတ်ခေါ် နိုင်၏။

ယင်းအဖွဲ့သည် ရိက္ခာနှင့်စိုက်ပျိုးရေးအဖွဲ့၊ ကမ္ဘာ့ကျန်းမာရေးအဖွဲ့စသော အထူးအဖွဲ့များ၏လုပ်ငန်းများကို ဆက်စပ်ပေးလေသည်။

စီးပွားရေး နှင့် လူမှုရေးရာအဖွဲ့တွင် အထွေထွေလွှတ်တော်ကမဲဖြင့်ရွေးချယ်တင်မြှောက်သော အဖွဲ့ဝင်နိုင်ငံပေါင်း ၁၈ နိုင်ငံမှ ကိုယ်စားလှယ်တဦးစီပါဝင်သည်။ အဖွဲ့ဝင်ပဌမ ၆ ဦးကို ၃ နှစ်သက်တမ်း၊ ဒုတိယ ၆ ဦးကို ၂ နှစ်သက်တမ်းနှင့် ကျန် ၆ ဦးကိုတနှစ်သက်တမ်းဖြင့် ရွေးချယ်လေသည်။

တနှစ်လျှင်အနည်းဆုံး ၃ ကြိမ်ညီလာခံကျင်းပရသည်။ လိုအပ်လျှင် အထူးညီလာခံများကျင်းပနိုင်သည်။ ဥက္ကဋ္ဌကို တနှစ်တကြိမ် အဖွဲ့ဝင်များ၏မဲဖြင့် ရွေးချယ်သည်။ အဖွဲ့ဝင်တဦးလျှင်တမဲကျပေးခွင့်ရှိသည်။ ဆုံးဖြတ်ချက်များကို အစည်းအဝေးတက်ရောက်သောအဖွဲ့ဝင်များ၏မဲများရာဖြင့် အတည်ပြုလေသည်။ စီးပွားရေးနှင့်လူမှုရေးရာအဖွဲ့သည် ယင်း၏လုပ်ငန်းများကိုဆောင်ရွက်ရာတွင် လိုသလိုကော်မရှင်အဖွဲ့များဖွဲ့နိုင်၍၊ စီးပွားရေး၊ အလုပ်ရရှိရေး၊ ကူးသန်းသွားလာရေး၊လူဦးရေပြဿနာ၊ လူ့အခွင့်အရေးများစသော အထူးကိစ္စများကို ဆောင်ရွက်စေရ၏။ ထို့ပြင် ဥရောပ၊ အာရှနှင့် အရှေ့ဖျား၊ လက်တင်အမေရိကဒေသဆိုင်ရာ စီးပွားရေးကော်မရှင်အဖွဲ့ ၃ ခုကိုလည်းဖွဲ့စည်းထားသည်။

## (၄) နိုင်ငံငယ်များထိန်းသိမ်းရေးအဖွဲ့။

ကုလသမဂ္ဂစာချုပ်ကြီးတွင် အချို့သောနယ်ပယ်များသည် ကိုယ်ပိုင်အုပ်ချုပ်ရေးပေးရန်အတွက်မသင့်လျော်သေးကြောင်း အသိအမှတ်ပြုထားသည်။ ယင်းကဲ့သို့သောနယ်ပယ်များကို အပြည်ပြည်ဆိုင်ရာ နိုင်ငံငယ်များထိန်းသိမ်းရေးစံနစ်အရအုပ်ချုပ်ရန် ယင်းတို့ကိုအုပ်ချုပ်နေသောနိုင်ငံများက လွှဲအပ်နိုင်၏။ အထွေထွေလွှတ်တော် သို့မဟုတ်အချက်အခြာကျသောနယ်ပယ်များအတွက်လုံခြုံရေးကောင်စီသည် နိုင်ငံငယ်များထိန်းသိမ်းရေးအဖွဲ့၏အကူအညီဖြင့် ထိုနယ်များအုပ်ချုပ်ရေးကိုကြီးကြပ်ပေးလေသည်။

နိုင်ငံငယ်များထိန်းသိမ်းရေးအဖွဲ့တွင် နယ်ပယ်များထိန်းသိမ်းရန် တာဝန်ချထားခြင်း ခံရသော ကုလသမဂ္ဂဝင်နိုင်ငံများ၊ထိုသို့တာဝန်ချထားခြင်းမခံရသော လုံခြုံရေးကောင်စီထာဝရအဖွဲ့ဝင်များ၊နယ်ပယ်များ ထိန်းသိမ်းရသောအဖွဲ့ဝင်များနှင့် မထိန်းသိမ်းရသောအဖွဲ့ဝင်များ အရေအတွက်တူညီအောင် အထွေထွေလွှတ်တော်မှရွေးကောက်တင်မြှောက်လိုက်သောအဖွဲ့ဝင်များပါဝင်၏။ တနှစ်လျှင် ၂ ကြိမ်စည်းဝေးသည်။ အဖွဲ့ဝင်တဦးလျှင် တမဲပေးနိုင်၍ များရာမဲဖြင့်ဆုံးဖြတ်လေသည်။




ကိုရီးယားပြဿနာကိုဆွေးနွေးနေသော ကုလသမဂ္ဂအထွေထွေလွှတ်တော် နိုင်ငံရေးကော်မတီ

## (၅) အပြည်ပြည်ဆိုင်ရာ တရားရုံးတော်။

ကုလသမဂ္ဂစာချုပ်ကြီးအရ ဖွဲ့စည်းတည်ထောင်ခဲ့သောတရားစီရင်ရေးဆိုင်ရာဌာနချုပ်ဖြစ်၏။ အသင်းဝင်များက စွဲဆိုတင်ပြသောအမှုအခင်းများကို ဤရုံးတော်ကဆုံးဖြတ်စီရင်လေသည်။ လုံခြုံရေးကောင်စီကရေးဆွဲထားသောစည်းကမ်းချက်များ အရ အခြားနိုင်ငံများက ဤရုံးတော်တွင် တရားစွဲဆိုနိုင်သည်။ အပြည်ပြည်ဆိုင်ရာရုံးတော်သည် အထွေထွေလွှတ်တော်နှင့် လုံခြုံရေးကောင်စီသို့ ဥပဒေအကြံဥာဏ်များပေးနိုင်သည်။

ဤရုံးတော်တွင် ရုံးထိုင်သောတရားသူကြီးများမှာ ပါတီဝါဒစွဲကင်းစင်သောသူများသာဖြစ်သည်။ အကျင့်စာရိတ္တအထူးကောင်းမွန်ရ၍ အမြင့်ဆုံးသောတရားဌာနရာထူးများကို ဆက်ခံနိုင်သော အရည်အခြင်းနှင့် ပြည့်စုံရသည်။ သို့တည်းမဟုတ် ပြည်ထောင်ချင်းချင်းဥပဒေတွင် ကျွမ်းကျင်သည့် ဥပဒေ သုခမိန်များ ဖြစ်ရသည်။

တရားသူကြီး ၁၅ ဦးရှိ၍ သက်တမ်းမှာ ၉ နှစ်ဖြစ်သည်။ တရားသူကြီးများကို အထွေထွေလွှတ်တော်နှင့် လုံခြုံရေးကောင်စီတို့ က ရွေးချယ်တင်မြှောက်သည်။ သို့သော် တနိုင်ငံတည်းမှ ၂ ဦးမရွေးရချေ။

အပြည်ပြည်ဆိုင်ရာတရားရုံးတော်သည် ဟိတ်မြို့တော်တွင် အမြဲတမ်းလိုလိုရုံးထိုင်ကာ ရုံးပိတ်ရက်များမှတပါး ရုံးဖွင့်ထားလေသည်။ သို့ရာတွင် တခါတရံအခြားသင့်တော်သောဒေသများတွင်လည်း ရုံးထိုင်နိုင်သည်။

ရုံးတော်တွင် တရားစီရင်ရာ၌ အနည်းဆုံးတရားသူကြီး ၉ ဦးတက်ရောက်ပါက တရားဝင်သောတရားခုံဖြစ်၍၊ တက်ရောက်သောတရားသူကြီးများ၏ များရာမဲဖြင့် ဆုံးဖြတ်လေသည်။ တရားရုံးတော်၏ဆုံးဖြတ်ချက်သည် အပြီးသတ်ဆုံးဖြတ်ချက်ပင်ဖြစ်သည်။

ကုလသမဂ္ဂအဖွဲ့ဝင်များသည် ဤရုံးတော်နှင့် အလိုအလျောက် သက်ဆိုင်ပြီး ဖြစ်သော်လည်း သက်ဆိုင်ရာ နိုင်ငံတခုကို ရုံးတော်သို့အမှုအခင်းတင်ပြရန် အတင်းအကြပ်မပြုနိုင်ချေ။ အဖွဲ့ဝင်နိုင်ငံတိုင်းသည် ရုံးတော်မှဆုံးဖြတ်ချက်ကို သက်ဆိုင်သမျှလိုက်နာဆောင်ရွက်ရန် တာဝန်ခံရလေသည်။

## (၆) အတွင်းရေးမှူးရုံး။

ကုလသမဂ္ဂ၏အကြီးဆုံးသော အုပ်ချုပ်ရေး အရာရှိချုပ်မှာ အတွင်းရေးမှူးချုပ်ဖြစ်သည်။ လုံခြုံရေးကောင်စီ၏ ထောက်ခံချက်အရ အထွေထွေလွှတ်တော်က အတွင်းရေးမှူးချုပ်ကိုခန့်ထားသည်။ ပဌမဆုံးသောအတွင်းရေးမှူးချုပ်သည် နော်ဝေးနိုင်ငံမှ မစ္စတာထရစ်ဗ်လီး ဖြစ်သည်။ အတွင်းရေးမှူးချုပ်၏သက်တမ်းမှာ ၅ နှစ်ဖြစ်၍ နောက်ထပ် ၅ နှစ်ဆက်လက်ခန့်ထားနိုင်ခွင့်ရှိသည်။

အတွင်းရေးမှူးချုပ်က ကုလသမဂ္ဂမှုထမ်းရာထမ်းများကို ခန့်ထားလေသည်။ ရာထမ်းမှုထမ်းများသည် အစည်းအဝေးများအတွက် လိုအပ်သောအချက်အလက်များကို စုဆောင်းကာ၊ ကျွမ်းကျင်စွာ လေ့လာစုံစမ်းရ၏။ အချုပ်ဆိုရသော် ကုလသမဂ္ဂ၏ရုံးအလုပ်ကိုလုပ်ကိုင်ကြရလေသည်။

### ကုလသမဂ္ဂဌာနချုပ်

ကုလသမဂ္ဂဌာနချုပ်ကို နယူးယော့မြို့ ဖလပ်ရှင်းမဲဒိုးအရပ်ရှိ မြို့တော်အဆောက်အအုံတွင် ခေတ္တထားရှိသည်။ အတွင်း ရေး မှူး ရုံး မှာ ကား လိပ်ဆပ်ဆက်အရပ်တွင်ရှိသည်။ ၁၉၄၆ ခု ဒီဇင်ဘာလတွင် အထွေထွေလွှတ်တော်က ကုလသမဂ္ဂဌာနချုပ်ကို နယူးယော့မြို့၌ အမြဲတမ်းထားရှိရန်ဆုံးဖြတ်ပြီးလျှင်၊ ထိုဌာနချုပ်ဆောက်လုပ်ရန်မြေနေရာဝယ်ဖို့အတွက် ဂျွန်ရော့ကီးဖဲလား (အငယ်) ထံမှ အလှူငွေဒေါ်လာ ၈,၅၀၀,၀၀၀ ကိုလက်ခံခဲ့လေသည်။ ၁၉၄၇ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုအစိုးရထံမှ အတိုးမရှိဒေါ်လာ ၆၅,၀၀၀,၀၀၀ ချေးငွေ ရရှိခဲ့ပြီး နောက် ၁၉၄၉ ခုနှစ်တွင် ပဌမဆုံးအဆောက်အအုံကိုစတင်ဆောက်လုပ်ခဲ့လေသည်။




အတွင်းရေးမှူးချုပ်သစ် မစ္စတာဒက်ဟမ်မာစယိုးအား အတွင်းရေးမှူးချုပ်ဟောင်း မစ္စတာထရစ်ဗ်လီးကဆီးကြိုနေစဉ်

## အထူးအဖွဲ့များ

ကုလသမဂ္ဂ၏ရည်ရွယ်ချက်များ ထမြောက် အောင်မြင်စေရန်အတွက် မြောက်မြားလှစွာသော ကမ္ဘာ့စီးပွားရေးပြဿနာများ၊ လူမှုရေးရာပြဿနာများကို အထူးအဖွဲ့များဖွဲ့စည်း၍ ဆောင်ရွက်လေသည်။ အောက်ပါအဖွဲ့များမှာ ၁၉၄၉ ခုနှစ်အထိ ဖွဲ့စည်းထားပြီးသောအဖွဲ့များဖြစ်သည်။

၁။ အပြည်ပြည်ဆိုင်ရာအလုပ်သမားအစည်းအရုံး

၂။ ရိက္ခာနှင့်စိုက်ပျိုးရေးအဖွဲ့

၃။ နိုင်ငံပေါင်းစုံပညာ၊သိပ္ပံနှင့်ယဉ်ကျေးမှုအဖွဲ့

၄။ အပြည်ပြည်ဆိုင်ရာမြို့ပြလေကြောင်းအဖွဲ့

၅။ ကမ္ဘာ့ငွေကြေးဆိုင်ရာရန်ပုံငွေအဖွဲ့

၆။ ပြန်လည်ထူထောင်ရေးနှင့် တိုးတက်ရေးဆိုင်ရာ ကမ္ဘာ့ဘဏ်

၇။ ကမ္ဘာ့စာပို့တိုက်သမဂ္ဂ

၈။ ကမ္ဘာ့ကြေးနန်းဆက်သွယ်ရေးသမဂ္ဂ

၉။ ကမ္ဘာ့ကျန်းမာရေးအဖွဲ့

၁၀။ ကမ္ဘာ့ခိုကိုးရာမဲ့သူများစောင့်ရှောက်ရေးအဖွဲ့

၁၁။ ကမ္ဘာ့ကုန်သန်းရောင်းဝယ်ရေးအဖွဲ့



ကုလသမဂ္ဂအတွင်းရေးမှူးချုပ် မစ္စတာဒက်ဟမ်မာစကျိုး ပွဲဦးထွက် မိန့်ခွန်းမြွက်ကြားနေစဉ်

## ကုလသမဂ္ဂနောင်ရေး

နိုင်ငံရေးရာလေ့လာသူအများပင် ကုလသမဂ္ဂသည် ကမ္ဘာ့ငြိမ်းချမ်းရေးတည်တံ့အောင်ကြိုးပမ်းရာ၌ နိုင်ငံပေါင်းချုပ်အသင်းထက် အခွင့်အလမ်းသာသည်ဟုယုံကြည်ကြသည်။ အကြောင်းမှာ ကုလသမဂ္ဂတွင် နိုင်ငံကြီးများအားလုံးပင်ပါဝင်နေသောကြောင့်ဖြစ်၏။ သို့သော် အချို့က နိုင်ငံပေါင်းချုပ်အသင်း၏ချွတ်ယွင်းချက်အတော်များများ ကုလသမဂ္ဂတွင်ပါရှိနေသေးသည်ဆိုပြန်လေသည်။ နိုင်ငံပေါင်းချုပ်အသင်းကဲ့သို့ပင် ထိထိရောက်ရောက်အရေးယူနိုင်ရန်အတွက် အဖွဲ့ဝင်နိုင်ငံများ၏အကူအညီပေါ်တွင်တည်နေ၏။ ထို့ပြင် ကုလသမဂ္ဂဖွဲ့စည်းလိုက်သဖြင့် ကမ္ဘာပေါ်တွင်နောက်ထပ်စစ်မဖြစ်တော့ဟု မပြောနိုင်သေးချေ။

သို့သော် ယခုအချိန်အထိ ကမ္ဘာပေါ်တွင်ငြိမ်းချမ်းရေးရရှိရန်အတွက် ကုလသမဂ္ဂသည် အကောင်းဆုံးသောမြော်လင့်ချက်ဖြစ်နေပေသည်။ လွန်ခဲ့သောနှစ်များအတွင်းက အတွေ့အကြုံများအရ၊ ကုလသမဂ္ဂသည် ပြောင်းလဲလာသောအခြေအနေများနှင့်လျော်ညီစွာ ကျင့်တတ်ပြီးလျှင် အခက်အခဲကြီးများကို တတ်နိုင်သလောက်ကျော်နင်းနိုင်ခဲ့သည်ကိုတွေ့ရ၏။ ၁၉၄၆ ခုနှစ်အတွင်းက ကုလသမဂ္ဂသည် အီရန်မှဆိုဗီယက်တပ်များပြောင်းရွှေ့ရေးနှင့် ဆီးရီးယားနှင့်လက်ဗနွန်တို့မှ ပြင်သစ်နှင့်ဗြိတိသျှတပ်များပြောင်းရွှေ့ရေးကိစ္စများကို ဆွေးနွေးခဲ့၏။ ဖရန်ကိုအုပ်စိုးသောစပိန်နိုင်ငံ၏အခြေအနေကိုဆွေးနွေးပြီးလျှင် ကုလသမဂ္ဂ၏အဖွဲ့ခွဲများဖြစ်သော ကမ္ဘာလုံးဆိုင်ရာအဖွဲ့အစည်းများတွင် ပါဝင်ခွင့်မပြုရန်နှင့် အဖွဲ့ဝင်နိုင်ငံများကလည်း နိုင်ငံရေးအဆက်အသွယ်ဖြတ်ရန် ဆုံးဖြတ်ခဲ့၏။ အဖွဲ့ဝင်နိုင်ငံများတွင် အမျိုးသမီးများကို အမျိုးသားများနည်းတူ နိုင်ငံရေးအခွင့်အရေးများပေးရန်ကို ဆော်ဩခဲ့၍၊စစ်ဒဏ်ခံခဲ့ရသောနိုင်ငံများတွင်သုံးစွဲရန်အတွက် အပြည်ပြည်ဆိုင်ရာကလေးများအရေးပေါ်ရန်ပုံငွေကို သတ်မှတ်ပေးခဲ့၏။

လုံခြုံရေးကောင်စီမှလွှဲခဲ့သော အယ်လဗေးနီးယား၊ ဗူလဂေးရီးယားနှင့် ယူဂိုဇလားဗီးယားနိုင်ငံတို့သည် ဂရိပျောက်ကြားသူပုန်များကိုကူညီနေသည်ဟူသည့် ဂရိ၏စွပ်စွဲချက်နှင့်စပ်လျဉ်း၍၊အထွေထွေလွှတ်တော်သည် ထောက်ခံချက်များချမှတ်ခဲ့ပြီးလျှင် ၁၉၄၇ ခုနှစ်တွင် ထို ၄ နိုင်ငံတို့လိုက်နာဆောင်ရွက်ခြင်းရှိ မရှိစုံစမ်းရန် ကော်မရှင်တရပ်ဖွဲ့စည်းခဲ့၏။ ၁၉၄၉ ခုနှစ်တိုင်အောင် စေ့စပ်ဖြန်ဖြေကာဆောင်ရွက်ခဲ့၏။ ၁၉၄၈ ခုဧပြီလ ၁၀ ရက်နေ့တွင် လုံခြုံရေးကောင်စီက မြန်မာနိုင်ငံ၏ ကုလသမဂ္ဂသို့ဝင်ခွင့်ပြုရန် လျှောက်ထားချက်ကို တညီတညွတ်တည်းသဘောတူခွင့်ပြုခဲ့၏။ ဧပြီလ ၁၉ ရက်နေ့တွင် အထွေထွေလွှတ်တော်က လုံခြုံရေးကောင်စီ၏ထောက်ခံချက်အရ မြန်မာနိုင်ငံအား ကုလသမဂ္ဂ

နိုင်ငံတခုအဖြစ်အားလုံးသဘောတူလက်ခံ၍ အတည်ပြုလိုက်လေသည်။ မြန်မာနိုင်ငံသည် ၅၈ ခုမြောက်အဖွဲ့ဝင်ဖြစ်၏။

ပါလက်စတိုင်းပြဿနာနှင့် စပ်လျဉ်း၍ ကုလသမဂ္ဂသည် အတော်ကြိုး ပမ်း ခဲ့ ရ၏။ အထွေထွေလွှတ်တော်ထောက်ခံချက်အရ ယူနိုက်တက်ကင်းဒမ်းနိုင်ငံသည် ပါလက်စတိုင်းကိုထိန်းသိမ်း ထား ခြင်း မှစွန့်လွှတ် လိုက်ရ၏။ ၁၉၄၈ ခုနှစ်တွင် အထူးကျင်းပသော အထွေထွေလွှတ်တော်ညီလာခံက ပါလက်စတိုင်းပြဿနာဖြန်ဖြေ ရေး အရာရှိတဦး ခန့်ထားဖြေရှင်းစေခဲ့သည်။ အာရပ်နိုင်ငံများနှင့် အစ္စရီးယယ်နိုင်ငံတို့ စစ်ပြေငြိမ်းရေးကိုလည်း ကုလသမဂ္ဂက ဦးဆောင်ခဲ့၏။ ၁၉၄၉ ခု နှစ် တွင် အစ္စရီ ယယ် နိုင်ငံ သည် ကုလသမဂ္ဂဝင်နိုင်ငံဖြစ်လာလေသည်။

၁၉၄၇ ခုနှစ်တွင် ကုလသမဂ္ဂသည် အင်ဒိုနီးရှားအရေးကို ဖြေရှင်းရပြန်သည်။ အင်ဒိုနီးရှားသမတနိုင်ငံနှင့် ဒပ်ချတို့ တိုက်ပွဲဖြစ်ပွားခဲ့ရာ၊ ကုလသမဂ္ဂက အကျိုးဆောင်ကော်မတီဖွဲ့စည်းဆောင်ရွက်စေသည်တွင် ၁၉၄၈ခုနှစ်၌ တိုက်ပွဲခေတ္တရပ်စဲသွားသော်လည်း မကြာမီပြန်လည်ဖြစ်ပွားခဲ့ပြန်သည်။ သို့သော် ဆက် လက် ဖြန်ဖြေခဲ့သဖြင့် နှစ်ဦး နှစ်ဖက် စေ့စပ်ဆွေးနွေးမှုများပေါ် ပေါက်ခဲ့ကာ ၁၉၄၉ ခုနှစ်တွင် အချုပ်အချာအာဏာပိုင် အင်ဒိုနီးရှားပြည် ထောင် စုသမတ နိုင်ငံဖြစ်ပေါ် လာလေသည်။

ထို ၁၉၄၇ ခုနှစ်တွင် အထွေထွေလွှတ်တော်က ကိုရီးယားပြဿနာကိုဖြေရှင်းခဲ့ရ၏။ ၁၉၄၈ ခုနှစ်တွင် ကိုရီးယားတောင်ပိုင်းကို အထွေထွေလွှတ်တော်ကအသိအမှတ်ပြုခဲ့ပြီးနောက် နိုင်ငံခြားတပ်များကိုရုပ်သိမ်းစေခဲ့သည်။ ကိုရီးယားမြောက်ပိုင်းအတွက်ကား မည်သို့မျှမဆောင်ရွက်နိုင်ခဲ့သော်လည်း လွတ်လပ်ရေးရထိုက်သည်ဟု အသိအမှတ်ပြုခဲ့သော ကိုရီးယားနိုင်ငံ တလုံးတစည်းတည်းဖြစ်ရေးကို ဆောင်ရွက်ရန်အတွက် ကော်မရှင်တခုဖွဲ့စည်းခဲ့၏။

ကုလသမဂ္ဂသည်ကသ္မီရအရေးနှင့်စပ်လျဉ်း၍ အိန္ဒိယနှင့် ပါကစ္စတန် ၂ နိုင်ငံတို့ စစ်ဖြစ်ပွားမည် ရှိသည်ကို တားဆီးနိုင်ခဲ့၏။ ကသ္မီရအရေးမှာ လုံခြုံရေးကောင်စီသို့ ၁၉၄၈ ခုနှစ်ဦးတွင်ရောက်ရှိခဲ့ရာ နည်းအမျိုးမျိုးဖြင့် ထိုအရေးကို ဖြေရှင်းရန်ကြိုးပမ်းနေဆဲဖြစ်လေသည်။

၁၉၄၈ ခုနှစ်တွင် အထွေထွေလွှတ် တော် သည် လူ့အခွင့်အရေးကြေညာစာတမ်းကြီးကိုထုတ်ပြန်ခဲ့၏။

၁၉၄၈ ခုနှစ်တွင် လက်တင်အမေရိကဒေသဆိုင်ရာ စီးပွားရေးကော်မရှင်တခုကိုဖွဲ့စည်းခဲ့၏။ လုံခြုံရေးကောင်စီနှင့်အထွေထွေလွှတ်တော်တို့က ငြိမ်းချမ်းရေးနှင့်လုံခြုံရေးအတွက် ကြိုး ပမ်းခဲ့သကဲ့သို့၊ အ ပြည် ပြည် ဆိုင် ရာ တရား ရုံး တော် က လည်း ပြည်ထောင်ချင်းချင်းအငြင်းပွားမှုများကို အေးချမ်းသောနည်းဖြင့်ဖြေရှင်းရန်ကြိုးပမ်းခဲ့၏။

၁၉၄၉ ခုနှစ်အ ထွေ ထွေ လွှတ် တော် ညီ လာ ခံ တရပ် တွင် ဘာလင်ပိတ်ဆို့မှုကိုစဉ်းစားခဲ့၏။ နောက်တွင် သဘောတူညီချက်ရရှိပြီးနောက် ယင်းပိတ်ဆို့မှုပြဿနာမှာ ပြီးပြေသွားလေသည်။ ထိုနှစ်အထိ အပြည်ပြည်ဆိုင်ရာနိုင်ငံယယ်များထိန်းသိမ်းရေးစံနစ်အရ ကုလသမဂ္ဂကအဖွဲ့ဝင်နိုင်ငံများအားထိန်း သိမ်း ထား စေ ရန် လွှဲ အပ် ထား သော ဒေသများမှာ ရူအန်းဒါး — အူရွန်ဒီ၊ ဗြိတိသျှနှင့်ပြင်သစ်ကမ္မရွန်းနယ်များ၊ တိုဂိုလန်၊တန်ဂန်ယီးက၊ နယူးအူးရှီး၊ နယူးဂင်းနီ၊ အနောက်ဆမိုးအာ၊ မာရှယ်ကျွန်းစု၊ မယ်ရီယန္နားကျွန်း စုနှင့် ကယ်ရိုလိုင်းကျွန်းစုများဖြစ်လေသည်။

အထွေထွေလွှတ်တော် တတိယအကြိမ်ညီလာခံမှ မေတ္တာရပ်ခံချက်အရ အနုမြူအင်အားစောင့် ရှောက် ရေး အ ဖွဲ့ နှင့် လက်နက်ကန့်သတ်ရေးအဖွဲ့တို့သည် လူအများသေကြေပျက်စီးစေတတ်သောလက်နက်များဖျက်ဆီးရေးအတွက် ကုလသမဂ္ဂကတာဝန်ခံထားသည့်အတိုင်း ဆောင်ရွက်နိုင်ရန်နည်းလမ်းကို ဆက်လက်ကြိုးပမ်းရှာဖွေခဲ့သည်။ ထို့ပြင် အခြားလက်နက်များလျှော့ပေါ့ရေးနှင့် အပြည်ပြည်ဆိုင်ရာအနုမြူအင်အားထိန်းသိမ်းရေးအတွက်လည်း ကြိုးပမ်းခဲ့၏။

၁၉၅၀ ပြည့်နှစ် ဇွန်လ ၂၅ ရက်နေ့တွင် ကိုရီးယားမြောက်ပိုင်းတပ်များက ကိုရီးယားတောင်ပိုင်းကို ကျူးကျော်တိုက်ခိုက်ခဲ့သည်မှစ၍ ကိုရီးယားစစ်ပွဲစတင်ခဲ့သည်။ ကုလသမဂ္ဂသည် ကိုရီးယားမြောက်ပိုင်းအား တိုက်ခိုက်မှုရပ်စဲရန် အရေးဆိုခဲ့သော်လည်း အချည်းနှီးသာဖြစ်ခဲ့သဖြင့်၊ကုလသမဂ္ဂဝင်နိုင်ငံများက သဘောတူဆုံးဖြတ်ကာ ကိုရီးယားတောင်ပိုင်းဖက်မှ ဝင်ရောက်တိုက်ခိုက်ပေးခဲ့သည်။ နောက်ဆုံး၌ ကုလသမဂ္ဂကြီး၏ကြိုးပမ်းမှုကြောင့် ၁၉၅၃ ခု ဇူလိုင်လ ၂၇ ရက်နေ့တွင် စစ်ရပ်စဲရေးစာချုပ်ကို နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးခဲ့သည်။ (ကိုရီးယားစစ်ပွဲ — ရှု)။

၁၉၅၁ ခုနှစ်တွင် အစ္စရီးယယ်အစိုးရက ဂျော်ဒန်မြစ်ကို ပြုပြင်ဖေါက်လုပ်သည်မှစ၍ ဆီးရီးယားနိုင်ငံနှင့် အချင်းများခဲ့ကြသည်။ ဤကိစ္စမှာ ကုလသမဂ္ဂလုံခြုံရေးကောင်စီသို့ရောက်သဖြင့် ဖြန်ဖြေရေး အဖွဲ့စေလွှတ် ခဲ့ ရ သည်။ တိုက်ခိုက်ရေးရပ်စဲမှုများကို နှစ်ပြည်ထောင်လုံးမှပင် လက်ခံကြသော်လည်း၊ အာရပ်နိုင်ငံ များ ၏ တင်း မာမှု ကြောင့် ဆွေးနွေးပွဲများပျက်ပြားခဲ့ရလေသည်။

ကုလသမဂ္ဂသည် ဂျာမနီနိုင်ငံတွင် အရှေ့ပိုင်းအနောက်ပိုင်းဟု ခွဲခြားနေသည်ကို ပူးပေါင်းပေးရန်ကြိုးစားခဲ့သည်။ ဤကိစ္စနှင့်စပ်လျဉ်း၍ စုံစမ်းရေးအဖွဲ့များစေလွှတ်ရန်စီစဉ်သည့်အခါ၊ဂျာမနီအရှေ့ပိုင်းက စုံစမ်းရေးအဖွဲ့ကိုအဝင်မခံဟု တင်းမာစွာပြန်ကြားသဖြင့် ဤကိစ္စမှာမအောင်မြင်ချေ။

ကုလသမဂ္ဂသည် ၁၉၅၁ ခုနှစ်အတွင်း ၄၅ ပြည်ထောင်အစိုးရများနှင့် စီးပွားရေးစာချုပ်များ ချုပ်ဆိုကာ၊ မတိုး

တက်သောနိုင်ငံများကို စက်မှုလက်မှု၊ စီးပွားရေးအကူအညီများပေးခဲ့သည်။

ကုလသမဂ္ဂ၏ကြိုးပမ်း ရွှေဆောင်မှုကြောင့်၊ ယခင်ကဣတလီနိုင်ငံလက်အောက်ခံဖြစ်ခဲ့သော လစ်ဗျားပြည်မှာ လွတ်လပ်သောအချုပ်အချာအာဏာပိုင်နိုင်ငံ ဖြစ်လာလေသည်။

ကုလသမဂ္ဂမှကြီးမှူး၍ ၃ နှစ်တိုင်တိုင်ရေးဆွဲခဲ့သော လူ့အခွင့် အရေး ကျေညာ စာတမ်း ကို ပါရစ် မြို့၌ ကျင်းပသော ကုလသမဂ္ဂမျက် နှာစုံညီအစည်း အဝေး ကြီး က ၁၉၄၈ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင်ကန့် ကွက် သူ မရှိလက် ခံ အတည်ပြုခဲ့ သည်။ ထိုကျေ ညာ စာ တမ်း တွင် အပိုဒ် ပေါင်း ၃၀ ပါဝင်၍ လူတိုင်းလူတိုင်းလွတ်လပ် စွာနေထိုင်နိုင်ခွင့်၊ လွတ်လပ်စွာပြောဆိုရေးသားနိုင်ခွင့်နှင့်ကျေး ကျွန်စံ နစ် ပယ် ဖျက်ပိတ်ပင် ရေးစ သည် တို့ ကို ဖော် ပြ ထား သည်။ အ တည်ပြု သည့်နေ့ကိုအကြောင်းပြု၍ ဒီဇင်ဘာလ ၁၀ ရက်နေ့ကို လူ့ အခွင့်အရေးနေ့အဖြစ်ကုလသမဂ္ဂအဖွဲ့ကဆုံးဖြတ် ထားလေသည်။ (ကျေးကျွန်စံနစ် — ရှု)။

၁၉၅၃ ခုမတ်လ ၃၁ ရက်နေ့တွင် အမျိုးသမီးတို့၏နိုင်ငံရေးအခွင့်အရေးများကျေညာချက်ကို ကုလသမဂ္ဂဝင်နိုင်ငံများက လက်ခံအတည်ပြုကြသည်။ ဤကျေညာစာတမ်းတွင် အမျိုးသမီးများအား ယောကျ်ားများနှင့်တန်းတူရွေးကောက်ပွဲများတွင် မဲပေး နိုင် ခွင့်၊ မဲဖြင့် ရွေး ကောက် တင်မြှောက်ရသောအဖွဲ့အစည်းများ၌ ပါဝင်နိုင် ခွင့်၊ ရာထူးရာခံများတွင် ဝင်ရောက်လုပ်ကိုင်ခွင့်ရှိကြောင်း ပါဝင်လေသည်။

၁၉၅၃ ခုဧပြီလ ၇ ရက်နေ့တွင် ဆွီဒင်နိုင်ငံမှ ဒုတိယနိုင်ငံခြားရေးဝန်ကြီးနှင့် စီး ပွား ရေး ပါ ရဂူ ဖြစ် သူ မစ္စ တာဒက်ဂျာ လမာ အဂ္ဂနီ ဟမ် မာစ ယိုး အား နုတ် ထွက် သွား သော ထရစ် ဗီလီး ၏ နေရာ ၌ ကုလသမဂ္ဂ၏ အတွင်း ရေး မှူး ချုပ်အဖြစ် ရွေးကောက်တင်မြှောက်လေသည်။ ဟမ်မာစယိုး၏ တိုက်တွန်းချက်မှာ ကုလသမဂ္ဂအား မိမိတို့တိုင်းပြည်များတွင်ရင်ဆိုင်နေရသောပြဿနာများကို တင်ပြတိုင်ကြားရမည့်ဌာနတခုမျှသာ သဘောမထားကြဘဲ၊မိမိတို့နှင့်ရည်ရွယ်ချက်ချင်းတူညီသောကိစ္စများအတွက် အောင်မြင်မှုကိုရှေးရှုလျက် ပူးပေါင်းဆောင်ရွက်ကြရန်ဖြစ်ပေသည်။

၁၉၅၃ ခုစက်တင်ဘာလ ၁၅ ရက်နေ့တွင်ကျင်းပသော အဋ္ဌမ အကြိမ် မြောက် ကုလသမဂ္ဂ အထွေ ထွေလွှတ် တော်ညီလာခံတွင် အိန္ဒိယနိုင်ငံမှကိုယ်စားလှယ်အဖွဲ့ခေါင်းဆောင် မဒမ် ဝိဇယလက်ရှမီပဏ္ဍစ် အား ဥက္ကဋ္ဌအဖြစ်တင် မြှောက်ခဲ့သည်။ လက်ရှမီပဏ္ဍစ်ကဥက္ကဋ္ဌမိန့်ခွန်းမြွက်ကြားရာတွင် ကိုရီးယားစစ်ပွဲရပ်စဲသွားပြီဖြစ်၍ ကမ္ဘာ့အရှေ့တိုင်းပြဿနာရပ်များကို ဖြေရှင်းပေးနိုင်ရန် လမ်းပွင့်သွားပြီ ဖြစ်သည့်အပြင် အခွင့်အခါကောင်းလည်းဆိုက်ရောက်နေပြီဖြစ်ကြောင်း ပြောကြားခဲ့သည်။

မြန်မာနိုင်ငံ တော် အတွင်း သို့ တရုပ် အမျိုး သားအစိုးရ တပ်သား ၁၂,၀၀၀ ခန့်ဝင်ရောက်ကျူးကျော်မှုနှင့်စပ်လျဉ်း၍ ၁၉၅၃ ခုမတ်လ ၂၆ ရက်နေ့တွင် ကုလသမဂ္ဂအထွေထွေလွှတ်တော်ညီလာခံကြီးသို့ တိုင်တန်းခဲ့သည်။ ဧပြီလ ၂၂ ရက်နေ့တွင်ကျင်းပသော နိုင်ငံရေးရာနှင့်လုံခြုံရေးကော်မတီက နိုင်ငံခြားတပ်သားများသည် မြန်မာနိုင်ငံအတွင်းမှထွက်ခွာသွားရမည် သို့မဟုတ် လက် နက် များ ချအပ်၍ချက်ခြင်း အဖမ်းခံရမည်ဟု ဆုံးဖြတ်ချက်ချခဲ့သည်။



တရားဝန်ကြီးဦးမြင့်သိန်း၊ (အလယ်ပုံ) ခေါင်းဆောင်သော မြန်မာကိုယ်စားလှယ်အဖွဲ့နှင့် မိတ်ဆွေများ

ထိုဆုံးဖြတ်ချက်ကို ကုလသမဂ္ဂအထွေထွေလွှတ်တော်သို့ တင်ပြရာ ကန့်ကွက်သူမရှိ ၅၉ မဲဖြင့်အတည်ပြုခဲ့သည်။

ရှေးဦးစွာ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရှိတရုပ်တပ်များအရေးကိုဖြေရှင်းရန် ဗန်ကောက်မြို့တွင် တရုပ်အမျိုးသားအစိုးရ၊ အမေရိကန်၊ ယိုးဒယားနှင့် မြန်မာနိုင်ငံတို့မှ ကိုယ်စားလှယ်များပါဝင်သော ၄ နိုင်ငံဆွေးနွေးပွဲပြုလုပ်ခဲ့သည်။ ထိုဆွေးနွေးပွဲတွင် မြန်မာနိုင်ငံမှတင်ပြချက်ကိုလက်မခံခဲ့သဖြင့် မြန်မာကိုယ်စားလှယ်များ ထွက်လာခဲ့သည်။ သို့သော် ထပ်မံစေ့စပ်ချက်များအရ ၁၉၅၃ ခုနိုဝင်ဘာလ ၇ ရက်နေ့မှစ၍ တရုပ်အမျိုးသားစစ်တပ်များ မြန်မာနိုင်ငံတွင်းမှတသုတ်ပြီး တသုတ် ထွက်ခွာနေသည်ကိုတွေ့ရ၏။ ဤထွက်ခွာရေးကို အမေရိကန်နိုင်ငံမှ ကာနယ်ပါးမား၊တရုပ်အမျိုးသားအစိုးရဖက်မှ ကာနယ်အိုင်ဖူဒီးနှင့် ယိုးဒယားနိုင်ငံမှ ကာနယ်ချတ်ချိုင်တို့ပါဝင်သော ၃ နိုင်ငံအဖွဲ့ကကြီးကြပ်လျက်ရှိသည်။ ပြည်ထောင်စုမြန်မာနိုင်ငံကမူ လေ့လာသူများအဖြစ်ဖြင့်သာ စောင့်ကြည့်ခဲ့လေသည်။

ဆိုခဲ့သည့်အတိုင်း ကုလသမဂ္ဂသည် ကမ္ဘာ့ငြိမ်းချမ်းရေး၊ တတိယကမ္ဘာစစ်မဖြစ်ပွားရေးတို့ကိုရှေးရှုလျက် ကမ္ဘာအရပ်ရပ်တွင်ပေါ်ပေါက်လာသောပြဿနာအရပ်ရပ်များကို မဆိုင်းမတွဖြေရှင်းစေ့စပ်ပေးလျက်ရှိသည်။ ထိုကြောင့် ဤအဖွဲ့ချုပ်ကြီးကို တိုင်းငယ်ပြည်ငယ်ကလေးများက အထူးယုံကြည်အားထားလာကြသည်။

ယခုတနှစ် နှစ်နှစ်အတွင်းတွင် ကုလသမဂ္ဂအဖွဲ့ကြီးသည် အုံကြွလာသော ကမ္ဘာ့ပြဿနာရပ်ကြီးများကိုသာဖြေရှင်းပေးရုံမျှမက၊ အဖွဲ့ဝင်နိုင်ငံများတွင် စီးပွားရေးခိုင်လုံမှု၊ စက်မှုလက်မှုတိုးတက်မှု၊ စိုက်ပျိုး ရေးကောင်း မွန် လာစေမှုတို့ကို အနည်းနည်းအဖုံဖုံကူညီအားပေးခဲ့သည်။ ကုလသမဂ္ဂလက်အောက်ခံအဖွဲ့အစည်းများဖြစ်သော ကမ္ဘာ့ကျန်းမာရေးအဖွဲ့၊ ပြန် လည် ထူထောင် ရေး နှင့် တိုးတက်ရေးဆိုင်ရာကမ္ဘာ့ဘဏ်၊ ပညာသိပ္ပံ နှင့် ယဉ်ကျေးမှုအဖွဲ့၊ ကလေးများ အရေးပေါ် ရန်ပုံငွေအဖွဲ့တို့မှာ ကမ္ဘာတဝှန်းလုံးတွင် ကျယ်ပြန့်စွာလုပ်ကိုင်ဆောင်ရွက်လျက်ရှိကြသည်။

ကုလသမဂ္ဂ၏ဆောင်ရွက်ချက်များနှင့်စပ်လျဉ်း၍ အောင်မြင်သည့်အခါ အောင်မြင်ခဲ့သော်လည်း မအောင်မြင်သည့်အခါများလည်း ရှိပေသည်။ သို့ရာတွင် နောက်ထပ်ကမ္ဘာစစ်ကြီးမဖြစ်ပွားရန် တည်းဟူသောအဓိကရည်ရွယ်ချက်ဖြစ်သည့် ငြိမ်းချမ်းရေးမှာ တည်မြဲလျက်ရှိနေသေးသဖြင့်၊ကုလသမဂ္ဂမှာ မြှော်လင့်ဖွယ် ရာရှိနေ သေး ပေ သည်။ ထို့ပြင် ကုလသမဂ္ဂ၏အင်အားမှာ ကမ္ဘာပေါ်ရှိ သန်းပေါင်း ၁၀၀၀ မျှမကသောလူအပေါင်းတို့ တဦးနှင့်တဦး အေး ချမ်း စွာပူးပေါင်းဆောင်ရွက်လိုမှုပေါ် တွင် တည်နေ၏။ တနည်းဆိုရသော် ထိုလူအပေါင်း၏ကိုယ်စားလှယ်များဖြစ်သော အစိုးရများ၏ အေးချမ်းစွာ ပူးပေါင်း ဆောင်ရွက်လိုမှု ပေါ် တွင် တည်နေလေသည်။ အချုပ်ကား ကုလသမဂ္ဂကြီးထိရောက်စွာဆောင်ရွက်နိုင်မှု နှင့် ကုလသမဂ္ဂ၏နောင်ရေးမြှော်လင့်ချက်မှာ နိုင်ငံများ၏အသိဉာဏ်ပွင့်လင်း သော အကျိုး ဖြစ်ထွန်းစေမှုပေါ် တွင်တည်နေပေတော့သည်။




ကုလသမဂ္ဂအထွေထွေလွှတ်တော်၏ ၁၉၅၃ ခုနှစ်ဥက္ကဋ္ဌ အိန္ဒိယအမျိုးသမီးမစ္စက်ဝိဇယလက်ရှမိပဏ္ဍစ်

**ကုလသမဂ္ဂနေ့။** ။စစ်ပြီးခေတ်တွင် အောက်တိုဘာလ ၂၄ ရက်နေ့သည် ငြိမ်းချမ်းရေးလိုလားသောကမ္ဘာသူကမ္ဘာသားများအဖို့ အလွန် အရေးပါသောနေ့ကြီး တနေ့ဖြစ် ပေသည်။ အကြောင်းကား ထိုနေ့တွင် ကမ္ဘာပေါ်ရှိနိုင်ငံပေါင်း ၅၁ နိုင်ငံ ပါဝင်ဖွဲ့စည်းထားသော ကုလသမဂ္ဂကြီးပေါက်ဖွားလာသောကြောင့်တည်း။ ထိုကြောင့် အောက်တိုဘာလ ၂၄ ရက်နေ့ကို 'ကုလသမဂ္ဂနေ့' ဟု ကမ္ဘာတဝှန်းလုံးက အသိအမှတ်ပြုထားကြသည်။

ကုလသမဂ္ဂနေ့မည် သို့ မည်ပုံ ဖြစ် ပေါ် လာသည်ကို ကုလသမဂ္ဂကြီးစတင်ဖွဲ့စည်းရပုံကစ၍ ဖော်ပြရပေမည်။ ကုလသမဂ္ဂဖွဲ့စည်းရခြင်း၏အဓိကရည်ရွယ်ချက်မှာ စစ်ကိုတားဆီးရန်နှင့် ကမ္ဘာ့ငြိမ်းချမ်းရေးတည်တံ့စေရန်ဖြစ်သည်။ ကမ္ဘာပေါ်၌မည်သည့်လူမျိုးမဆို စစ်၏အန္တရာယ်ကို ရင်မဆိုင်လိုကြချေ။ စစ်ဖြစ်ခြင်းသည် သတ္တန္တရကပ်ဆိုက်ခြင်းပင်ဖြစ်သည်။ အထူးသဖြင့် ကမ္ဘာစစ်ကြီးများဖြစ်ပွားသောအခါ လူနှင့်ကျွဲနွားတိရစ္ဆာန်များပါမကျန် သေကြေပျက်စီးကြရ၏။ မသေ၍ကျန်နေသူများမှာလည်း အိုးအိမ်ပစ္စည်းများဆုံးရှုံးပြီးလျှင် ကြီးစွာသောဆင်းရဲဒုက္ခများနှင့် ကြုံ

တွေ့ကြရသည်။ ထိုကဲ့သို့မနှစ်မြို့ဖွယ် အဖြစ်ဆိုးများပေါ်ပေါက်စေသော စစ်မက်အရေးများကိုတားဆီးရန် နိုင်ငံခေါင်းဆောင်များက တတ်နိုင်သမျှကြိုးစားခဲ့ကြပေသည်။

ပဌမကမ္ဘာစစ် (၁၉၁၄–၁၈) အပြီးတွင် စစ်၏ဆိုးရွားကြမ်းကြုတ်မှုကိုဆင်ခြင်မိကြသောတိုင်းနိုင်ငံကြီးများစုဝေးဆွေးနွေး၍၊စစ်မက်အရေးများကိုတားဆီးပြီးလျှင် ထာဝစဉ်ငြိမ်းချမ်းရေးကိုရရှိရန် နိုင်ငံပေါင်းချုပ်အသင်းကို ၁၉၂၀ ပြည့်နှစ်ဦးတွင် ဖွဲ့စည်းတည်ထောင်ခဲ့ကြသည်။ သို့ရာတွင် ထိုအသင်းကြီး၏လုပ်ငန်းများမှာ မအောင်မြင်ခဲ့ဘဲ၊ ၁၉၃၉ ခုနှစ်တွင် ပဌမကမ္ဘာစစ်ထက်ကြောက်မက်ဖွယ်ကောင်းသော ဒုတိယကမ္ဘာစစ်ဖြစ်ပွားခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ပြီးဆုံးသောအခါတွင် စစ်ကြီးများကိုတားဆီး၍ ထာဝစဉ်ငြိမ်းချမ်းရေး၊လုံခြုံရေးတို့ကိုရရှိရန်ကြိုးစားအားထုတ်ကြပြန်သည်။ ဤတကြိမ်တွင် ပဌမအကြိမ်ကကဲ့သို့မဟုတ်ဘဲ၊ထာဝစဉ်ငြိမ်းချမ်းရေးနှင့် လုံခြုံရေးကိုရရှိရန် ပဌမအကြိမ်ကထက်ခိုင်မြဲသော အဖွဲ့အစည်းကိုတည်ထောင်ကြလေသည်။

ထိုသို့စစ်ကိုတား၍ အများချမ်းသာရေး၊ ထာဝစဉ်ငြိမ်းချမ်းရေးကို ဒုတိယကမ္ဘာစစ်အတွင်း လန်ဒန်မြို့၌ခိုလှုံနေရသော နိုင်ငံ ၉ နိုင်ငံမှစစ်ပြေးအစိုးရတို့၏ ၁၉၄၁ ခုနှစ်စိန်ဂျိမ်းနန်းတော်အစည်းအဝေးမှ အစပြုသည်ဟုဆိုရပေမည်။ ထိုအစည်းအဝေးမှ စိန်ဂျိမ်းနန်းတော်ကြေညာစာတမ်းကိုထုတ်ပြန်ခဲ့ရာ၊ ငြိမ်းချမ်းရေးအတွက်အရေးပါအရာရောက်ခဲ့ရုံမက ကုလသမဂ္ဂဖြစ်ပေါ်လာရန် လမ်းစကိုဖွင့်ပေးသည်နှင့်တူလေသည်။ ထိုနှစ်မှာပင် ဗြိတိန်နှင့်အမေရိကန်ပြည်ထောင်စုနှစ်နိုင်ငံတို့ကလည်း ငြိမ်းချမ်းရေးကို ရှေးရှုကာ အတ္တလန္တိတ်သမုဒ္ဒရာတနေရာတွင်ဆွေးနွေး၍ အတ္တလန္တိတ်စာချုပ်ကို ချုပ်ဆိုလက်မှတ်ရေးထိုးခဲ့ကြ၏။ အတ္တလန္တိတ်စာချုပ်ပါအချက်အလက်များကား ကုလသမဂ္ဂဖွဲ့စည်းရေးနှင့် တိုက်ရိုက်သက်ဆိုင်လေသည်။

၁၉၄၂ ခုနှစ်တွင် ကမ္ဘာ့ငြိမ်းချမ်းရေးကိုလိုလားသောနိုင်ငံကြီး ၄ ခုက အတ္တလန္တိတ်စာချုပ်ကိုထောက်ခံအတည်ပြုကာ နိုင်ငံပေါင်းစုံကြေညာစာတမ်းကြီးကို ထုတ်ပြန်လေသည်။ ၁၉၄၃ ခုနှစ်တွင် ဗြိတိန်၊အမေရိကန်နှင့် ရုရှတို့မော်စကိုမြို့တွင်စည်းဝေး၍ ကုလသမဂ္ဂဖွဲ့စည်းရန်လိုအပ်ကြောင်းထုတ်ပြန်ကြေညာ၏။ ၁၉၄၄ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု ဝါရှင်တန်မြို့ ဒမ်ဗာတန်အုတ်အဆောက်အအုံ၌ ဆိုခဲ့သည့်နိုင်ငံကြီး ၃ နိုင်ငံနှင့် တရုပ်နိုင်ငံမှကိုယ်စားလှယ်ကြီးများဆွေးနွေးကြပြီးလျှင် ကုလသမဂ္ဂဟူသောအမည်ဖြင့် အဖွဲ့ကြီးတခုဖွဲ့ရန်ဆုံးဖြတ်ကြ၏။ ထိုနောက် ၁၉၄၅ ခုဖေဖွာရီလတွင် ကရိုင်းမီးယားနယ်ယော်လတာမြို့၌ငင်း၊ ထိုနှစ်ဧပြီလတွင် အမေရိကန်ပြည်ထောင်စု ဆန်ဖရန်စစ္စကိုမြို့၌ငင်း၊ ညီလာခံကြီးများကျင်းပ၍ အခန်းကြီး ၁၉ ခန်း၊ ပုဒ်မ ၁၁၁ ခုပါဝင်သော ကုလသမဂ္ဂစာချုပ်ကြီးကိုရေးဆွဲပြီးလျှင်၊ ၁၉၄၅ ခုအောက်တိုဘာလ ၂၄ ရက်နေ့တွင် နိုင်ငံပေါင်း ၅၁ နိုင်ငံသဘောတူ လက်မှတ်ရေးထိုး



ကုလသမဂ္ဂနေ့အထိမ်းအမှတ်အဖြစ် ရန်ကုန်မြို့တွင်ဤသို့နှိုးဆော်လေ့ရှိ၏။

ချုပ်ဆိုအောင်မြင်ခဲ့လေသည်။ ရှေးဦးစွာဖွဲ့စည်းသော ၅၁ နိုင်ငံအပြင် နောက်ထပ်ပါဝင်ခွင့်ရသောနိုင်ငံများလည်းရှိပေသည်။ ထိုနိုင်ငံများတင် ပြည်ထောင်စုမြန်မာနိုင်ငံလည်း ပါဝင်သည်။ ယင်းသို့အားဖြင့် အောက်တိုဘာလ ၂၄ ရက်နေ့တွင် ကုလသမဂ္ဂကြီးပေါက်ဖွား ခဲ့ပေရာ၊ ထိုနေ့ကို ကုလသမဂ္ဂနေ့ဟု ကမ္ဘာတဝှန်းလုံးက အသိအမှတ်ပြုထား လေသည်။ ထိုနေ့တွင် ကုလသမဂ္ဂဝင်နိုင်ငံတိုင်း၌ အထိမ်းအမှတ်ပွဲများ ပြုလုပ်၍၊ ကုလသမဂ္ဂကြီး၏ အဓိကရည်ရွယ် ချက်များနှင့် စွမ်းဆောင်ချက်များကို လူတိုင်းသဘောပေါက်ရအောင် စွမ်းဆောင်ကြမည့်အစီအစဉ်များကိုပြုကြသည်။

**ကုလား။ဦး။** ။ဦးကုလားမှာ မ ဟာ ရာ ဇ ဝင် ကြီး ကို ပြုစု ရေး သား ခဲ့ သော ရာဇဝင်ကျမ်း ပြုဆရာကြီးတဦးဖြစ်သည်။ ညောင်ရမ်းခေတ် တနင်္ဂနွေမင်းတရားကြီးလက်ထက်တွင် ထင်ရှားသောပုဂ္ဂိုလ်ဖြစ်သည်။ ဦးကုလား၏မျိုးနွယ်မှာ သဋ္ဌေးမျိုးဖြစ်၍ အဖမှာ စဥ့်ကိုင်သဋ္ဌေးဒေဝသေဋ္ဌ၊အမိမှာ တဖက်အနွယ်စော်ဘွားမျိုးမဏိသြဃဖြစ်သည်။

ဦးကုလား သည် ရှေးကသျှင် မဟာသီလဝံသ၏ ရာဇဝင်ကျော်နှင့် ပုဂံရာဇဝင်၊ တကောင်းရာဇဝင် စသော ရာဇဝင်ငယ်များမှာ ပြည့်စုံခြင်းမရှိသည်ကို ရာဇဝင်ကျမ်းအစောင်စောင်မှညှိနှိုင်းပြီးလျှင် ရာဇဝင်ကြီးတစောင်အဖြစ်ပြုစုရေးသားသည်။ ထိုရာဇဝင်ကြီးမှာ ချေင်း၊မော်ကွန်း၊ကျောက်စာ စသည်တို့ကိုပါ ကိုးကားရေး သား ထား သဖြင့်၊ မှန်နန်းရာဇဝင်၊ တွင်းသင်းမဟာရာဇဝင်သစ်ကဲ့သို့သောရာဇဝင်များသည် ထိုမဟာရာဇဝင်ကြီးကိုပင် ကိုးကားမှီငြမ်းပြုကြရ၏။

ဦးကုလားသည် ရာဇဝင်ကျမ်းကြီးကို တနင်္ဂနွေမင်း (သက္ကရာဇ် ၁၀၇၆ ခုနှစ်မှ ၁၀၈၅ ခုနှစ်) လက်ထက်၌ပြုစုသည်။ ဦးကုလားသည် ရာဇဝင်ကျမ်းပြုစုနိုင်သောစွမ်းရည်သာမကဘဲ မြန်မာစကားပြေကို ရိုးရိုးဖြင့်ပြေပြစ်စွာ ရေးသားနိုင်သောစွမ်းရည်နှင့်လည်း ပြည့်စုံသည်။ 'သောင်းကျန်းသည်'၊ 'ရိုင်းပြသည်'၊ 'ပုန်ကန်သည်'၊ 'မကျိုးမနွံရှိသည်'၊ 'သစ္စာတော်ဖေါက်ဖျက်သည်'၊ 'ဆက်ကပ်မြဲတွင်မရောက်ဘဲနေသည်'၊ 'ကျေးဇူးတော်ကိုသွေဖည်သည်' စသည်ဖြင့် စကားပရိယာယ်နိုင်နင်းစွာသုံးစွဲခဲ့သည်။

ဦးကုလားသည် မဟာရာဇဝင်ကြီးတစောင်တည်းဖြင့်ပင် ကျော်စောထင်ရှားသည်။ ထိုရာဇဝင်မှာ မဟာသမတမင်းမှစ၍ တနင်္ဂနွေမင်းအထိသာပါဝင်သည်။ ဦးကုလားသည် မဟာရာဇဝင်ကြီးအပြင် ရာဇဝင်လတ်နှင့် ရာဇဝင်ချုပ်များကိုလည်း ရေးသားခဲ့သေးသည်။

**ကုလားကောက်ငှက်။** ။ခရုစုတ်ငှက် — ရှု။



ကုလားအုပ်များကိုစီးနင်း၍ သဲကန္တာရခရီးကြမ်းကိုဖြတ်သန်းသွားလာကြသော အာရပ်ကုန်သည်များ

# သဲကန္တာရကူး သက်ရှိသင်္ဘော

**သဘာဝ၏ဒေသအလိုက် ဆန်းကြယ်စွာဖန်တီးပေးထားသည့် သတ္တဝါတမျိုးကို အောက်ပါအကြောင်းရပ်တွင် ဖေါ်ပြထားသည်။ အရုပ်ဆိုးသလောက်အသုံးဝင်သော ကုလားအုပ်သည် အာရပ်လူမျိုးတို့၏ ကျေးဇူးရှင်ဟုဆိုလျှင် မှားမည်မထင်ပေ။**

**ကုလားအုပ်။** ။သဲကန္တာရမှာ ခရီးအသွားအလာရ ခက်ခဲသောအရပ်ဒေသဖြစ်သော်လည်း အလွယ်တကူ ဖြတ်ကျော်သွားလာနိုင်ရန် သဘာဝက တိရစ္ဆာန်ထူးတမျိုးကို ဖန်တီးပေးထားလေသည်။ ထိုတိရစ္ဆာန်မှာ အခြားမဟုတ်၊ အရုပ်ဆိုးသလောက်အဖိုးတန်သော ကုလားအုပ်ပင်ဖြစ်၏။

ကုလားအုပ်၏လည်ပင်းမှာ ကိုယ်ထည်နှင့်စာလျှင် အလွန်ရှည်လျားနေရုံသာမက အကြည့်ရလည်းဆိုးလေသည်။ ခြေများမှာလည်း ခွာပါ၍ နှစ်ခြမ်းကွဲနေ၏။ ဤကဲ့သို့ကွဲနေသည်မှာ ခြေမျက်စိအနီးသို့ပင် ရောက်နေသည်။ ဦးခေါင်းမှာသေးငယ်ရုံသာမက အရုပ်လည်းဆိုး၏။ အညိုရောင်မျက်လုံးမှာလည်း အပြင်ဖက်သို့ အတန်ငယ်ပြူးထွက်လျက်နေပေသည်။ သူ၏နှာခေါင်းမှာ အခြားတိရစ္ဆာန်များနှင့်မတူဘဲ ထူးထူးခြားခြား အကွဲကလေးများရှိသည်ကိုတွေ့ရ၏။ နှာခေါင်းပေါက်ကိုအလိုရှိသလို ကျယ်လာအောင် လုပ်နိုင်၍ သဲကန္တာရအတွင်း၌ ပြင်းထန်သော သဲမုန်တိုင်းများကျရောက်လျှင် လေဝင်ပေါက်မရှိအောင်လည်း တင်းကျပ်စွာပိတ်ဆို့ထားနိုင်သည်။ ကိုယ်ပေါ်၌ပေါက်သော အမွေးများမှာ ကြမ်းတမ်းရုံသာမက မညီမညာ ဖရိုဖရဲဖြစ်လျက်ရှိသည်။ အဖုအထစ်များသောဒူးနှင့် ကွေးညွတ်လျက်ရှိသောရင်ရိုးများပေါ်တွင် ကြမ်းတမ်းသော သားရေကဲ့သို့အခံများကို တွေ့ရလေ့ရှိသည်။ ကုလားအုပ်၏ လယ်ပို့မှာ အလွန်အကြည့်ရဆိုးသည်။

သဲကန္တာရထဲတွင် ကုလားအုပ်လောက်အဖိုးတန် အသုံးဝင်သော တိရစ္ဆာန်မရှိသဖြင့် ကုလားအုပ်ကို 'ကန္တာရသင်္ဘော' ဟူ၍ ခေါ်ဝေါ်ကြသည်။ ကုလားအုပ်သည် သဲကန္တာရထဲ၌ အဖိုးတန်ရခြင်းမှာ အလွန်ရှည်လျားဝေးလံသောခရီးကို အစာရေစာ အနည်းငယ်မျှစားသောက်ရုံနှင့် တာရှည်သွားလာနိုင်သောကြောင့်ဖြစ်ပေသည်။ ထူးဆန်းသည်မှာ ကုလားအုပ်၌အာဟာရကို သိုလှောင်ထားသော လယ်ပို့ပါရှိခြင်းပင်ဖြစ်သည်။ ခရီးလမ်းအကြား၌ အစာရေစာ ရှားပါးသောအခါ ကုလားအုပ်သည် လယ်ပို့ထဲ၌အဆီအဖြစ် သိုလှောင်ထားသော အာဟာရကို သုံးစွဲသည်။ ထိုကြောင့် အလွန်ရှည်လျားပင်ပန်းသော ခရီးကြမ်းကို နှမ်းနယ်စွာ သွားပြီးသည့်နောက်တွင် ကုလားအုပ်၏လယ်ပို့မှာ ပျောက်ကွယ်လုမတတ်ငယ်သွားတတ်သည်။ သို့သော် လိုရာခရီးသို့ရောက်၍ကောင်းစွာနားနေပြီးသော် အစာကောင်းကောင်းစားရလျှင် ထိုလယ်ပို့မှာ ချက်ခြင်းပင်ပြန်လည် ဖေါင်းကြွလာတတ်ပေသည်။

ကုလားအုပ်သည် အစာကိုသိုလှောင်နိုင်ရုံသာမက ရေကိုလည်း ကျယ်ဝန်းသောအစာအိမ်ထဲ၌ရှိသည့် အထူးရေခန်းများ၌ ခရီးရှည်လျှင်ရှည်သည့်အလျောက် ရက်ပေါင်းများစွာခံနိုင်ရန် သိုမှီးထားနိုင်ပေသည်။ ဤကဲ့သို့ရေကို သိုမှီးထားနိုင်ခြင်းကြောင့် ကုလားအုပ်သည် သဲကန္တာရထဲတွင် အသုံးဝင်ဆုံးဖြစ်သည်။ ကြမ်းတမ်းပြင်းထန်သောသဲမုန်တိုင်းကျလာသောအခါ နှာခေါင်းကို လေဝင်ပေါက်မရှိအောင်ပိတ်ထားနိုင်သည်။ ထိုပြင်မျက်လုံးများကိုလည်း အလွန်တရာထူထဲလေးလံသောမျက်တောင်တို့ဖြင့် သဲမဝင်အောင်ကာကွယ်ထားနိုင်သေးသည်။

ကုလားအုပ်တွင်ထူးခြားသောအချက်မှာ သူ၏ဦးခေါင်းအနီးသို့ကပ်လာလျှင် အကြောင်းရှာမရဘဲဒေါသထွက်တတ်သောအလေ့ဖြစ်သည်။ ဤသို့ဒေါသထွက်လာလျှင် ကုလားအုပ်သည် နီးရာလူကိုကိုက်ခဲခြင်း၊ ကန်ကျောက်ခြင်းစသည်တို့ကို ပြုလုပ်တတ်သည်။ ကုလားအုပ်အစာဝါးပုံမှာ လူနှင့်မတူဘဲ၊ သူ၏အောက်မေးရိုးကို နံဘေးတဖက်တချက်သို့ ထိုမှဤမှ ပခက်လွှဲသကဲ့သို့ လှုပ်ရှားကာကြိတ်ဝါးသည်။

ကုလားအုပ်သည်နှစ်ပေါင်းများစွာကပင် သဲကန္တာရအတွင်းသွားလာသူတို့အတွက် အသုံးအဝင်ဆုံးတိရစ္ဆာန်ဖြစ်ခဲ့သည်။ အသုံးအဝင်ဆုံးဖြစ်ရခြင်းမှာလည်း ကျွန်ုပ်တို့သိရှိကြသည့်အတိုင်းပင် အပူဒဏ်ကိုခံနိုင်ခြင်း၊အစာငတ်ရေငတ်တာရှည်စွာခံနိုင်ခြင်းတို့အပြင် ကြီးမားသော ခွန်အားရှိခြင်းကြောင့်ပင်ဖြစ်သည်။ သို့သော်လည်း ကုလားအုပ်သည် အကောင်ကြီးသလောက်ထုံထိုင်းသည်။

ကုလားအုပ်ကိုဒူးထောက်ခိုင်းရန်မှတပါး အခြားအရာတို့ကို အလွယ်တကူမစေခိုင်းနိုင်ပေ။ ဤကဲ့သို့ဒူးထောက်သည့်အခါတွင် ကုလားအုပ်သည် မည်မျှမာကျောသောမြေကြီးပေါ်တွင် ဒူးထောက်ရသည်ဖြစ်စေကာမူ နာကျင်ခြင်းမရှိပေ။ အဘယ်ကြောင့်ဆိုသော် ဒူးဆစ်ပေါ်တွင် ဒူးအခံအင်္ဂါတမျိုးရှိနေသောကြောင့်ဖြစ်သည်။ ဒူးထောက်ခိုင်းသည့်အခါ မိမိကိုယ်ပေါ်သို့လေးလံသောဝန်ထုပ်ဝန်ပိုးကြီးများတင်တော့မည်ကိုသိ၍ ကျယ်လောင်စွာညည်းညူတတ်သည်။ ကုလားအုပ်သည် ကျယ်ပြန့်သောသဲကန္တာရကြီးများကိုကျော်ဖြတ်၍ တတန်၏ ၄ ပုံတပုံခန့်ရှိသောအလေးချိန်ကို မိုင်ပေါင်းများစွာလွယ်ကူသက်သာစွာ သယ်ဆောင်နိုင်သည်။ ကုလားအုပ်လမ်းလျှောက်ပုံမှာ ရိုးရိုးသာမန်တိရစ္ဆာန်တို့လမ်းလျှောက်ပုံနှင့် အလျှင်းမတူချေ။ ကုလားအုပ်စီးရသည်မှာ သင်္ဘောစီးရသည်နှင့်တူသဖြင့် လှိုင်းမူး

တတ်သူများကုလားအုပ်စီးရန်မသင့်ပေ။ ကုလားအုပ်သည် လမ်းလျှောက်ရာ၌ကိုယ်နံဘေးရှိခြေတစုံလုံးကို တချိန်တည်း ပင့်မြှောက်ပြီးလျှင် ခြေလှမ်း လှမ်းရုံသာမကသေးဘဲ ကိုယ်ထည်ကြီးတခုလုံးကိုလည်း နံဘေးသို့ပစ်လွှဲလျက် စောင်းငဲ့ကာသွားလေ့ရှိသည်။ ထို့ကြောင့် ကုလားအုပ်စီးသောသူမှာ လှိုင်းစီးနေသောလှေကဲ့သို့ နိမ့်လိုက်မြင့်လိုက်ဖြစ်လျက် ရာသီဥတုကြမ်းတမ်းပြင်းထန်နေစဉ်သဘောဖြင့်ခရီးသွားရသည်နှင့် မည်သို့မျှမခြားပေ။ ကုလားအုပ်များ၏ လှုပ်ရှားသွားလာပုံမှာ ပြင်းထန် လှ သည် ဖြစ် ရာ၊ ကုန်စည်များကို တိတ်တဆိတ်ခိုးသွင်းရောင်းချမှုကိုလိုက်လံဖမ်းဆီးရသည့် အီဂျစ်နိုင်ငံမှကုလားအုပ်စီးပုလိပ်များမှာ တနေကုန် တနေခန်း ကုလားအုပ်စီး၍ခရီး သွား ရာ တွင် သူတို့၏ ကိုယ်ကို ရှည်လျားသော အဝတ် တို့ဖြင့် တင်းကျပ်စွာ ချည်နှောင်၍ထားရသည်။

ကုလားအုပ်မှာ အစာရေစာနှင့်စပ်လျဉ်း၍ လူတို့အားဒုက္ခမရှာတတ်ဆုံးသတ္တဝါဟုဆိုနိုင်သည်။ တနေ့တာမျှခရီးသွား ပြီး လျှင် ပဲစေ့ခြောက် သို့မဟုတ် မာကျောသော စွန်ပလွံခြောက်အနည်းငယ်ကိုသာ ကျွေးရသည်။ ဤမျှနှင့်မတင်းတိမ်သော အခါ တွင် ကုလား အုပ် သည် သဲကန္တာရ တလျှောက် နေရာ အနှံ့ အပြား ပေါက် ရောက် သော ဆူးပင်ချုံဖုတ်စသည်တို့ကိုဝါးစား၏။ ကုလားအုပ်များသည် တွေ့မရှောင်မရွေးချယ်ဘဲ ရရာကိုစားတတ်သည်။ သူတို့ကိုယ်တွင်တတ်ဆင်ထားသော သားရေဇက်ကြိုးများကိုသော်၎င်း၊တဲဖျင်အဝတ်များကို၎င်း၊ လွယ်ရာကိုဝါးစားတတ်၏။ ကုလားအုပ်၏ အစာချေချက်နိုင်သောသတ္တိမှာ အလွန်ကောင်းသဖြင့် အဆိပ်များကိုပင်လျှင် အတန်ခံနိုင်ရည်ရှိသည်။

ကုလားအုပ်၏ခြေထောက်များမှာ နူးညံ့ပျော့ပျောင်း၍ ကူရှင် ဖုံ များကဲ့သို့ ပြိမ့်ငြောင်းလျက်ရှိနေရာ သဲထဲတွင်နင်းလျှောက်သွားနိုင်ရန်အတွက် အကောင်းဆုံးဖြစ်သည်။ ဒူးဆစ်များနှင့်ရင်အုပ်မှာ ထူထဲကြမ်းတမ်းသောအခံများဖြင့် ကွယ်ကာထားသောကြောင့် မြေကြီးပေါ်တွင်ဒူးတုပ်ထိုင်ချလိုက်သည့်တိုင်အောင် မည်ကဲ့သို့မျှနာကျင်ခြင်းမရှိပေ။

ပူပြင်းခြောက်သွေ့သောသဲကန္တာရ များ တွင် ကုလားအုပ်မှာ ကုန်သည်များအဖို့ မြင်းလည်းမည်၏။ နွားအဖြစ်ဖြင့်လည်းအသုံးချနိုင်၏။ သိုးအဖြစ်ဖြင့်လည်းအသုံးဝင်၏။ ကုလားအုပ်သည် အလေးအလံဟူသမျှကို ခရီးဝေးသယ်ပိုး သွား လာ နိုင် သည်။ လူတို့ စားသောက်ရန်အစာရေစာအဖြစ်ဖြင့်လည်း အသား နို့ စသည်တို့ကိုပေးသည်။ ထို့မျှသာမက သူ့ အမွေးကိုအဝတ်အထည်ရက်လုပ်၍ဝတ်ဆင်နိုင်သေး၏။ ဤအရုပ်ဆိုး ထုံထိုင်းသော တိရစ္ဆာန်မျိုးသာမရှိလျှင် သဲကန္တာရတွင် နေထိုင်မည့်သူ တယောက် မျှမရှိဘဲ လွင်တီးခေါင်ကြီးသာဖြစ်နေပေလိမ့်မည်။

ကုလားအုပ် ၂ မျိုးရှိသည်။ အာရေဗျန်ကုလားအုပ်မျိုးမှာ ကျွန်ုပ်တို့သိရှိကြသည့်အတိုင်း အယပ်မြင့်မြင့် ခြေတံရှည်ရှည်နှင့် ကျောကုန်းပေါ်တွင်လပို့တခုတည်းသာရှိသည်။ အခြား ကု လား အုပ် တ မျိုး မှာ ဗက် ထ ရီ ယန် ကု လား အုပ်မျိုးဖြစ်၍ အာရှတိုက်အလယ်ပိုင်း တွင် နေ ထိုင် သည်။ ထိုကုလားအုပ်မျိုးတွင် လပို့ ၂ ခုရှိသည်။ ဗက်ထရီယန်ကုလား အုပ် မှာ ဆွေနီး မျိုး စပ်ဖြစ် သောအာရေဗျန်ကုလားအုပ်ထက်ပို၍ ကိုယ်လုံးကိုယ်ထည်ကြီးပြီးလျှင်၊ ခြေထောက်မှာတို၍ သန်မာတောင့်တင်းသည်။ ကိုယ်ပေါ်ရှိအမွေးမှာလည်း ပို၍ထူကာ ဖါးလျားကျနေ၏။ သို့သော် ခြေထောက်မှာ ကူရှင်ကဲ့သို့ပြိမ့်ငြောင်းခြင်းမရှိရုံသာမက မပျော့ပျောင်းသည်ကိုလည်းတွေ့ရ၏။ ဤကုလားအုပ်မှာ လပို့ ၂ ခုရှိသည်နှင့်အညီ အပူအအေး ၂ ဌာနစလုံး၌ ခံနိုင်ရည်ရှိသည်။ သန်စွမ်းသောဤကုလားအုပ်သည် အလွန်ပြင်းထန်သောအပူနှင့် ချမ်းမြလှသောအအေးဒဏ် ၂ ခုစလုံးကို ကောင်းစွာခံနိုင်ရာ၊တရုပ်နိုင်ငံနှင့်တိဗက်ပြည်များမှ အနောက်ဖက်ဒေသများသို့ လက်ဖက်ခြောက်နှင့် အခြားကုန်စည် စလယ် များ ပို့ ဆောင် ရန် အတွက် များ စွာ အသုံး ဝင်သည်။ ဆိုခဲ့သောကုလားအုပ် ၂ မျိုး အပြင် အပြေး ပြိုင်ရန်နှင့် ခရီးမြန်သွားရန်အတွက် အထူးလေ့ကျင့်ပေးထားသော ဒရွမ်မီဒယ်ရီ ခေါ် ကုလားအုပ်မျိုးလည်းရှိပေသေးသည်။



မိုရိုကိုသဲကန္တာရမှ ကုလားအုပ်သားအမိ

ကုလားအုပ်မှာ အသုံးဝင်သည်မှန်သော်လည်း စိတ်နှလုံးကောင်းမရှိသောကြောင့် လူတို့၏ချစ်ခင်မှုကို ခံယူရရှိခြင်းမရှိပေ။ ရန်လိုသောစိတ်ရှိ၍ အခွင့်သာတိုင်း အဖေါ်အပေါင်းကုလားအုပ်များကို ကန်ကျောက်ကိုက်ဖဲ့ရန် အမြဲကြံစည်တတ်သည်။ အခါအခွင့်ကောင်းလျှင် အနီးကပ်လာသောလူကိုပင် ရန်မူတတ်သည်။ သခင်ကိုကောင်းစွာမှတ်မိသိရှိသော်ငြားလည်း ချစ်ခင်မြတ်နိုးပုံမပြဘဲ ရိုင်းစိုင်း

သည့်အသွင်ကိုသာပြ၏။ ပင်ပန်းဆင်းရဲလှသောကြောင့် သနားညှာတာသည့်စိတ်နှင့် သူတို့အား မည်ကဲ့သို့ပင်ချစ်ခင်ကြင်နာစေကာမူ သခင်ကိုတုံ့ပြန်ချစ်ခင်ခြင်းလုံးဝမရှိကြပေ။ ကုလားအုပ်မှာ နူးညံ့ပျော့ပျောင်းသောစိတ်ထားဟူ၍ အလျင်းမရှိဟုထင်ရသော်လည်း မိခင်အဖြစ်ဖြင့်မူ သားငယ်တို့ကိုအလွန်ဂရုစိုက် ခင်မင်ကြင်နာပုံရပေသည်။ ကုလားအုပ်ငယ်မှာ မွေးမွေးခြင်း ၃ ပေမျှမြင့်၏။ နွားပေါက်စကလေးထက် ပင်ပို၍ လေးသော်လည်း ခြေထောက်များမှာ လွန်စွာအားလျော့ပျော့ညံ့လှသောကြောင့် လမ်းကောင်းကောင်းမလျှောက်နိုင်ချေ။ မိခင်ကုလားအုပ်မကြီးမှာ သားကိုချစ်ခင်သော်လည်း၊ အခြားကုလားအုပ်များနှင့် ရောနှောအုပ်ဖွဲ့ကာ ခြစ်ခြစ်တောက်ပူပြင်းလှသောသဲပြင်များကို ကျော်ဖြတ်၍ တနေ့လျှင် ၂၅ မိုင်နှုန်းမျှနှင့် ခရီးသွားနေရရှာ၏။ ထိုအခါမျိုးတွင် အမြဲပူးတွဲယုယနေရန် မဖြစ်နိုင်သောကြောင့် ကုလားအုပ်ငယ်ကို ပုခက်တခုထဲတွင် ကုန်စည်များနှင့်အတူ အခြားကုလားအုပ်တကောင်က ခရီးပြင်းတလျှောက် သယ်ဆောင်သွားရပေသည်။

ကုလားအုပ်ငယ်ကို မခင်လုပ်သူ၏ကျောကုန်းပေါ်တွင် မတင်ဘဲ အခြားကုလားအုပ်တွင်တင်ဆောင်ရသည်မှာ မည်သည့်အတွက်ကြောင့်နည်းဟူ၍မေးဖွယ်ရှိ၏။ ဆိုခဲ့သည့်အတိုင်း ကုလားအုပ်မှာအလွန်ထုံထိုင်းလှသည်ဖြစ်ရာ၊မိမိ၏သားငယ်ကို ကျောကုန်းပေါ်တွင်ကိုယ်တိုင်တင်ထားလျက်နှင့် သားငယ်ပျောက်ဆုံးသွားပြီ သို့မဟုတ် ကျန်ရစ်ခဲ့လေပြီဟု ပူပန်စိုးရိမ်ခြင်းဖြစ်တတ်သည်။ ထိုကြောင့် ဤကဲ့သို့သောစိုးရိမ်ပူပန်ခြင်းမျိုး မဖြစ်ပေါ်ရအောင် မိခင်ကုလားအုပ်မကြီး၏ရှေ့မှ ကုလားအုပ်တကောင်ပေါ်တွင် မိခင်မြင်သာအောင် တင်ဆောင်သယ်ယူစေရခြင်းဖြစ်သည်။ ရှေ့မှသွားသောကုလားအုပ်တွင် ကုလားအုပ်ငယ်သည် ပုခက်ထဲ၌ပါနေသည်ကိုတွေ့ရလျှင် မိခင်ကုလားအုပ်မကြီးသည် ကျေနပ်နှစ်သိမ့်စွာခရီးသွားနိုင်လေတော့သည်။

ကုလားအုပ်ရိုင်းများရှိသည်ဟူ၍ ရှေးယခင်ကမကြားဘူးချေ။ သို့ဖြစ်ရာ ကုလားအုပ်များသည် ရှေးပဝေဏီကာလကပင် ယဉ်ပါးလာကြပြီးဖြစ်သည်ဟု ယူဆယုံကြည်ရပေမည်။ ဖမ်းဆီးစေခိုင်းခြင်းမပြုဘဲ လွတ်လပ်နေသောကုလားအုပ်အချို့ကို တာကီစတန်နယ်မြောက်ပိုင်းတွင် တွေ့မြင်ရသည်။ထိုကုလားအုပ်ကို တစုံတရာခိုင်းစေရန်အတွက် ဖမ်းဆီးခြင်းမရှိသော်လည်း အသားကိုအလိုရှိသဖြင့် လိုက်လံသတ်ဖြတ်ကြ၏။

အာရေဗျကျွန်းဆွယ်ဒေသတွင် ခြောက်သွေ့ပူပြင်းသောသဲကန္တာရများရှိသည့်နည်းတူ တောင်ကမ္ဘာလုံးခြမ်းရှိ ဩစတြေးလီးယားတိုက်တွင်လည်း ကျယ်ပြန့်သောသဲကန္တာရကြီးရှိလေသည်။ ထိုကြောင့် အာရေဗျန်ကုလားအုပ်မျိုးကို ဩစတြေးလီးယားတိုက်တွင်စမ်းသပ်မွေးမြူကြည့်ရာ အခက်အခဲမရှိဘဲ ကောင်းမွန်စွာထမြောက်အောင်မြင်ခဲ့သည်။



မွန်ဂိုးလီးယားဒေသရှိ ခရီးသွားဝန်တင်ကုလားအုပ်မျိုး

## ကုလီကစားခြင်း။

။ဂူလီကစားခြင်း — ရှု။

## ကုသိနာရုံပြည်။

။ကုသိနာရုံပြည်မှာ အိန္ဒိယနိုင်ငံ၊ မဇ္ဈိမဒေသရှိ ပြည်ကြီး ၂၀ အပါအဝင်ဖြစ်သည်။ ဂေါတမမြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်စံယူခဲ့သောပြည်ဖြစ်၍ ဗုဒ္ဓဝါဒီများအသိများကြသည်။

ထိုပြည်မှာ ဟိမဝန္တာတောင်ခြေရှိ နီပေါနိုင်ငံနှင့် ဂင်္ဂါမြစ်တို့၏အကြားတွင်တည်ရှိ၍၊ ယခုအခါ ယူပီနယ်၊ဂိုရက်ပူခရိုင်၌ ကသိယဟုအမည်တွင်သည်။

မြတ်စွာဘုရားသခင်သည် သက်တော် ၈၀ တွင် သွေးဝမ်းသွန်ရောဂါကို ပြင်းပြစွာခံစားနေရစဉ်၌ပင် ကုသိနာရုံပြည် မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ်တွင်းသို့ တပည့်သံဃာများခြံရံလျက် ဆိုက်ရောက်လာသည်။ ဆိုက်ရောက်သည့်ည၏အလွန် မိုးသောက်ယံတွင် မလ္လာမင်းတို့ခင်းကျင်းထားအပ်သောညောင်စောင်းသလွန်ပေါ်၌လျောင်းစက်ယင်း ပရိနိဗ္ဗာန်စံယူတော်မူသည်။

ကုသိနာရုံပြည်၌ ဗုဒ္ဓမြတ်စွာပရိနိဗ္ဗာန်ပြုသည့်အကြောင်း
ကို ဦးပုည၏သာသနာလျှောက်စာတမ်းတွင် ‘ ကောဇာတ
ရာ့လေးဆဲ့ရှစ်၊သက္ကရာဇ်ယုဂ၊ကဆုန်လအချိန်တွင်၊ ကုသိန္နာ
ရုံရဂုံဂနိုင်၊ အင်ကြင်း မြိုင်၌၊ သုံးဆိုင်ဘုမ္မိ၊ မိပတိရာဇာ၊ထွတ်
သကျာသည်၊ အနုပါဒိသိသ်၊ တိတ်ဆိတ်ဥပါဒါန်၊ မကျန် ကုန်
စင်၊နိဗ္ဗာန်ဝင်၍၊သဘင်ပွဲကြီးသိမ်းပါသည် ’ ဟူ၍ရင်း၊လယ်
တီဆရာတော်ဘုရားရေးသားသော ခုနစ်နေ့ဘုရားရှိခိုးတွင်
‘ ရာလေးဆယ့်ရှစ်၊ သက္ကရာဇ် ဝယ်၊ နယ် မလ္လာ တိုင်း၊ စံနိုင်း မ
ယုတ်၊ ကုသိနာရုံ၊ အင်ကြင်းစုံ၌၊ ကဆုန်လပြည့်၊ အင်္ဂါနေ့
ဝယ်၊ ချမ်းမြေ့နိဗ္ဗူ၊ စံတော်မူသည် ’ ဟူ၍ ရင်း၊ ဖွဲ့ နွဲ့ ရေး
သားခဲ့ကြလေသည်။

ဗုဒ္ဓမြတ်စွာပရိနိဗ္ဗာန်စံယူတော်မူခဲ့သောနေရာတွင် ယခု
အခါ ထူပါရုံစေတီနှင့် လျောင်းတော်မူရုပ်ပွားတော်များကို
အထိမ်းအမှတ်အဖြစ် တွေ့မြင်နိုင်သေးသည်။ ကုသိနာရုံ
ပြည်သို့ နှစ်စဉ်နှစ်တိုင်း ကမ္ဘာအရပ်ရပ်မှ ဗုဒ္ဓဝါဒီအများ
အပြား ဘုရားဖူးသွားရောက်ကြသည်။

**ကူဗလိုင်ခန်** (ခရစ် ၁၂၁၆–၁၂၉၄)။ ။ကူဗလိုင်ခန်
သည် ကမ္ဘာ့အရှေ့ဖက်တလွှားတွင် တန်ခိုးကြီးမားခဲ့သော
မွန်ဂိုဘုရင်ဂျင်ဂစ်ခန်၏မြေးဖြစ်သည်။ ကူဗလိုင်ခန်မှာ တူ
လီ၏ဒုတိယသားဖြစ်၍ ၁၂၁၆ ခုနှစ်တွင်မွေးဖွားသည်။ ငယ်
စဉ်ကပင် နောင်တော်ဖြစ်သူ မန်ဂူ ၏လက်အောက်တွင်စစ်မှု
ထမ်းကာ တရုပ်နိုင်ငံအနောက်ပိုင်းဒေသများကို တိုက်ခိုက်
သိမ်းယူခဲ့သည်။ မန်ဂူ ဘုရင်ကွယ်လွန် သော အခါ ၁၂၆၀
ပြည့်နှစ်တွင် မွန်ဂိုမင်းဆွေမင်းမျိုးတို့၏အစည်းအဝေးကြီး
က သူ့အား ခန်မင်းကြီးအဖြစ် တင်မြှောက်လိုက်ကြသည်။

ခန်မင်းကြီးမှာ လက်ရုံးရည် နှလုံးရည်နှင့်ပြည့်စုံသူဖြစ်၍
ဖိုးတော်ဂျင်ဂစ်ခန်၏ရည်ရွယ်ချက်အတိုင်း တရုပ်နိုင်ငံတခု
လုံးကို သိမ်းသွင်းလိုသောဆန္ဒပြင်းပြသည်။ ထိုကြောင့် ဆွန်
ဘုရင်တို့ပိုင်နက်ဖြစ်သော တရုပ်နိုင်ငံတောင်ပိုင်းကို တစ
တစတိုက်ခိုက်သိမ်းသွင်းခဲ့ရာ၊ နောက် ဆုံး တွင် ကူဗလိုင် ခန်
မှာ တရုပ်နိုင်ငံတခုလုံး၏ဘုရင်ဖြစ်လာတော့သည်။

ခန်မင်းကြီးသည် မိမိ၏မြို့တော်ကို ကယ်ရာကိုး ရမ်းမှ တ
ရုပ်နိုင်ငံတံတိုင်းကြီးအတွင်း ယခုပီကင်းမြို့နေရာသို့ ပြောင်း
ရွှေ့ခဲ့သည်။ ထိုမြို့တော်သစ်မှာ လေးထောင့်မြေကွက်ပေါ်
တွင်တည်ရှိ၍ အဝန်း ၁၈ မိုင်ရှိသည်။ မြို့တော်မှာအလွန်
ခမ်းနားကြီးကျယ်လှသဖြင့် နိုင်ငံခြားသားများကပင် အ
ထူးချီးကျူးရေးသားကြသည်။ ထိုမြို့ တော်ကို တိုင်တူး ဟု
သမုတ်၍ ‘ ရုံးတော်ကြီး ’ ဟုအမိပ္ပါယ်ရရှိသည်။ အနောက်
နိုင်ငံသားတို့ကမူ ခန်ဗာလိ (ဝါ) ခန်မင်းကြီး၏မြို့တော်ဟု
ခေါ်ကြသည်။ ဤမြို့တော်ကြီးခမ်းနားကြီးကျယ်ပုံကို ၁၇
နှစ်တိုင်တိုင် ခန် မင်း ကြီးထံတွင် အမှုထမ်း ဘူးသူ ဗင်းနစ်မြို့
သား မာကိုပိုလိုက မှတ်တမ်းတင်ထားခဲ့သည်။ (မာကို
ပိုလို — ရှု။) ၁၈ ရာစုနှစ်တွင် အင်္ဂလိပ်ကဗျာဆရာကြီးကိုး
လားရစ်က ၅၄ ကြောင်းသောကဗျာဖြင့် ချီးကျူးရေး
သားပြန်သေးသည်။

ခန်မင်းကြီးသည် မဟာယနဗုဒ္ဓဝါဒီတယောက်ဖြစ်သော်
လည်း တရုပ်ယဉ်ကျေးမှု နှင့် ထုံးတမ်းစဉ်လာများကိုလည်း
လေးစားသည်။ အုပ်ချုပ်ရေးဌာနများတွင် တရုပ်လူမျိုး
များကို အများအပြားခန့်ထားသည်။ ၁၂၆၃ ခုနှစ်တွင် တ
ရုပ်လူမျိုးများအလေးအမြတ်ထားလေ့ရှိသော ဖိုးဖွားဗိမာန်
ခေါ် ကျောင်းဆောင်ကြီးကို ယန်ချင်မြို့တွင်တည်ဆောက်
လေသည်။ ၁၂၇၉ ခုနှစ်တွင် မြို့တော်၏အရှေ့တောင်ဖက်
တွင် နက္ခတ် တာ ရာ များ ကြည့် ရှု လေ့ လာ နိုင် ရန်အတွက်
နက္ခတ်မျှော်စင်ကြီးတခုကို ဆောက်လုပ်ပေးခဲ့သည်။ ခန်
မင်း ကြီး သည် တရုပ် လူမျိုး တို့ အထွတ် အမြတ်ထားသည့်
ကွန်ဖျူးရှပ်ကျောင်းတော်ကြီးကို မြို့တော်သစ်ကြီးအတွင်း
တွင် ဆောက်လုပ်ပေးခဲ့သည့်ပြင်၊ကွန်ဖျူးရှပ်ဆွေတော်မျိုး
တော်များအတွက် နယ် ၂ နယ်ကိုလည်း လက်ဆောင်အ
ဖြစ် ပေး အပ် ခဲ့ သည်။ ထို မှ တပါး ယန်ချင်မြို့နှင့် ပင်ယန်မြို့
များရှိ တက္ကသိုလ်ကျောင်းကြီး ၂ ကျောင်းကိုလည်း ခိုင်
မြဲတည်တံ့အောင်ပြုပြင်ကူညီခဲ့သည်။

နိုင်ငံတော်အတွင်း ကူးသန်းရောင်းဝယ်မှုများလွယ်ကူစေ
ရန် မြင်းပေါင်း ၂၀၀,၀၀၀ ပါဝင်သော စာပို့စံနစ်ကိုရင်း၊
တည်းခိုရန်စခန်းပေါင်း ၁၀,၀၀၀ ကိုရင်း၊ တီထွင်ဖွင့်လှစ်ခဲ့
သည်။ မြို့တော်နှင့်ရေလမ်းဆက်သွယ်မှုလွယ်ကူစေရန် တူး
မြောင်းမဟာကြီးကိုလည်း အသစ်ထပ်မံဖေါက်လုပ်ခဲ့သည်။
ဖေါက်ကားရောင်းဝယ်မှုတွင်အခက်အခဲမရှိစေရန် ငွေစက္ကူ
များ ထုတ်ခဲ့သည်။ ကူးသန်း ရောင်း ဝယ်မှုများကို အထူး
အားပေးချီးမြှောက်ခဲ့သည်။ ပိုးထည်လုပ်ငန်းနှင့် ရွှေတောင့်
လုပ်ငန်းများမှာ များစွာတိုးတက်ကောင်းမွန်လာခဲ့ သည်။

မင်း ကြီး သည် စာ ပေ ပညာ များ ကို လည်း အားပေးခဲ့
သည်။ တိဗက် လူမျိုး လာ မာ ဘုန်းကြီး မတီဒဝတ်ရှား ဆို
သူပုဂ္ဂိုလ်အား စာပေ အက္ခ ရာ အသစ် တီ ထွင် စေ ခဲ့ သည်။
ပါးရှင်းလူမျိုး ဂျမားအာလာဒင်ဆိုသူအား ခေတ်မှီပြက္ခဒိန်
ပြုလုပ်ရန်ခိုင်းခဲ့သည်။ အခြားပညာရှင်များအားလည်း မွန်
ဂိုတို့၏ သမိုင်းကိုရေးသားရန်စေခိုင်း ခဲ့ သည်။ ၁၂၆၉ ခုနှစ်
တွင် ဝိုးဂူးဝါးစာလုံးများဖြင့် စာရေးနည်းကိုပယ်ဖျက်၍
စံနစ် သစ်ကို ပေး အပ် ခဲ့ သည်။ မဟာယနဗုဒ္ဓဝါဒကို လည်း
နိုင်ငံတော်ဘာသာအဖြစ်အသိအမှတ်ပြုခဲ့သည်။

ကူဗလိုင်ခန်လက်ထက်တွင် အနောက်နိုင်ငံမှ သာသနာ
ပြုပုဂ္ဂိုလ် ၂ ဦးရောက်ရှိလာသည်။ တဦးမှာ မွန်တီကော်ဗီ
အရပ်မှ ဂျွန်ဆိုသူဖြစ်၍ ကျန်တဦးမှာ ပေါ် ဒနိုနီအရပ်မှ
အိုဒိုရစ်ဆိုသူဖြစ်သည်။ မင်းကြီးသည်ထိုပုဂ္ဂိုလ်နှစ်ဦးအား

လေး လေး စား စား ထား၍ ခရစ် ယန်သာသနာပြုခွင့်ပေး သည့်ပြင် ဂျွန်အား ပီကင်းမြို့၏ပဌမဆုံးဂိုဏ်းချုပ်အဖြစ်ခြီး မြှင့်လေသည်။ တိဗက်နိုင်ငံတွင်မူ ဘုန်းကြီးဘုရင်စနစ်ကို တီထွင်ပေးခဲ့ရာ ယခုတိုင် ဒလိုင်းလာမာခေါ် တိဗက် သာသ နာပိုင်များမှာ တန်ခိုးထွားလျက်ရှိကြသည်။

ခန် မင်း ကြီး မှာ ရှေး ဘိုး လေ ာင်း တော် ဘေး လေ ာင်း တော်များနည်းတူ စစ်တိုက် ခိုက်မှု နိုင်ငံသိမ်းသွင်းမှုများ ကို လိုလား ခဲ့ သည်။ ထို ကြောင့် တိဗက်နိုင်ငံ၊ တာကီ စတန် နိုင်ငံ၊ မြန်မာ နိုင်ငံ၊ ကို ချင် ချိုင်းနားနိုင်ငံ၊ ဂျားဗား ကျွန်း များ သို့ စစ် ချီ တ က် တိုက် ခိုက် ခဲ့ ရာ အောင် မြင် သည်သာများခဲ့သည်။ ဂျပန် ကျွန်း ကိုမူ ရေ တပ်ဖြင့် အကြိမ်ကြိမ် တိုက် ခိုက် ခဲ့ သော်လည်း မအောင် မြင် ခဲ့ ချေ ။ ကူ ဗ လိုင် ခန်၏ နိုင် ငံ တော် မှာ ဘု ရင် တဦး တည်း ပိုင်နိုင်ငံများအနက် အကျယ် အဝန်း ဆုံး နိုင်ငံတော်ဖြစ်၍၊ အရှေ့ဖက် တွင် ပစိဖိတ် သမုဒ္ဒ ရာမှ အနောက်ဖက်တွင် ပင် လယ် နက် ကျော် သည် အထိ ကျယ်ပြန့်လေသည်။


ကမ္ဘာ့အရှေ့တလွှားကိုစိုးမိုးခဲ့သော ကူဗလိုင်ခန်ဘုရင်

မြန်မာနိုင်ငံတွင် တရုပ်ပြေး မင်း ခေါ် နရသီဟပတေ့မင်း လက်ထက်ကူဗလိုင်ခန်၏စစ်သည်တော်များ မြန်မာနိုင်ငံသို့ ဝင်ရောက်တိုက်ခိုက်သဖြင့် နရသီဟပတေ့မင်းမှာ ပုဂံမှပြည် မြို့သို့ထွက်ပြေးတိမ်း ရှောင် ရ လေ သည်။ နရသီဟပတေ့မင်း သည် ချင်ဒိသာပါမောက္ခရဟန်းတော်အား သဝဏ်လွှာ နှင့် ပီကင်း မြို့ကူဗလိုင် ခန် ဘု ရင် ထံသို့ စေလွှတ် စေ့စပ် ခဲ့ရ ကြောင်း၊ မင်္ဂလာစေတီကျောက်စာတွင် တွေ့ရှိရသည်။ ထို ကျောက်စာထွင် ကူဗလိုင်ခန်၏နေပြည်တော်ကို တယ်တူ (တိုင်တူး) ဟုပေါ် ပြထားလေသည်။ (နရသီဟပတေ့-ရှု။)

ကူဗလိုင်ခန်ဘုရင်မှာ အရှေ့ဖက်နိုင်ငံ များ တွင် သာမက အနောက်ဥရောပ နိုင်ငံ များ အထိ တန်ခိုးပျံ့နှံ့ ခဲ့သောမှန်ကို ဘုရင်ဖြစ်သည်။ တရုပ်နိုင်ငံတွင် ယွန်မင်း ဆက် ကို စတင် တည်ထောင်ခဲ့သောမင်းလည်းဖြစ်သည်။ ၁၂၉၄ ခုနှစ်တွင် ကံကုန်တော်မူသည်။ (မွန်ဂိုလူမျိုး — လည်းရှု)။

**ကူလီ**။ ။ကူလီဟူသောဝေါဟာရသည် တမိလ်ဘာ သာစကားမှ ဆင်း သက် လာ သည် ဟုယူဆကြသည်။ ကူ လီ၏ အဓိပ္ပါယ်မှာ ဝန်ပိုးဝန်ထမ်း အလုပ် ကြမ်း သမား ဖြစ် သည်။ အလုပ်ကြမ်းသမားများကို ဟိန္ဒူစတန်နီစကား၊ဗင်္ဂါ လီစကားများဖြင့်လည်း ကူလီဟုပင်ခေါ် ဆိုသည်သာမက၊ ကမ္ဘာ့အရှေ့ပိုင်းနိုင်ငံများ၌ ဤစကားလုံးမှာ မိမိတို့ဘာ သာ ရင်း ဝေါဟာ ရ သ ဖွယ် ခေါ် ဝေါ် သုံး စွဲ လျက် ရှိ ကြ သည်။သီပေါမင်းတရားလက် ထက် ယောအတွင်းဝန်ဦးဖိုး လှိုင်ရေး သား သော မဟာ သုဇာ တ က ကျမ်း တွင် ‘ ဝန် ထမ်းကူလီ ’ ဟုသုံးနှုန်းထား သည်ကိုတွေ့ရသည်။ လယ် တီဆရာတော်ကလည်း မဂ္ဂ ဒီပနီ တွင် ‘ ကူ လီ လုပ် မှု ’၊ ‘ ကူလီ လုပ် ရာ ဌာန ’ ဟုသုံး နှုန်းခဲ့လေသည်။

အိန္ဒိယနိုင်ငံ နှင့် တရုပ်နိုင်ငံ များတွင် လူဦးရေများပြား သဖြင့်ရင်း၊ မိမိ တို့ နိုင်ငံ တွင် အ လုပ် သ မား များ ၏ လုပ် အား ကို အ စွမ်း ကု န် အ သုံး မချနိုင် ၍ ရင်း၊ ၁၉ ရာစုနှစ် နောက်ပိုင်းနှင့် ၂၀ ရာ စုနှစ် အစလောက်တွင် ကူလီအလုပ်သမားများကိုဈေးပေါပေါနှင့် နိုင်ငံခြားသို့ပို့ပေးခဲ့သည်။ သူတို့သည် နိုင်ငံတကာသို့လှည့် လည် သွား လာ လုပ် ကိုင် လျက် ငွေ ကြေး ရှာ ဖွေလေ့ရှိကြ သည်။ အထူးသဖြင့်ကမ္ဘာ့အရှေ့ပိုင်းနိုင်ငံများရှိ ဆိပ်ကမ်း မြို့ကြီး များ တွင် အလုပ်ကြမ်း သမားများအဖြစ်ဖြင့် သက် မွေးဝမ်းကျောင်းပြုကြသည်။

၁၈၃၃ ခုနှစ်တွင် တောင်အမေရိကတိုက်နှင့် အနောက် အိန္ဒိယကျွန်းစုများတွင် ငွေဝယ်ကျွန်စံနစ်ကိုပယ်ဖျက်လိုက် သောအခါ၊ ထိုဒေသများ ရှိစိုက် ပျိုး ရေး လုပ် ငန်း ကြီး များ မှာ တရုပ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့မှ ကူလီများကိုရရှိခဲ့သော ကြောင့်သာ ပျက်စီးခြင်းသို့မရောက်ခဲ့ကြချေ။

ရှေးအခါက မြန်မာနိုင်ငံတွင် လယ်ယာများ၌အလုပ်လုပ် သောသူရင်းငှါးများမှအပ အလုပ်ကြမ်းကူလီအဖြစ်ဖြင့် အ သက်မွေးမြူသူများနည်းပါးခဲ့သည်။ အထက်မြန်မာပြည်ကို ဗြိတိသျှအစိုးရက သိမ်းပိုက်ပြီးသောအချိန်၌ နိုင်ငံ ခြား သို့ ဆန်စပါးရောင်းချသောလုပ်ငန်းများ ကောင်းမွန်လာခဲ့ရာ၊ အိန္ဒိယနိုင်ငံမှလယ်ကူလီများကိုခေါ် ယူ၍ မြစ်ဝကျွန်းပေါ် အ ရပ်တွင် လယ်များတီထွင်လုပ်ကိုင်ခဲ့သည်။ ၂၀ ရာစုနှစ်အစ

ပိုင်းတွင် မြန်မာနိုင်ငံစက်ရုံများနှင့် ဆိပ်ကမ်းများတွင်လုပ်ကိုင်ရန်အတွက် အိန္ဒိယနိုင်ငံမှ ကူလီအမြောက်အမြားကို ခေါ်ယူခဲ့ရသည်။ ၁၉၀၆ ခုနှစ်မှ ၁၉၃၀ ခုနှစ်အထိ နှစ်စဉ်ပျမ်းမျှ ၃ သိန်းခန့်ဝင်ရောက်၍ ၂ သိန်းခွဲခန့်ပြန်သွားလေ့ရှိသည်။ သို့သော် ၃၅,၀၀၀ မျှသောအိန္ဒိယကူလီတို့မှာ မြန်မာနိုင်ငံတွင် အမြဲရှိနေလေသည်။ ထိုကူလီများကို ကုမ္ပဏီကြီးများအတွက် မေစရီခေါ် ကူလီခေါင်းကြီးများကကန်ထရိုက်စာချုပ်ဖြင့်ခေါ်ယူခဲ့ကြသည်။ ထိုစဉ်အခါကကူလီများ၏အခြေအနေမှာ အလွန်ဆိုးရွားလှသည်။ ကူလီများမှာ မေစရီတဆင့်မှတဆင့်သို့ လွှဲပြောင်းခိုင်းစေခြင်းများခံရသည်။ မေစရီများကိုမိမိတို့နေ့စားရငွေများထဲမှ ကော်မရှင်များ ပေးကြရသည်။ မေစရီများ ခေါင်းပုံဖြတ်ပုံအကြောင်းကို အလုပ်သမားစုံစမ်းရေးကော်မတီအစီရင်ခံစာများတွင် ထင်ရှားစွာတွေ့ရှိရသည်။ ထိုစဉ်ကတည်မြဲနေသော လက်မှုပညာသည်များအက်ဥပဒေနှင့် အလုပ်သမားပဋိညာဉ်ပျက်ကွက်မှု အက်ဥပဒေတို့မှာ မေစရီများနှင့် အလုပ်ပိုင်ရှင်များကို ကာကွယ်ပေးဘိသကဲ့သို့ရှိလေသည်။

ထိုဥပဒေများအရ အလုပ်သမားများကို စရန်ငွေတင်ကြိုပေးနိုင်ခြင်း၊ထိုငွေများပြေလည်အောင် အလုပ်သမားများ၏ရက်သတ္တပတ်ဝင်ငွေများမှ ဖြတ်တောက်ယူနိုင်ခြင်း၊ငွေမကျေဘဲ နှင့် ဖြစ်စေ၊ စာချုပ်ထားသည့်အချိန်ကာလမကုန်ဆုံးဘဲ နှင့် ဖြစ်စေ၊ အခြားအလုပ်ဌာနတခုသို့ ပြောင်းရွှေ့မလုပ်ကိုင်ရခြင်းများပါဝင်လေသည်။ အလုပ်သမားများကို ထိထိရောက်ရောက်ကာကွယ်ပေးနိုင်သည့် အလုပ်သမားသမဂ္ဂများ၊အခြားစေတနာ့ဝန်ထမ်းအဖွဲ့များ မရှိခဲ့ချေ။

၁၉၃၀ ပြည့်နှစ်တွင် ပင်လယ်ကူးသင်္ဘောကြီးများ၌ မြန်မာကူလီ နှင့် ကုလားကူလီများ ကုန်တင်ကုန်ချလုပ်ကြရာမှစ၍ ကုလားမြန်မာအဓိကရုဏ်းကြီးဖြစ်ပွားခဲ့သည်။ ထိုအချိန်မှစ၍ မြန်မာနိုင်ငံတွင် ကုလားကူလီများ တဖြည်းဖြည်းနည်းပါးလာခဲ့သည်။ ဒုတိယကမ္ဘာစစ်ပြီးဆုံးပြီးနောက် မြန်မာနိုင်ငံသို့နိုင်ငံခြားမှ ကျွမ်းကျင်သောအလုပ်သမားများကိုသာ ဝင်ရောက်ခွင့်ပြုတော့သည်။

မြန်မာနိုင်ငံလွတ်လပ်ရေးရရှိပြီးနောက် ကူလီဆိုသောဝေါဟာရကိုမသုံးတော့ဘဲ အလုပ်သမားဆိုသောစကားကို သုံးနှုန်းခေါ်ဝေါ်ခဲ့သည်။ နိုင်ငံတော်အစိုးရက အလုပ်သမားအကျိုးဖြစ်ထွန်းစေမည့်ဥပဒေများကိုလည်း တခုပြီးတခုပြဋ္ဌာန်းခဲ့သည်။ အလုပ်သမားများသည် တိုင်းပြည်နိုင်ငံစည်ပင်ဖွံ့ဖြိုးရေးအတွက် မိမိတို့လုပ်အားဖြင့် ပါဝင်ထမ်းဆောင်ကြသဖြင့် လူ့သမိုင်းပြုပုဂ္ဂိုလ်များဟုခေါ်ဆိုထိုက်သူများဖြစ်ပေသည်။

# လူတို့၏ကြောက်မက်ဖွယ်ရန်သူကြီးများ

**ကပ်ကြီးသုံးပါးတွင်တပါးအပါအဝင်ဖြစ်သော ရောဂန္တရကပ်သည် လွန်စွာဆိုးရွားပေစွ။ ထောင်သောင်းမက များစွာသော လူအပေါင်းတို့အား ရန်ရှာနှိပ်စက်သည့် ကူးစက်တတ်သောရောဂါများပြန့်ပွားပုံ၊ယင်းတို့ကိုမည်သို့နှိမ်နင်းကာကွယ်နိုင်ပုံအကြောင်းများကု အောက်တွင်တွေ့ရမည်။**

**ကူးစက်တတ်သောရောဂါများ။** ။ရှေးအခါကရောဂါကပ်တခု ဆိုက်လာလျှင် မကောင်းဆိုးရွားဝင်လာသဖြင့် ရောဂါဖြစ်သည်ဟုဆို၏။ ပကတိလူကောင်းအဖြစ်မှ ရောဂါရုတ်တရက်ဖြစ်လာသဖြင့် မကောင်းတခုခုကြောင့်ဖြစ်ရမည်ဟု ထင်ခဲ့ကြခြင်းဖြစ်ဟန်တူသည်။ ထိုမကောင်းတခုခုကိုမမြင်နိုင်သရွေ့ မကောင်းဆိုးရွားဟုပင်ခေါ်ကြပေမည်။ ယခုအခါတွင်မူ ထိုမကောင်းတခုခုကိုမြင်ကြရပေပြီ။ ထိုမကောင်းဆိုးရွားခေါ် တခုခုသည် ပိုးကြောင့်ဟုသိကြရပေပြီ။ ထိုပိုးသည် အလွန်သေးငယ်သဖြင့် အဆပေါင်း ၁၀၀၀ ချဲ့နိုင်သည့်မှန်ပြောင်းဖြင့်ကြည့်မှသာ မြင်နိုင်ပေသည်။

ပိုးအမျိုးမျိုးရှိရာ ပိုးတိုင်းသည် လူကိုဒုက္ခမပေးချေ။ လူ၏အကျိုးကိုဆောင်သည့်ပိုးများပင်ရှိသည်။ အချို့ပိုးများသည် မြေဩဇာကိုကောင်းအောင်လုပ်ပေးကြ၏။ အချို့ကား လူနှင့် တိရစ္ဆာန်များ၏ကိုယ်ပေါ်တွင်သာနေနိုင်ကြသည်။ ထိုပိုးမျိုးကို 'ပါရဆိုက်' ပိုးဟုခေါ်သည်။ ထိုစကား၏အဓိပ္ပါယ်မှာ 'သူတပါးအားကိုးသူ' ဖြစ်သည်။

ပါရဆိုက်ပိုးများသည် သူတို့မှီခိုနေသူများအား အနည်းနှင့်အများ ဒုက္ခပေးတတ်ကြသည်။ အချို့ပါရဆိုက်ပိုးမျိုးသည် လူတဦးအား ရုတ်တရက်ရောဂါတခုဖြစ်ပေါ်လာအောင်ဒုက္ခပေးသည်။ ထိုပိုးမျိုးကို ရောဂါပိုးဟုခေါ်သည်။ ထိုပိုးမျိုးသည် အလွန်အပွားမြန်၏။

ရောဂါစွဲကပ်မည့်သူ၏ကိုယ်အတွင်းသို့ အရေပြားနှင့်ဒွါရများမှဝင်တတ်ကြသည်။ ထိုသို့ဝင်ရာတွင် သင့်ရာလမ်းမှဝင်ရမှသာ လူကိုဒုက္ခပေးနိုင်သည်။ အခြားလမ်းများမှဝင်သော် လူကိုဒုက္ခမပေးနိုင်ချေ။

ကူးစက်တတ်သောရောဂါများဟူ၍ အများအပြား ရှိရာ ထင်ရှားသည့်ရောဂါများမှာ ကာလဝမ်း၊ပလိပ်၊တီဘီ၊ကာလသား၊ကုဋ္ဌနူနာ၊ကျောက်ကြီး နှင့် ငှက်ဖျားရောဂါများဖြစ်သည်။ ထိုရောဂါများသည် မိုက္ကရိုစကုပ်မှန်ပြောင်းဖြင့်ကြည့်မှမြင်ရသော သက်ရှိငယ်များကြောင့်ဖြစ်သည်။ ထိုသက်ရှိငယ်တို့တွင် ပရိုတိုဇွန်းကောင်၊ဖန်းဂပ် (မှိုမျိုး)၊ တဆေး၊ ဗက်တီးရီးယားနှင့် ဗိုင်းရပ်များပါဝင်ကြသည်။

ပရိုတိုဇွန်းကောင်များက ငှက်ဖျားရောဂါကိုဖြစ်စေသည်။ ဖန်းဂပ် (မှိုမျိုး)က ပွေးကိုဖြစ်စေ၏။ တဆေးက မက်ခရုကိုဖြစ်စေသည်။ ဗက်တီးရီးယားက ဝမ်းကိုက်၊အဆုတ်ရောင်နာ၊တီဗီ၊ပလိပ်၊ကာလဝမ်းနှင့် ဆစ်ဖလစ်ရောဂါတို့ကိုဖြစ်စေသည်။ ဗိုင်းရပ်များက ကျောက်ကြီးနှင့် ဝက်သက်ရောဂါများကိုဖြစ်စေသည်။

## ရောဂါပျံ့နှံ့တတ်ပုံ

အဆုတ်ရောင်နာ နှင့် တီဗီရောဂါတို့ကဲ့သို့ ကူး စက် တတ်သောရောဂါများကူးစက်ရာတွင် ရောဂါရှိသူချောင်းဆိုးလိုက်သောအခါ တံတွေးမှုန်ကလေးများနှင့်အတူ ရောဂါပိုးများသည် လူကောင်းများအသက်ရှူရာတွင်ပါသွားသည်။ ဝမ်းကိုက် နှင့် ကာလဝမ်းရောဂါများကဲ့သို့ ကူးစက်တတ်သောရောဂါများသည် ထိုရောဂါစွဲကပ်သူများစွန့်သည့် မစင်မှတဆင့်ပါလာသော ရောဂါပိုးများကြောင့် မသန့်သော အစာများကိုစားမိကြရာမှ ပြန့်ပွားသည်။ ဆစ်ဖလစ်ကဲ့သို့ ကူးစက်တတ်သော ကာလသားရောဂါများကူး စက် ရာတွင် ထိုရောဂါစွဲကပ်သူ၏ အရေပြားနှင့်ထိရာမှကူးစက်သည်။ ငှက်ဖျားရောဂါနှင့် ဘင်ထွက်ပလိပ်ရောဂါတို့ကဲ့သို့ကူးစက်တတ်သောရောဂါများသည် သွေးကိုစုပ်သည့် အင်းဆက်ပိုးများမှတဆင့် ကူးစက်ကြသည်။ ထိုပိုးကောင်များသည် ငှက်ဖျားရောဂါ သို့မဟုတ် ပလိပ်ရောဂါဖြစ်နေသူများထံမှ ရောဂါကူးစက်စေနိုင်သည့်ပစ္စည်းများကိုယူသွားကာ လူကောင်းများကိုကိုက်ခြင်းဖြင့် ရောဂါကူးစက်စေသည်။

## လေမှကူးစက်ခြင်း

လူတဦး ချေဆတ် ရာ တွင် မြောက်မြားစွာသောတံတွေးသို့မဟုတ် နှာရည်မှုန် များ သည် လွင့်ထွက်သွား ကြသည်။ အမှုန်ကြီးကြီး အချို့သည် မြေကြီးသို့ရောက် သွား ကြရာမှ ခြောက် သွား သော အခါ ထို အထဲတွင်ပါ ဝင် သည့် ပိုး များ သည် လေထဲသို့ဖုံအဖြစ်လွင့်ပါသွားကြသည်။ သေးငယ်သည့်အမှုန်များသည် လေထဲ၌ ဆေးလိပ်မီးခိုးများလွင့်သကဲ့သို့ လွင့်နေနိုင်ကြပေသည်။

မြေကြီးပေါ် သို့ကျသွားသောအမှုန်များမှ ရောဂါပိုးများသည် အနီးအနားရှိလူများသို့ ကူးစက်သွားနိုင်ပေသည်။ လေထဲ၌လွင့်လျက်ရှိသောအမှုန်များသည် အခြားလူများအသက်ရှူရာတွင် ပါသွားနိုင်ပေသည်။ လူများသည့် မီးရထား ဘူတာရုံ၊ ရုပ်ရှင်ရုံ၊ မော်တော် ဘတ်စကား စသည်တို့တွင် ထိုရောဂါပိုးမှုန်မျိုး အများအပြားရှိတတ်သည်။

ရောဂါရှိသူတဦးချေဆတ်ရာမှပါသွားသော ရောဂါပိုးကလေးများသည် လေထဲ၌ဖုံမှုန်များ နှင့် အတူ အတော် ဝေးဝေးပင် ပါသွားနိုင်သည်။ ရောဂါပိုးများသည် ရောဂါကူးစက်နိုင်လောက်အောင်များပြားသည်အထိ လူကောင်းတဦး၏ကိုယ်အတွင်းသို့ရောက်သွားလျှင် သက်ဆိုင်ရာရောဂါသည် ကူးစက်သွားနိုင်ပေသည်။

အိပ်ရာခင်းကိုခါရာ၌၎င်း၊ ကြမ်းပြင်ကိုတံမြက်စည်းလှဲရာ၌၎င်း၊ အိတ်အတွင်းမှလက်ကိုင်ပုဝါကိုထုတ်ရာ၌၎င်း၊ ဗက်တီးရီးယားအမြောက်အမြား လွင့်ထွက်သွားနိုင်ပေသည်။ ထိုပိုးများပါသောဖုံမှုန်များသည် လေနှင့်ခရီးဝေးသို့ပါသွားနိုင်သည်။ ထို့နောက်မှ လူတို့၏ကိုယ်ခန္ဓာအတွင်းသို့ရောက်ကာ ရောဂါကိုကူးစက်စေနိုင်ပေသည်။

အချို့ရောဂါပိုး များ သည် ဖုံမှုန်များအတွင်း၌ တာရှည်အသက်ရှင်နေနိုင်ကြ၏။ အချို့ကား လူ၏ကိုယ်ခန္ဓာမှထွက်သည်နှင့်တပြိုင်နက်လောက်တွင် ပျက်စီးတတ်ကြသည်။ အလင်း ရောင်၊ အထူးသဖြင့် နေ၏ အလင်း ရောင် သည် အသက်ပြင်းသည့်ရောဂါပိုးများကိုပင် သတ်ပစ်နိုင်စွမ်းသည်။ ထို့ကြောင့် အိမ်အပရှိဖုံများကိုရှူမိခြင်းသည် အိမ်အတွင်းရှိဖုံများကိုရှူမိခြင်းထက်ဘေးကင်းပေသည်။

## အစာမှကူးစက်ခြင်း

အူအတွင်း၌တိုးပွားနေသောသက်ရှိငယ်များသည် မစင်နှင့်ရောစွက်ထွက်လာနိုင်၏။ ထိုမှတဆင့် အခြားလူများသို့ သွယ်ဝိုက်သောနည်းများဖြင့် ကူးစက်သွားနိုင်ပေသည်။ အဖြစ်နိုင်ဆုံးနည်းမှာ ညစ်ညမ်းသည့် လက် ချောင်း များမှ တဆင့် ကူးသွားနိုင်ခြင်းဖြစ်သည်။ မစင်စွန့်အပြီးတွင် အသုံးပြုသောစက္ကူအတွင်းသို့ ဗက်တီးရီးယားများဝင်နိုင်သည်ကို သတိမမူတတ်ကြပေ။ ထို့ကြောင့် မစင်စွန့်အပြီးတွင် စက္ကူသုံးသူများ၏လက်ချောင်းများတွင် ဗက်တီးရီးယားများနှင့် ညစ်ညမ်းနေနိုင်ပေသည်။ လက်များကိုချက်ခြင်းစင်ကြယ်စွာမဆေးကြောလျှင် လက်နှင့်ထိသမျှပစ္စည်းများသည် ရောဂါပိုးများနှင့် ညစ်ညမ်းနေနိုင်ပေသည်။ ထိုနည်းဖြင့် အူအတွင်းမှပါလာသောဗက်တီးရီးယားများသည် လူ၏အဝတ်များ၊အိတ်အတွင်းရှိပစ္စည်းများနှင့် အခြားစားဖွယ်သောက်ဖွယ်များထည့်သည့်ပစ္စည်းများပေါ် သို့ ရောက်သွားနိုင်ပေသည်။ ထိုဗက်တီးရီးယားများသည် ထိုပစ္စည်းများကိုင်တွယ်သည့်လူများသို့ ကူးစက်သွားနိုင်ပေသည်။ ရောဂါပြန့်ပွားနိုင်လောက်အောင် ရောဂါပိုးများရောက်သွားလျှင် ထိုလူတွင်ရောဂါစွဲကပ်ပေတော့သည်။

အူမနှင့် စပ်လျဉ်းသောကူးစက်တတ်သည့်ရောဂါပျံ့နှံ့ခြင်းကို ယင်များကဆောင်ရွက်ပေးနိုင်သည်။ အထူးသဖြင့် မစင်ကိုရေ နှင့် သယ် သည့် စံနစ်မရှိသောနေရာ များနှင့် နွေးသောတိုင်းပြည်များတွင် အဖြစ်များသည်။ ရောဂါဖြစ်သူဝမ်းမှဆင်းသောမစင်သည် မြေကြီးပေါ် တွင်ဖြစ်စေ၊ အဖုံးမရှိသောနေရာများတွင်ဖြစ်စေ၊ ရှိနေသောအခါ ယင်ကောင်




(၁) မိုက္ကရိုစကုပ်မှန်ပြောင်းဖြင့်ကြည့်မှသာမြင်နိုင်သည့် (၂) ကူးစက်တတ်သောရောဂါပိုးများသည် (၃) အသက်ရှူသောလေ (၄) စားသောအစာ (၅) သောက်သောရေ (၆) အသားပေါက်ပြဲသောနေရာများမှ လူ၏ကိုယ်ခန္ဓာထဲသို့ဝင်ရောက်နိုင်သည်။

များသည် ထိုမစင်ပေါ်တွင်လာနားကြသည်။ ကူးစက်တတ်သောရောဂါပိုးများကို ယင်ကောင်သည် ခြေထောက်တွင် ယူသွားကာ အနီးအနားရှိအစာပေါ်တွင်နား၍ ချထားခဲ့သည်။ ထိုအစာကိုစားမိသူတို့တွင် ရောဂါစွဲကပ်သည်။

## အရေပြားချင်းထိရာမှကူးစက်ခြင်း

ကာလသားရောဂါကဲ့သို့ကူးစက်တတ်သည့်ရောဂါသည် အရေပြားချင်းထိရာမှကူးစက်နိုင်၏။ ထို့ပြင် ရောဂါပိုးများဖြင့်ညစ်ညမ်း နေသောမျက် နှာသုတ် ပုဝါ၊ ဖိနပ်၊ ကတ်ကျေး၊ ခါး၊ အဝတ် စသောပစ္စည်းများမှတဆင့် အရေပြားနှင့်ထိပြီး ရောဂါကူးစက်နိုင်ပေသေးသည်။ အနာရောဂါကင်းသောအရေပြားဖြစ်လျှင် ရောဂါပိုးများဝင်ခြင်းကို ကာကွယ်နိုင်သော်လည်း၊ခြစ်ရာရှရာ သို့မဟုတ်အရေပြားတွင်အနာတခုခုရှိလျှင် ရောဂါပိုးများသည် ထိုနေရာမျိုးသို့ရောက်သွားကာ ရောဂါကိုပြန့်ပွားစေနိုင်သည်။ ခြေထောက်၌ဖြစ်သောပွေးသည် ရောဂါပိုးများနှင့် ညစ်ညမ်းလျက်ရှိသောကြမ်းပြင်မှကူးစက်နိုင်လေသည်။

## ပိုးကောင်များမှကူးစက်ခြင်း

ခြင်၊သန်း၊ကြမ်းပိုးနှင့် အလှေးကဲ့သို့သောပိုးကောင်များသည် ရောဂါပိုးများကို လူ၏တစ်ရှူး (အသားမျှင်) များအတွင်းသို့ ကိုက်၍ထိုးသွင်းနိုင်ကြသည်။ ထိုနည်းဖြင့် လူကောင်းများထံသို့ ရောဂါပိုး များ ရောက် စေကာ ရောဂါများကိုပြန့်ပွားစေသည်။ ပိုးကောင်များတွင်ပါလာသောရောဂါပိုးများသည် ထိုပိုးကောင်များမကိုက်မိအောင်ဂရုစိုက်သူများသို့ မပြန့်ပွားနိုင်ပေ။ ကျန်းမာသန်စွမ်းနေသူသည် ရောဂါရှိသူနှင့်ထိမိသော်လည်း ရောဂါကူးစက်ခြင်းမရှိချေ။ ထိုသို့မကူးစက်နိုင်ခြင်းသည် အတွင်းဖက်ရှိတစ်ရှူးများတွင်သာ ရောဂါပိုးများရှိနိုင်ခြင်းကြောင့်ဖြစ်သည်။

ဝက်သက်နှင့် ကြက်ညှာကဲ့သို့ သော ကူး စက် တတ် သည့် ရောဂါများသည် ယခုအထိသိရသမျှ လူတွင် သာ ဖြစ်တတ်သည်။ ရောဂါပိုးများကူးစက်ရာတွင် လူတဦးမှတဦးသို့ကူးစက်သည်။ အချို့ရောဂါများမှာမူ လူနှင့်တိရစ္ဆာန်များတွင်ဖြစ်တတ်သဖြင့် ပြန့်ပွားခြင်းသည် တပြန်စီဖြစ်နိုင်သည်။ ရောဂါ အနည်း ငယ် မျှ တွင် သာ လူ သည် အရေးကြီးသည့် အိမ်ရှင်အဖြစ်တည်ရှိပေသည်။ အများတွင်မူ တဆင့်ခံမျှသာဖြစ်သည်။ တျူဗာကယ်ဗက်ဆီလပ်ရောဂါပိုးကြောင့်ဖြစ်သည့် တီဗီရောဂါသည် လူ၌သာဖြစ်တတ်သောရောဂါဖြစ်သည်။ ဝက်၊ ကြက်တူရွေး နှင့် မျောက် များ သို့ လူမှ မတော်တဆကူး စက် သွား နိုင် ပေ သည်။ သူတို့တွင် ထိုရောဂါ

သည် မတည်မြဲချေ။ ခွေးရူးရောဂါ၊ဒေါင်သန်းနာတို့သည် တိရစ္ဆာန်များတွင်ဖြစ်တတ်သောရောဂါဖြစ်သည်။ ထိုရောဂါများသည် တိရစ္ဆာန်တို့နှင့်တိုက်ရိုက် သို့မဟုတ် သွယ်ဝိုက်သည့်နည်းများဖြင့်ထိခိုက်ခြင်းဖြင့် လူများသို့ကူးစက်နိုင်ပေသည်။ တိရစ္ဆာန်များမှရသောနို့များ၊အမွေးများ၊သားရေများမှတဆင့်ကူးစက်ခြင်းသည် အဖြစ်များသည်။ တိုက်ဖတ်ဖျားကဲ့သို့ ကူးစက်တတ်သောရောဂါသည် လူတွင်ကျရောက်ပြီးလျှင် လူတဦးမှတဦးသို့ သန်းများဖြင့်ပြန့်ပွားသည်။ ဘင်ထွက်ပလိပ်ရောဂါသည် ပဌမတွင် ကြွက်ကဲ့သို့ ကိုက်ဖြတ်သတ္တဝါများ၌ကျရောက်ပြီး အလှေးများမှတဆင့် လူများသို့ပြန့်ပွားသွားသည်။

## ကူးစက်တတ်သောရောဂါကာကွယ်နိုင်ပုံ

ကူးစက်တတ်သောရောဂါများကို ကာကွယ်ရာတွင် အထိရောက်ဆုံးနည်းမှာ ရောဂါပြန့်ပွားစေသောအကြောင်းရင်းတို့ကို နှိမ်နင်းပေးခြင်းဖြစ်သည်။ ထိုကဲ့သို့လုပ်ရာတွင် ရောဂါတမျိုးနှင့်တမျိုးတွင် တူမည်မဟုတ်ပေ။ ကူးစက်တတ်သည့်ရောဂါစွဲကပ်သူများကို အများအားဖြင့် ခွဲခြား၍ထားတတ်ကြသော်လည်း ထိုနည်းကိုလူကြိုက်မများလှချေ။

လေမှတဆင့်ကူးစက်ခြင်းကို လူများအား ချေဆတ်ရာနှင့် ချောင်းဆိုးရာတွင် လက်ကိုင်ပုဝါကိုအသုံးပြု၍ကာကွယ်စေနိုင်သည်။ လူနာများအားကြည့်ရှုရာတွင် မျက်နှာဖုံးများတပ်၍ကြည့်ရှုခြင်းသည် ရောဂါပြန့်ပွားခြင်းကို အတော်အတန်ကာကွယ်နိုင်၏။ ယခုအခါ လေထဲတွင်ပိုးနှိမ်ဆေးဖျန်း၍ ရောဂါပိုးများကို သတ်ပစ်ရန်စမ်းသပ်နေကြသည်။ လေကောင်းလေသန့်ဝင်ထွက်စေခြင်းသည် ရောဂါပိုးနည်းပါးသွားအောင်ပြုလုပ်ရာ၌ အတော်ပင်ထိရောက်ပေသည်။ လေမှတဆင့်ရောဂါကူးစက်ခြင်းကိုတားဆီးရန်မှာ ယခုခေတ်ကျန်းမာရေးတွင် အခက်ခဲဆုံးပြဿနာတရပ်ဖြစ်နေပေသည်။

အစာမှတဆင့်ရောဂါကူးစက်ခြင်းကို အခြားနည်းတို့ဖြင့် ကူးစက်ခြင်းထက် ပို၍ထိရောက်စွာတားဆီးနိုင်ပေသည်။ သန့်စင်သည့်ရေကိုပေးနိုင်ခြင်းနှင့် မိလ္လာပြွန်သွယ်ခြင်းစံနစ်များသည် ကာလဝမ်းရောဂါကိုကာကွယ်နိုင်ပေသည်။ မြင်းနွားဆဲ့သောယာဉ်များကို မော်တော်ယာဉ်များဖြင့်အစားထိုးနိုင်ခြင်းသည်လည်း ယင်ကောင်များကိုလျော့ပါးစေသဖြင့် အူမနှင့်စပ်လျဉ်းသည့်ရောဂါများကိုကာကွယ်ရာရောက်ပေသည်။ နို့ကိုကျိုချက်ပြီးမှသောက်ခြင်းသည်လည်း ကူးစက်တတ်သောရောဂါမဖြစ်ပွားအောင် တားဆီးနိုင်ပေသည်။ လူတို့နေထိုင်မှုသန့်ပြန့်စေရန်မှာလည်း အရေးကြီးပေသည်။ စားသောက်ကုန်ရောင်းသူများသည် စင်ကြယ်သန့်ပြန့်မှုကို အထူးဂရုစိုက်ရပေမည်။

တိုက်ရိုက်ဖြစ်စေ၊သွယ်ဝိုက်သောနည်းဖြင့်ဖြစ်စေ၊ အရေပြားချင်းထိ၍ကူးစက်သောရောဂါများကို ကာကွယ်ရာတွင် အရေပြားများကိုဖုံးကွယ်ပေးခြင်း၊ အထိအခိုက်နည်းပါးအောင်စီမံပေးခြင်းတို့ဖြင့် ကာကွယ်နိုင်ပေသည်။

ပိုးကောင်များဖြင့်ရောဂါကူးစက်ခြင်းကို ကာကွယ်ရာတွင် ပိုးကောင်များကိုဖျက်ဆီးပစ်ခြင်း သို့မဟုတ် မတိုးပွားနိုင်အောင် မွေးဖွားရာ၌ဖျက်ဆီးပစ်ခြင်း၊ ရောဂါစွဲကပ်နေသူများကို ပိုးကောင်များမကိုက်နိုင်အောင်စီမံထားခြင်းတို့ဖြင့် ကာကွယ်နိုင်ပေသည်။(ဗက်တီးရီးယား၊ရောဂါဗိဇမျိုး—ရှု။ ကျန်းမာရေး — လည်းရှု)။

**ကူးပါး, ဂျေးအက်(မ)** (ခရစ် ၁၇၈၉–၁၈၅၁)။ ။အမေရိကန် ဇာတ် အိမ် ဇာတ်ကွက်ဖြင့် ရက်အင်ဒီးယန်းလူမျိုး (တိုင်းရင်းသားလူနီ) တို့ကို လူသိများစေသော ဝတ္ထုကို စတင်ရေးသားသူကား ဂျိမ်း ဖင်နီမိုး ကူးပါးပင်ဖြစ်၏။ အမေရိကန်ပြည်ထောင်စု၌သာမက ဥရောပတိုက်တိုင်အောင် ကျော်ကြားသော ပဌမဆုံးအမေရိကန်ဝတ္ထုရေးဆရာကြီးဖြစ်ပေသည်။ သူ၏ရေးသားမှုကြောင့်ပင် ရက်အင်ဒီးယန်းလူမျိုးများအကြောင်းကို ကမ္ဘာကသိရလေသည်။ ကူးပါးသည် အမေရိကန်ပြည်ထောင်စု၊ နယူးဂျာစီပြည်နယ်၊ ဗာလင်တန်မြို့၌ ၁၇၈၉ ခုနှစ်တွင်ဖွားမြင်သည်။ တနှစ်သားအရွယ်တွင် မိဖများသည် အော့ဆီးဂိုးအိုင်ကမ်းခြေသို့ ပြောင်းရွှေ့ကာ ရွာသစ်တည်၍ သူတို့၏မျိုးရိုးအမည်ဖြင့် ကူးပါးစတောင်း (ဝါ) ကူးပါးမြို့ဟု မှည့်ခေါ်ကြလေသည်။ ဤသို့မြေရိုင်းတောပိုင်းဒေသကို ခုတ်ထွင်နေထိုင်ကြခြင်းသည်ပင် ဂျိမ်းကူးပါးကလေးအား ရက်အင်ဒီးယန်းများနှင့် အတွေ့အကြုံများစေရန် ဖန်တီးပေးသကဲ့သို့ဖြစ်လေသည်။ ထိုကြောင့် သူ၏ဝတ္ထုများတွင် အထူးသဖြင့် ရက်အင်ဒီးယန်းများအကြောင်း နိုင်နင်းစွာရေးသားနိုင်၍ သူ၏ဝတ္ထုများသည် ကမ္ဘာကျော်ခဲ့ခြင်းဖြစ်၏။ သူ၏ဝတ္ထုများကို ဘာသာအမျိုးမျိုးသို့ပြန်ဆိုပြီးဖြစ်လေသည်။

၁၈၀၃ ခုနှစ်တွင်ကူးပါးသည် ယေးကောလိပ်ကျောင်း၌ ပညာသင်ကြား၏။ သို့ရာတွင် ကျောင်း၌ ၃ နှစ်မျှနေပြီးနောက် ပညာမထူးချွန်သဖြင့် ကျောင်းမှထုတ်ပယ်ခြင်းခံရသည်။ ၁၈၀၆ ခုနှစ်တွင်ကုန်သဘော်၌ဝင်ရောက်လုပ်ကိုင်၍ ၁၈၀၈ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုရေတပ်မတော်၌ ဒုတိယဗိုလ်အဖြစ်အမှုထမ်းသည်။ ထိုသို့ရေတပ်၌အမှုထမ်းရာမှရရှိသောရေကြောင်းဗဟုသုတများသည် သူ့အား 'ပိုင်းလော့' နှင့် 'ရက်ရိုဗာ' ဝတ္ထုများ၌ အထောက်အပံ့ရစေခဲ့သည်။ ၁၈၁၁ ခုနှစ်တွင်အိမ်ထောင်ပြုပြီးနောက် ရေတပ်မှနုတ်ထွက်ပြီးလျှင် ကူးပါးစတောင်းသို့ပြန်၍လယ်ယာလုပ်ကိုင်လေသည်။

ကူးပါးအား စာပေလောကသို့ဝင်ရောက်ရန်လှုံ့ဆော်သူတို့ကား အင်္ဂလိပ်စာရေးဆရာတို့၏ဝတ္ထုများပင်ဖြစ်၏။ တနေ့တွင် ဝတ္ထုတပုဒ်ကိုဖတ်နေရာမှစိတ်ကူးပေါက်၍ 'ဒီဝတ္ထုများလောက်တော့ငါလဲရေးနိုင်တာပေါ့' ဟု သူ့ဇနီးသည်အားကြွားလိုက်ပြီးလျှင် 'ဘေးဆီးရန်ကာ' ဝတ္ထုတပုဒ်ကိုမဖြစ် ဖြစ်အောင်ရေးလိုက်လေသည်။ ထိုဝတ္ထုကား သူကိုယ်တိုင်မသိဘဲ စိတ်မှန်းနှင့်ရေးသောအင်္ဂလိပ်လူ့ကုံထံလောကအကြောင်း ဖြစ်ရာ၊ စာ အရေး အသား ကောင်း သလောက်ဝတ္ထုမှာမကောင်းသဖြင့် နောင်ရေးသောဝတ္ထုများတွင် သူကိုယ်တိုင်သိရှိကျွမ်းကျင်သည့် အမေရိ ကန် နိုင်ငံ အကြောင်းကို နောက်ခံထား၍ရေးလေသည်။

၁၈၂၁ ခုနှစ်တွင်ရေးသားသော အမေရိကန်လွတ်လပ်ရေးစစ်ပွဲကို အခြေခံ သည့် 'သူလျှို' ဝတ္ထုထွက် လာသောအခါလူကြိုက်များ၍ နာမည်ကျော်ကြားလာသည်။ ထိုနောက် 'လက်သာစတော့ကင်းပုံပြင်များ' ဟူသောအမည်နှင့် ပုံတိုပတ်စများ ရေး လေ သည်။ 'လက် သာစတော့ ကင်း' ဆိုသည်မှာ ထိုပုံပြင်များ၏ဇာတ်လိုက်ကိုပြောင်၍ခေါ်သောအမည်ဖြစ်၏။ ထိုပုံပြင်ကို ကူးပါး၏အကောင်းဆုံးလက်ရာဟု စာပေလောကမှပုဂ္ဂိုလ်များက အကဲဖြတ်ကြသည်။ ကူးပါး ၏ ဝတ္ထု များ ကား သူအလွန်ကျွမ်းကျင်သောတောတောင် ဒေသ နှင့် ပင်လယ်ခရီး တို့ အကြောင်း အခြေခံရေးသားသည်ဖြစ်ရာ 'နောက်ဆုံးမိုဟီးကန်း'၊ 'ရှေ့ဆောင်လမ်းပြ'၊ 'လမ်းစထွင်သူ'၊ 'ပရေရီလွင်ပြင်'၊ 'ရေကြောင်းဗိုလ်နှစ်ဦး' ဝတ္ထုများမှာ အထူးပင်ကျော်ကြားခဲ့လေသည်။

**ကူးပါး, ဒဗျူ** (ခရစ် ၁၇၃၁-၁၈၀၀)။ ။ဝီလျံကူးပါးသည် အင်္ဂလိပ်ကဗျာစာဆိုတဦးဖြစ်၍၊ ၁၇၃၁ ခု နိုဝင်ဘာ လ ၂၆ ရက်နေ့တွင် ဟားဖို့ရှိုင်ယာနယ်၌ဖွားမြင်၏။ ဖခင်မှာ ဂျွန်ကူးပါးခေါ် အင်္ဂလိပ်ဘုန်းကြီးတပါးဖြစ်သည်။ပင်ကိုယ်စိတ်နေစိတ်ထားအားဖြင့် ရှက်ကြောက်အားငယ်တတ်သောကူးပါးသည် ၆ နှစ်သားအရွယ်လူမမယ်ဘဝကပင် မိတဆိုးကလေးဖြစ်ခဲ့လေသည်။

အသက် ၁၀ နှစ်အရွယ်တွင် ကူးပါးသည် ဝက်စမင်စတာ စာသင်ကျောင်းသို့သွားရောက်၍ ပညာသင်ကြား၏။ သူ၏ရှက် ကြောက် တတ် သော စိတ် နေစိတ် ထားကိုသိရှိကြသည့် ကျောင်း နေဖက် သူငယ် ချင်း များ သည် ကူးပါးကိုနောက်ပြောင်ကျီစယ်ခြင်း၊ နိုင်လိုမင်းထက်ပြုခြင်းတို့ကို အကြင်နာကင်းမဲ့စွာပြုလုပ်ကြသည်။ သို့ရာတွင် နေသားကျလာသောအခါ ကူးပါးသည်ပျော်ရွှင်လာပြီးလျှင် ၎င်းကျောင်းတွင်ပင် ၈ နှစ်တိတိကြာမြင့်ခဲ့လေသည်။

ကူးပါးသည်အသက်မွေးဝမ်းကျောင်းပြုရန်အလို့ငှါ ဥပဒေပညာကို လေ့လာဆည်းပူးခဲ့သဖြင့် နောင်အခါတွင်ဝတ်လုံတော်ရတဦးဖြစ်လာသည်။ သို့ရာတွင် ထိုအလုပ်မှာအရှက်အကြောက်ကြီး၍ လူရှေ့သူရှေ့တွင်စကားမပြောဝံ့သော ကူးပါးကဲ့သို့လူစားမျိုးနှင့်အလျှင်းပင်မသင့်တော်ချေ။ ၎င်းအလုပ်ကိုရွေးချယ်မိခြင်းမှာ ကူးပါး၏အမှားကြီး ပင် ဖြစ် လေသည်။ အထက်လွှတ်တော် တွင် စာ ရေး တော် ကြီး ရာထူးပေါ် ပေါက်စဉ်ကလည်း ကူးပါးသည်ထိုရာထူး အတွက် စာမေးပွဲဝင်ရမည်ကို အလိုလိုနေယင်းပင်ထိတ်လန့်ကြောက်ရွံ့နေခဲ့သဖြင့် အဆိုပါရာထူးကိုမရရှိခဲ့ချေ။



အမေရိကန်ဝတ္ထုရေးဆရာကြီး ဂျိမ်း ဖင်နီမိုး ကူးပါး

ကူးပါးသည် ဝမ်းနည်းပူပန်တတ်၍ တည်ငြိမ်ခြင်းမရှိ၊ တုန်လှုပ်ချောက်ချားလျက် သည်းခြေပျက်မတတ်ဖြစ်နေစဉ်တွင်၊ သူ၏ကြေကွဲဖွယ်အချစ်ဇာတ်လမ်းတခုက သူ၏အခြေအနေကိုပိုမို၍ဆိုးရွားစေရန် ဖန်တီးခဲ့သည်။ သူသည်နှမဝမ်းကွဲတော်သူတဦးနှင့် လူငယ်တို့ဘာဝမေတ္တာသက်ဝင်ချစ်ခင်ခဲ့၏။ သို့ရာတွင် မိန်းမပျို၏ဖခင်က သဘောမတူသဖြင့် လက်မထပ်နိုင်ကြချေ။ ကူးပါးသည်ချစ်သူနှင့်ကွေကွင်းရသဖြင့် စိတ်အညစ်ကြီးညစ်ပြီးလျှင် မိမိကိုယ်ကိုအဆုံးစီရင်ရန်ကြံစည်အားထုတ်ခဲ့ဘူး၏။ ထိုကြောင့်သူ့ကို စိတ္တဇဆေးရုံတခုတွင်နှစ်ပေါင်းများစွာအပ်နှံထားခဲ့ကြရလေသည်။

စိတ္တဇရောဂါမှသက်သာ၍ ဆေးရုံမှဆင်းရသောအခါ၊စိတ်အေးလက်အေးနေထိုင်လိုသဖြင့် တောရွာဒေသသို့ ပြောင်းရွှေ့နေထိုင်လေသည်။ ထိုဒေသတွင်ကူးပါးသည် သူ့အား

ခင်မင်ရှာကြသော မိတ်ဟောင်းဆွေဟောင်းများ၏ ကြင်နာယုယခြင်းကိုခံရ၏။ အထူးသဖြင့် သူ့မိတ်ဆွေတဦး၏ဇနီးဖြစ်သော မစ္စက်အန်းဝင်းခေါ် အမျိုးသမီးကြီးသည် ကူးပါးအား သားအရင်းနှင့်မခြားပြုစုစောင့်ရှောက်ခဲ့ပေသည်။

ကူးပါးသည် မစ္စက်အန်းဝင်းပြောဆိုသောစကားများကို သားငယ်သည်မိခင်၏စကားကိုနားထောင်ဘိသကဲ့သို့ မြေဝယ်မကျလိုက်နာခဲ့၏။ မစ္စက်အန်းဝင်း၏တိုက်တွန်းချက်များကြောင့်ပင်လျှင် ကူးပါးသည်ကဗျာလင်္ကာများကိုရေးဖြစ်ခဲ့လေသည်။ ကူးပါးရေးသမျှသောကဗျာလင်္ကာတို့မှာ အများအားဖြင့် မိတ်ဆွေသူငယ်ချင်းများ၏တိုက်တွန်းတောင်းပန်ချက်ကြောင့်ရေးသောကဗျာလင်္ကာတို့သာဖြစ်သည်။ 'ဂျွန်ဂီလပင်' နှင့် 'ဆောင်ရွက်ဖွယ်ရာ' ကဗျာတို့မှာလည်း လေဒီအော်စတင်အမည်ရှိ ကူးပါး၏အမျိုးသမီးမိတ်ဆွေတဦးကတိုက်တွန်းသဖြင့်ထွက်ပေါ်လာပေသည်။

ကူးပါးသည် သစ်ပင်၊ တောတောင်၊ ရေမြေအစရှိသော ဩကာသလောကသဘာဝအလှတွင် စိတ်ကြည်နူးရကား၊ တောရွာဒေသ၌နေစဉ် အားလပ်သည့်အချိန်တို့၌လယ်ကွင်းပြင်များကိုဖြတ်၍ လမ်းလျှောက်ခြင်း၊ ဥယျာဉ်ပန်းမာလ်စိုက်ပျိုးခြင်း၊ယုန်ကလေးများကိုအလှမွေးမြူခြင်းတို့ဖြင့် အချိန်ကုန်လွန်ခဲ့လေသည်။



အင်္ဂလိပ်ကဗျာဆရာကြီး ဝီလျံကူးပါး

ဤသို့အားဖြင့်ကူးပါးသည် ကဗျာလင်္ကာများစပ်ဆိုလိုက်၊ ယုန်ငယ်ကလေးများကိုယုယလိုက်နှင့် စိတ်ပျော်ပိုက်သလိုနေထိုင်နိုင်ခဲ့သော်လည်း၊ ကူးပါး၏အတွင်းသန္တာန်၌ကားနုပျိုစဉ်ကတွေ့ကြုံခဲ့ရသည့်အဆွေးဇာတ်ကလေးသည် အမြဲမပြတ်ကိန်းအောင်းလျက်ရှိခဲ့၏။

ဤအပူမီးတော်ခံကလေးကိုအကြောင်းပြု၍ တနေ့နေ့တွင် စိတ္တဇရောဂါပြန်လည်ပေါ်ပေါက်လာမည်ကို ကူးပါးသည်အထူးစိုးရိမ်မိ၏။ 'ဥပါဒါန်ကြောင့်ဥပဒ်ရောက်' ဆိုသောစကားအတိုင်း ၁၇၇၃ ခုနှစ်တွင် ယခင်ကစိတ္တဇရောဂါ ပြန်လည်ပေါ်ပေါက်လာလေသည်။ ၁၇၉၄ ခုနှစ်တွင် နိုင်ငံတော်အစိုးရသည် ကူးပါးအားငြိမ်းရိက္ခာများထောက်ပံ့ခဲ့၏။ ၁၇၉၆ ခုနှစ်တွင်ကူးပါးသည် အရှေ့ဒီယာရမ်နယ်သို့ သွားရောက်နေထိုင်ခဲ့လေသည်။ ထိုနှစ်တွင်ပင် ကူးပါး၏အရင်းနှီးဆုံးမိတ်ဆွေဖြစ်သူ မစ္စက်အန်းဝင်း ကွယ်လွန်သဖြင့် ကူးပါးသည်စိတ်နှလုံးအထူးထိခိုက်ပြီးလျှင် ၁၈၀၀ ပြည့်နှစ် ဧပြီလ ၂၅ ရက်နေ့တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

**ကူးဗီယေ, ဂျီ** (ခရစ် ၁၇၆၉–၁၈၃၂) ။၁၉ ရာစုနှစ်အစလောက်တွင် လူသိအများဆုံးဖြစ်ခဲ့သော အနာတမီပညာရှင် ဗျော့ရှ်ကူးဗီယေသည် ၁၇၆၉ ခုဩဂုတ်လ ၂၃ ရက်နေ့တွင် ပြင်သစ်နိုင်ငံ မွန်ဗေးလျားမြို့၌ ဖွားမြင်လေသည်။ ငယ်စဉ်ကပင် သဘာဝသမိုင်းပညာရပ်၌စိတ်ဝင်စားခဲ့၏။

ကူးဗီယေသည် စတတ်ဂတ်တက္ကသိုလ်တွင် ၄ နှစ်မျှပညာသင်ကြားသည်။ ထိုသို့ပညာသင်ကြားနေစဉ်က စာကြည့်တိုက်ရှိသိပ္ပံပညာရပ်ဆိုင်ရာစာအုပ်အားလုံးလိုလိုဖတ်ရှုခဲ့၍ တိရစ္ဆာန်ခွဲစိတ်နည်းကိုလည်း တတ်မြောက်ခဲ့သည်ဟုဆိုလေသည်။ ထိုနောက် ၁၉ နှစ်သားအရွယ်တွင် နော်မန်ဒီကမ်းခြေအနီးရှိ ကန်းမြို့၌ လူကုံထံတဦး၏သားကို စာပေပို့ချရသော နည်းပြဆရာအလုပ်ကိုရရှိခဲ့လေသည်။ ကန်းမြို့၌နေထိုင်ခဲ့စဉ်က ပင်လယ်ကမ်းခြေသို့မကြာခဏသွားရောက်ခွင့်ရသည့်အလျောက်၊ငါး၊ဗဟ္ဒန်၊ကနန်းအစရှိသော ရေသတ္တဝါတို့ကို ခွဲစိတ်လေ့လာနိုင်ခဲ့လေသည်။ ထို့ပြင် ကျောက်ဖြစ်ရုပ်ကြွင်းအမြောက်အမြားကိုလည်း တွေ့ရှိလေ့လာခဲ့ရ၏။ ထိုနောက် သူကဲ့သို့ပင် သဘာဝသမိုင်းပညာရပ်တွင်စိတ်ဝင်စားသူ အက်ဗေးတက် ဆီယေးဆိုသူနှင့် တွေ့ရှိခဲ့ရာ၊ တက်ဆီယေးကသူ့အား ပါရစ်မြို့သို့သွားရောက်၍ အလုပ်အကိုင်ကောင်းများရှာဖွေရန်တိုက်တွန်းခဲ့လေသည်။

ပါရစ်မြို့တွင်ကူးဗီယေသည် တဖြည်းဖြည်းနာမည်ကျော်ကြားလာခဲ့၏။ ၁၇၉၅ ခုနှစ်တွင် ပါရစ်မြို့ရှိ ဇာဒင်းဒါပလန်ခေါ် ရုက္ခဗေဒနှင့်ပါဏဗေဒဆိုင်ရာဥယျာဉ်ကြီးတွင် ယှဉ်ပြအနာတမီပညာရပ်ဆိုင်ရာလက်ထောက်ပါမောက္ခအဖြစ်ဆောင်ရွက်ခဲ့ပြီးနောက်၊ ၁၈၀၂ ခုနှစ်တွင် ပါမောက္ခအဖြစ်ဆောင်ရွက်ခဲ့လေသည်။

၁၇၉၅ ခုနှစ်တွင် ပြင်သစ်နိုင်ငံတော်ပညာမြှင့်တင်ရေးအဖွဲ့သို့ ရွေးကောက်တင်မြှောက်ခြင်းခံရ၏။ ၁၈၀၂ ခုနှစ်တွင်

နပိုလီယန်ကသူ့အား ပညာဝန်အဖြစ်ခန့်ထားခဲ့၏။ ၁၈၀၃ ခုနှစ်တွင် သိပ္ပံပညာတံခွန် အသင်း ၏ အမြဲတမ်းအတွင်းရေးမှူး အဖြစ် ရွေးချယ်ခြင်းခံရလေသည်။

ထိုပြင် နိုင်ငံတော်ပညာရေးပြန်လည်ပြုပြင်မှုအတွက် ၁၈၀၈ ခုနှစ်တွင်ဆောင်ရွက်ခဲ့ရပြီးနောက်၊နပိုလီယန်အထွတ်အထိပ်မှလျှောမကျမီကလေးတွင် နိုင်ငံတော်ကောင်စီဝင်လူကြီးအဖြစ်ဆောင်ရွက်ခဲ့ရသေးသည်။

ထိုနောက်တွင် ပါရစ်တက္ကသိုလ်အဓိပတိအဖြစ်ရွေးချယ်ခြင်းခံရပြန်သည်။ ၁၈ ဆက်မြောက်လူဝီဘုရင်လက်ထက်တွင် ဂုဏ်ထူးဘွဲ့ထူးများဖြင့် ချီးမြှင့်ခြင်းခံရပြီးလျှင် အစိုးရအဖွဲ့ဝန်ကြီးအဖြစ်ဆောင်ရွက်ခဲ့ရသော်လည်း၊ ဒသမချားဘုရင်လက်ထက်တွင်ကား လွှတ်လပ်စွာရေးသားဝေဖန်ခွင့်အတွက် ထောက်ခံပြောဆိုခဲ့သောကြောင့် ချားဘုရင်၏ အငြိုအငြင်ကိုခံခဲ့ရလေသည်။ သို့သော်လူဝီ ဖိလစ်ဘုရင်လက်ထက်တွင် ဗဲရွန်ဘွဲ့ပေးအပ်ချီးမြှင့်ခြင်းခံခဲ့ရသည့်ပြင် ၁၈၃၂ ခုနှစ်တွင် ပြည်ထဲရေးဝန်ကြီးအဖြစ်ရွေးချယ်ခန့်ထားခြင်းခံခဲ့ရလေသည်။ ထိုသို့ပြည်ထဲရေးဝန်ကြီးအဖြစ် နိုင်ငံတော်အကျိုးကိုထမ်းဆောင်လျက်ရှိစဉ် ၁၈၃၂ ခုမေလ ၁၃ ရက်နေ့တွင် လေဖြတ်သဖြင့် ရုတ်တရက်ကွယ်လွန်လေသည်။



ပြင်သစ်သဘာဝသိပ္ပံပညာရှိကူးဗီယေ

၁၈၀၀ ပြည့်နှစ်မှ ၁၈၀၅ ခုနှစ်အတွင်းထုတ်ဝေခဲ့သော သူ၏ယှဉ်ပြ အနာတမီပညာဆိုင်ရာကျမ်း ၅ တွဲမှာ ထိုစဉ်က ထင်ရှားကျော်ကြားလေသည်။ ယှဉ်ပြအနာတမီပညာစံနစ်တကျလေ့လာရေးအတွက် ပဌမဦးစွာပေါ်ထွက်လာသော စာအုပ်များဖြစ်ပေသည်။

၁၈၁၇ ခုနှစ်တွင် 'တိရစ္ဆာန်လောက' ခေါ် စာအုပ်ကို ရေးသားပုံနှိပ်ထုတ်ဝေခဲ့၏။ ယင်းစာအုပ်မှာ သူ၏အကောင်းဆုံးသောလက်ရာဖြစ်ပေသည်။ ထိုစာအုပ်တွင် သူလေ့လာစူးစမ်းရှာဖွေတွေ့ရှိခဲ့သောနည်းများအရ၊ တိရစ္ဆာန်တို့ကို အမျိုးအစားခွဲခြားဖော်ပြခဲ့လေသည်။ နှစ်ပေါင်းအတော်ကြာပင် ပါဏဗေဒပညာရပ်အတွက် များစွာအထောက်အထားပြုခဲ့ရသောစာအုပ်ဖြစ်သည်ဟုဆိုလေသည်။

ထိုပြင် ၁၈၁၂ ခုနှစ်တွင်ရေးသားထုတ်ဝေခဲ့သော ခြေလေးချောင်းသတ္တဝါများဆိုင်ရာ ကျောက်ဖြစ်ရုပ်ကြွင်းများစာအုပ်ကြောင့်၊ ရှေးခေတ်ကျောရိုးရှိသတ္တဝါများဆိုင်ရာ ရုပ်ကြွင်းကျောက်ပညာပေါ်ထွန်းခဲ့ရသည်ဟုဆို၏။

**ကူးသန်းပင်**။ ။ကူးသန်းပင်သည် အထက်နှင့်အောက်မြန်မာပြည် မိုးပါးသောဒေသများတွင်ပေါက်သော တောသစ်ပင်ကြီးတမျိုးဖြစ်သည်။ အမြင့်ပေ ၈၀ မှ ၉၀ အထိ၊ ပင်စည်လုံးပတ် ၇ ပေမှ ၈ ပေအထိရှိ၍ အများအားဖြင့် ဖြောင့်မတ်ရှည်လျားသည်။

သစ်သား၏အရောင်မှာမွဲပြာ၍ အသားပွကာ ကြမ်းသယောင်ရှိသည်။ အသားသေအောင်ပြုလုပ်ရန်လွယ်ကူသော်လည်း ကြာရှည် ခံနိုင်ရည်မရှိချေ။

ကူးသန်းသားသည် မီးခြစ်လုပ်ရန်သင့်လျော်သောအသားမျိုးဖြစ်၍၊ ကလေးကစားစရာ၊ ဝက်မှင်ဘီးခုံ၊ လှည်းထမ်းပိုးနှင့် ထင်းရှူးသေတ္တာကဲ့သို့ အပေါစားသေတ္တာများပြုလုပ်ရန်အသုံးဝင်သည်။ အခေါက်ကိုမူ အဖျားဖြတ်ဆေးများဖော်စပ်ရာ၌အသုံးချသည်။

**ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန**။ ။ဒုတိယကမ္ဘာစစ်အပြီးတွင် မြန်မာနိုင်ငံကိုစစ်အုပ်ချုပ်ရေးမှ မြို့ပြအုပ်ချုပ်ရေးသို့ပြောင်းလွှဲပေးသော ၁၉၄၆ ခုနှစ်၌ ကူးသန်းရောင်းဝယ်ရေး နှင့် ထောက်ပံ့ရေးဝန်ကြီးဌာနဟူသောအမည်ဖြင့် အစိုးရဌာနတခုကိုဖွင့်လှစ်ခဲ့လေသည်။

ထိုဌာနဝန်ကြီးလက်အောက်ရှိ ထောက်ပံ့ရေးနှင့်ကုန်စည်ဖြန့်ဖြူးရေးဌာနကကြပ်မ၍ တိုင်းပြည်တွင်မသုံးလျှင်မဖြစ်သော ဝတ်ကုန်စားကုန်များကို နိုင်ငံခြားမှမှာယူပြီးလျှင်၊ လူထုသို့ စားသုံးသူများသမဝါယမအသင်းများမှတဆင့် ဖြန့်ချီရောင်းချခဲ့သည်။ ထိုဌာန၏အသစ်ပြုပြင်ဖွဲ့စည်းထားသော ပြည်သူ့ရိက္ခာထောက်ပံ့ရေးနှင့် ကုန်စည်ဖြန့်ဖြူးရေးဌာနကို ၁၉၅၂ ခုမတ်လမှစ၍ သမဝါယမဝန်ကြီးဌာန၏လက်အောက်သို့ပြောင်းလွှဲလိုက်လေသည်။ ထို့ကြောင့် ယခုအခါကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၏လုပ်ငန်းမှာ ကူးသန်းရောင်းဝယ်ရေးနှင့်သာ လုံးဝအကျုံးဝင်လေသည်။

မြန်မာနိုင်ငံကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၏ရည်ရွယ်ချက်များမှာ စစ်ဘေးစစ်ဒဏ်ကြောင့်ပျက်စီးချွတ်ယွင်း

နေသော နိုင်ငံတော်၏စီးပွားရေးကို ပြန်လည်ဆယ်တင်ခြင်း၊ ပြည်ထောင်စုအမျိုးသားများအား ကမ္ဘာ့စီးပွားရေးလုပ်ငန်းများတွင် ပါဝင်နိုင်စေရန် အားပေးကူညီခြင်း၊ နိုင်ငံတော်၏စီးပွားရေးအခြေခိုင်မြဲစေခြင်း စသည်တို့ဖြစ်သည်။ ထိုအဓိကရည်ရွယ်ချက်များသို့ရှေးရှုလျက် ဆောင်ရွက်နေလေသည်။

ဤဝန်ကြီးဌာန၏လက်အောက်တွင် အရေးကြီးသော ဌာနခွဲကြီး ၄ ခုရှိသည်။ ယင်းတို့မှာ

(၁) ထုတ်ကုန် သွင်းကုန်လိုင်စင်များထုတ်ပေးရေးဘုတ်အဖွဲ့

(၂) နိုင်ငံတော်ကောက်ပဲသီးနှံရောင်းဝယ်ရေးဘုတ်အဖွဲ့

(၃) နိုင်ငံတော်ဓါတ်သတ္တုရောင်းဝယ်ရေးဘုတ်အဖွဲ့

(၄) ပိုလျှံသောစစ်ပစ္စည်းများ ဝယ်ယူထုခွဲရောင်းချရေးဘုတ်အဖွဲ့ တို့ဖြစ်ကြသည်။

တိုင်းပြည်တွင် ငွေဝင်လမ်းကောင်းမွန်စေရန်အလို့ငှါ နိုင်ငံတော်အစိုးရသည် ပြည်ထောင်စုအမျိုးသား နိုင်ငံခြားသားဟူ၍ ခွဲခြားခြင်းမရှိဘဲ၊ထုတ်ကုန်လိုင်စင်များကို ရက်ရောစွာထုတ်ပေးခဲ့သည်။ ထုတ်ကုန်နှင့်သွင်းကုန်လိုင်စင်များကို လိုင်စင်များထုတ်ပေးရေးဘုတ်အဖွဲ့မှ ထုတ်ပေးသည်။ ထိုအဖွဲ့ကိုကုန်သည်အသင်း ၈ သင်းမှကိုယ်စားလှယ်များ ပါဝင်သော သွင်းကုန်လိုင်စင်အကြံပေးအဖွဲ့ကကူညီသည်။

နိုင်ငံခြားမှဝယ်ယူရသောသွင်းကုန်များကို ၃ မျိုးခွဲခြားထားသည်။ ယင်းတို့မှာ

(၁) မသုံးမဖြစ်သောပစ္စည်းများ

(၂) အနည်းငယ်အသုံးဝင်သော်လည်း အသင့်အတင့်ဇိမ်ခံပစ္စည်းစာရင်းဝင်ပစ္စည်းများ

(၃) ဇိမ်ခံပစ္စည်းများ ဖြစ်ကြသည်။

ပဌမနှင့်ဒုတိယအမျိုးအစားတွင် ပါဝင်သောကုန်ပစ္စည်းများအတွက် အသုံးအင်အားနှင့်ချင့်ချိန်၍ လိုင်စင်များကို ထုတ်ပေးလေ့ရှိသည်။ တတိယအမျိုးအစားဖြစ်သော ဇိမ်ခံပစ္စည်းမျိုးအတွက်မူ ပုဂ္ဂိုလ်တဦးချင်း၊ ကုမ္ပဏီတခုချင်းအနေဖြင့် စဉ်းစားဆုံးဖြတ်ပြီးမှထုတ်ပေးလေသည်။

နိုင်ငံတော်အစိုးရသည် ပြည်တွင်းကုန်ပစ္စည်းများဖူလုံမှုနှင့် ကမ္ဘာ့ကုန်စည်ပြန့်ပွားရေးအင်အားကို ထောက်ဆလျက် ကုန်ဈေးနှုန်းများကျဆင်းစေခြင်းငှါ၊ ၁၉၅၀ ပြည့်နှစ်မှစ၍ တိုင်းပြည်အတွက်တကယ်အသုံးလိုသောပစ္စည်းများကို အိုဂျီ၊အယ်ခေါ် လိုင်စင်မဲ့ကုန်များအဖြစ် တင်သွင်းခွင့်ပြုလိုက်သည်။ ဤခွင့်ပြုချက်အရ လိုင်စင်မဲ့တင်သွင်းနိုင်သောကုန်စည်များကို ခေါင်းစဉ် ၁၇ ခုဖြင့် သတ်မှတ်ထားသည်။ ယင်းတို့အထဲတွင် ခြည်ထည်အထည်အစားများ ဆေးဝါးနှင့် နို့ဆီနို့မှုန့်များ၊စက်မှုလက်မှုကရိယာတန်ဆာပလာများ၊အဆောက်အအုံပစ္စည်းများ၊စာပုံနှိပ်စက် နှင့် စာအုပ်စာတမ်းရိုက်နှိပ်ရန်စက္ကူများ၊ လယ်ထွန်စက်နှင့် လယ်ယာစိုက်ပျိုးမှုကရိယာများပါဝင်သည်။

၁၉၄၉ ခုနှစ်မှ ၁၉၅၁ ခုနှစ်အတွင်း၊မြန်မာနိုင်ငံတော်၏နှစ်စဉ်ထုတ်ကုန်နှင့်သွင်းကုန်များ၏တန်ဖိုးအသီးအသီးမှာ အောက်ပါအတိုင်းဖြစ်သည်။

| နှစ် | ထုတ်ကုန်တန်ဖိုးငွေ | သွင်းကုန်တန်ဖိုးငွေ |
|---|---|---|
| ၁၉၄၉ | ၄၈,၁၁,၇၁,၂၇၅ | ၃၅,၉၀,၆၁,၇၄၅ |
| ၁၉၅၀ | ၇၅,၀၀,၇၀,၀၀၀ | ၅၄,၅၀,၈၈,၀၀၀ |
| ၁၉၅၁ | ၉၈,၂၅,၅၂,၀၀၀ | ၆၆,၄၄,၀၃,၉၁၂ |

## ကောက်ပဲသီးနှံရောင်းဝယ်ရေးဘုတ်အဖွဲ့

ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့၏ အဓိကရည်ရွယ်ချက်များမှာ —

(၁) နိုင်ငံတော်အတွင်း ဆန်စပါးပိုမိုစိုက်ပျိုးစေရန် နှင့် ပိုလျှံသောဆန်များကို အစိုးရကဈေးနှုန်းကန့်သတ်၍ဝယ်ယူခြင်းဖြင့် ပြည်တွင်းဆန်စပါးဈေး ခိုင်မြဲစေရန်

(၂) နိုင်ငံတော်အတွင်းအစိုးရကြပ်မမှုဖြင့် စံနစ်ကျသော ဆန်ကြိတ်လုပ်ငန်းကြီးပွားဖွံ့ဖြိုးလာစေရန်

(၃) ပြည်တွင်းစားသုံးရန်အတွက် လုံလောက်အောင်ချန်လုပ်ပြီးမှ ပိုလျှံသမျှကို ကမ္ဘာ့ဈေးများတွင်ရောင်းချစေရန်ဖြစ်သည်။ (ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့ — ရှု)။

## နိုင်ငံတော်ဓါတ်သတ္တုရောင်းဝယ်ရေးဘုတ်အဖွဲ့

ဤအဖွဲ့၏ရည်ရွယ်ချက်မှာ နိုင်ငံတော်အတွင်း ဓါတ်သတ္တုတွင်းလုပ်ငန်းများဖွံ့ဖြိုးလာစေရန်နှင့် ဓါတ်သတ္တုများကို စံနစ်တကျထုတ်ဆောင်ရောင်းချပေးရန်ဖြစ်သည်။

ဤအဖွဲ့၏လောလောဆယ်ဆောင်ရွက်ချက်မှာ ပြည်တွင်းထွက်ဓါတ်သတ္တုများကို ဈေးကောင်းရနိုင်စေခြင်းနှင့် ကမ္ဘာ့အရပ်ရပ်တွင်ကုန်ဈေးနှုန်းများကို စံနည်းနာ၍ထုတ်ဆောင်ရောင်းချပေးခြင်းဖြစ်သည်။ ဤသို့ရောင်းချပေးရသဖြင့် ၂½ ထုခိုင်နှုန်းကော်မရှင် ရရှိသည်။ ဤအဖွဲ့ကြီးသို့ နိုင်ငံတော်အစိုးရက ငွေပေါင်း ၁၅ သိန်းမျှလုပ်ငန်းစတင်လုပ်ကိုင်နိုင်ရန် ချေးငှါးခဲ့ရာ၊ ယခုအခါ ၁၃ သိန်းခွဲမျှပြန်လည်ပေးဆပ်ပြီးဖြစ်လေသည်။

## ပိုလျှံသောစစ်ပစ္စည်းများဝယ်ယူထုခွဲရောင်းချရေးဘုတ်အဖွဲ့

၁၉၄၇ ခုနှစ်တွင် ဗြိတိသျှစစ်တပ်မှပိုလျှံသောပစ္စည်းများကို ထုခွဲရောင်းချခဲ့ရာ၊အဆိုပါပစ္စည်းများကိုဝယ်ယူရောင်းချ

နိုင်ရန်အတွက် နိုင်ငံတော်အစိုးရသည် ပိုလျှံသောစစ်ပစ္စည်းများ ဝယ်ယူထုခွဲရောင်းချရေး ဘုတ်အဖွဲ့ကို ဖွဲ့စည်းစေခဲ့၍ ငွေသိန်း ၃၀ မျှထုတ်ချေးခဲ့လေသည်။

ဤအဖွဲ့မှ နိုင်ငံတော်အစိုးရထံတွင် ချေးငှါးခဲ့သောငွေများကို အရစ်ကျ ပေးဆပ်ခဲ့ရာ၊ ထိုငွေများ အားလုံး ကျေလည်ပြီးသည့်နောက် ၁၉၅၃ ခုနှစ်လတွင် အထွေထွေရောင်းချရရှိပြီးသောငွေပေါင်းမှာ ၂၇ သိန်းခွဲဖြစ်လေသည်။

အထက်တွင်ဖေါ်ပြခဲ့သောလုပ်ငန်းများအပြင် ဤဝန်ကြီးဌာနသည် နိုင်ငံအတွင်းရှိကုမ္ပဏီများကိုမှတ်ပုံတင်စေခြင်း၊ ကုမ္ပဏီများ နှင့် ဆိုင်သော ဥပဒေများ ကိုပြဋ္ဌာန်းပေးခြင်း၊ အစိုးရဌာနအသီး အသီးမှ လိုအပ်သောပစ္စည်းများကို နိုင်ငံခြားမှ မှာယူပေးခြင်း၊ မှတ်ပုံတင်စာရင်းကိုင်စာမေးပွဲများ ကျင်းပပေးခြင်း၊ နိုင်ငံခြားတွင် ကူးသန်းရောင်းဝယ်ရေးမင်းကြီးများခန့်ထားခြင်းတို့ကိုလည်း ဆောင်ရွက်လျက်ရှိသည်။

မြန်မာနိုင်ငံသည် ကုလသမဂ္ဂအဖွဲ့မှဦးစီးသော အိုင်၊တီ၊အို ခေါ် ကမ္ဘာ့ကူးသန်းရောင်းဝယ်ရေး အဖွဲ့နှင့် အီကာဖေးခေါ် အာရှနှင့်အရှေ့ဖျား ဆိုင်ရာစီးပွားရေးကော်မရှင်တို့တွင် အဖွဲ့ဝင်နိုင်ငံတဦး အနေဖြင့် ပါဝင်ပြီးဖြစ်ရာ၊ ထိုအဖွဲ့အစည်းများ၏ လုပ်ငန်းဆောင်တာများ၌လည်း ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနသည် ပါဝင်ဆောင်ရွက်ရ၏။

**ကေဆွန်။** ။မြစ်ကူး ချောင်းကူး တန်တားကြီးများကို ဆောက်လုပ်ရာ၌ တန်တားအုတ်တိုင်ကျောက်တိုင်ကြီးများကို ရေပြင်အောက်မြေကြီးထဲသို့အတော်နက်အောင်စိုက်၍ ဆောက်လုပ်ထားရလေသည်။ ယင်းသို့ ရေပြင်အောက်ရှိ မြေကြီးထဲတွင် အုတ်မြစ်ချ၍ တိုင်စိုက်ထူရန်မှာ လွယ်ကူသော အလုပ်မဟုတ်ပေ။ အလုပ်သမားများသည် ရေအောက်မြေကြီးထဲတွင်အုတ်မြစ်ချ၍တိုင်စိုက် ထူနိုင်အောင် ကေဆွန်ခေါ် ရေလုံသေတ္တာများ သို့မဟုတ် ပြွန်ခေါင်းများ ထိုးချပြီးသော် ထိုပြွန်ခေါင်းထဲတွင်ဝင်ရောက်လုပ်ကိုင်မှဖြစ်နိုင်ပေသည်။

ရှေးအခါက ရေထဲ၌တိုင်စိုက်ထူလိုသည့်အခါတွင် သစ်သား မြေစေးတို့ဖြင့် ရေကာရိုင်ပတ်ပြုလုပ်၍ ရေထုတ်ပြီး မှတိုင်စိုက်ထူလေ့ရှိသည်။ ယခုအခါတွင် လည်း ထိုနည်းအတိုင်းလိုက်နာနေကြပေသေးသည်။ သို့သော် ရေနက်လျှင် သာမန်ရေကာရိုင်ပတ်ဖြင့် တိုင်စိုက်ထူရန်မဖြစ်နိုင်သောကြောင့် ကေဆွန်ခေါ် ပြွန်ခေါင်းများကို အသုံးပြုရလေသည်။




ရေနက် တန်တားတိုင် အုတ်မြစ်ချရာ၌သုံးသော ကေဆွန်ပြွန်ခေါင်းအတွင်းပိုင်း

ထိုသို့အသုံးပြုသောကေဆွန် များမှာ အများအားဖြင့် လေအားသုံးကေဆွန်များ ဖြစ်သည်။ အလုပ်သမားများ ဆင်း၍ အလုပ်လုပ်နေသော အောက်ဆုံး အဖျားပိုင်းသည် အောက်ပိတ်မရှိဘဲ သဲထဲ၌ထဲသို့ထိုးစိုက်စူးဝင်နိုင်ရန်အတွက် ချွန် ထက်ရ၏။ ဤသို့ဖြင့် ကေဆွန်ကို တဖြည်းဖြည်း မြေမာသို့မဟုတ် အောက်ခံကျောက်ပျဉ်ထိအောင် ထိုးစိုက်နိုင်သည်။ ကေဆွန်အတွင်း ရှိမြေများ သဲများစသည်တို့ကို တူးခြစ်ပြီးသော် ကန်ကရစ်လောင်း ထည့်ပေး ခြင်း

ဖြင့် တန်တားတိုင်ကြီးများကို အုတ်မြစ်ချစိုက်ထူနိုင်ခဲ့လေသည်။

သို့သော် ဤသို့ရေအောက်မြေထဲတွင်အလုပ်လုပ်ကိုင်ရသည်မှာ လွယ်ကူသည်မဟုတ်ပေ။ ကေဆွန်၏အောက်ဆုံးအကန့်တွင် အလုပ်သမားများမြေကြီးကိုတူးခြစ်ထုတ်ပစ်နေဆဲမှာပင် ထိုအကန့်အထက်ရှိအပိုင်းတွင် ကန်ကရစ်လောင်းထည့်ပေးရသည်။ ဤသို့ဖြင့်ကေဆွန်သည် ပို၍လေးလံလာသည့်အလျောက် မြေကြီးထဲသို့ပို၍စူးဝင်လေသည်။ ကန်ကရစ်ထုကိုဖေါက်၍ပြွန်ကြီးတခုတပ်ဆင်ထားရာ ထိုပြွန်တလျောက်တွင် အလုပ်သမားများဆင်းတက်ရန်အပြင် ပစ္စည်းကရိယာများကိုချပေးပြန်တင်ရန်နှင့် မြေများသယ်ယူရန်အတွက်လမ်းပေါက်နှစ်သွယ်ရှိလေသည်။

အလုပ်လုပ်နေသောအကန့်ထဲတွင် လေဖိအားတသမတ်တည်းရှိနေအောင်ပြုပေးခြင်းဖြင့် ရွှံ့နှင့်ရေများ အတွင်းသို့ စိမ့်မဝင်နိုင်ပေ။ အလုပ်သမားများ တက်ဆင်းနေစဉ်နှင့်၊ ပစ္စည်းကရိယာများနှင့် မြေကြီးများကို ချပေးသယ်တင်နေစဉ်အခါများတွင် လေဖိအားတသမတ်တည်းရှိနေအောင် လမ်းပေါက်များအတွင်း၌ အံဖုံးတံခါးများ အထက်အောက်တပ်ဆင်ထားသော လေဖိအားညှိခန်းများထားရှိ၏။ အလုပ်သမားတယောက်ယောက်အောက်သို့ဆင်းမည့်အခါ အောက်အံဖုံးတံခါးကိုပိတ်၍ အထက်တံခါးကိုဖွင့်ပေးသည်။ ထိုသူ လေဖိအားညှိခန်းအတွင်းသို့ရောက်လျှင် အထက်တံခါးကိုပိတ်လိုက်ပြီးသော် လေဖိအားညှိခန်းအတွင်းရှိလေဖိအားကို အောက်အလုပ်လုပ်နေရာအကန့်ရှိလေဖိအားနှင့်တူညီအောင်တိုးပေးရ၏။ ထို့နောက် အောက်တံခါးကိုဖွင့်ကာ အလုပ်သမားကို အလုပ်လုပ်နေရာအကန့်သို့ ချပေးသည်။

အလုပ်သမားတယောက်ယောက် အပေါ်သို့တက်မည့်အခါ အထက်ပါနည်းကိုပြောင်းပြန်ပြုလုပ်ပေးလေသည်။ သို့သော် အထက်သို့တက်ရာ၌ လေဖိအားညှိခန်းအတွင်းသို့ လူရောက်လျှင် လေဖိအားကိုအထူးဖြည်းညှင်းသက်သာစွာ လျှော့ပေးရ၏။ ရုတ်ခြည်းလျှော့ပေးလျှင် သွေးကြောများအတွင်းရှိသွေးထဲ၌ လေဖိအားကြောင့် ပျော်ဝင်နေသောလေသည် ပလုံစီထတတ်ပြီးသော်၊ ထိုမှတဆင့်နာကျင်ကိုက်ခဲ၍ ကြောက်စရာကောင်းသောကေဆွန်နာခေါ် ရောဂါတမျိုးဖြစ်ပေါ်စေတတ်သည်။

**ကေဗယ်, အီး၊အယ် (ခရစ် ၁၈၆၅–၁၉၁၅)။** ။ 'မျိုးချစ်စိတ်ရှိရုံနှင့်မလုံလောက်သေးဘူး' ဟူသောစကားမှာ သမိုင်းတွင်စာတင်လောက်အောင်ထင်ရှားခဲ့ပေသည်။ ဂျာမန်တို့က သစ္စာဖေါက်အဖြစ်ဖြင့် ပစ်သတ်ရန်အမိန့်ချမှတ်ခြင်းခံရသော ဗြိတိသျှ သူနာပြုဆရာမ အီဒစ်လူဝီဇာ ကေဗယ်သည် အထက်ပါစကားများကိုအသတ်ခံရအံ့ဆဲဆဲတွင် ပြောကြားခဲ့လေသည်။

သူသည်ခရစ်ယန်ဘုန်းကြီးတပါး၏ သမီးဖြစ်၍ အင်္ဂလန်ပြည်နော်ရစ်မြို့အနီးရှိ ဆွာဒက်စတန်မြို့တွင် ၁၈၆၅ ခု ဒီဇင်ဘာလ ၄ ရက်နေ့၌ဖွားမြင်လေသည်။ ၁၈၉၅ ခုနှစ်တွင် လန်ဒန်ဆေးရုံကြီး၌ အလုပ်သင်သူနာပြုဆရာမအဖြစ်စတင်လုပ်ကိုင်ခဲ့၍၊ ၁၉၀၀ ပြည့်နှစ်တွင် လန်ဒန်အင်ဖါးမရီးခေါ်ဆေးရုံတရုံတွင် ဆေးရုံအုပ်အဖြစ်ခန့်ထားခြင်းခံရသည်။

သူနာပြုဆရာမ ကေဗယ်၏ ထူးခြားချက်မှာ သူနာပြုအလုပ်ဝတ်တရားများကိုဆောင်ရွက်ရာ၌ ဝတ်တရားရှိသည့်အလျောက်သာမဟုတ်ဘဲ၊ လူနာများကို မိတ်ဆွေကဲ့သို့ တတ်နိုင်သည့်ဖက်ကကူညီဆောင်ရွက်ပေးလေသည်။ ယင်းသို့သူတပါးအားအစွမ်းကုန်ကူညီဆောင်ရွက်ပေးလိုသောစိတ် စေတနာကြောင့်ပင် နောက်ဆုံး၌အသက်စွန့်ရရှာလေသည်။

၁၉၀၇ ခုနှစ်တွင် သူနာပြုဆရာမကေဗယ်သည် ဗဲလဂျီယမ်နိုင်ငံ ဗရပ်ဇဲမြို့တော်ရှိဆေးရုံတရုံ၌ သူနာပြုဆရာမချုပ်အဖြစ်ခန့်အပ်ခြင်းခံရလေသည်။ ၁၉၁၄ ခုနှစ်တွင် ပဌမကမ္ဘာစစ်ဖြစ်ပွားသည့်အခါ ထိုဆေးရုံကို ကြက်ခြေနီအသင်းဆေးရုံအဖြစ်သို့ပြောင်းလိုက်လေသည်။

ဂျာမန်စစ်တပ်များ ဗဲလဂျီယမ်နိုင်ငံထဲသို့ဝင်ရောက်တိုက်ခိုက်သောအခါ၊ ဗရပ်ဇဲမြို့ရှိဆေးရုံတွင် ဒဏ်ရာရသူနှင့် ဖျားနာသူစစ်ပြေးဒုက္ခသည်များဖြင့် ပြည့်နှက်နေတော့သည်။ ဆရာမကြီးသည် ထိုအိုးအိမ်မဲ့စစ်ပြေးဒုက္ခသည်များကိုကြည့်ရှုစောင့်ရှောက်ရန် ဆေးရုံများမှသူနာပြုဆရာမများစုပေါင်း၍ သူနာပြုအဖွဲ့များဖွဲ့စည်းရာတွင် အားတက်သရောကူညီဆောင်ရွက်ခဲ့လေသည်။ များမကြာမီ ဂျာမန်စစ်တပ်များသည် ဗဲလဂျီယမ်နိုင်ငံကို လုံးဝသိမ်းပိုက်မိသလောက်ရှိလေရာ၊ ဗရပ်ဇဲမြို့တော်မှာလည်း ဂျာမန်တို့လက်သို့ကျရောက်ခဲ့လေသည်။ ရန်သူလက်အောက်၌ပင် သူနာပြုဆရာမကြီးကေဗယ်သည် မိမိ၏ဆေးရုံကို ဆက်လက်အုပ်ချုပ်ဖွင့်လှစ်ပြီးလျှင် လူနာများကို လူမျိုးမရွေးကြင်နာစွာပြုစုကုသပေးခဲ့သည်။

ကေဗယ်သည် စိတ်ရင်းစေတနာကောင်းသူတယောက်ဖြစ်သဖြင့် ဂျာမန်တို့၏အပြစ်ဒဏ်သင့်မည့်လုပ်ငန်းတခုတွင် ကူညီဆောင်ရွက်မိခဲ့သည်။ ထိုအချိန်တွင် ဗဲလဂျီယမ်နိုင်ငံ၌ ပုန်းလျှိုးကွယ်လျှိုးနှင့် တလည်လည်ဖြစ်နေရှာသော မဟာမိတ်များဖက်မှ စစ်သားမြောက်မြားစွာရှိနေခဲ့သည်။ ထိုတပ်ပျက်စစ်သားများသည် ဂျာမန်တို့လက်သို့မကျရောက်မီ ဟော်လန်နယ်စပ်သို့ တနည်းနည်းနှင့်ရောက်အောင်ကြံစည်ကြိုးစားလျက်ရှိကြ၏။

သူတပါး၏အကျိုးကိုသည်ပိုးရွက်ဆောင်ရမည်ဆိုလျှင် သေဘေးကိုပင်ရင်ဆိုင်ဝံ့သူကေဗယ်သည် ရက်ကျိနယ်ဒါက

ရှိုင်မင်းသားကဲ့သို့သောဂုဏ်သရေရှိ ဗဲလဂျီယမ်လူကြီးလူကောင်းများနှင့်ကြံရာပါပြု၍ မဟာမိတ်စစ်သားတို့အား ဝိုင်းဝန်းကူညီခဲ့လေသည်။ ကေဗယ်တို့လူစုသည် မဟာမိတ်စစ်သားတို့ကို ဟော်လန်နယ်ခြားရောက်အောင် စရိတ်ကြေးငွေထောက်ပံ့၍ လမ်းပြများဖြင့်ပို့ပေးခဲ့သည်။ အင်္ဂလိပ်၊ ပြင်သစ်နှင့် ဗဲလဂျီယမ်စစ်သားပေါင်း ၂၀၀ ခန့်မျှ ဂျာမန်တို့လက်မှလွတ်မြောက်သွားခဲ့၏။ ထိုအကြောင်းကို ဂျာမန်တို့သိရှိသွားသဖြင့်၊ ၁၉၁၅ ခုဩဂုတ်လ ၅ ရက်နေ့တွင်သူနာပြုဆရာမကေဗယ်ကို ဖမ်းဆီး၍ အကျဉ်းချထားလေသည်။ ဂျာမန်အာဏာပိုင်တို့သည် ကေဗယ်အား သစ္စာဖေါက်တော်လှန်ပုန်ကန်မှုဖြင့် လျှို့ဝှက်စွာစစ်ဆေးခဲ့၏။ ကေဗယ်ကလည်း ဟုတ်တိုင်းမှန်ရာကိုမထောင့်မကွယ်ဘဲ ဖြောင့်ချက်ပေးကာအစစ်ခံလေသည်။ ထိုအခါ ဂျာမန်စစ်တရားရုံးမှ ကေဗယ်အား သေနတ်ဖြင့်ပစ်သတ်ရန်အမိန့်ချလိုက်လေသည်။

ဂျာမန်တို့ချုပ်နှောင်ဖမ်းဆီးထားချိန်အတွင်း သူနာပြုဆရာမကေဗယ်အား ဗရပ်ဇဲမြို့ရှိ ဗြိတိသျှလူမျိုးခရစ်ယန်သင်းအုပ်တပါးတည်းနှင့်သာ တွေ့ခွင့်ပြုထားလေသည်။ အခြားမည်သူတဦးတယောက်ကိုမျှ သူနှင့်တွေ့ခွင့်မပေးခဲ့ချေ။ ဗရပ်ဇဲမြို့ရှိ အမေရိကန်သံအမတ်က ကေဗယ်၏အသက်ကို ချမ်းသာပေးရန်ဝင်ရောက်စွက်ဖက်ပြောဆိုပါသော်လည်း အရာမရောက်ဘဲ၊ ရက်သတ္တ ၁၀ ပတ်မျှအကျဉ်းချထားပြီးနောက်၊ ဂျာမန်တို့သည် ကေဗယ်အား ၁၉၁၅ ခုအောက်တိုဘာလ ၁၂ ရက်နေ့တွင် သေနတ်ဖြင့်ပစ်သတ်စီရင်လိုက်ကြသည်။ ကေဗယ်သည် ဂျာမန်လူသတ်သမားတို့လက်တွင် အာဇာနည်ပီပီ တည်ငြိမ်ရဲရင့်စွာအသက်စွန့်သွားလေသည်။


ဗြိတိသျှသူနာပြုဆရာမကြီး အီဒစ် လူဝီဇာ ကေဗယ်၏ရုပ်တု

အီဒစ် ကေဗယ်ကိုပေးသောအပြစ်ဒဏ်မှာ စစ်ဥပဒေအရဆိုလျှင် တရားနည်းလမ်းကျသည်ဟု ဆိုရမည်ဖြစ်သော်လည်း၊ နိုင်ငံရေးရာအရကား ဂျာမန်တို့၏အမြင်တိုခြင်းဖြစ်သည်ဟု ဆိုနိုင်ပေသည်။ ယင်းသို့အာဇာနည်သူနာပြုဆရာမကြီးကိုပစ်သတ်လိုက်သည့်အတွက် တကမ္ဘာလုံးက ဂျာမန်တို့အား ကရုဏာကင်းမဲ့လာသည့် အပြင်၊ မဟာမိတ်တို့ဖက်ကလည်း ဝါဒဖြန့်ချီရေးအတွက် အချက်ကောင်းတခု ရရှိသွားလေသည်။

အာဇာနည်အမျိုးသမီးကြီး ကေဗယ်ကို အမှတ်တရဖြစ်စေရန် ဗြိတိန်နှင့်အမေရိကန်ပြည်ထောင်စုနိုင်ငံတို့တွင် အထိမ်းအမှတ်များပြုလုပ်ထားကြသည်။ လန်ဒန်မြို့စိန်မာတင်ရပ်ကွက်၊ နေရှင်နယ်ပုံတူပန်းချီပြတိုက်နှင့်မျက်နှာချင်းဆိုင်တွင် အမြင့်ပေ ၄၀ ရှိသော အထိမ်းအမှတ်ကျောက်တိုင်ကြီးကို နှမ်းဖတ်ကျောက်ဖြင့်ဆောက်လုပ်ထား၍၊ တိုင်ထိပ်တွင် သူနာပြုအဝတ်အစားနှင့် အီဒစ်ကေဗယ်၏ရုပ်တုကို တပ်ဆင်ထားသည်။ ဗြိတိန်နိုင်ငံတွင် အီဒစ်ကေဗယ်အတွက် အထိမ်းအမှတ်အဖြစ် သူနာပြုဆရာမဂေဟာများတည်ထောင်ဖွင့်လှစ်ထားသည်။ ကနေဒါနိုင်ငံ၌မူ ရေခဲကြီးတောင်တန်းမှ တောင်ထိပ်တခုကို သူနာပြုဆရာမကေဗယ်အမည်ဖြင့် မှည့်ခေါ်ထားလေသည်။

၁၉၁၉ ခုမေလ ၁၅ ရက်နေ့တွင် ကေဗယ်၏ရုပ်အလောင်းကို အင်္ဂလန်ပြည်သို့ယူဆောင်ခဲ့၍ နော်ရစ်ကသီဒရယ်ဘုရားရှိခိုးကျောင်းဝင်းအတွင်း၌ မြှုပ်နှံထားလေသည်။

**ကေးတိုး, အမ်ပီ** (ဘီစီ ၂၃၄–၁၄၉)။ ။ရှေးခေတ်ရောမနိုင်ငံတွင် ထင်ရှားကျော်ကြားခဲ့သော နိုင်ငံပြုသုခမိန်များတွင် မားကပ်ပေါ်ရှပ်ကေးတိုးသည်လည်း တဦးအပါအဝင်ဖြစ်ခဲ့သည်။ ဘီစီ ၂၃၄ ခုနှစ်တွင် တပ်စကျူလမ်မြို့၌မွေးဖွား၍ ဖခင်မှာ တောင်သူလယ်သမားတဦးဖြစ်သည်။

ကေးတိုးသည် ၁၇ နှစ်သားအရွယ်ကပင် စစ်မှုထမ်းခဲ့၍ ဘီစီ ၂၁၈–၂၀၁ ခုနှစ်များအတွင်းဖြစ်ပွားသော ဒုတိယပျူးနစ်စစ်ပွဲ၌ပါဝင်တိုက်ခိုက်ခဲ့သည်။ ဘီစီ ၁၉၈ ခုနှစ်တွင် ပရီတာလူကြီးအဖြစ်ခန့်အပ်ခြင်းခံရပြီးနောက် ဆာဒင်းနီးယားတွင် ဘုရင်ခံအဖြစ်ထမ်းရွက်ခဲ့သည်။ ကေးတိုးသည်အုပ်ချုပ်ရေးတွင်တော်တည့်မှန်ကန်သောကြောင့် ထင်ရှားလာ

သည်။ ဘီစီ ၁၉၅ ခုနှစ်တွင် ကွန်ဆာလူကြီးအဖြစ်ခန့်အပ်ခြင်းခံရသည်။

ကေးတိုးခေါင်းဆောင်၍အုပ်ချုပ်သောခေတ်တွင် ရောမနိုင်ငံသားတို့သည် ပလွှားကြွားဝါနေထိုင်ခြင်း၊ ဇိမ်ခံပစ္စည်းများကိုမက်မောခြင်းစသည်ဖြင့် အပျော်အပါးတို့နှင့်သာအချိန်ကုန်လေရာ၊ကေးတိုးက ထိုအကျင့်ဆိုးများကိုအပြင်းအထန်နှိပ်ကွပ်သည်။ သူကိုယ်တိုင်ကလည်း ရိုးသားစွာခြိုးခြံနေထိုင်၍ သူ၏ကြပ်မချက်များကိုမလိုက်နာသူများအားမညှာမတာအပြစ်ပေးသည်။ အုပ်ချုပ်ရေးတွင်လည်း ဆင်းရဲချမ်းသာမရွေး မျက်နှာကြီးငယ်မလိုက်ချေ။ သူ၏လက်ထက်တွင် အရည်အခြင်းနှင့်မပြည့်စုံသောလူကြီးများကို ဆီနိတ်လွှတ်တော်မှ စိစစ်ထုတ်ပယ်ခဲ့သည်။

ကေးတိုးသည် တခါက ရောမမြို့နှင့်ပြိုင်ဖက်ဖြစ်သောကားသေ့မြို့သို့အလည်ရောက်သွားရာ၌ ကားသေ့မြို့ကြီး၏အလွန်စည်ပင်ဝပြောလှသောအဖြစ်ကို ကိုယ်တိုင်တွေ့ရှိရလျှင် တနေ့သော်ရောမမြို့ကြီးကိုလွှမ်းမိုးသွားမည်လောဟု စိုးရိမ်မိသောဟူ၏။ ထိုအခါမှစ၍ကေးတိုးသည် ဆီနိတ်လွှတ်တော်တွင် စကားပြောတိုင်း 'ကားသေ့မြို့ကြီးပျက်စီးရမည်' ဟု နိဂုံးချုပ်ကြွေးကြော်လေ့ရှိသည်။ အစတွင်သူအားပြက်ရယ်ပြုကြသော်လည်း သူကွယ်လွန်သွားပြီးနောက် တတိယပျူးနစ်စစ်ပွဲဖြစ်ပွားလေရာ ၃ နှစ်အကြာတွင် ရောမလူမျိုးတို့သည် သူ၏ဆန္ဒအတိုင်း ကားသေ့မြို့ကြီးကို ပြာချဖျက်ဆီးလိုက်ကြလေသည်။ (ကားသေ့နိုင်ငံ — ရှု)။

ကေးတိုးသည် ရောမနိုင်ငံကိုအုပ်ချုပ်ခဲ့သူများတွင် လက်ရုံးရည်နှလုံးရည်နှင့်ပြည့်စုံသောပုဂ္ဂိုလ်ကြီးတဦးဖြစ်၍၊ရောမနိုင်ငံသမိုင်းတွင် ထင်ရှားလေသည်။ လက်တင်စကားပြေ အရေးအသားတွင် ကောင်းမွန်သည်။ သူ၏လက်ရာများအနက် စိုက်ပျိုးရေးအကြောင်းစာတမ်းသာကျန်ရစ်သည်။

**ကဲ့လူမျိုး။** ။ကဲ့ သို့မဟုတ် ဆဲ့လူမျိုးသည် အလွန်ရှေးကျသောလူမျိုးကြီးတမျိုးဖြစ်၍၊ ခရစ်တော်မပေါ်မီ နှစ်ပေါင်းများစွာကပင် ဥရောပတိုက်အလယ်ပိုင်းနှင့် အနောက်ပိုင်းတွင် နေထိုင်ခဲ့ကြသည်။ ထိုစဉ်က ရောမအင်ပိုင်ယာမှာ မပေါက်ဖွားသေးပေ။ ကဲ့လူမျိုးသည် လွန်စွာစစ်တိုက်ဝါသနာပါ၍ ဥရောပတိုက်၌ တန်ခိုးထွားကြီးစိုးခဲ့ကြသည်။ သူတို့၏ဩဇာအာဏာသည် ဗြိတိန်နှင့်ဂရိနိုင်ငံများသို့တိုင်အောင်ပြန့်ပွားခဲ့သည်။

ရောမအင်ပိုင်ယာကြီးထွန်းကားစတွင် သူတို့သည် အဲ့လပတောင်တန်း၏မြောက်ဖက်ဒေသများ၌၎င်း၊ ဒန်းညူးမြစ်ဝှမ်းအထက်ပိုင်း၌၎င်း၊ အခြေစိုက်နေကြလေပြီ။ ကဲ့လူမျိုးအချို့မှာ အင်္ဂလန်နှင့်အိုင်ယာလန်ကျွန်းများသို့ ကူးပြောင်းနေထိုင်ကြ၏။

ယင်းသို့ တခါက တန်ခိုးထွားခဲ့သောကဲ့လူမျိုးသည် ယခုအခါ၌ သီးခြား လွတ်လပ်သော လူမျိုး တမျိုး အဖြစ် ဖြင့်မတည်ရှိတော့ချေ။ သူတို့သည် သူတို့ကိုတိုက်ခိုက်အောင်မြင်သောလူမျိုးတို့နှင့် ရောနှော၍ တိမ်ကောပျောက်ကွယ်သွားကြလေပြီ။ သူတို့၏အဆက်အနွယ်များကို ယခုအခါ ပြင်သစ်နိုင်ငံဗရစ်တန်နီနယ်၊ဗြိတိန်နိုင်ငံ ဝေလပြည်၊စကော့တလန်ပြည်နှင့် အိုင်ယာလန်ပြည်တို့၌ အနည်းငယ်စီတွေ့ရလေတော့သည်။

ယခုအခါ ကဲ့ လူမျိုးတိမ်ကောပပျောက်သွားသော်လည်း သူတို့၏ဘာသာစကားနှင့် စာပေတို့မှာ ကျန်ရစ်ခဲ့သည်။ ယခုခေတ်ဥရောပဘာသာစကားများတွင် ကဲ့စကားများပါသည်ကိုတွေ့ရ၏။ ဥရောပတိုက်ရှိ တက္ကသိုလ်များ၌လည်း ကဲ့ဘာသာနှင့်စာပေကို သင်ကြားပေးလျက်ရှိလေသည်။

**ကယ်စီအိုလေးရီးယားပင်။** ။ကယ်စီအိုလေးရီးယားအပင်မျိုးစုမှာ 'စကရော့ဖျူလေးရီးအေးစီး' မျိုးရင်းတွင်ပါဝင်သည်။ ကယ်စီအိုလေးရီးယားဟူသောစကားမှာ လက်တင်ဘာသာ 'ကယ်စီအိုလပ်' ဟူသော စကားမှ ဆင်းသက်လာခြင်းဖြစ်၍ ဖိနပ်အငယ်ကလေး ဟု အဓိပ္ပါယ်ရသည်။



ကဲ့လူမျိုးတို့၏ ကြေးညို 'လွှား'

ထိုအပင်များကို အင်္ဂလိပ်လူမျိုးတို့က ဥယျာဉ်များတွင်စိုက်ပျိုးကြသည်။ အပွင့်မှာ အရောင်ကွဲအမျိုးမျိုးရှိသည်။ အထူးသဖြင့် အလှအပအဖြစ်ဥယျာဉ်ထဲတွင် ပွင့်ဝါမျိုးကို သာစိုက်ကြသည်။ အခြားပွင့်နီနှင့် ပွင့်ညိုမျိုးများရှိသော်လည်း မစိုက်ကြချေ။ အပင်ရိုင်းအဖြစ်သာ မြင်တွေ့ကြရသည်။ သို့ရာတွင် ပွင့်နီနှင့်ပွင့်ညိုများလည်း အလွန်လှပကြ၏။ အချို့အပွင့်ကျားမျိုးလည်းရှိသေးသည်။ အဝါသို့မဟုတ်အနီရောင်ပေါ်တွင် အပြောက်ကလေးများရှိ၍အလွန်လှပသည်။ ထိုအပင်များသည် မက္ကဆီကိုနိုင်ငံ၊တောင်အမေရိကတိုက်နှင့် နယူးဇီလန်နိုင်ငံတို့တွင် အလေ့ကျပေါက်သည်ကိုတွေ့ရ၏။ ထိုဒေသများတွင် ကယ်စီအိုလေးရီးယားမျိုးစိတ်ပေါင်း ၁၀၀ ခန့်ရှိသည်။



ကယ်ဆယ်ရေးတပ်ကို စတင်ဖွဲ့စည်းသူ ဝီလျံဗုသ

ထိုအပင်၏အပွင့်မှာ အသွေးအရောင်ကောင်း၍ ဘောလုံးသဏ္ဍာန် လှပစွာရှိသောကြောင့် လူတို့၏စိတ်ကို နှစ်သက်စေရန်ဆွဲဆောင်နိုင်ပေသည်။

**ကယ်ဆယ်ရေးတပ်။** ။ဝီလျံဗုသအမည်ရှိပုဂ္ဂိုလ်ကြီး ပြုစုပျိုးထောင်ခဲ့သည့် လန်ဒန်အရှေ့ပိုင်း ခရစ်ယန်သာသနာပြုအဖွဲ့သည် ကယ်ဆယ်ရေးတပ်၏ရှေ့ပြေးပင်ဖြစ်သည်။ ၁၈၆၄ ခုနှစ်တွင် ဝီလျံဗုသသည် လန်ဒန်အရှေ့ပိုင်းဆင်းရဲသားရပ်ကွက်များ၌ အစည်းအဝေးများကျင်းပပြီးလျှင် ဧဝံဂေလိတရားများကို စိတ်ထက်သန်စွာ မကြာခဏဟောပြောဖြန့်ဖြူးခဲ့၏။ ဤကဲ့သို့သာသနာပြုရာတွင် ထိုတရားပွဲများကို ကန့်ကွက်နှောင့်ယှက်သူအများပေါ်ပေါက်ရကား ဝီလျံဗုသသည် တဲအိုပျက်များ၊ ကပွဲရုံများ၊ ကုန်လှောင်ရုံများ၊ သုသာန်တစပြင်ဟောင်းများ စသော ရရာနေရာတို့ကို အသုံးပြုလျက် တရားပွဲများကို သူမတူအောင်သည်းခံ၍ ကျင်းပပြုလုပ်ခဲ့သည်။ (ဗုသ, ဝီလျံ — ရှု။) ၁၈၇၈ ခုနှစ်တွင် အဆိုပါခရစ်ယန်သာသနာပြုအဖွဲ့ကို ကယ်ဆယ်ရေးတပ်ဟု အမည်ပေးဖွဲ့စည်းပြီးလျှင် စစ်တပ်သဘောကဲ့သို့ ရာထူးအဆင့်အတန်းခွဲထားသည်။

ကယ်ဆယ်ရေးတပ်၏ပဋ္ဌမဆုံးဗိုလ်ချုပ်မှာ ဝီလျံဗုသပင်ဖြစ်သည်။ တပ်သားများသည် စစ်သားများကဲ့သို့ပင် ယူနီဖေါင်းဝတ်စုံကိုဝတ်ဆင်ကြရလျက်၊ ရာထူး အဆင့်အတန်းမှာလည်း စစ်တပ်မှာကဲ့သို့ပင်ဖြစ်၏။ ထို့ပြင် ဘင်ခရာအဖွဲ့၊ အလံ စသောစစ်တပ်အဆောင်အယောင်များကိုလည်းထားရှိသည်။ ကယ်ဆယ်ရေးတပ်၏ဝါဒစည်းမျဉ်းမှာ အခြားသာသနာပြုအဖွဲ့အစည်းများ၏အခြေခံသဘောများနှင့် အညီအညွတ်ပင်ဖြစ်၏။ တပ်သားတိုင်း၏အဓိကဝတ်တရားမှာ သူတထူးအား ကယ်ဆယ်နိုင်ရန် မိမိကိုယ်တိုင်ခြိုးခြံကျင့်သုံးရခြင်းပင်ဖြစ်သည်။

အစပျိုးရာတွင် ဆူးကြား ကြီးရသောဗူးသီးကဲ့သို့ ဖိနှိပ်ချုပ်ချယ်မှုများနှင့် ကြုံတွေ့ခဲ့ရသော်လည်း၊ မွန်မြတ်သောလူမှုဝန်ထမ်းအလုပ်ကြီးဖြစ်ရကား၊ ကယ်ဆယ်ရေးတပ်အသွင်သို့ ရောက်လာသောအခါ ကြီးမားတိုးတက်မှု လျင်မြန်လာလေသည်။ ယခုအခါ ကယ်ဆယ်ရေးတပ်၏လုပ်ငန်းများသည် ကျယ်ပြန့်လာသည်နှင့်အမျှ ကယ်ဆယ်ရေးတပ်ခွဲများကို တိုင်းပြည်ပေါင်း ၉၀ ကျော်တွင် ဖွဲ့စည်းထား၍၊ လူတို့၏အကျိုးစီးပွားကို ဆောင်ရွက်လျက်ရှိကြလေပြီ။

ကယ်ဆယ်ရေးတပ်များသည် သာသနာရေးသဘောများကို အခြေခံပြု၍၊ လူမှုအဆင့်အတန်းတိုးတက်ကောင်း

ချို့တဲ့သူများကို ထောက်ပံ့ရန်အတွက် ပစ္စည်းများဖြင့်အသင့်ရှိနေသော အမျိုးသမီးကယ်ဆယ်ရေးတပ်သား



မွန်ရေးလုပ်ငန်းများကို အထူးတလည် လုပ်ကိုင်ကြလေသည်။ အခြေဆိုးအနေဆိုး သို့ဆိုက်ရောက်နေသောမိန်းကလေးများအား ကယ်ဆယ်ခြင်း၊ သူနာများအား စောင့်ရှောက်ပြုစုခြင်း၊ မရှိဆင်းရဲသောသူများအား ပညာသင်ပေးခြင်း၊ မီးဘေး ရေဘေး မြေလျှင်ဘေးသင့်သောဒုက္ခသည်များအား ကူညီစောင့်ရှောက်ခြင်း စသောအလုပ်တို့မှာ ကယ်ဆယ်ရေးတပ်များ၏ အဓိကလုပ်ငန်းများဖြစ်သည်။ သို့အားလျော်စွာ ကမ္ဘာပေါ်ရှိနိုင်ငံအသီးသီးတို့တွင် ဒုက္ခသည်စခန်းများ၊ တည်းခိုရာဌာနများ၊ အလုပ်ရုံများ၊ ကျောင်းများ၊ ဆေးရုံများ၊ ကုဋ္ဌနူနာကုဌာနများ စသည့်အဖွဲ့အစည်းများကို ကယ်ဆယ်ရေးတပ်များက ဦးစီး၍ဖွင့်လှစ်ဆောင်ရွက်နေကြလေသည်။

ကယ်ဆယ်ရေးတပ်နှင့် ယင်း၏လုပ်ငန်းများအတွက် လိုသောငွေများကို စာအုပ်စာတမ်းများ ထုတ်ဝေရောင်းချခြင်းဖြင့်၎င်း၊ အလှူငွေကောက်ခံခြင်းဖြင့်၎င်း၊ အစိုးရထောက်ပံ့ကြေးများမှ၎င်း၊ ရရှိလေသည်။

**ကယ်ဆယ်ရေးဝန်ကြီးဌာန။** ။ကယ်ဆယ်ရေးဌာနသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ၏ဌာနတခု ဖြစ်၍၊ ဝန်ကြီးတဦးက ကယ်ဆယ်ရေးဌာနနှင့် ပြန်လည်နေရာချထားရေးဌာနကိုပါ တာဝန်ပူးတွဲဆောင်ရွက်သည်။

ကယ်ဆယ်ရေးဌာန ဟူ၍တသီးတခြားပေါ်ပေါက်လာရခြင်းမှာ၊ ဒုတိယကမ္ဘာစစ်ပြီးဆုံးသည့်အခါတွင် စစ်ကြောင့် ပျက်စီးဆုံးရှုံးရသော အိုးအိမ်ထူထောင်ရေးနှင့် စစ်ဘေးဒုက္ခသည်များကိုကယ်ဆယ်ရေး၊ ပြန်လည်နေရာချထားရေးအတွက်ဖြစ်သည်။ ၁၉၄၈ ခုဇန္နဝါရီလမှ မတ်လအတွင်း ပြည်သူ့လုပ်ငန်းနှင့် ပြန်လည်ထူထောင်ရေးဝန်ကြီးဌာနကို နိုင်ငံတော်အစိုးရကဖွဲ့စည်းခဲ့သည်။ ထိုနောက်တွင် ကယ်ဆယ်ရေးတာဝန်မှာ ကြီးလေးကျယ်ပြန့်လာသဖြင့်၊ ထိုတာဝန်တစိတ်တဒေသဖြစ်သော အမျိုးသမီးနှင့်ကလေးများ စောင့်ရှောက်ရေးလုပ်ငန်းကို ဗိုလ်ချုပ်ကတော် ဒေါ်ခင်ကြည် ကြီးမှူးသော အဖွဲ့သို့လွှဲပြောင်းပေးခဲ့သည်။

၁၉၄၈ ခု ဧပြီလတွင် ပြည်တွင်းသောင်းကျန်းမှုများကြောင့် ပေါ်ပေါက်လာသောခိုကိုးရာမဲ့များကို ကယ်ဆယ်အကူအညီပေးရန် ဖဆပလ ဗဟိုကယ်ဆယ်ရေးကော်မတီတရပ်ကို တရားဌာနဝန်ကြီး ဦးဗကျော်အား ဥက္ကဋ္ဌအဖြစ်တင်မြှောက်ဖွဲ့စည်းခဲ့သည်။ ၁၉၄၉ ခု ဧပြီလတွင် ထိုအဖွဲ့ကို ပညာရေးဝန်ကြီးဦးသန်းအောင်ဦးစီး၍ပြည်ထောင်စုအစိုးရ ဗဟိုကယ်ဆယ်ရေးကော်မတီအဖြစ် ပြန်လည်ဖွဲ့စည်းသည်။ နယ် ဖဆပလ ကယ်ဆယ်ရေးအဖွဲ့များကိုလည်း ခရိုင်ဝန်များ ခေါင်းဆောင်စေ၍၊ အစိုးရခရိုင်နှင့် မြို့နယ်ကယ်ဆယ်ရေး ကော်မတီများအဖြစ် ဖွဲ့စည်းသည်။

ထိုအဖွဲ့များမှ အိုးအိမ်ထူထောင်ရန် ရန်ကုန်မြို့တွင် အိမ်ထောင် ၁၃၂၀ အတွက် ငွေ ၅၆,၆၁၅ ကျပ်သုံးစွဲခဲ့သည်။ ၁၉၅၀ ပြည့်နှစ်မေလသို့ရောက်သောအခါ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာနဟူ၍ ဌာနတခုဖွဲ့စည်းပြီးလျှင် ဦးသန်းအောင်အား ဌာနဆိုင်ရာဝန်ကြီးအဖြစ်ခန့်အပ်သည်။

ယင်းဌာနမှ သောင်းကျန်းမှုကြောင့် ပေါ်ပေါက်လာသောဒုက္ခသည်များသာမက၊ အရပ်ရပ် မီးဘေး၊ ရေဘေးနှင့် ငတ်မွတ်ခေါင်းပါးမှုဘေးတို့နှင့် ကြုံကြိုက်ရသူများအား အဝတ်၊ အစားအစာနှင့် အိုးအိမ်ထူထောင်ရန် ပစ္စည်းများကို ကူညီထောက်ပံ့သည်။

ကယ်ဆယ်ရေးဌာနမှ ကယ်ဆယ်ရေး အင်စပက်တော် ၅ဦး၊ ခေါင်းဆောင် ၂ ဦးနှင့် အဖွဲ့ဝင် ၈ ဦးတို့ပါဝင်သော နယ်လှည့်ကယ်ဆယ်ရေးအဖွဲ့ကိုလည်း ဖွဲ့စည်း၍ အရပ်ရပ်သို့လှည့်လည်စစ်ဆေးကူညီခဲ့သည်။

၁၉၅၂ ခု မတ်လမှစ၍ ဝန်ကြီးဦးဘစောက တာဝန်ယူ၍ တာဝန်များ တိုးချဲ့ဆောင်ရွက်ရသည်။ သောင်းကျန်းသူများလက်မှ တပ်မတော်ကပြန်လည်သိမ်းပိုက်ပြီးသော နယ်များတွင် လူထုပြန်လည်နေရာချထားရေးကိုပါ ဆောင်ရွက်ရ၍၊ ထိုနှစ်အတွင်း ဒုက္ခသည်ပေါင်း ၇၂,၁၂၀၊ အိမ်ထောင်ပေါင်း ၁၈,၀၆၂ ကို ပြန်လည်နေရာချထားပေးခဲ့ရသည်။

ကယ်ဆယ်ရေးဌာနသည် ပြည်နယ်များတွင်ပါ တာဝန်ယူဆောင်ရွက်ရ၍၊ ထိုနှစ်အတွင်း

ကယားပြည်နယ်၌ —

| | | |
|---|---|---|
| အိမ်ထောင် | ၄,၀၀၀၊ ငွေ | ၁၆၃,၈၄၈ ဖိုးခန့် |
| ရှမ်းပြည်နယ်၌ | ၆,၀၀၀၊ | ၃၅,၀၀၀ |
| ကချင်ပြည်နယ်၌ | ၄၀၀၊ | ၁၉,၆၀၃ |

အဝတ်အစားနှင့် အိမ်သုံးပစ္စည်းများ ဝေငှထောက်ပံ့ခဲ့သည်။ ထိုဌာနမှ ကယ်ဆယ်ထောက်ပံ့ငွေများမှာ —

| | | |
|---|---|---|
| ၁၉၄၇–၄၈ ခုနှစ်တွင် | ၂၀,၀၀,၀၀၀ ကျပ် | |
| ၁၉၄၈–၄၉ | ၂၂,၀၀,၀၀၀ | |
| ၁၉၄၉–၅၀ | ၁၈,၀၀,၀၀၀ | |
| ၁၉၅၀–၅၁ | ၂၀,၀၀,၀၀၀ | |
| ၁၉၅၁–၅၂ | ၂၂,၀၀,၀၀၀ | ဖြစ်သည်။ |

ထိုနှစ်အတွင်း ပြည်ထောင်စုအနှံ့အပြားတွင် မီးဘေးဒုက္ခသည်ပေါင်း ၃၁,၇၂၅ ဦးတို့အား ငွေ ၄,၄၅,၆၄၇ ကျပ်ဖိုးမျှ ကူညီခဲ့ရ၍၊ ရေဘေးသင့်သော ဗန်းမော်ခရိုင်၊ မကွေးခရိုင်၊ မင်းဘူးခရိုင်၊ သရက်ခရိုင်၊ ပခုက္ကူခရိုင်၊ အင်းစိန်ခရိုင်၊ မအူပင်ခရိုင်၊ ပုသိမ်ခရိုင်၊ ဟင်္သာတခရိုင်၊ ပြည်ခရိုင်၊ မြောင်းမြခရိုင်၊ မော်လိုက်ခရိုင်များသို့ကူညီရသည်။

ထိုဌာန၏အဓိကတာဝန်မှာ ဘေးအမျိုးမျိုးဖြင့် ဒုက္ခသင့်

ရောက်သူများအား ကယ်ဆယ်ရန်၊ ထောက်ပံ့ကူညီရန်နှင့် ပြန်လည်နေရာချထားရန် ၎င်း၊ စစ်အတွင်းကအိန္ဒိယနိုင်ငံသို့ စစ်ပြေးဒုက္ခသည်များအား ထုတ်ချေးငွေများကို ပြန်လည်ကောက်ခံရန်၎င်း၊ ဌာနသို့ ခန့်ခွဲပေးသောငွေများကို စံနစ်တကျ မှန်ကန်စွာသုံးစွဲထောက်ပံ့ရန်၎င်းဖြစ်သည်။

ဒုတိယကမ္ဘာစစ်အတွင်းက မြန်မာနိုင်ငံမှအိန္ဒိယနိုင်ငံသို့ ပြောင်းရွှေ့သွားခဲ့ကြသောစစ်ပြေးဒုက္ခသည်များကို မြန်မာနိုင်ငံ အစိုးရက ကြေး ငွေ များ ထုတ် ချေး ခဲ့ရာ၊ ယခု အခါ မြန်မာလူမျိုးများနှင့် မြန်မာလူမျိုးမဟုတ်သူများစုစုပေါင်း ၄,၀၀၀ ကျော်တို့ထံမှ ငွေများ ရရန် ကျန်ရှိနေသေးသည်။

၁၉၅၃ ခု စက်တင်ဘာ လ ၇ ရက် နေ့မှစ၍ ဤ ဝန် ကြီး ဌာနကို ကယ်ဆယ်ရေး၊ပြန်လည်နေရာချထားရေးနှင့် လူမှုဝန်ထမ်းဝန်ကြီးဌာနဟု ပြောင်းလဲခေါ် ဝေါ် လိုက်သည်။ ထို နောက် ဤဝန်ကြီး ဌာနအောက် သို့ လူထုပညာ ရေး ဌာန၊ ကျေး ရွာပတ် ဝန်း ကျင် သန့် ရှင်း ရေး နှင့် ရေ ရရှိရေးဌာန၊ လူမှုရေးရာကြီးပွားရေးဌာနများ ရောက်ရှိလာလေသည်။

လူမှု ဝန်ထမ်း လုပ် ငန်း နှင့် စပ် လျဉ်း၍ လူအိုရုံများ၊ မျက်မမြင်ကျောင်းများ၊ဆွံ့အ နားပင်းသူကျောင်းများ၊ လူငယ်ဂေဟာများ၊ ခိုကိုးရာမဲ့အမျိုး သမီး စောင့်ရှောက်ရေးဌာနများနှင့် ကလေးထိန်းဌာနများကို ဤဝန်ကြီးဌာနက စီမံခန့်ခွဲအုပ်ချုပ်ရသည်။

ကယ်ဆယ်ရေး နှင့် ပြန်လည်နေရာချထား ရေး လုပ် ငန်းများအတွက် ၁၉၅၃–၅၄ ခု ဘဏ္ဍာတော်နှစ်အတွင်း အသုံးစရိတ်ငွေများကို အောက်ပါအတိုင်း သတ်မှတ်ထားသည်။

| | |
|---|---|
| ကယ်ဆယ်ရေးရိက္ခာပစ္စည်းများအတွက် (ပြည်မကြီးနှင့်ချင်းဝိသေသတိုင်း) | ၃၅,၀၀၀,၀၀၀ိ |
| ပြန်လည် နေရာချထားပေးခြင်းအတွက် | ၁,၀၀၀,၀၀၀ိ |
| အချို့ဒုက္ခသည်များကို နိုင်ငံရင်းသို့ပြန်ပို့ရန်အတွက် | ၁,၀၀၀ိ |
| သစ်တောထွက်ပစ္စည်းများ ထုတ်ယူစရိတ် | ၁၀,၀၀၀ိ |
| သစ်တောထွက်ပစ္စည်း အခမဲ့ပေးဝေရန် | ၃,၀၀၀,၀၀၀ိ |

နောက်ထပ်တိုးချဲ့လုပ်ကိုင် ရသော ဌာန များ အတွက် ငွေစာရင်းခေါင်းစဉ်ပြောင်းလဲပေးရန်နှင့် နောက်ထပ်ခွင့်ပြုငွေများထုတ်ပေးရန် အစီအစဉ်များကိုလည်း ပြုလုပ်လျက်ရှိလေသည်။ ကျေး ရွာ ပတ်ဝန်းကျင်သန့်ရှင်းရေးနှင့် ရေ ရရှိရေးလုပ်ငန်းများအတွက်လည်း စီမံကိန်းများရေးဆွဲကာ စတင်ဆောင်ရွက်လျက်ရှိနေသည်။

ပြည်တော်သာစီမံကိန်းအရ မဖွံ့ဖြိုးသေးသောဒေသများ ဖွံ့ဖြိုးရေးအတွက်ကိုလည်း ထိုကယ်ဆယ်ရေးဌာနမှ တာဝန်ယူဆောင် ရွက် ရ သည်။ လော လောဆယ်အားဖြင့် နာဂတောင်တန်းဒေသ၊ရှမ်းပြည်မြောက်ပိုင်းဒေသနှင့် ရခိုင်ပြည်အချို့ဒေသများတွင် လူထုသက်သာချောင်ချိရေးအတွက် ကယ်ဆယ်ထောက်ပံ့ရန် လိုအပ်သောကိစ္စများကို ဝန်ကြီးကိုယ်တိုင်ကြပ်မ ဆောင်ရွက်လျက်ရှိသည်။



ရောင်းချရန်အသင့် စုပုံထားသည့် ကယ်ရိုလီးနားပြည်နယ်ထွက် စီးကရက်ဆေးရွက်များ




တောင်ကယ်ရိုလီးနားပြည်နယ် အတွင်းမှ သိမ်းကောက်ရရှိသောဝါများကို အထည်အလိပ်များအဖြစ် ရက်လုပ်ပေးသော လိုင်မန်မြို့ရှိ ခေတ်မှီ စက်ရုံကြီးတခု

**ကယ်ရိုလီးနားပြည်နယ်။** ။ကယ်ရိုလီးနားပြည်နယ်သည် မူလက တနယ်တည်းဖြစ်သော်လည်း နောင်အခါတွင် မြောက် ကယ်ရိုလီးနားနှင့် တောင် ကယ်ရိုလီးနားဟူ၍ ပြည်နယ် ၂ နယ်ဖြစ်သွား သည်။ ကယ်ရိုလီး နားပြည် နယ်၏ မြောက်ဖက်တွင် ဗာဂျင်း နီးယား ပြည်နယ်၊ အနောက်ဖက်နှင့်တောင်ဖက်တွင် တင်နက်ဆီပြည်နယ်နှင့် ဂျော်ဂျီယာပြည်နယ်၊ အရှေ့ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာရှိလေသည်။

မြောက်ကယ်ရိုလီးနားပြည်နယ်မှာ စတုရန်း မိုင် ပေါင်း ၅၂,၇၁၂ ကျယ်ဝန်း၍ လူဦးရေမှာ ၄,၀၆၁,၉၂၉ ယောက်ရှိသည်။ မြို့တော်မှာ ရာလေးမြို့ဖြစ်၍ လူဦးရေမှာ ၆၅,၆၇၉ ယောက်ရှိလေသည်။

တောင်ကယ်ရိုလီး နား ပြည် နယ်မှာ စတုရန်းမိုင်ပေါင်း ၃၁,၀၅၅ ကျယ်ဝန်း၍၊ လူဦးရေ ၂,၁၁၇,၀၂၇ ယောက်ရှိသောကြောင့် မြောက်ဖက်ပြည်နယ်ထက် ငယ်ပြီးလျှင် လူဦးရေလည်းနည်းလေသည်။ မြို့တော်မှာ ကိုလမ်ဗီးယားမြို့ဖြစ်၍ လူဦးရေ ၈၆,၉၁၄ ယောက်ရှိလေသည်။

ကယ်ရိုလီးနားပြည်နယ်များ တွင် ဝါကို အကြီး အကျယ် စိုက်ပျိုးလုပ်ကိုင်ကြ၏။ ကပ္ပလီလူမျိုးများလည်း အများအပြားနေထိုင်လျက်ရှိကြသဖြင့်၊ စိုက် ပျိုး ရေး လုပ် ငန်း အတွက် အလုပ်သမားများကို ဈေးပေါပေါနှင့် ငှါးရမ်းခိုင်းစေနိုင်ကြသည်။ ကယ်ရိုလီးနားပြည် နယ် များ၏ ရာသီဥတုမှာ စိုစွတ်ထိုင်းမှိုင်း၍ ဂွမ်းထည်ရက်လုပ်ခြင်းလုပ်ငန်းနှင့် အထူးပင်သင့်လျော်ပေသည်။ ထိုပြင် ရေတံခွန်ပေါများသောကြောင့် စက်ရုံ အလုပ်ရုံများအတွက် လျှပ်စစ်ဓါတ်အားကို စရိတ်သက်သာစွာဖြင့် ရရှိနိုင်လေသည်။

ကယ်ရိုလီးနားပြည်နယ် ၂ နယ်လုံးတွင် ဆေးပင်များကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြ၏။ ဆာဝေါလတာ ရာလေးသည် ၁၅၈၄ ခုနှစ်တွင် ကယ်ရိုလီးနားပြည်နယ်သို့ ရောက်ရှိလာခဲ့၏။ နောက်တနှစ်တွင် ထိုနယ်၌အခြေစိုက်နေထိုင်ကြရန် အင်္ဂလိပ်လူမျိုးများကို စေလွှတ်လိုက်ရာထိုနယ်ရှိတိုင်းရင်းသားလူမျိုးများက အဝင်မခံဘဲခုခံတိုက်ခိုက်သဖြင့် အင်္ဂလိပ်လူမျိုးများမှာ အင်္ဂလန်ပြည်သို့ပြန်သွားကြရလေသည်။

တဖန် ၁၅၈၇ ခုနှစ်တွင် ကယ်ရိုလီးနားပြည်နယ်သို့ လာရောက်ကြသော အင်္ဂလိပ်လူမျိုးတစုမှာလည်း ထူးဆန်းစွာ ပျောက်ကွယ်သွားကြပြန်၏။ ပဌမ ချားဘုရင်လက်ထက်သို့ ရောက်သောအခါ အင်္ဂလိပ်လူမျိုးများ ထိုဒေသတွင် အခြေတကျနေထိုင်နိုင်အောင် စီစဉ်ပြုလုပ်ပေးသဖြင့် ထိုနယ်ကို

အင်္ဂလန်၏ကိုလိုနီနယ်တခုအဖြစ်ပြုလုပ်ခဲ့လေသည်။ ချားလ်ဟူသောအမည်မှာ လက်တင်ဘာသာဖြင့် ကယ်ရိုလပ်ဖြစ်၍၊ ထိုနယ်ကို ချားလ်ဘုရင်အားဂုဏ်ပြုသောအားဖြင့် ကယ်ရိုလီးနားဟူ၍ အမည်မှည့်ခေါ်ခဲ့ကြသည်။ ဒုတိယ ချားလ်ဘုရင် လက်ထက်သို့ရောက်သောအခါ ၁၆၆၃ ခုနှစ်တွင် ထိုနယ်ကို မှူးမတ်အချို့အား အပိုင်စားပေးသနားလိုက်သည်။ ထိုမှူးမတ်များက ကယ်ရိုလီးနားနယ်ကို မြောက်ပိုင်းနှင့် တောင်ပိုင်းဟူ၍ နယ် ၂ နယ်ခွဲခြားလိုက်လေသည်။

တောင်ကယ်ရိုလီးနားပြည်နယ်နှင့် မြောက်ကယ်ရိုလီးနားပြည်နယ်တို့သည် အမေရိကန်နိုင်ငံသမိုင်းတွင် အတော်ပင်အရေးပါခဲ့သည်။ အမေရိကန်ပြည်ထောင်စု၏ မူရင်းပြည်နယ် ၁၃ နယ်တွင် ဤနယ် ၂ နယ်အပါအဝင်ဖြစ်၏။ ၁၈၆၁–၆၅ ခုနှစ်များအတွင်း ဖြစ်ပွားသောအမေရိကန်ပြည်တွင်းစစ်ပွဲသည် တောင်ကယ်ရိုလီးနားပြည်နယ်၌ရှိသော ဖို့ဆမ့်တာခံတပ်မြို့ကလေးမှ စတင်ဖြစ်ပွားခဲ့၏။ ထိုပြည်တွင်းစစ်ပွဲမှာ သမတကြီး အေဗရာဟမ် လင်ကွန်းလက်ထက်တွင် ငွေဝယ်ကျွန်စံနစ်ပယ်ဖျက်ရေးနှင့်စပ်လျဉ်း၍ စတင်ဖြစ်ပွားလေရာ၊ တောင်ကယ်ရိုလီးနားပြည်နယ်သည် လင်ကွန်း၏ ဝါဒကို ဆန့်ကျင်ပုန်ကန်သောတောင်ပိုင်းနယ်များဖက်တွင် စတင်သဘောကွဲလွဲကတည်းက ပါဝင်ခဲ့၍ ပြည်ထောင်စုထဲမှ အဦးဆုံးခွဲထွက်သောပြည်နယ်ဖြစ်၏။ မြောက်ကယ်ရိုလီးနားပြည်နယ်မှာမူ တောင်ပိုင်းနယ်များလက်သို့ ဖို့ဆမ့်တာကျဆုံးပြီးသည့်နောက်မှ တောင်ပိုင်းနယ်များဖက်သို့ ဝင်ရောက်ခဲ့သည်။ သို့ရာတွင် တောင်ပိုင်းစစ်တပ်များအတွက် ဝေပုံကျထက်ပိုမိုသောစစ်သားအင်အားကို ရက်ရောစွာဖြည့်တင်းပေးခဲ့လေသည်။ (အမေရိကန်ပြည်ထောင်စုသမိုင်း — လည်းရှု)။

**ကယ်ရစ်ဗျန်ပင်လယ်**။ ။ကယ်ရစ်ဗျန်ပင်လယ်သည် အတ္တလန္တိတ်သမုဒ္ဒရာ၏အစိတ်အပိုင်းတခုဖြစ်၍၊ အနောက်အိန္ဒိယကျွန်းစု၊ အမေရိကတိုက် အလယ်ပိုင်းနှင့် တောင်အမေရိကတိုက်ရှိနိုင်ငံများ၏အကြားတွင် တည်ရှိသည်။ အနံမိုင် ၇၀၀၊ အလျားမိုင် ၁,၇၀၀ ခန့်ရှိ၍၊ စတုရန်းမိုင်ပေါင်း ၇၅၀,၀၀၀ ခန့်ကျယ်ဝန်း၏။ ကမ္ဘာ့အနောက်ဖက်ပိုင်းတွင် ကူးသန်းသွားလာရာလမ်းဆုံဖြစ်သဖြင့် 'အမေရိကန်မြေထဲပင်လယ်' ဟု ခေါ်ကြသည်။ ထိုပင်လယ်ကို ရှေးဦးစွာတွေ့ရှိသူမှာ ကိုလံဗပ်ဖြစ်၍၊ ပင်လယ်တွင်းရေကြောင်းသွားလာမှုကို စပိန်တို့က အနှစ် ၂၀၀ ခန့်ကြီးစိုးခဲ့ကြသည်။

ကယ်ရစ်ဗျန်ပင်လယ်၏အောက်ခင်းမှာ အခြားသောပင်လယ်များနှင့်မတူ၊ အနိမ့်အမြင့်မညီညာဘဲ ရေအောက်တွင် မြုပ်နေသော တောင်စဉ်စုကြီးသဖွယ်ဖြစ်နေလေသည်။ မြေမျက်နှာပြင်ပေါ်မှာကဲ့သို့ပင်၊ ထိုရေမြုပ်တောင်စဉ်စုတို့တွင် တောင်ထိပ်များ၊ချိုင့်ဝှမ်းများ၊ ချောက်ကြီးများ၊ကမ်းပါးစောက်ကြီးများရှိပြီးလျှင် အချို့တောင်ထိပ်တို့မှာ ရေမျက်နှာပြင်နှင့် များစွာမကွာဘဲ နီးကပ်လျက်ရှိကြသည်။ နက်စောက်သောချောက်များသည် ၃ မိုင်အထိပင်နက်၏။ ထိုပင်လယ်အောက်ခင်းရှိ လျှိုမြောင်ချောက်ကြားများတွင် အခြားအရပ်ဒေသတို့၌မတွေ့မမြင်ဘူးသော ထူးဆန်းအံ့ဩဖွယ်ကောင်းသည့် ရေသတ္တဝါကြီးများကို တခါတရံ ဖမ်းဆီးရမိတတ်လေသည်။ ထိုသို့ဖမ်းဆီးမိသောအချို့ သတ္တဝါတို့သည် အနှစ်ထောင်ပေါင်းများစွာကပင် ပျောက်ကွယ်ခဲ့ပြီဖြစ်သောသတ္တဝါတို့၏ ကျောက်ဖြစ်ရုပ်ကြွင်းတို့နှင့်အလွန်တူကြသည်။

ကယ်ရစ်ဗျန်ပင်လယ်သည် ကျွန်းများနှင့်နီးကပ်ရာနေရာတို့မှတပါး၊ ကျောက်ဆောင် ကျောက်တန်းများ ကင်းရှင်းသဖြင့် ကူးသန်းသွားလာရန် ကောင်းမွန်သော်လည်း၊ခေါင်လေကြမ်းများမကြာခဏကျရောက်တတ်သောကြောင့် လှေသင်္ဘောများအတွက် ဘေးဥပဒ်များလေသည်။ ခေါင်လေကြမ်းများမှာ အီကွေတာရေစီးကြောင်းရှိ ရေပူတို့မှထွက်ပေါ်လာသော အပူဓါတ်တို့ကြောင့်ဖြစ်ပေါ်လာကြ၏။ ပူနွေးသောအီကွေတာရေစီးကြောင်းသည် အာဖရိကတိုက်ဖက်မှ အတ္တလန္တိတ်သမုဒ္ဒရာကိုဖြတ်သန်း၍ ကယ်ရစ်ဗျန်ပင်လယ်တွင်းသို့စီးဝင်၏။ထိုမှတဖန် ယူကတန်ရေလက်ကြားကြီးကိုဖြတ်၍ မက္ကဆီကိုပင်လယ်ကွေ့အတွင်းသို့ စီးသွားပြီးလျှင်၊ ဖလော်ရီဒါရေလက်ကြားကိုကျော်လွန်ကာ မြောက်ဖက်သို့ ဂပ်စထရင်းခေါ် ပင်လယ်ရေပူကြောင်းအဖြစ် ထွက်သွားလေသည်။ထိုရေပူကြောင်း တလျှောက်တွင် တိုက်ခတ်သော လေပူတို့သည် အထက်သို့တက်သဖြင့် အရှေ့ဖက်နှင့်မြောက်ဖက်မှ လေအေးတို့သည် အဟုန်ပြင်းစွာဝင်လာပြီးလျှင် ပြင်းထန်သောခေါင်လေကြမ်းများကို ဖြစ်ပေါ်စေသည်။ ထိုသို့သောခေါင်လေကြမ်းများကြောင့် ကျွန်းများပေါ်ရှိမြို့ရွာများနှင့် ပင်လယ်တွင်းရှိသင်္ဘောများမှာ မကြာခဏ ပျက်စီးကြရသည်။

ရှေးအခါက ပင်လယ်ဓါးပြများ သောင်းကျန်းကျက်စားရာဖြစ်ခဲ့သဖြင့်၊ ကယ်ရစ်ဗျန်ပင်လယ်သည် နာမည်ကြီးခဲ့၏။ ယခုခေတ်တွင် ပနားမားတူးမြောင်းကို ဖြတ်ကျော်သော သင်္ဘောများသာမက၊ အပူပိုင်းဒေသအတွင်းသို့ကျရောက်သော အမေရိကတိုက် အလယ်ပိုင်း နိုင်ငံများမှ သကြား၊ ကာဖီ၊ကိုကိုး၊ငှက်ပျော စသည်တို့ကိုတင်၍ အမေရိကန်ပြည်ထောင်စုသို့ပို့သော သင်္ဘောများနှင့် ထိုမှတဖန် ကုန်ချောများကိုတင်ကာ အပူပိုင်းနိုင်ငံများသို့ ပြန်လည်ပို့ဆောင်ကြသော သင်္ဘောများ ကူးသန်းသွားလာရာ ခရီးလမ်းကြောင်းမကြီးဖြစ်နေသဖြင့်၊ ကယ်ရစ်ဗျန်ပင်လယ်သည် အထူးထင်ရှားနေပေသည်။

**ကယ်လဂါရီမြို့။** ။ကနေဒါနိုင်ငံ အနောက်ပိုင်း၊အယ်လဗားတားပြည်နယ်ရှိ ကယ်လဂါရီမြို့သည် ဗိုးမြစ်နှင့် အဲလဗိုးမြစ်တို့ပေါင်းဆုံရာအရပ်တွင် တည်ရှိသည်။ ၁၈၈၃ ခုနှစ်တွင် ကနေဒီယန် ပစိဖိတ်မီးရထားလမ်း စတင်ဖေါက်လုပ်သည့်အခါကစ၍ တည်ခဲ့သောမြို့ကလေးဖြစ်သည်။ ရေခဲကြီး တောင်တန်းကိုဖြတ် ကျော်နိုင်သည့် တောင်ကြားလမ်းနှစ်ခု၏အဝင်ဝတွင် တည်ရှိသဖြင့် အရေးပါသော မီးရထားလမ်းဆုံမြို့ဖြစ်ရာ၊ ၁၈၉၄ ခုနှစ်တွင် မြို့ကြီးတမြို့အဖြစ်သို့ ရောက်ရှိလာလေသည်။ အယ်လဗားတားပြည်နယ်တွင် အက်ဒမန်တန်မြို့ကလွဲလျှင် အကြီးဆုံးမြို့ဖြစ်၏။

ကယ်လဂါရီမြို့သည် ဝင်နီပက်မြို့အနောက်ဖက် ပရေရီလွင်ပြင်ဒေသတွင် ကုန်စည်ကူးသန်း ရောင်းဝယ်ရေးဖက်၌တွင်ကျယ်သောမြို့ကြီးဖြစ်သည်။ ထိုပြင် စတုရန်းမိုင်ပေါင်း ၁၅၀,၀၀၀ မျှကျယ်ဝန်းသော ဂျုံစပါးစိုက်ပျိုး၍ သိုးနွားမွေးမြူရာဒေသ၏ အချက်အခြာမြို့ကြီးလည်းဖြစ်၏။ ထိုမြို့အနီးအနားမှ ကျောက်မီးသွေးတူးဖေါ် ရရှိ၍ ကျိုမြင့်များ၊ ဂျုံစက်များနှင့် ရေနံချက်ရုံများလည်းရှိသည်။ လူဦးရေမှာ ၁၂၃,၇၃၇ ယောက်ဖြစ်သည်။

**ကယ်လဆီယမ်။** ။ကယ်လဆီယမ် (ထုံးသတ္တု) သည် ပျော့၍ ငွေဖြူရောင်ရှိသောသတ္တုဒြပ်စင်ဖြစ်သည်။ ထိုသတ္တုကို ဓါးဖြင့်လှီးနိုင်သည့်ပြင် နန်းကြိုးသေးသေးလည်းဆွဲ၍ရနိုင်သည်။ ကယ်လဆီယမ်ကို သတ္တုသန့်သန့်အနေဖြင့် သဘာဝတွင်တွေ့ရခဲ၏။ သို့သော် အခြားပစ္စည်းများနှင့်ရော၍ ကယ်လဆီယမ်ဒြပ်ပေါင်းအဖြစ်နှင့်မူ အနှံ့အပြားတွေ့ရ၏။ ထင်ရှားသောကယ်လဆီယမ်ဒြပ်ပေါင်းတို့မှာ (၁) ကယ်လဆီယမ် ကာဗွန်နိတ် (ထုံးကျောက်၊မြေဖြူ၊စကျင်ကျောက်) (၂) ကယ်လဆီယမ် ဆာလဖိတ် (ဂျစ်ပဆမ်) (၃) ကယ်လဆီယမ် ဖေါ့စဖိတ် (လူနှင့်တိရစ္ဆာန်အရိုးများတွင်ပါဝင်သော အဓိကပစ္စည်း) ဖြစ်ကြသည်။

ထုံးရည်ကြည်ထဲတွင် ကာဗွန်ဒိုင်အောက်ဆိုက်ဓါတ်ငွေ့လွှတ်လိုက်လျှင် ကယ်လဆီယမ်ကာဗွန်နိတ်သည် အနည်ပြွမ်းများအဖြစ်ကျလာသည်။ ထိုကြောင့် ထုံးရည်ကြည်သည်နို့ရည်ကဲ့သို့ပြွသွားသည်။ ထိုကျလာသောအနည်ပြွကို စစ်၍အခြောက်ခံယူလျှင် ကယ်လဆီယမ်ကာဗွန်နိတ်အမှုန့်များကိုရ၏။ ထိုအမှုန့်များသည် အရသာမရှိသည့်အပြင် ရေတွင်မပျော်ဝင်နိုင်ချေ။ သို့သော် ကာဗွန်ဒိုင်အောက်ဆိုက်ပျော်ဝင်ရည်ထဲတွင် ထည့်လိုက်သောအခါ ချက်ခြင်းပင် အရည်ပျော်သွား၏။ ကယ်လဆီယမ်ကာဗွန်နိတ်ကို အမျိုးမျိုးအသုံးပြုနိုင်သည်။ စကျင်ကျောက်သည် ကျောက်ပြား၊ ကျောက်ရုပ်၊ လျှပ်စစ်မလိုက်ပစ္စည်းနှင့် တကွအခြားအိမ်အသုံးအဆောင်များလုပ်ရာ၌ များစွာအသုံးဝင်သည်။ ထုံးကျောက်သည်လည်း ကာဗွန်နိတ်ထဲတွင် အပါအဝင်ဖြစ်၏။ ထုံးကျောက်ကို ထုံးလုပ်ရာ၌၎င်း၊ အင်္ဂတေလုပ်ရာ၌၎င်း၊ ကယ်လဆီယမ်ကာဗိုက်လုပ်ရာ၌၎င်း၊ သံရည်ကျိုလုပ်ငန်း၌၎င်း၊ များစွာပင်အသုံးပြုကြသည်။ မြေဖြူသည်လည်း ကာဗွန်နိတ်ဖြစ်၏။ မြေဖြူကို အများသိကြသည့်အတိုင်း ကျောက်သင်ပုန်းပေါ်၌စာရေးရန်အတွက်၎င်း၊ အဆောက်အအုံနံရံတွင် အဖြူရောင်ခြယ်ရန်အတွက်၎င်း၊ သွားတိုက်ဆေးမှုန့် ပြုလုပ်ရန်အတွက်၎င်း၊ အသုံးပြုသည်။ ထုံးကျောက်ဂူလိုဏ်များအတွင်း၌ ကျောက်စက်ပန်းဆွဲနှင့် ကျောက်စက်မိုးမျှော်တို့ကို တွေ့ရလေ့ရှိသည်။ ထိုထုံးကျောက်တိုင်တို့သည် တစိမ့်စိမ့်ကျနေသည့်ရေထဲတွင် ကာဗွန်ဒိုင်အောက်ဆိုက်ပျော်ဝင်လျက်ရှိရာမှ ခန်းခြောက်သွားသောအခါ ကျောက်ဖြစ်၍ကျန်ခဲ့သော ကယ်လဆီယမ်ကာဗွန်နိတ်များပင်ဖြစ်ကြသည်။

အပင်များကြီးထွား သန်မာလာစေရန် ကယ်လဆီယမ်ဒြပ်ပေါင်းများကိုလိုအပ်၏။ အရည်ပျော်လွယ်သောကယ်လဆီယမ်ဖေါ့စဖိတ် $(Ca_3\ (PO_4)_2)$ သည် အလွန်ကောင်းသော ဓါတ်မြေဩဇာဖြစ်သည်။ လူတို့သည် အထူးသဖြင့် ကလေးသူငယ်များသည် အရွက်အသီးနှင့် နို့ရည်များကို အထူးဂရုပြု၍ စားသုံးသင့်၏။ အဘယ်ကြောင့်ဆိုသော် အသီး၊အရွက်၊နို့ရည်များကိုစားသောက်ခြင်းဖြင့် ထုံးဓါတ်များရရှိပြီးလျှင် အရိုးများမာလာနိုင်သောကြောင့်ဖြစ်သည်။ ကယ်လဆီယမ်ဓါတ်ဆားများပါရှိသောအစားအစာများသည် ဝမ်းတွင်းရှိ အက်ဆစ်အချဉ်ဓါတ်ကို ဖျက်ဆီးနိုင်၏။ ထုံးဓါတ်နည်းသောကလေးသည် ရစ်ကက်ရောဂါ (အရိုးပျော့နာ) စွဲကပ်တတ်သည်။

ကယ်လဆီယမ်အောက်ဆိုက် $(CaO)$ ကို မဖေါက်ထုံးဟုခေါ်၏။ လေထဲတွင်ပစ်ထားလျှင် ကာဗွန်ဒိုင်အောက်ဆိုက်နှင့်ရောစပ်သဖြင့် ကယ်လဆီယမ်ကာဗွန်နိတ်ဖြစ်သွားသည်။ ကယ်လဆီယမ်ဟိုက်ဒရော့ဆိုက် $(Ca\ (OH)_2)$ ကို ဖေါက်ထုံးဟုခေါ်၏။ သဲနှင့်ရောလိုက်သည့်အခါ အင်္ဂတေဖြစ်၏။ အင်္ဂတေကိုင်သောအခါ အင်္ဂတေသည် လေထဲတွင်ရှိသော ကာဗွန်ဒိုင်အောက်ဆိုက်ဓါတ်ငွေ့ကို စုတ်ယူနိုင်သဖြင့် ကယ်လဆီယမ်ကာဗွန်နိတ်ဖြစ်၍ မာသွားသည်။ သို့သော် လေထဲမှကာဗွန်ဒိုင်အောက်ဆိုက်အနည်းငယ်ကိုသာစုတ်ယူရသောကြောင့် အင်္ဂတေသည် ရုတ်တရက်မမာနိုင်ဘဲ တဖြည်းဖြည်းမာသွားရသည်။



$$Ca\ (OH)_2 + CO_2 = CaCo_3 + H_2O$$

ထုံးကျောက် သို့မဟုတ် ထုံးကို အမှုန့်ပြု၍ လျှပ်စစ်မီးဖိုတွင် ကုတ်မီးသွေးနှင့်အတူထည့်၍ မီးပြင်းတိုက်ပေးသောအခါ ကယ်လဆီယမ်ကာဗိုက် $(CaC_2)$ ကို ရရှိ၏။ ကယ်

လဆီယမ် ကာဗိုက် တွင် ရေအနည်း ငယ် ထည့် ပေးလိုက်လျှင် အဆက်တီလင်ဓါတ်ငွေ့ထွက်ပေါ် လာသည်။

**ကယ်လဗင်, ဂျေ** (ခရစ် ၁၅၀၉-၁၅၆၄)။ ။ဥရောပတိုက်သမိုင်း တွင် ထင်ရှား သောခရစ်ယန်အယူဝါဒအရေးတော်ပုံခေတ်က ကျော်ကြားသူပုဂ္ဂိုလ်ထူးများတွင် ဂျွန်ကယ်လဗင်လည်း အပါအဝင်ဖြစ်သည်။

ဂျွန်ကယ်လဗင်သည် ၁၅၀၉ ခုဇူလိုင်လ ၁၀ ရက်နေ့တွင် ပြင်သစ်နိုင်ငံ ပစ်ကာဒီနယ် နွာယွန်မြို့၌ဖွားမြင်သည်။ ပဌမတွင် သူ၏ဖခင်က သူ့အားခရစ်ယန်ဘုန်းကြီးဖြစ်စေရန် ရည်ရွယ်ချက်ဖြင့် ပါရစ်မြို့တွင်ပညာသင်ကြားပေးခဲ့ပြီးလျှင်၊ ရည်ရွယ်ချက်အတိုင်း ဖြစ်မြောက်အောင်ကြိုးပမ်းခဲ့ရာ အသက် ၁၂ နှစ်အရွယ် ၁၅၂၁ ခုနှစ်တွင် ကယ်လဗင်သည် နွာယွန်မြို့ဂိုဏ်းအုပ်ဘုန်းတော်ကြီးထံ၌ သင်းအုပ်အဖြစ် ခန့်ထားခြင်းခံရ၏။ ထိုနောက် ၂ နှစ်ခန့်ကြာလျှင် ပါရစ်မြို့သို့ သွားရောက်၍ မတ်ရှကောလိပ်ကျောင်းတွင် ပြင်ပကျောင်းသားအဖြစ်တက်ရောက်ပညာသင်ကြားခဲ့လေသည်။ ၁၅၂၇ ခုနှစ်တွင် သူ၏ဇာတိဖြစ်သော နွာယွန်မြို့ရှိအယူဝါဒဆိုင်ရာ အာဏာပိုင်တို့ကခေါ်ယူ၍ သင်းထောက်ဆရာအဖြစ်ခန့်အပ်လိုက်လေသည်။

၁၅၂၈ ခုနှစ်တွင် သူ၏ဖခင်ကတိုက်တွန်းသဖြင့် အော်လီယန်းမြို့သို့ သွားရောက်၍ ဥပဒေပညာကို လေ့လာသင်ကြားခဲ့၏။ နောက်တနှစ်တွင် ဗူးရှုံမြို့သို့ပြောင်း၍ ပညာသင်ကြားပြန် သည်။ ဤကဲ့သို့ ကယ်လဗင် ပညာသင်ကြား နေချိန်၌ ဥရောပတိုက်တခုလုံးတွင် ခရစ်ယန်အယူဝါဒပြုပြင်ပြောင်းလဲရေးကို ဆွေးနွေးဝေဖန်နေကြသည်။ ဂျာမနီနိုင်ငံတွင် မာတင်လူသာသည် ဗရင်ဂျီဂိုဏ်း၏မသန့်ရှင်းမစင်ကြယ်မှုများကို အတိအလင်း ထုတ် ဖော် ကျေညာ ၍၊ ခရစ်ယန်အယူဝါဒ ပြုပြင်ပြောင်းလဲရေးကို လှုံ့ဆော်အားပေးလျက်ရှိ၏။ သူ၏ ဟောပြောရေးသားချက်များ သည် ဂျာမနီ နိုင်ငံ အတွင်း၌ သာမက ဥရောပတိုက်တတိုက်လုံး ရှိ နိုင်ငံ အနှံ့အပြား သို့ ဂယက်ရိုက်သွားခဲ့သည်။ မာတင်လူသာ၏အယူအဆများကို ကယ်လဗင် နှင့် အယူဝါဒပြုပြင်ပြောင်း လဲရေးသမား လူငယ် များက လက်ခံယုံကြည်၍ လေ့လာလိုက်စားခဲ့ကြသည်။ (လူသာ, မာတင် — လည်းရှု)။

ကယ်လဗင်သည် ခရစ်ယန်အယူဝါဒအရေးတော်ပုံကို တရားလမ်းမှန်ကန်သည်ဟု ယုံကြည်သည့်အတိုင်း အယူဝါဒပြုပြင်ပြောင်းလဲရေးသမားတို့၏ အယူအဆများကို လက်ခံပြီးလျှင် ဗရင်ဂျီဂိုဏ်းမှခွဲထွက်ပြီး နောက်၊ မဆုတ်မနစ်သောလုံ့လနှင့် အယူဝါဒပြုပြင်ပြောင်းလဲရေးကို ဆောင်ရွက်ခဲ့ရာ များစွာထိရောက်အောင်မြင်ခဲ့သည်။

သို့သော် ထိုသို့အယူဝါဒပြုပြင်ပြောင်းလဲရေးကို ဆောင်ရွက်ခဲ့သဖြင့် ဗရင်ဂျီဂိုဏ်းသားများ ကြီး စိုး သည့် ပါရစ်မြို့တော်တွင် ကယ်လဗင်သည် ဆက်လက်၍မနေနိုင်တော့ဘဲ ပါရစ်မြို့တော်မှ အန်ဂူလမ်းမြို့ သို့ ထွက် ပြေး တိမ်း ရှောင် ခဲ့ရ၏။ ထိုအတောအတွင်း 'ခရစ်ယန်အယူဝါဒ၏ဥပဒေသများ' ခေါ် စာအုပ်ကိုအန်ဂူလမ်းမြို့ရှိ ကသီဒရယ်ဘုရားရှိခိုးကျောင်းမှရေးသားခဲ့၏။

၁၅၃၄ ခုဇူလိုင်လအတွင်း၌ ကယ်လဗင်သည် အဖော် ၂ ဦး နှင့် ဆွစ်ဇာလန်နိုင်ငံ ဂျီနီးဗါးမြို့ရှိ အင်းထမင်းဆိုင်တခုတွင်ဝင်ရောက်တည်းခိုခဲ့၏။ ထိုသူ ၃ ဦးမှာ ပြင်သစ်နိုင်ငံမှ ထွက် ပြေး တိမ်း ရှောင် လာ ကြသူများဖြစ် ၍ မည်သူနှင့်မျှ တွေ့ဆုံရန်စိတ်မကူးနိုင်ကြပေ။ သို့ရာတွင် ဂျီနီးဗားမြို့ရှိ အယူဝါဒပြုပြင်ပြောင်းလဲရေး သမား တရား ဟောဆရာ ဂီယမ်းဖါးရဲသည် ကယ်လဗင်တို့လူစုဆိုက်ရောက်လာကြောင်းသိရလျှင် ကယ်လဗင်တို့ဆီသို့သွားရောက်ကာ ကယ်လဗင်အား ဂျီနီး ဗား မြို့ တွင် အယူဝါဒပြုပြင်ပြောင်း လဲ ရေး များ ကို ဆောင်ရွက်ရန်တောင်းပန်လေသည်။ ဂျီနီးဗားမြို့မှာ အယူဝါဒအရေးတော်ပုံကို လုံးဝလက်ခံသောမြို့ဖြစ်သောကြောင့် ကယ်လဗင်လည်း ဖါးရဲ၏တောင်းပန်ချက်ကို လက်ခံလေသည်။ အမှန်သော်ကား ကယ်လဗင်သည် ဂျီနီးဗားမြို့တွင် နေရန်မူလကစိတ်မကူး ခဲ့ သော် လည်း သူသည် လပေါင်းအနည်းငယ်ကလွဲ၍ကွယ်လွန်သည်အထိ ထိုမြို့၌ပင်နေထိုင်ခဲ့၏။

မကြာမီ ကယ်လဗင်နှင့်ဖါးရဲတို့သည် ဂျီနီးဗားမြို့အုပ်ချုပ်ရေးကိုကြိုးကိုင်နိုင်ခဲ့သဖြင့် ရဟန်း အုပ် ချုပ် ရေး စံ နစ် ဖြင့် အုပ်ချုပ်ရန်ကြိုးပမ်းခဲ့ရာ အတော်အတန်အောင် မြင် ခဲ့ ၏။ ထိုအုပ်ချုပ်ရေးစံနစ်အရ အယူဝါဒဆိုင်ရာခေါင်းဆောင်ကြီးများသည် အာဏာပိုင်များဖြစ်လာကြ၍၊ပြည်သူလူထုအား အယူဝါဒစည်းမျဉ်းများနှင့်အညီ နေထိုင်ကျင့်ကြံစေရန် အမိန့်များထုတ်ဆင့်လေသည်။ ရွှေငွေရတနာ အလှအပဝတ်ဆင်မှုများကိုလည်း ပိတ်ပင်သည်။ သူတို့၏စံနစ်နှင့်ဆောင်ရွက်ချက်များမှာ အတော်အတန်အောင်မြင်ခဲ့သော်လည်း၊ ၁၅၃၇ ခုနှစ်တွင် ရဟန်းအစိုးရကို ပုန်ကန်တော်လှန်မှုပေါ်ပေါက်ခဲ့သဖြင့်၊ ကယ်လဗင်နှင့် ဖါးရဲတို့လည်းထွက်ပြေးတိမ်းရှောင်ခဲ့ရ သည်။ ဖါးရဲမူကား ပြန်မပေါ် လာ တော့ချေ။ ကယ်လဗင်မှာ စထရပ်ဇဗူးမြို့ တွင် ခေတ္တတိမ်း ရှောင် နေ ယင်း၊ ထိုမြို့သူတဦးနှင့် အိမ်ထောင်ပြုပြီးလျှင် သူ၏ဘာသာရေးအယူအဆများကို ပိုမိုတိကျမှန်ကန်စေရန် လေ့လာအားထုတ် ခဲ့ သည်။ ထို နောက် များ မကြာ မီ ဂျီ နီး ဗား မြို့ မှ ကယ်လဗင်ကို ပြန်လည်ပင့်ခေါ် ခဲ့လေသည်။

ထိုစဉ်က ဂျီနီးဗားမြို့သည် ကယ်လဗင်၏မြို့တော်ဟုတွင်လျက် အယူဝါဒပြုပြင်ပြောင်းလဲရေးဌာနချုပ်သဖွယ် ဖြစ်နေခဲ့ပေသည်။ သူသည် ဆက်လက်၍ရဟန်းအုပ်ချုပ်ရေး စံနစ် အတိုင်း အုပ် ချုပ် ခဲ့ သည်။ ၁၅၅၃ ခုနှစ်တွင် အယူ

ဝါဒလွတ်လပ်မှုကိုလိုလားသော ဂျီနီးဗားမြို့ သူမြို့သားများသည် ကယ်လဗင်၏ဝါဒများကို သဘောမကျသော ဆာဗီးတပ်ဆိုသူ တရားဟောဆရာတဦး အား မီးရှို့ သတ်ဖြတ်ပစ်လိုက်ကြ၏။ ထိုကိစ္စသည်ကယ်လဗင်၏ အုပ်ချုပ်မှုလုပ်ငန်းတွင်အမည်းစက်ထင်စေခဲ့သည်။ မည်သို့ပင်ဖြစ်စေ၊ ပေါ့ပေါ့ဆဆနေထိုင်သွားလိုသူတို့အဖို့မှာ ကယ်လဗင်၏ အုပ်ချုပ်ပုံကိုနှစ်သက်နိုင်စရာမရှိပေ။ တနင်္ဂနွေနေ့များ၌ ဘုရားရှိခိုးကျောင်းမတက် သူများကို ကြီးလေးစွာအပြစ်ပေးခြင်း၊ လူအများအား ဘာသာရေးအယူအဆတခုတည်းကို သာ လိုက်နာစေခြင်း စသည်တို့မှာ တင်းကျပ်လှပေသည်။ ဤသို့ သူ၏ စံနစ်နှင့် စည်းကမ်းများမှာ အလွန်ပြင်းထန်၍ အာဏာရှင်ဆန်နေသော်လည်း ကယ်လဗင်ကိုယ်တိုင်မှာမူ ညှာတာထောက်ထားတတ်သောစိတ်၊ သနားကြင်နာတတ်သောသဘောထားနှင့် ရန်သူပင်ဖြစ်စေကာသည်းခံတတ်သောနှလုံးရှိသူဖြစ်၍ သစ္စာမြဲမြံသူလည်းဖြစ်၏။ အယူဝါဒလွတ်လပ်မှုအတွက် ရှေ့ဆောင်ရှေ့ရွက်ပြုလုပ်ရာတွင်၊ ကယ်လဗင်သည် အမှန်တရားကိုသာရှာဖွေသူဖြစ်သောကြောင့် မည်သည့်အယူအဆမျိုးကိုမဆို သဘောတရားတခုအဖြစ်လက်ခံစဉ်းစားခဲ့၏။ အယူဝါဒရေးရာတွင်သာ ဤသို့အမြင်ကျယ်ခဲ့သည်မဟုတ်ဘဲ၊ တိုင်းရေးပြည်ရေးတွင်လည်း ဆန်းသစ်သောအမြင်များရှိခဲ့လေသည်။



ခရစ်ယန်အယူဝါဒ ပြုပြင်ရေး ခေါင်းဆောင် ဂျွန်ကယ်လဗင်

ဂျီနီးဗားမြို့တော်၏အုပ်ချုပ်ရေးကို သူ၏လက်သို့ဝကွက်၍ အပ်နှင်းကြသောအခါ၊မြို့တွင်းရှိအညစ်အကြေးများကို သန့်ရှင်းစေခြင်း၊ လူအများကိုစုခေါ်စည်းဝေး၍ ဥပဒေစည်းမျဉ်းများကို ပြုပြင်ပေးခြင်း စသည်တို့ကိုဆောင်ရွက်၏။ အထည်အလိပ်များရောင်းဝယ်ခြင်းဖြင့် ဂျီနီးဗားမြို့ကြီး၏စီးပွားရေးကို ဖွံ့ဖြိုးစေခဲ့သည်။ သူ့အဖို့မှာမူကား သူ့တအိမ်ထောင်စားလောက်ရုံမျှသောလစာကိုသာယူ၍ စာအုပ်များကို စီရင်ရေးသားနေခဲ့ပေသည်။

ကယ်လဗင်၏အယူဝါဒဆိုင်ရာ သဘောတရားများသည် နောင်အခါ ပရက်ဗီတီးရီးယန်းဂိုဏ်းဟု တွင်သောခရစ်ယန်ဂိုဏ်းခွဲ၏ အခြေခံသဘောတရားများ ဖြစ်လာလေသည်။ ထိုပြင် ယင်းအယူဝါဒသဘောတရားများသည် ဆွစ်ဇာလန်နိုင်ငံတွင် စတင်အမြစ်တွယ်ခဲ့ပြီးနောက်၊ ပြင်သစ်နိုင်ငံသို့၎င်း၊ဟော်လန်၊စကော့တလန်နှင့် အင်္ဂလန်တိုင်းပြည်များသို့၎င်း၊တဖြည်းဖြည်း ပျံ့နှံ့သွားလေသည်။

ကယ်လဗင်သည် စင်စစ် ခက်ထန်သောစိတ် ဓါတ်ရှိသူတယောက်ဖြစ်သော်လည်း၊ ဖြောင့်မတ်၍သတ္တိရှိ၏။ မိတ်ဆွေသင်္ဂဟများအပေါ် မြဲမြံစွာခင်မင်တတ်၍၊ သူမှန်သည်ထင်လျှင် ထင်သည့်အတိုင်း ကြောက်ရွံ့ခြင်းကင်းမဲ့စွာ ထုတ်ဖော်ပြောဆိုတတ်၏။ အလုပ်ကိုလည်း စိတ်ရောကိုယ်ပါ မနားမနေ လုပ်ကိုင်တတ်သဖြင့် ကျန်းမာရေးချွတ်ယွင်းခဲ့ရာမှ၊ ၁၅၆၄ ခုနှစ်အသက် ၅၅ နှစ်အရွယ်တွင် ကွယ်လွန်လေသည်။ သူ၏ရုပ်အလောင်းကို ရိုးရိုးပင်မြှုပ်နှံလိုက်သောကြောင့် ယခုအခါ သင်္ချိုင်းရာကိုပင် မတွေ့နိုင်တော့ပေ။

**ကယ်လဗင်၊ ဒဗျူ၊တီ** (ခရစ် ၁၈၂၄-၁၉၀၇)။ ယခုအခါ အမေရိကတိုက်နှင့် ဥရောပတိုက်အကြား ရှိရေအောက်ကြေးနန်းဖြင့် အကြောင်းကြားဆက်သွယ်ဘူးသူတိုင်းသည် ရူပဗေဒပါရဂူကြီး လော့ကယ်လဗင်အား သတိရကျေးဇူးတင်သင့်ကြပေသည်။ (ရေအောက်ကြေးနန်း — ရှု။) လော့ကယ်လဗင်ကား မီရာဂါလဗာနိုမီတာခေါ် မှန်တပ်လျှပ်စစ်ဓါတ်စီးကြောင်းတိုင်းကရိယာကို တွင်ခဲ့သူဖြစ်သည်။ သူ၏ကရိယာသည် အလွန်သေးငယ်လှသည့်လျှပ်စစ်ဓါတ်စီးကြောင်းကိုပင် ပြစွမ်းနိုင်ပေသည်။ ပဌမဆုံး ဥရောပတိုက်နှင့် အမေရိကတိုက်အကြား အတ္တလန္တိတ်သမုဒ္ဒရာရေပြင်အောက်၌ ကြေးနန်းကြိုးချ၍ ကြေးနန်းရိုက်ကြားလိုက်ရာတွင်၊လျှပ်စစ်ဓါတ်စီးကြောင်းမှာ လွန်စွာသေးငယ်လှသဖြင့် အခြားလျှပ်စစ်ဓါတ်စီးကြောင်းတိုင်းကရိယာတို့သည် လျှပ်စစ်စီးသည်ကိုမပြနိုင်ကြပေ။ သို့ရာတွင်လော့ကယ်လဗင်၏မီရာဂါလဗါနိုမီတာဖြင့် ထိုသေးငယ်လှသည့်လျှပ်စစ်ဓါတ်စီးကြောင်းကို သိနိုင်သည့်အတွက် ကြေးနန်းစာများကို ဖတ်ရှုနိုင်ခဲ့ပေသည်။

လော့ကယ်လဗင်သည် ၁၈၂၄ ခုနှစ်ဇွန်လ ၂၆ ရက်နေ့တွင်

မွေးဖွားသည်။ အမည်ရင်းမှာ ဝီလျံသွန်မဆင်ဖြစ်၍ ဖခင်မှာ စကော့တလန်ပြည် ဂလပ်စဂိုးတက္ကသိုလ် သင်္ချာပါမောက္ခ ဂျိမ်းသွန်မဆင်ဖြစ်သည်။ သွန်မဆင်သည် ၁၈၄၁ ခုနှစ်တွင် ကိမ်းဗရစ်တက္ကသိုလ် ပီတာဟောက် ကောလိပ်ကျောင်း၌ဝင်ရောက်ပညာသင်ကြားခဲ့၍ ၁၈၄၅ ခုနှစ်၌ သင်္ချာပညာတွင် ပဌမတန်းဂုဏ်ထူးနှင့် အောင်မြင်ဘွဲ့ရခဲ့သည်။ ထို့ပြင် စမစ်ဆုကိုလည်းရရှိခဲ့သေးသည်။ ထို့နောက် သွန်မဆင်သည် ပါရစ်မြို့သို့သွားရောက်၍ ပြင်သစ်ရူပဗေဒကဝိကြီးရာညိုးထံ၌တနှစ်ကြာမျှပညာဆည်းပူးခဲ့ပြီးလျှင်ပြန်လာသောအခါ ဂလပ်စဂိုးတက္ကသိုလ်၌ သဘာဝ ယထာဘူတပညာ (ရူပဗေဒ) ပါမောက္ခအဖြစ် ဆောင်ရွက်လေသည်။ ထိုအချိန်တွင် သူသည်အသက် ၂၂ နှစ်မျှသာရှိသေး၏။ သွန်မဆင်သည် ၁၈၅၇ ခုနှစ်၌ မီရာဂါလဗါနိုမီတာကို ထွင်သောအခါ၌ ၃၃ နှစ်မျှသာရှိသေးသည်။ ၁၈၆၆ ခုနှစ်တွင် ဆာဘွဲ့ရရှိ၍ ၁၈၉၂ ခုနှစ်တွင် ဗဲရွန်အဖြစ်သို့ တိုးတက်ချီးမြှင့်ခြင်းခံခဲ့ရသည်။ ထိုအချိန်မှစ၍ ဆာဝီလျံသွန်မဆင်အမည်မှပြောင်းလဲကာ လော့ကယ်လဗင်ဟူ၍ခေါ် တွင်ခဲ့လေသည်။

လော့ကယ်လဗင်သည် ၅၃ နှစ်တိုင်တိုင် ဂလပ်စဂိုးတက္ကသိုလ်တွင် ပါမောက္ခအဖြစ်ဆောင်ရွက်ခဲ့၍ ၁၈၉၉ ခုနှစ် တွင် အငြိမ်းစားလေသည်။ ထိုနောက်တွင် အနိစ္စရောက်သည့်တိုင်အောင် သိပ္ပံပညာနှင့်ဆိုင်သောပညာရပ်များကို လေ့လာခဲ့သည်။ သူသည် များပြားလှစွာသော တွေ့ရှိမှုများ၊ တီထွင်မှုများကို အောင်မြင်စွာစွမ်းဆောင်နိုင်ခဲ့လေသည်။ သိပ္ပံပညာစာအုပ်စာတမ်းမြောက်မြားစွာကိုလည်းရေးသားခဲ့သည်။ ထိုစာအုပ်စာတမ်းများမှာ သူ၏ကြံဆချက်များ၊ ဆန်းသစ်သည့်တွေ့ရှိမှုများအကြောင်းနှင့် စပ်လျဉ်းသောစာအုပ်စာတမ်းများဖြစ်သည်။ သူ၏တီထွင်မှုအချို့မှာ သံလိုက်ဓါတ်အနေ့ာင့်အယှက်ကို ကောင်းစွာခံနိုင်ရည်ရှိသည့် သင်္ဘောအိမ်မြှောင် သစ်၊ လျှပ်စစ်အားတိုင်း ကရိယာအသစ်အဆန်း အမျိုးမျိုး စသည်တို့ဖြစ်သည်။ သူထွင်ခဲ့သည့် ပစ္စည်းများသည် များပြားလွန်းသဖြင့် ရေးသားဖော်ပြ၍ဆုံးနိုင်မည်မဟုတ်ချေ။

လော့ကယ်လဗင်သည် အပူမှ ပါဝါအဖြစ်သို့၎င်း၊ ပါဝါမှ အပူအဖြစ်သို့၎င်း၊ ပြောင်းလဲပေးခြင်းနှင့် ဆိုင်သည့် အချက်များကို မြောက်မြားစွာတွေ့ရှိခဲ့သည်။ ထိုတွေ့ရှိမှုများကိုစုပေါင်းလိုက်သောအခါ၊ သာမိုဒိုင်နမစ်ခေါ် သိပ္ပံပညာရပ်ခွဲတခု ပေါက်ဖွားလာလေသည်။

ကယ်လဗင်သည် သူ၏သိပ္ပံပညာနှင့်ဆိုင်သောစွမ်းဆောင်မှုများ အတွက် လူအများ၏ချီးမွမ်းထောမနာပြုခြင်းကို ခံခဲ့ရသည်။ ၁၈၇၁ ခုနှစ်တွင် ဗြိတိသျှအစည်းအရုံး၏ ဥက္ကဋ္ဌအဖြစ်ဖြင့်၎င်း၊ ၁၈၉၀ ပြည့်နှစ်မှ ၁၈၉၅ ခုနှစ်အထိ တော်ဝင်အသင်း၏ဥက္ကဋ္ဌအဖြစ်ဖြင့်၎င်း၊ ၁၉၀၄ ခုနှစ်၌ ဂလပ်စဂိုးတက္ကသိုလ်၏ အဓိပတိအဖြစ်ဖြင့်၎င်း၊ဆောင်ရွက်ခဲ့လေသည်။ ၁၉၀၂ ခုနှစ်တွင် အော်ဒါအော့မဲရစ် (အိုအမ်) ဘွဲ့ထူးကိုရခဲ့၏။ သူသည် အမျိုးမျိုးသောချီးကျူးထောမနာပြုမှုတို့ကို ခံယူခဲ့ရသော်လည်း ရိုးသားစွာပင် နေထိုင်ခဲ့၍ အသက် ၈၃ နှစ်အရွယ် ၁၉၀၇ ခုဒီဇင်ဘာလ ၁၇ ရက်နေ့တွင် ကွယ်လွန်လေသည်။



ရူပဗေဒပါရဂူကြီး လော့ကယ်လဗင်

**ကဲဗော့, ဂျေ** (ခရစ် ၁၄၅၀–၁၄၉၈)။ ။ဂျွန်ကဲဗော့သည် ဂျီနိုးဝါးမြို့သား ဣတာလျံလူမျိုးဖြစ်၍ သူ၏အမည်ရင်းမှာ ဂျီဗန်နီကာဗိုးတိုးဖြစ်သည်။ အင်္ဂလန်သို့ရောက်မှ ဂျွန်ကဲဗော့ဟု အမည်တွင်သည်။ ကဲဗော့သည် ၁၄၅၀ ပြည့်နှစ်လောက် တွင် မွေးဖွားခဲ့သည်။ ၁၁ နှစ်သားအရွယ်တွင် ဗင်းနစ်မြို့သို့သွားရောက်နေထိုင်ခဲ့ပြီးနောက် သင်္ဘောသားအဖြစ် အသက်မွေးခဲ့သည်။ တခါသော် ကဲဗော့လိုက်ပါသွားသောသင်္ဘောသည် အရောင်းအဝယ်အတွက် မက္ကာမြို့သို့ရောက်ခဲ့၏။ ထိုစဉ်က မက္ကာမြို့မှာ အရှေ့တိုင်းမှလာသောကုန်များနှင့် အနောက်တိုင်းမှကုန်များကို ဖလှယ်ရာဈေး

မြို့ကြီးဖြစ်၍၊ အရှေ့တိုင်းမှကုန်များကို ကုန်းလမ်းခရီးဖြင့် အဆင့်ဆင့်သယ်ယူကြရသည်။ ထို့ကြောင့် ယင်းတို့ကို ရေလမ်းမှသယ်ယူနိုင်လျှင် ခရီးလည်းတို၊ မြန်လည်းမြန် မည်ဟု စိတ်တွင်ထင်မြင်မိသည့်အတိုင်း ကဲဗော့သည် ထိုရေလမ်းကို ရှာဖွေရန် စိတ်ကူးခဲ့လေသည်။

၁၄၈၄ ခုနှစ်ခန့်တွင် အင်္ဂလန်ပြည်သို့ပြောင်းရွှေ့နေထိုင်ပြီးနောက် လန်ဒန်နှင့်ဗရစ္စတိုမြို့များရှိ အင်္ဂလိပ်ကုန်သည်ကြီးများအား သူ၏အကြံအစည်ကို ထုတ်ဖော်၍ အကူအညီတောင်းခဲ့သည်။ အင်္ဂလန်မှအနောက်ဖက်သို့ သင်္ဘောလွှင့်သွားခဲ့လျှင် အရှေ့ဖက်ဒေသများသို့ ခရီးတိုတိုနှင့်ရောက်နိုင်မည်ဟု ကဲဗော့သည်ယူဆခဲ့၏။ ကုန်သည်ကြီးများ၏အကူအညီကိုရရှိခဲ့သဖြင့် ခရီးထွက်ရန်စီစဉ်နေဆဲတွင် ကိုလံဗပ်သည် အနောက်အိန္ဒိယကျွန်းများကို ၁၄၉၂ ခုနှစ်တွင် တွေ့ရှိကြောင်းကြားသိခဲ့ရလေသည်။ ထိုစဉ်က အနောက်အိန္ဒိယကျွန်းများကို အရှေ့တိုင်း(ဝါ) အာရှတိုက်၏တစိတ်တဒေသဟု ထင်မှတ်ခဲ့ကြ၏။ သို့ဖြစ်ရာ ကဲဗော့သည် ကိုလံဗပ်သွားခဲ့သောလမ်း၏မြောက်ဖက်ကျသောလမ်းမှ သွားရန် ကြံစည်ပြန်လေသည်။

ကဲဗော့၏အကြံအစည်ကို အင်္ဂလန်ပြည့်ရှင်သတ္တမဟင်နရီဘုရင်က လိုလားသဖြင့် ကဲဗော့အားခရီးထွက်ခွင့်အမိန့်စာချွန်များကို အပ်နှင်းခဲ့၏။ ထိုခွင့်ပြုစာချွန်များကိုရရှိသဖြင့် ကဲဗော့ရှာဖွေတွေ့ရှိသောနယ်မြေများသည် အင်္ဂလန်ပြည်ဘုရင်ပိုင်ဖြစ်ရမည့်ပြင် ထိုသို့ခရီးထွက်ခဲ့သည့်အတွက် ရရှိမည့်အကျိုးအမြတ် ၅ ပုံ ၁ ပုံကိုလည်း ဘုရင်အားပေးဆက်ရမည်ဖြစ်သည်။ ကဲဗော့တို့လုပ်စုအတွက်ကား သူတို့ရှာဖွေတွေ့ရှိသည့်နယ်သစ်များသို့ အခွန်အကောက်မရှိဘဲ ကူးသန်းရောင်းဝယ်ခွင့်ရရှိမည်ဖြစ်လေသည်။ ကဲဗော့သည် ၁၄၉၇ ခု မေလ ၂ ရက်နေ့တွင် 'မက်သယူး' ခေါ် သင်္ဘောကလေးနှင့် ဗရစ္စတိုမြို့မှ ခရီးစတင်ထွက်ခဲ့ရာ၊ ၅၂ ရက်မျှအကြာတွင် နိုဗါစကိုးရှားပြည်နယ်ရှိ ကိပ်ဗရက်တန်ကျွန်းသို့ ရောက်ခဲ့၏။ ထိုဒေသကိုပင် ကဲဗော့သည် အာရှတိုက်၏တစိတ်တဒေသဖြစ်သည်ဟုယုံကြည်ခဲ့သည်။ မည်သို့ဖြစ်စေ၊ သူသည် အင်္ဂလန်ပြည်ဘုရင်၏ကိုယ်စား အင်္ဂလိပ်ပိုင်ဒေသအဖြစ် သိမ်းယူခဲ့၏။ ယင်းသို့ ကဲဗော့ပြုခဲ့ခြင်းဖြင့် နောင်အခါ မြောက်အမေရိကတိုက်တွင် အင်္ဂလိပ်တို့ ကိုလိုနီနယ်သစ်များ တည်ထောင်နိုင်ခဲ့သည်ဟုဆိုရပေမည်။ ကဲဗော့တို့ အင်္ဂလန်သို့ပြန်ရောက်သောအခါ ဟင်နရီဘုရင်က ဆုတော်လာဘ်တော်များပေးသနားရှိ၊ ရိက္ခာတော်များလည်းလစဉ်ထောက်ပံ့စေလေသည်။

၁၄၉၈ ခုနှစ်တွင် ဒုတိယအကြိမ် ခရီးထွက်ရန်အတွက် ဘုရင်ကသင်္ဘော ၂ စင်းပေးသနားခဲ့၏။ ထိုအခါက်တွင် ဂရင်းလန်းကျွန်း၏အရှေ့ဖက်ကမ်းခြေကို တွေ့ရှိခဲ့သည်။ ထို ကမ်းခြေမှ မြောက်ဖက်သို့ခရီးဆက်ပြန်ရာ တဖြည်းဖြည်းအေးလာသဖြင့် သင်္ဘောသားများကခရီးဆက်ရန်ငြင်းဆန်တော်လှန်ကြသောကြောင့် ပြန်ခဲ့ရသည်။ အပြန်ခရီးတွင် ဒေးဗစ်ရေလက်ကြား နှင့် ဗက်ဖင်ကျွန်းတို့ကို ဖြတ်သန်းခဲ့၏။ ကဲဗော့သည် အင်္ဂလန်ပြည်သို့ပြန်ရောက်ပြီးနောက် မကြာမီကွယ်လွန်လေသည်။

ဂျွန်ကဲဗော့၏သားဖြစ်သူ ဆီဗက်စချန်ကဲဗော့ (၁၄၇၆–၁၅၅၇) မှာလည်း ဖခင်ဖြစ်သူနှင့်အတူ ခရီးထွက်ခဲ့သည်က စတင်ထင်ရှားခဲ့သည်။ ဖခင်ဖြစ်သူ ကွယ်လွန်ပြီးနောက် ၁၅၀၈–၁၅၀၉ ခုနှစ်များတွင် အာရှတိုက်သို့ပေါက်သော အနောက်မြောက်ခရီးလမ်းကို စူးစမ်းရှာဖွေယင်း လာဗရာဒေါကမ်းခြေသို့ရောက်ခဲ့သည်။ ၁၅၁၂ ခုနှစ်၌ ပဉ္စမဖါဒီနန်ဘုရင်အား ဂက်စကိုနီနယ်ကို တိုက်ခိုက်ရာတွင် ကူညီရန်အတွက် စေလွှတ်ခဲ့သောအင်္ဂလိပ်စစ်တပ်နှင့်အတူ မြေပုံဆွဲသူအဖြစ် လိုက်ပါသွား၏။ ၁၅၁၈ ခုနှစ်မှစ၍ စပိန်နိုင်ငံ ပဉ္စမချားဘုရင်ထံတွင် နှစ်ပေါင်းများစွာ အမှုထမ်းခဲ့သည်။ ၁၅၂၇ ခုနှစ်တွင် ဆီဗက်စချန်သည် တောင်အမေရိကတိုက်သို့ ရေသစ်မြေသစ်စူးစမ်းရှာဖွေရန်သွားရောက်မည့်စပိန်လူမျိုးတို့အား ခေါင်းဆောင်၍ ဗရာဇီးနိုင်ငံ၊ပလိတ်မြစ်ဝကျယ်၊ ပါရာနားမြစ်၊ ပါရဂွေးမြစ် နှင့် ပတ်ဝန်းကျင်ဒေသများသို့ လှည့်လည်စူးစမ်းရှာဖွေခဲ့ပြီးနောက်၊ ၁၅၃၀ ပြည့်နှစ်တွင် စပိန်နိုင်ငံသို့ပြန်ခဲ့လေသည်။

၁၅၄၇ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ပြန်လာ၍ ရေကြောင်းအကြံပေးအရာရှိအဖြစ်ဖြင့် အမှုထမ်းလေသည်။ နောက်ပိုင်းကာလတွင် အာရှတိုက်သို့ပေါက်သော အရှေ့မြောက်ခရီးလမ်းရှာဖွေရန် သင်္ဘောများစေလွှတ်ခဲ့၏။ ထိုသို့စေလွှတ်လိုက်သောအဖွဲ့တဖွဲ့သည် တခါသော် ပင်လယ်ပြူမှတဆင့် ရုရှနိုင်ငံသို့ရောက်ရှိခဲ့သဖြင့် ရုရှနှင့်ကုန်စည်အရောင်းအဝယ်ဖြစ်ခဲ့သည်။ ဆီဗက်စချန်သည် ဗရစ္စတိုမြို့၌ ၁၅၅၇ ခုနှစ်ခန့်တွင် ကွယ်လွန်လေသည်။

**ကဲရကယ်**။ ။ကဲရကယ်သည် ပါးရှင်းကြောင်မြီးတိုဟူ၍လည်းခေါ်သည့် တောကြောင်တမျိုးဖြစ်သည်။ ထိုတောကြောင်ကြီးမျိုးသည် အရွယ်အားဖြင့် မြေခွေးထက်ယောင်ယောင်မျှကြီးသည်။ ကိုယ်အပေါ်ပိုင်းမှာ နီညိုရောင်ဖြစ်၍ အောက်ဖက်တွင်ပြူယော်ယော်အဆင်းရှိသည်။ ထူးခြားချက်မှာ နားရွက်များသည်နက်၍ အဖျားတွင် ပန်းပွားသဖွယ်ရှည်သော အမွေးစုများရှိခြင်းဖြစ်သည်။ ထို့ပြင် မျက်လုံးအပေါ်တဖက်တချက်တွင် အဖြူပြောက် ၂ စက်စီရှိ၏။ အမြီးရှည်သည်။

ထိုတောကြောင်ကြီးမျိုးကို အာရှတိုက်တောင်ပိုင်းဒေသများနှင့် အာဖရိကတိုက်တွင် အနံ့အပြားတွေ့ရှိရသည်။



မြောက်အမေရိကတိုက် အလာစကာပြည်နယ်တွင် တွေ့ရများ သောကဲရီးဗူးသမင်ဖိုမ

ထိုတိရစ္ဆာန်မျိုးသည် မြက်တောနှင့်ချုံဖုတ်များထဲတွင်နေလေ့ရှိ၍၊ ဒရယ်ကလေးများ၊ ယုန်၊ဥဒေါင်းနှင့်အခြားငှက်ကလေးများကို ဖမ်းယူစားတတ်သော အသားစားသတ္တဝါမျိုးဖြစ်သည်။ သို့ရာတွင် ထိုတောကြောင်များကိုဖမ်းဆီးမွေးမြူထားလျှင် အလွယ်တကူဖြင့် ယဉ်ပါးလာနိုင်သည်။ အိန္ဒိယနိုင်ငံ အချို့ဒေသများတွင် ထိုကြောင်ကြီးမျိုးကို ယဉ်ပါးအောင်မွေးမြူ၍ သမင်၊ ဒရယ်နှင့် ငှက်ကြီးများကို ဖမ်းဆီးရန်သင်ကြားထားတတ်ကြသည်။

**ကဲရီးဗူးသမင်။** ။မြောက်အမေရိကတိုက်ရှိ သမင်တမျိုးကို ကဲရီးဗူးဟုခေါ်သည်။ အခြားသမင်များနှင့်မတူပေ။ ကြီးမားသောဦးခေါင်း၊တိုတုတ်သောလည်ပင်း ခြေထောက်တို့ဖြင့် သန်မာသောအသွင်ကိုဆောင်၏။ ဦးချိုတရမ်းရမ်းနှင့် ကဲရီးဗူးသမင်အုပ်ကြီးများ တောတောင်ခရီးတွင် သွားနေစဉ်ကြည့်လိုက်လျှင် ရှုမငြီးဖွယ်ရာပင်ဖြစ်တော့သည်။

အဖိုနှင့်အမ နှစ်ကောင်စလုံး၌ ဦးချိုများရှိသည်။ သို့သော် အမ၏ဦးချိုမှာ ပို၍သေးသွယ်သည်။ ဦးချိုများမှာ အရင်း၌ကားထွက်၍ နဖူးပေါ်သို့ကုပ်ကျလျက်ရှိ၏။ တဖြည်းဖြည်း ရှည်လာသောအခါ အပေါ်သို့ အတက်အလက်များတိုးထွက်လာသည်။

ခြေထောက်တို့မှာလည်း အတော်ပင်ထူးဆန်းလှသည်။ နွားများကဲ့သို့ခွာနှစ် ခြမ်းကွဲနေ၍ မြေပေါ်နင်းသောအခါ ဘေးသို့ကားထွက်သွား၏။ ရေခဲဖုံးလွှမ်းရာအရပ်ဒေသတို့၌ ခြေမချော်စေရန် ဖန်တီးပေးသကဲ့သို့ရှိသည်။

မြောက်အမေရိကတိုက်အပြင် ဥရောပတိုက်၊ အာရှတိုက်၊ နော်ဝေးနိုင်ငံ၊ လက်ပလန်နှင့် ဆိုက်ဗီးရီးယားနယ်ပယ်တို့တွင်လည်း ကဲရီးဗူးသမင်များကို တွေ့ရပေသည်။ နော်ဝေးနှင့်ဆိုက်ဗီးရီးယားတို့၌ ရေခဲပေါ်တွင် လှည်းဆွဲရန်အသုံးချ၏။ အချို့ကလည်း နို့ညှစ်ယူရန် အမြောက်အမြား မွေးမြူထားသည်။

ကဲရီးဗူးသမင်အရိုင်းတို့သည် အုပ်ကြီးများဖွဲ့ကာ ရာသီအလိုက် တနေရာမှတနေရာသို့ ပြောင်းရွှေ့နေထိုင် သွားလာကြသည်။ နွေဥတု၌ မြက်များ စိမ်းစိမ်းစိုစိုရှိစဉ်တွင် မြောက်ပိုင်းကဲရီးဗူးသမင်တို့သည် ချိုင့်ဝှမ်းများ၌ မြက်နုသစ်ရွက်နုကို ရှာဖွေစားကာ နေထိုင်ကြ၏။ ဆောင်းဦးပေါက်တွင် ကမ်းခြေသို့ဆင်းသက်၍ ပင်လယ်ကျောက်ပွင့်တို့ကိုစားသောက်သည်။

ရာသီဥတုလည်း တဖြည်းဖြည်းအေးသည်ထက်အေးလာသောအခါ၊ နှင်းဖြင့်ပြည့်ဝလျက် ရှိသောလေအေး၏ ဒဏ်ကို မခံနိုင်သောကြောင့် ကုန်းမြေမြင့်တောကြို အုံကြားတို့သို့

တက်ရောက်ကာ သစ်ကပ်မှော်ပင်ကလေးတို့ကိုသာစါးလျက် ဆောင်းဥတုကိုကုန်လွန်စေ၏။ နှင်းအနည်းငယ် ပျော်စပြုလျှင် ကုန်းမြင့်ပေါ်မှဆင်းသက်၍ တနေရာမှတနေရာသို့ လှည့်လည်ပြန်သည်။ စစ်တပ်ကြီးတခု ချီတက်သကဲ့သို့ရှိ၍ ကဲရီးဗူးသမင်တို့၏အော်မြည်သံ ခွာသံများကို အဝေးကပင် ကြားနိုင်သည်။

ကဲရီးဗူးသမင်များတွင် တောကဲရီးဗူးနှင့် ကွင်းပြင်ကဲရီးဗူးဟူ၍ ၂ မျိုးကွဲပြားသည်။ အမေရိကတိုက်ရှိတောကဲရီးဗူးများသည် ကွင်းပြင်ကဲရီးဗူးများထက်ကြီး၍ အမူအကျင့်မတူပေ။ ကနေဒါနိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုမြောက်ပိုင်းတောများတွင်သာ တနှစ်လုံးလိုလိုနေတတ်ကြ၏။ သို့သော် နွေအခါတွင် တခါတရံတောတောင်များကိုစွန့်ခွာ၍ ကွင်းပြင်များသို့ ဆင်းသက်သွားလာလှည့်လည်ကြသည်။

ကွင်းပြင်တို့၌နေသောကဲရီးဗူးသမင်များသည် အခြားသမင်များကဲ့သို့ ခုန်ပေါက်ခြင်းမရှိပေ။ ခုန်ရန်လည်းမလိုပေ။ တောကဲရီးဗူးတို့မှာမူ သစ်တုံး၊ ချောက် စသည်တို့ကိုခုန်ကျော်ရသည့်အပြင်၊ ရန်သူပေါများရာအရပ်ဖြစ်သောကြောင့် ခုန်ပေါက်နိုင်မှဘေးလွတ်ပေမည်။ သဘာဝကားအခြေအနေပတ်ဝန်းကျင်နှင့်လျော်ညီစွာ နေနိုင်အောင် ဖန်တီးပေးတတ်သည်။ (သမင် — ရှု)။

# ပုံပြောကောင်းသော သင်္ချာဆရာကြီး

**အင်္ဂလိပ်စာပေလောကတွင် မရှိနိုင်သောဝတ္ထုတပုဒ်ဖြစ်သည့် 'အဲလစ်ကလေး၏ ထူးဆန်းသောအိပ်မက်' မှာ ကျော်သလောက် ကောင်းသောကလေးပုံပြင်ဖြစ်၍ မြန်မာကလေးများအကြိုက်ပင်ဖြစ်ပေမည်။ ထိုဝတ္ထုဖြစ်ပေါ်လာသည်မှာ အောက်ပါအတိုင်းပင်။**

**ကဲရော, အယ်** (ခရစ် ၁၈၃၂-၁၈၉၈)။ 'အဲလစ်ကလေး၏ ထူးဆန်းသောအိပ်မက်' အမည်ရှိ စာအုပ်နှင့် 'ကြေးမုံပြင် ထဲဝယ်' အမည်ရှိ စာအုပ်နှစ်အုပ်ဖြင့် အင်္ဂလိပ်စာပေလောကတွင် ထင်ရှားလာခဲ့သော လူးဝစ်ကဲရောသည်ကား အင်္ဂလန်ပြည် ချက်ရှိုင်ယာနယ် ဒဲရီးစဗါရီမြို့၌ ၁၈၃၂ ခုနှစ်ဇန်နဝါရီလ ၂၇ ရက်နေ့တွင် ဖွားမြင်သည်။ သူ၏ဖခင်မှာ ချားဒေါ့ဂျဆန် အမည်ရှိ အင်္ဂလိပ်ဘုန်းကြီး တပါးဖြစ်လေသည်။

လူးဝစ်ကဲရောမှာ ကလောင်အမည်ဖြစ်၍ နာမည်ရင်းမှာချား လတ်ဝစ် ဒေါ့ဂျဆန်ဖြစ်သည်။ သူသည် ရပ်ဂဘီကျောင်းနှင့် ခရိုက်စချပ်ကောလိပ်ကျောင်းတွင် ပညာသင်ကြားခဲ့သည်။ ထိုကောလိပ်ကျောင်းမှာအောက်



အင်္ဂလိပ်စာပေလောကတွင် ထင်ရှားသည့် 'အဲလစ်ကလေး၏ ထူးဆန်းသောအိပ်မက်' ဝတ္ထုရေးသူလူးဝစ်ကဲရော

စဖို့တက္ကသိုလ်တွင် ပါဝင်၏။ ဒေါ့ဂျဆန်သည် သင်္ချာပဌမတန်းဂုဏ်ထူးနှင့် အောင်မြင်ပြီးနောက် ၁၈၅၅ ခုနှစ် ကစ၍ ထိုကောလိပ်ကျောင်းတွင်ပင် သင်္ချာကထိကဖြစ်ခဲ့လေသည်။

ဒေါ့ဂျဆန် စာပေပို့ချသော ခရိုက်စချပ်ကောလိပ်ကျောင်း၏ မဟာဌာနမှူးတွင် သမီးကလေး ၃ ယောက်ရှိ၏။ လူပျိုကြီးဒေါ့ဂျဆန်သည် ထိုကလေးမများနှင့် ခင်မင်ရင်းနှီး၍ ထိုကလေးများကို မိမိ၏သားသမီးများပမာချစ်ခင်ခဲ့လေသည်။ ထို ၃ ယောက်အနက် အဲလစ်လစ်ဒဲ အမည်ရှိကလေးမကို ဒေါ့ဂျဆန်သည် အထူးပိုမို၍ချစ်ခင်ယုယခဲ့သည်။

ဒေါ့ဂျဆန်သည် 'အဲလစ်ကလေး၏ ထူးဆန်းသောအိပ်မက်' ပုံပြင်ဝတ္ထုကို သူချစ်သည့်

အဲလစ်ကလေးအတွက်ရည်စူး၍ ရေးသားခဲ့လေသည်။ ထိုသို့ရေးသားရာတွင် မိမိမှာသင်္ချာကထိကတဦးဖြစ်နေသဖြင့် မိမိ၏နာမည်ရင်းကိုမသုံးဘဲ လူးဝစ်ကဲရောဟူသော ကလောင်အမည်ဖြင့် ရေးသားခဲ့၏။ သို့ဖြစ်၍ စာဖတ်ပရိသတ်များက၊ အထူးသဖြင့် ကလေးသူငယ်များက သူ့ကို လူးဝစ်ကဲရောအဖြစ်ဖြင့်သာ သိကြလေသည်။ သင်္ချာကထိကကြီးဒေါ့ဂျဆန်ကိုကား သိရှိသူအလွန်နည်းပါးလှသည်။

'အဲလစ်ကလေး၏ ထူးဆန်းသောအိပ်မက်' စာအုပ်မှာ ကလေးသူငယ်များအတွက် အထူးကောင်းမွန်သောစာအုပ်ဖြစ်၍၊ ယနေ့အထိထွက်ပြီးခဲ့သမျှသောကလေးစာအုပ်များထဲတွင် စိတ်ဝင်စားဖွယ်အကောင်းဆုံးဖြစ်ပေသည်။ ထိုဝတ္ထုတွင် အဲလစ်ကလေးသည် တနေ့သ၌ အိပ်ပျော်နေစဉ် အိပ်မက်ထဲတွင် ထူးဆန်းသောတိုင်းပြည်တပြည်သို့ရောက်သွားပုံကို ကလေးသူငယ်များအကြိုက်ဖြစ်အောင်၊ ရယ်ဖွယ်၊ လွမ်းဖွယ်၊ စိတ်လှုပ်ရှားဖွယ် အဖြစ်အပျက်များဖြင့် တန်ဆာဆင်၍ ရေးသားထားလေသည်။ ပုံထဲတွင် ပါဝင်သောတိရစ္ဆာန်များနှင့် ထူးဆန်းသောသတ္တဝါကလေးများမှာ အထူးပင်စိတ်ဝင်စားဖွယ်ကောင်းသဖြင့်၊ ထိုစာအုပ်ကို ကလေးသူငယ်များသာမက လူကြီးများပင်နှစ်ခြိုက်ကြလေသည်။

ဒေါ့ဂျဆန်သည် သင်္ချာဘာသာရပ်ဆိုင်ရာစာအုပ်များကိုလည်း ရေးသားခဲ့၏။ သို့သော် သူ့အမည်ကျော်ကြားခဲ့သည်မှာ ထိုစာအုပ်များကြောင့်မဟုတ်ဘဲ၊ အထက်ဖေါ်ပြပါ ပုံပြင်ဝတ္ထုစာအုပ်ကလေး ၂ အုပ်ကြောင့်သာလျှင်ဖြစ်ပေသည်။

၁၉၃၂ ခုနှစ်တွင် သူ၏အနှစ် ၁၀၀ မြောက်မွေးနေ့အထိမ်းအမှတ်ကို ကမ္ဘာတဝှန်းလုံး တိုင်းပြည်အနှံ့အပြား၌ကျင်းပခဲ့သည်။ အထူးသဖြင့် အဲလစ်လစ်ဒဲနေထိုင်လျက်ရှိသော အမေရိကန်ပြည်ထောင်စုတွင် ကြီးကျယ်ခမ်းနားစွာ ကျင်းပခဲ့လေသည်။

# အဲလစ်ကလေး၏ ထူးဆန်းသောအိပ်မက်

ပူပြင်းလှသောနေ့လယ်ပိုင်းနေရှိန်ကြောင့် ပူအိုက်ခြောက်သွေ့ကာပျင်းရိငြီးငွေ့ဖွယ်ဖြစ်ရသည့်အထဲတွင်၊ ပျားပိတုန်းတို့၏ တဝီဝီညည်းသံသည် သစ်ပင်ရိပ်တွင်လဲလျောင်းနေသော အဲလစ်ကလေးအား အပျင်းပိုကာငိုက်မျဉ်းလာစေ၏။

ဖြည်းညှင်းစွာ တိုက်ခတ်လျက်ရှိသောလေပူဒဏ်ကြောင့် နွမ်းလျနေသော အဲလစ်၏မျက်လုံးကလေးများသည် တဖြည်းဖြည်းမှေးမှိတ်ကာအိပ်ပျော်တော့မည့်ဆဲဆဲတွင် ရုတ်တရက် မိမိရှေ့နားသို့ မျက်လုံးနီနီနှင့် ယုန်ဖြူကလေးတကောင်ရောက်လာသည်ကို မြင်လိုက်သောအခါ၊ အဲလစ်ကလေးသည် ငိုက်မျဉ်းခြင်းပြေပျောက်၍ ယုန်ကလေးကိုငေးကြည့်နေမိလေသည်။ ယုန်ဖြူကလေးသည် အဲလစ်ကလေးအနီးသို့ရောက်လတ်သော် ပြေးလာသောကိုယ်ရှိန်ကိုသတ်လိုက်၍ ခေတ္တမျှရပ်တန့်ပြီးလျှင်၊ ဝတ်ထားသောကိုယ်ကျပ်အင်္ကျီအိတ်ထဲမှ နာရီကလေးကိုထုတ်ကြည့်လိုက်၏။ ထိုနောက်အလွန်အရေးကြီးသောကိစ္စရှိနေသည့်အလားယခင်ကထက်ပိုမိုလျင်မြန်စွာ ပြေးသွားသည်။ ဤသို့အင်္ကျီကိုဝတ်၊ အိတ်ဆောင်နာရီကိုကိုင်ဆောင်သော ထူးထူးဆန်းဆန်းယုန်ကလေးမျိုးကို မတွေ့မြင်ဘူးခဲ့သောအဲလစ်ကလေးသည် ဆက်လက်ကြည့်ရှုလိုသောစိတ်ဆန္ဒကြောင့် ယုန်ကလေးနောက်သို့အပြေးလိုက်သွားလေသည်။

ပြေးယင်းလိုက်ယင်းဖြင့် လိုဏ်ခေါင်းတခုထဲသို့ရောက်သွားကြ၏။ လိုဏ်ခေါင်းအဆုံးသို့ရောက်သော် အဲလစ်ကလေးသည် ကြီးမားသောတံခါးကြီးများရှိ၍ မီးအိမ်များတပ်ဆင်ထားသောအခန်းကျယ်ကြီးတခုထဲသို့ရောက်နေမိကြောင်း သိရလေသည်။ အခန်းကြီး၏အလယ်တွင် ဖန်သားအတိပြီးသော သုံးချောင်းထောက်စားပွဲငယ်ကလေးကို ရွှေသော့ကလေးတချောင်းတင်လျက်သားနှင့် တွေ့ရသည်။ အဲလစ်ကလေးသည် ထိုသော့ငယ်ဖြင့် တံခါးကြီးများကို ဖွင့်စမ်းကြည့်၏။ သို့ရာတွင် အလွန်ကြီးမားလှသောတံခါးသော့ခလောက်ကြီးကို ထိုသော့ငယ်ကလေးဖြင့် ဖွင့်၍မရချေ။

ထိုနောက် အဲလစ်ကလေးသည် ခန်းဆီးတခုကိုတွေ့ရသဖြင့် ခန်းဆီးကိုမလိုက်ရာ နောက်ကွယ်၌ ၁၅ လက်မခန့်မြင့်သောတံခါးငယ်ကလေးတခုကို တွေ့ရသည်။ ရွှေသော့ငယ်ကလေးဖြင့်ဖွင့်ကြည့်လိုက်သော် တံခါးကလေးမှာ အလွယ်တကူပွင့်သွားလေသည်။ သို့ရာတွင် တံခါးပေါက်မှာ အဲလစ်ကလေး၏ ကိုယ်နှင့်မမျှအောင်သေးငယ်ကျဉ်းမြောင်းလှပေသည်။ သို့ဖြစ်၍ တံခါးပေါက်ဝမှအသာချောင်းကြည့်လိုက်သည်တွင် အလွန်လှပသောပန်းဥယျာဉ်ကလေးတခုကိုတွေ့ရလေသည်။ အဲလစ်ကလေးသည် တံခါးကိုပိတ်၍ အခန်းကြီးထဲသို့ပြန်လာခဲ့သည်။ စားပွဲအနီးသို့ပြန်ရောက်လာသောအခါ၊ စားပွဲပေါ်တွင် ဆေးပုလင်းငယ်တလုံးကို တွေ့ရပြန်သည်။ ပုလင်းပေါ်၌ 'ကျွန်ုပ်ကိုသောက်လိုက်ပါ' ဟူ၍ စာတမ်းရေးထားသည်။ အဲလစ်ကလေးသည်သတိကောင်းသူဖြစ်သဖြင့် စာညွှန်းအတိုင်းရုတ်တရက်မသောက်လိုက်ဘဲ၊ 'အဆိပ်' ဟုရေးသားထားသောစာတမ်းပါမပါ စစ်ဆေး

ကြည့်လိုက်သေး၏။ မပါကြောင်းတွေ့ရမှ ပုလင်းကိုဖွင့်၍ မော့ချလိုက်သည့်အဆုံး၌...........

'ဟယ်....ထူးဆန်းလှချည်လား။ အို....ငါ့ကိုယ်လဲတဖြည်းဖြည်းငယ်သွားပါပကော။ ဟင်....ဒီလိုဆိုယင် တကိုယ်လုံးများ ပျောက် သွား တော့ မှာ လား....'အဲ လစ် က လေး သည် အံ့ဩစွာ မြည်တမ်းမိလေသည်။ အံ့ဩမည်ဆိုလျှင်လည်း အံ့ဩလောက်စရာပေ။ အဘယ်ကြောင့် ဆိုသော် ဆေးရည်ကိုသောက်လိုက်သည်နှင့် တပြိုင်နက် သူ့ကိုယ်လုံး ကလေးသည် တဖြည်းဖြည်းသေးငယ်သွားသည်မှာ နောက်ဆုံး၌ တံခါးပေါက်ကလေးမှ ကောင်း စွာ ဝင်သာ အောင် အမြင့် ၁၀ လက်မမျှအထိ အယပ်ပုသွား သောကြောင့် ဖြစ်၏။ ထိုအခါ တံခါးပေါက်ကလေးကိုဖွင့်ရန် ရွှေသော့ကလေးကိုစမ်းကြည့်သည်။ ရွှေသော့ကလေးမှာ ပုလင်းကို ကိုင်ကြည့်စဉ်က စားပွဲပေါ် တွင် အမှတ်မဲ့ချထား ခဲ့မိသော ကြောင့် လက်တွင်ပါမလာတော့ချေ။ ယခုအခါစားပွဲမှာ အဲလစ်ကလေး၏အယပ်ထက် အဆမတန်မြင့်မားနေပြီဖြစ်ရကား အဲလစ်ကလေးမှာ ကြံရာမရဖြစ်ကာ ဒေါသလည်း ထွက်၊ စိတ်လည်းညစ် လှသဖြင့် ထိုင် ၍ ငို နေမိ လေ သည်။ သို့သော်လည်း အရွယ်နှင့်မလိုက်အောင် အသိဉာဏ်ထက်သန်သည့်အလျောက် ကြာရှည်စွာငိုကြွေးမနေဘဲ တစုံတခု ပြုလုပ်ရန် အနီးတဝိုက်ကို ကြည့်လိုက်၏။ ထိုအခါ 'ကျွန်ုပ်ကို စားလိုက်ပါ' ဟုရေးသား ထား သောပန်း စ ာ လုံး များ ပါရှိ သည့် ကိတ်မုံ့ကြီး တ လုံး ကို တွေ့ ရ လေ သည်။ ထိုကိတ်မုံ့ကိုစား လိုက်သောအခါ အဲလစ် ကလေး၏အယပ်မှာ တ ဖြည်း ဖြည်း မြင့်တက် လာ ပြန် သည်။ အဲ လစ် က လေး လည်း အံ့ ဩ လှ စွာဖြင့် မိမိ၏ခြေထောက် ကလေး များကို ငုံ့ကြည့် လိုက်ရာ ခြေထောက်နှင့် ခေါင်းမှာ တဖြည်းဖြည်း ဝေး၍ဝေး၍သွားသည်ကို တွေ့ရ၏။ ထို ထက်မြင့် တက် သွား လျှင်သူ၏ခြေ ထောက် ကို မှုန် မှိုမှုန်မွှား သ ာ မြင် ရ ပြီး နော က် ပျောက် ကွယ် သွားတော့ မည်အ ထင် နှင့် 'ခြေ ထောက် က လေး ရေ... နေရစ်ခဲ့ပေတော့ ဟေ့' ဟူ၍ပင် နှုတ် ဆက် မိ လေ သည်။

ဤကဲ့သို့အယပ်မြင့်လာပြန်သော အခါ တွင် ကား အယပ် ၁၀ လက် မမျှရှိ ခဲ့ စဉ်က အပေါ် သို့ တမျှော် တ ခေါ် ကြီး လှမ်း၍ကြည့်ရသောစားပွဲပေါ် ရှိ သော့ကလေးကို အလွယ်တကူကောက်ယူကာ တံခါး ငယ် က လေး ကို ဖွင့် နိုင် ပြီ ဖြစ် သော်လည်း၊အယပ်မှာ များစွာမြင့်မားနေပြန်သောကြောင့် အ ကြံ ရကျပ် နေ ပြန် ၏။ အဲ လစ် က လေး မှာ စိတ် ညစ် လှသ ဖြင့် ရှိုက်ကြီး တငင် ငိုကြွေး နေသည့်အခိုက် တစုံတယောက်၏ခြေသံကိုကြား ရ၍ ကြည့် လိုက် သောအခါ၊ မိမိ နောက်ယောင်ခံလိုက်လာခဲ့သော ယုန် ဖြူ ကလေးကို တွေ့ရ လေသည်။ ယုန်ကလေးမှာ တစုံတခုအတွက် စိတ်ပူပန်နေဟန်ရှိ၏။ အဲလစ်ကလေးကြည့်နေစဉ်မှာပင် ယုန်ကလေးသည် ရုတ်တရက် အရေးကြီးလာဟန်နှင့် လက်ထဲရှိလက်အိတ် က လေး များ နှင့် ယပ် တောင် တို့ ကို ပစ် ချလိုက် ပြီး နောက် အခန်းထဲမှပြေးထွက်သွားလေသည်။ အဲလစ်ကလေးသည် ထိုပစ္စည်း ကလေး များကို ကောက်ယူကိုင်တွယ်ယင်း 'ငါနှယ်နော်....ဒီယုန်ကလေးလာတုန်းက အကူအညီမမတောင်းလိုက်ရ'ဟု ညည်းတွားမိလျက် တွေးတောငေးမှိုင်နေလေသည်။

အဲလစ် က လေး သည် ကိုင် ထား သော ယပ် တောင် ဖြင့် အမှတ်မဲ့ယပ်ခပ်နေမိ သည်။ ထိုအခါ အလွန် မြင့် မား လှ သောသူ၏အယပ်မှာ တဖြည်းဖြည်းနိမ့်လာ၏။ ယပ်တောင်



တောဆိုး၍ ကလေးချော့နေသည့် မြို့စားကတော်ကြီးနှင့် အဲလစ်ကလေးတို့တွေ့ဆုံခန်း

ကိုအချိန်မှီပစ်မချလိုက်မိလျှင် ကြမ်းပြင်တွင် ပုဝင်ပျောက်ကွယ်သွားမည်လောဟုပင် ထင်ရပေသည်။ ဤကဲ့သို့မဖြောင့်လင့်ဘဲ ရုတ်တရက်ငယ်သွားသောမိမိ၏ကိုယ်ခန္ဓာကလေးကို ကြည့်ရှုအံ့ဩယင်း လျှောက်လာခဲ့ရာ ရေအိုင်ကြီးတခုထဲသို့ ချော်ကျကာ သေရေးရှင်ရေးကူးခပ်ရပြန်သည်။ ထိုရေအိုင်ကား သူ၏အယပ်အလွန်တရာမြင့်မားစဉ်က ကြံရာမရ၍ ငိုကြွေးရာ၌ ကျဆင်းသောမျက်ရည်အိုင်ပင်ဖြစ်ရာ၊ယခုကဲ့သို့ အယပ်လွန်စွာ သေးငယ်သွား သော အခါ ထိုမျက်ရည်အိုင်မှာ တကဲ့ရေအိုင်ကြီးကဲ့သို့ ရှိနေတော့သည်။

အဲ လစ် ကလေး လည်း စို ရွှဲလျက် ရှိ သော အ ဝတ် များ ခြောက် သွေ့စေရန် ရေအိုင် ကမ်း စပ်တွင် ထိုင်နေသည်။ အနီးတွင် ငှက်ငယ်ကလေးများနှင့်တကွ တခါမျှမမြင်ဘူးသော သတ္တဝါကလေးများအပြင် ကြွက်ကလေးတကောင်ကို ပါတွေ့ရ၏။ နှုတ်သီးကောက်ကောက်နှင့် ဒိုဒိုငှက်ကြီးတကောင်က အပြေးပြိုင်ပွဲတခုပြုလုပ်ရန်နှင့် အဲလစ်ကလေးကိုလည်း ထိုပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင် ခြင်း ဖြင့် စိုရွှဲနေသော အဝတ် များ မကြာမီ ခြောက် သွေ့သွား လိမ့် မည်ဟု အကြံပေးလေသည်။ သို့ဖြင့် အပြေးပြိုင်ကြရာတွင် မည်သူနိုင်၍ မည်သူရှုံးသည်ကိုမသိရသော်လည်း အဲလစ်ကလေးမှာ နေရာတခုသို့ တယောက်တည်းရောက်နေကြောင်းတွေ့ရလေသည်။

အနီးအပါးတွင် ယခင်ကယုန်ဖြူကလေးကို တဖန်တွေ့ရပြန်၏။ ယုန်ကလေးမှာ သူ့လောက်မျှသာရှိသော အဲလစ်ကလေးအား မြင်ရသောအခါ ယခင်ကကဲ့သို့မကြောက်ရွံ့တော့ရုံသာမက သူ၏လက် အိတ်ကလေးများကို သွား၍ယူပေးရန်ပင် ခိုင်းလိုက်သေး၏။ လက်အိတ်ကလေးများကို ယူရန် အဲလစ်သည် ယုန်ကလေး၏ လှပသောအိမ်ကလေးအတွင်းသို့ဝင်ရောက်ခဲ့သည်။ အိမ်ကလေးအတွင်း၌ ပုလင်းတလုံးကိုတွေ့ပြန်သဖြင့် အထဲရှိ ဆေး ရည်ကို မော့ သောက်လိုက်လေ၏။

ထိုသို့သောက်လိုက်သည်နှင့်တပြိုင်နက် အယပ်အမောင်းမှာ ရုတ်တရက်ကြီးမားထွားကျိုင်းလာလေတော့ရာ၊ အိမ်ငယ်ကလေးမှာ သူ၏ကိုယ်လုံးနှင့်မဆန့်အောင်ဖြစ်ကာ လက်တဖက်ကို ပြတင်းပေါက်မှ ငုင်း၊ ခြေတဖက် ကို မီးခိုး ခေါင်းတိုင်အပေါက်မှငုင်း၊ အပြင်သို့ထုတ်ထားရ၏။ ယုန်ကလေးလည်း အဲလစ်ကလေးပြန်မလာနိုင်သဖြင့် နောက်ကလိုက်ခဲ့၏။ အဲလစ်ကလေးဖြစ်ပုံကိုမြင်ရသောအခါ ထ၍ခုန်မိမတတ်လန့်ဖျပ်သွားလေသည်။ အဲလစ်ကလေးကို အပြင်သို့ထုတ်ယူနိုင်ရန် အနီးရှိဥယျာဉ်မှူး ကလေး များ ကို ခေါ် ၍ ကြိုးစားထုတ်ယူကြသော်လည်း မတတ် နိုင် ကြတော့ သည့်အဆုံးတွင်၊အိမ်အတွင်းသို့ပြတင်းပေါက်မှ ကျောက်စရစ်ခဲကလေးများကိုပစ်သွင်းကြ၏။ ကျောက် စရစ်ခဲ ကလေး များသည် အိမ်ထဲသို့ရောက်သောအခါ ကိတ်မုံ့တုံးကလေးများဖြစ်သွား၏။ ထိုကိတ်မုံ့ တုံးကလေးများကို အဲလစ်ကလေးသည် ကောက်၍စားလိုက်သည်တွင် သူ၏ကိုယ်မှာ ကြီးရာမှ တဖန် ပြန်လည်သေးငယ်သွားသဖြင့် အိမ်ကလေးထဲမှ ထွက်ပြေး ပြီး သော်၊ တော အုပ် တခု အ တွင်း ၌ ဝင် ရောက် ပုန်းအောင်းနေလေသည်။ ထိုတောအုပ်ထဲတွင် ပေါက်ဖတ်ကြီးတကောင်သည် မှိုပွင့်ကြီးတခုပေါ်၌ ထိုင်၍ဆေးတံရှည်ကြီးကို ခဲ ယင်း၊ အဲလစ် ကလေး ကို မြင် လိုက် သော အခါ သုန်မှုန်သောမျက်နှာဖြင့် မေးခွန်းပေါင်းသောင်းခြောက်ထောင် ကို မေး မြန်း လေ တော့ သည်။ အဲ လစ် က လေး မှာ ထို မေးခွန်းများကို တခုမျှမဖြေနိုင်သောအခါ ပေါက်ဖတ်ကြီးသည် စိတ်တိုလာဟန်ဖြင့် ထွက်ခွာသွားရန်ဟန်ပြင်ယင်း 'မင်းကိုငါတခုပြောမယ်။ ဒီဖက်အခြမ်းဟာ မင့်အယပ်ကို ရှည်လာစေလိမ့်မယ်။ ဟိုဖက်အခြမ်းကတော့ မင့်အယပ်ကို တိုသွားစေလိမ့်မယ်' ဟု ပြောကြား ခဲ့ ၏။ အဲလစ် ကလေးလည်း ကောင်းစွာနားမလည်သဖြင့် 'ဒီဖက်အခြမ်းကတော့ ရှည်လာစေလိမ့်မယ်။ ဟိုဖက်အခြမ်းကတော့ တိုသွားစေလိမ့်မယ်....တဲ့။ ဘာများပြောတာပါလိမ့်။ ဒီဖက်အခြမ်းဆိုတာ ဘာရဲ့ဒီဖက်အခြမ်းလဲ၊ဟိုဖက်အခြမ်းဆိုတာကတော့ ဘာရဲ့ ဟိုဖက်အခြမ်းပါလိမ့်' ဟူ၍ စိတ်ထဲကမေးမြန်းနေမိရာ၊ ပေါက်ဖတ်ကြီးသည် မေးသံကိုကြားရဘိသကဲ့သို့ 'ဒီမှိုကိုပြောတာကွ....ဒီမှို....' ဟူ၍ ပြောယင်း ထွက် ခွာ သွားလေသည်။

အဲလစ်ကလေးသည် ထိုမှိုကြီးကိုထက်ခြမ်းခွဲ၍ တခြမ်းကို စားကြည့်လိုက်လျှင် သူ၏အယပ်မှာ ရှိရင်းစွဲထက်ပင် ရုတ်တရက်အရှိန်ပြင်းစွာ ပုဝင်သွားရာ သူ၏ဦးခေါင်းနှင့်ခြေထောက် တို့ ဖျတ်ခနဲရိုက် မိသွား သည် အထိ ပင် ဖြစ် တော့သည်။ နောက်တဖန် ကျန်တခြမ်းကိုစားကြည့်လိုက်ပြန်သည်တွင် အယပ်မှာတဟုန်တည်း အထက်သို့ထိုးတက်မြင့်မားသွားပြီးနောက် တောအုပ်တခုလုံးမှာ သူ၏အောက်တွင် ကော် ဇော ခင်း ထား သကဲ့ သို့ ပြားနေတော့သည်။ အဲလစ် ကလေး လည်း မှိုကြီးကို ဟိုဖက်တဖဲ့၊ သည်ဖက်တဖဲ့ အနည်းငယ်စီချိန်ဆ စားသောက် ခြင်း ဖြင့် သူ၏ အယပ်မှာ နှုတ်သမီးကလေးအရွယ်မျှ ဖြစ်လာလေသည်။

အဲလစ်ကလေးသည် တောအုပ်အတွင်းမှနေ၍ အိမ်ငယ်ကလေးတလုံး ကိုတွေ့ရသဖြင့် သွား ရောက် ကာ တံခါးကို ခေါက်လိုက်၏။ အတွင်း၌ကား အူသံ၊ အော်သံ၊ ကွဲအက်သံတို့ဖြင့် ဆူညံနေသဖြင့် တံခါးခေါက်သံကိုမည်သူမျှမကြားကြချေ။ အဲလစ်ကလေးသည် တံခါးကိုအသာတွန်းဖွင့်၍ အတွင်းသို့ဝင်ခဲ့ရာတွင် မီးခိုးများလုံးနေသော မီးဖိုခန်းထဲသို့ ရောက်သွားလေသည်။ မြို့စားကတော်ကြီးတဦးသည် ခွေးခြေကလေးပေါ် ထိုင် လျက် မွေးခါစ ကလေး တယောက်ကို




စိတ်မနှံ့သော ဦးထုပ်ချုပ်သမား၏လက်ဖက်ရည်ပွဲ၌ အဲလစ်ကလေး၏ဖြစ်အင်

ချိထားလေသည်။ အနီးတွင် ထမင်းချက်မိန်းမကြီးသည် ဟင်းချိုအိုးထဲသို့ ငရုတ်ကောင်းမှုန့်များကို ခတ်နေ၏။ ငရုတ်ကောင်းမှုန့် အနံ့တို့သည် ကလေးငယ်၏ နှာခေါင်းထဲသို့ဝင်သဖြင့် ကလေးငယ်မှာ ငိုယင်းချေဆတ်လျက်ရှိသည်။ ထမင်းချက်မိန်းမကြီးလည်းဟင်းချိုအိုးထဲသို့ ငရုတ်ကောင်းမှုန့်များထည့်ယင်းပင် မြို့စားကတော်ကြီး ဖက်သို့ လှည့်ကြည့်လှည့်ကြည့်နှင့် ပန်းကန်ပြားများ၊ လက်ဖက်ရည်ကရားများကို လှမ်း၍ပစ်ပေး၏။ မြို့စားကတော်ကြီးသည် ထိုအပြုအမူကို ဂရုမစိုက်ဘဲ၊ ကလေးကို သာချိုမြဲ ချိလျက် သီချင်းတပုဒ်ကို သီဆိုနေလေသည်။ သီချင်းဆိုပြီးသောအခါ အဲလစ်ကလေးဖက်သို့လှည့်၍ 'ရော့၊ မင်းဒီကလေးကို ထိန်းချင်ယင်ထိန်းတော့' ဟုဆိုကာ ကလေးငယ်ကိုပစ်ပေးပြီးလျှင် ထွက်ခွာသွားလေသည်။ ထိုကလေးငယ်သည် အဲလစ်ကလေး၏လက်ထဲသို့ရောက်၍ မကြာမီပင် ဝက်ကလေးတကောင် ဖြစ်သွားလေရာ အဲလစ်ကလေးက အောက်သို့ချလိုက်သည်နှင့်တပြိုင်နက် တောနက်ထဲသို့ပြေးဝင်သွားလေတော့သည်။

အဲလစ်ကလေးလည်း ဆက်လက်ထွက်ခွာလာခဲ့လျှင်အိမ်ကလေးတအိမ်ကိုတွေ့ရှိပြန်၏။ ထိုအိမ်ရှေ့ဥယျာဉ်ရှိ စားပွဲရှည်ကြီးတွင် လက်ဖက်ရည်ပွဲကျင်းပနေကြသည့်စိတ်မနှံ့သော ဦးထုပ်ချုပ်သမား၊ ယုန်တကောင်နှင့် ကြွက်တကောင်တို့ကို တွေ့ရလေသည်။ အဲလစ်ကလေးလာသည်ကိုမြင်သောအခါ 'မလာခဲ့နဲ့ဟေ့။ ဒီမှာနေရာမရှိဘူး'....ဟု ဆီး၍ရိုင်းစိုင်းစွာပြောဆိုကြ၏။ အဲလစ်ကလေးလည်း စိတ်ဆိုးလာသဖြင့် 'ဒီမှာနေရာအများကြီးရှိတယ်'ဟု ခပ်မာမာပြော၍ ဝင်ထိုင်လိုက်လေသည်။

ယုန်သည် အဲလစ်ကလေးဝင်ထိုင်သည်ကို မနှစ်မြို့သဖြင့် 'မဝသေးယင်လဲ....ထပ်သောက်အုံးလေ' ဟု ခနဲ့လိုက်၏။ အဲလစ်ကလေးက 'သောက်မှမသောက်ရသေးတာကို ရှင်ဘယ့်နှယ်ပြောတာလဲ'ဟု ပြန်ပြောလိုက်၏။

သူတို့ပြုမူပုံမှာ ရိုင်းစိုင်းလှသဖြင့် အဲလစ်ကလေးလည်း ကြာကြာမထိုင်ဘဲထွက်လာခဲ့လေသည်။ ထိုအချိန်၌ ယုန်နှင့်ဦးထုပ်ချုပ်သမားသည် အိပ်ငိုက်နေသောကြွက်ကို လက်ဖက်ရည်ကရားထဲသို့ ဆွဲနှစ်လျက် ပြောင်လှောင်ကစားယင်း ကျန်ရစ်ခဲ့ကြလေသည်။

အဲလစ်ကလေးသည် သူ ပဌမဆုံးတွေ့ခဲ့ရသော အခန်းကြီးသို့ပြန်သွားပြီးလျှင် ရွှေသော့ကလေးဖြင့် တံခါးပေါက်အငယ်ကလေးကိုဖွင့်လိုက်၏။ ထိုနောက် သူ့ကိုယ်ကို



အဲလစ်ကလေးနှင့် ဖဲပွင့်မိဖုရားကြီးတို့တွေ့ဆုံစဉ်

ယုန်ဖြူကလေး ပဌမဆုံးပေါ်လာသည်ကို မြင်လိုက်ရစဉ်ကကဲ့သို့ပင် သူ့အစ်မ၏ ပေါင်ပေါ်၌ မှီ၍အိပ်နေမိသည်ကို သတိရလာလေသည်။

'ညီမလေး.... နိုးလာပြီလား။ ထတော့လေ။ လက်ဖက်ရည်သောက် ချိန် တောင် ရောက်လာပြီ'....

သူ့အစ်မက ပြုံးရွှင်စွာပြောကြားလိုက်လေသည်။ ။

**ကဲလား,အိပ်**(ခရစ် ၁၈၈၀ ဖွား)။ ငယ်စဉ်မှစ၍ စက္ခုနှစ်ကွင်းအလင်းမရသည့်ပြင် နားလည်းပင်း စကားလည်းမပြောတတ်အောင် အနေသူ တဦးသည် အသက်အရွယ်မလွန်မီအတွင်း ဝိဇ္ဇာဘွဲ့ရအောင်ယူနိုင်သည်ဆိုလျှင် လူတိုင်းအံ့သြကြပေလိမ့်မည်။ ထိုသို့လူတိုင်းအံ့သြလောက်အောင်ဝိဇ္ဇာဘွဲ့ထူးကိုသာမက အယ်၊ အယ်၊ ဒီဘွဲ့ကိုပင်ဆွတ်ခူးနိုင်စွမ်းခဲ့သူကား ဟယ်လင်ကဲလားဆိုသူ အမေရိကန်အမျိုးသမီးပင်ဖြစ်လေသည်။

ဟယ်လင်ကဲလားသည် ၁၈၈၀ ပြည့်နှစ် ဇွန်လ ၂၇ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စု အယ်လဗါးမားပြည်နယ်တပ်စကမ်းဗီးယားမြို့၌ မွေးဖွားခဲ့လေသည်။ ၁ နှစ်နှင့် ၇ လသမီးအရွယ်ရောက်သောအခါ စကားလက်ဖျား ရောဂါပြင်းထန်စွာစွဲကပ်၍ မိဖများက သမီးချစ်၏အသက်ကိုရွှေနှင့်စက်၍လဲယူခဲ့ရလေသည်။ ထိုသို့ငွေကြေး မြောက်မြားစွာအကုန်ခံသည့်အတွက် အသက်မသေသော်လည်း မျက်စိကွယ်၊ နားပင်းဖြစ်ခဲ့သည်။ စကားလည်းမပြောနိုင်ခဲ့ချေ။ ဟယ်လင်ကလေး ၆ နှစ်သမီးအရွယ်တွင် မိဖနှစ်ပါးသည် သမီး၏ပညာသင်ကြားရေးအတွက်စိုးရိမ်လှသဖြင့် နားကုဝိဇ္ဇာ (စကားပြောကြေးနန်းစတင်တီထွင်သူ) ဒေါက်တာအယ်လက်ဇန္ဒာဂရေဟမ်ဗဲထံသွားရောက်ပြသကြည့်လေသည်။ ဒေါက်တာဗဲ၏ညွှန်ကြားချက်အရ မစ္စအန်း ဆာလီဗန် အမည်ရှိ ဝိဇ္ဇာဘွဲ့ရတဦးထံ သင်ကြားစေလေသည်။ မစ္စဆာလီဗန်မှာ ငယ်စဉ်ကမျက်စိမမြင်ခဲ့ဘဲ ကြီးမှပျောက်ကင်း၍ ထူးချွန်လာသူဖြစ်သည်။

ဟယ်လင်သည် မစ္စဆာလီဗန်၏အသင်အပြကိုခံယူခြင်း၊

အယပ်တပေမျှအထိငယ်သွားအောင် မှိုစကလေးများကို စားလိုက်ပြီးလျှင် ထိုတံခါးပေါက်ကလေးမှတဆင့် ပန်းဥယျာဉ်ကလေးထဲသို့ ပြေးဝင်လာခဲ့လေသည်။ ဥယျာဉ်ထဲတွင် ယခင်ကတွေ့ခဲ့သောမှိုစားကတော်ကြီးသည် ယုန်ဖြူကလေးနှင့်တကွ ဖဲပွင့်ဘုရင်၊ ဖဲပွင့်မိဖုရားတို့နှင့်အတူ ကစားလျက်ရှိကြသည်ကို တွေ့ရ၏။ ဖဲပွင့်မိဖုရားကြီးလည်း အဲလစ်ကလေးကိုမြင်သောအခါ ကပွဲတခုသို့ခေါ်သွား၏။ ကပွဲတွင် မခံမရပ်နိုင်အောင် အစခံရသောကြောင့် အဲလစ်ကလေးသည် အလွန်အမင်းစိတ်ဆိုးလာ၏။ သို့သော် ထိုခဏ၌ သူ၏အယပ်မှာ ပကတိအရွယ်အတိုင်းပြန်ဖြစ်လာလေသည်။ အနီးအပါးတွင်လည်း ဖဲပွင့်မိဖုရားကြီးနှင့်တကွ မည်သူတဦးတယောက်ကိုမျှ မတွေ့ရတော့ချေ။ အဲလစ်ကလေးလည်း စိတ်ဆိုးလာလျက်....

'ဟင့်အင်း....ဟင့်အင်း....ဘာမှလဲမရှိဘဲနဲ့....ဖဲထုပ်ကြီးဘဲဥစ္စာ၊ဘာမှလဲမဟုတ်ဘူး' ဟု အော်ငိုပြီးလျှင် ဖဲထုပ်ကြီးကို လွှင့်ပစ်လိုက်လေသည်။ ဤတွင် အဲလစ်ကလေးမှာ မျက်စိကိုပွတ်သပ်ယင်း နိုးလာတော့၏။ ထိုအခါ သူ့ရှေ့တွင်

ဗော်စတန်မြို့ ပါကင်မျက်မမြင်ကျောင်းမှသင်ခန်းစာများကိုလိုက်ခြင်းတို့ကြောင့် တဖြည်းဖြည်းစာတတ်လာသည်။ ဆရာ့ပါးစပ်နှင့်လည်ချောင်းကို သူ့လက်နှင့်ထိထားရုံဖြင့် စကားကိုနားလည်သည့်အလေ့အကျင့်ရခဲ့သည်။ ထိုမျှသာမက စကားလည်းပြောတတ်လာလေသည်။ ၁၉၀၀ ပြည့်နှစ်တွင် ရက်ကလစ်ကောလိပ်ကျောင်းသို့တက်ရောက်သင်ကြားရာ ၁၉၀၄ ခုနှစ်တွင် ဝိဇ္ဇာဘွဲ့ထူးကို ဂုဏ်ထူးဖြင့်ဆွတ်ခူးခဲ့လေသည်။ ၁၉၃၂ ခုနှစ်တွင် ဂလပ်စဂိုးတက္ကသိုလ်မှနှင်းအပ်သော အယ်လ်အယ်လ်ဒီဘွဲ့ကိုပင်ရရှိခဲ့လေသည်။

ယင်းသို့ဖြင့်ဟယ်လင်ကဲလားသည် သာမန်လူတို့ဆွတ်ခူးရန်အထူးခဲယဉ်းသောဘွဲ့ထူးများကိုရရှိခဲ့သည်။ မျက်မမြင်နားမကြားသူတို့၏လောကတွင် ဟယ်လင်ကဲလားကဲ့သို့ထူးချွန်သူကား ရှားလှပေသည်။ ဟယ်လင်သည် ဘာသာမျိုးစုံတတ်မြောက်၍ 'ကျွန်ုပ်၏ဘဝ'၊ 'ကျွန်ုပ်၏လောက' စသည့်စာအုပ်များကို ရေးသားထုတ်ဝေခဲ့သည်။ မျက်မမြင်နားမကြားသူတို့၏ပညာရေး လောကတွင် အားကျဖွယ်အမျိုးသမီးကြီးပင်ဖြစ်လေသည်။ ကမ္ဘာစစ်ကြီးများအတွင်းက ခြေကျိုး၊ လက်ကျိုး၊ ဆွံ့အ၊ နားပင်း၊ စစ်သည်များအတွက် ဟယ်လင်ကဲလားသည် စိတ်အားတက်ဖွယ်စံပြသာဓကဖြစ်ခဲ့သည်။ ထိုသူများ၏အကျိုးကို အထူးကြိုးပမ်းဆောင်ရွက်လျက်ရှိလေသည်။



ဒုက္ခိတဟယ်လင်ကဲလား (လက်ဝဲပုံ) သည် 'ဘ' နေစဉ်အချိန်က စာပေကို ဤသို့လက်ချောင်းကလေးများဖြင့်သင်ယူခဲ့၏။

**ကဲလေးမြို့**။ ။ကဲလေးမြို့သည် ဒိုဗာရေလက်ကြားပေါ်၌ရှိသော ပြင်သစ်ဆိပ်ကမ်းမြို့ဖြစ်၍၊ အင်္ဂလန်ပြည်ဒိုဗာကမ်းခြေနှင့် ၂၂ မိုင်မျှသာကွာဝေးသည်။ တူးမြောင်းများဆုံရာတွင်တည်ရှိသည့်ပြင်၊ ၁၇ မိုင်မျှကွာဝေးသောပါရစ်မြို့တော်သို့လည်း မီးရထားလမ်းဖြင့်ဆက်သွယ်လျက်ရှိသည်။ နှစ်တရာစစ်ပွဲအတွင်း၌ ကဲလေးမြို့သည် အင်္ဂလိပ်တို့၏အခြေခံစခန်းတခုဖြစ်၏။ ၁၃၄၇ ခုနှစ်မှ ၁၅၅၈ ခုနှစ်အထိ အင်္ဂလိပ်တို့၏လက်အောက်သို့ကျရောက်ခဲ့လေသည်။

ဆိပ်ကမ်းကောင်းရှိသည့်အလျောက် ယခုခေတ်တွင်စည်ကားတိုးတက်လျက်ရှိသည်။ ဒိုဗာမြို့သို့ မီးသင်္ဘော၊ ရေအောက်ကြေးနန်းတို့ဖြင့်ဆက်သွယ်ထားရာ ဥရောပတိုက်နှင့်အင်္ဂလန်ပြည် ဆက်သွယ်ရာခရီးလမ်းတွင် အရေးပါသောဆိပ်ကမ်းမြို့တမြို့ဖြစ်နေလေသည်။ စက်ထိုးဇာလုပ်ငန်း၊ ဖန်ထည်လုပ်ငန်း၊ အထည်ရက်လုပ်ငန်း၊ ငါးဖမ်းခြင်းလုပ်ငန်းတို့ကို အထူးတလည်လုပ်ကိုင်လျက်ရှိသည့်ပြင် သိုးမွေး၊ သကြား၊ ကောက်သီးကောက်နှံ၊ အရက်၊ ကြက်ဥ၊ ငှက်ဥတို့ကိုလည်း အတော်အသင့်ရောင်းဝယ်ဖေါက်ကားလျက်ရှိသည်။

ပဌမကမ္ဘာစစ်အတွင်း၌ ကဲလေးမြို့သည် ဂျာမန်တို့၏တိုက်ခိုက်မှုကိုကြံ့ကြံ့ခံ၍တွန်းလှန်နိုင်ခဲ့သော်လည်း၊ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ်၌မူ၊ ဂျာမန်တို့၏လက်တွင်းသို့ကျဆင်းခဲ့ရလေသည်။ ဂျာမန်တို့သည် အင်္ဂလန်ကိုတိုက်ရန်အတွက် ကဲလေးမြို့ကိုအခြေခံစခန်းပြုလုပ်ခဲ့ကြ၏။ ဂျာမန်နှင့်အင်္ဂလိပ်တို့ အပြန်အလှန်ဗုံးကြဲတိုက်ခိုက်ကြသဖြင့် ကဲလေးမြို့မှာ များစွာပျက်စီးခဲ့လေသည်။ ၁၉၄၄ ခုနှစ်တွင် ကနေဒီယန်တပ်များအပြင်းအထန်ဝန်းရံတိုက်ခိုက်သည်ကိုမခံရပ်နိုင်သည့်အတွက် ဂျာမန်တို့သည် ကဲလေးမြို့ကို လက်လွှတ်ကြရလေသည်။ ကဲလေးမြို့၏လူဦးရေမှာ ၅၀,၀၄၈ ယောက်ခန့်ရှိ၏။

**ကော့ကနီး**။ ။လန်ဒန်မြို့သားများကို 'ကော့ကနီး' ဟုပြောင်လှောင်ခေါ်ဝေါ်လေ့ရှိကြ၏။ သို့သော် အထူးသဖြင့်ချိပ်ဆိုက်အရပ်ရှိ စိန်မေရီ–လီ–ဗိုးခေါ် ရှေးဘုရားရှိခိုးကျောင်းကြီးမှခေါင်းလောင်းသံကြားနိုင်သည့်အရပ်အတွင်းမွေးဖွားကြီးပြင်းလာသူတို့ကိုသာ ကော့ကနီးဟုခေါ်ဝေါ်ကြလေသည်။

ကော့ကနီးဆိုသည့်အင်္ဂလိပ်စကား၏ ဇာစ်မြစ်ကိုစိစစ်ရှာဖွေခဲ့သူ ဆာကျိမ်းမာရေး၏အဆိုအရ၊ ထိုစကားမှာ 'ကြက်ဖ၏ဥ' ဟုအဓိပ္ပါယ်ရ၍ ကြက်မတန်းမများတခါတရံအုတတ်

သော ပုံပန်းမကျသည့်ဥသိမ်ဥသေးတို့ကိုခေါ် သောအမည် ဖြစ်လေသည်။ ထိုနောက် လူရိုးလူအကို ကော့ကနီးဟုခေါ် ဝေါ်ကြပြန်၏။ ထိုမှတဆင့် တက်၍ တောဓလေ့ကို နား မလည်သောမြို့သူမြို့သားတို့အားတောနေလူများက ကော့ ကနီးဟုခေါ်ကြလေသည်။ သို့သော် ယခုအခါလန်ဒန်မြို့ ပေါ်တွင်တွေ့ကြုံရမည့်ကော့ကနီးတို့မှာ အရာရာတွင်လျင် မြန်ဖျတ်လတ်၍ အကင်းပါးသူများဖြစ်ပေသည်။ ၁၉ ရာစု နှစ်အစလောက်တွင် ကော့ကနီးသံနေသံထားကိုပြောဆိုသုံး စွဲသူများသည် ‘ ဝ ’ ကို ‘ ဗ ’၊ ‘ ဗ ’ ကို ‘ ဝ ’ ဟုပြောဆိုတတ် သည်။ ထိုပြင် ‘ အပေါက် ’ ကို ‘ အဗက် ’၊ ‘ နောင်း ’ ကို ‘ နှ ’ ဟူ၍၎င်း၊အထူးသဖြင့် ‘ ဟ ’ သံကို ‘ အ ’ သံဖြင့်၎င်း ‘ ဂသတ် ’ သံကို ဖျောက် ၍ ၎င်း၊ ပြော ဆို လေ့ရှိကြသည်။ သို့သော် ကော့ကနီးသံနေသံထားအတိုင်းကို စာမတတ်သူ များသာ ပြောဆိုလေ့ရှိကြသည်ကိုတွေ့ရလေသည်။

**ကော့ကရိတ်မြို့**။ ။ကော့ကရိတ်မြို့သည် အောက်မြန်မာပြည် တနင်္သာရီတိုင်း၊ ကျိုက္ခမီခရိုင်၊ ကော့ကရိတ်နယ်၏ နယ်ပိုင်ရုံးစိုက်ရာမြို့ဖြစ်၍၊မော်လမြိုင်မြို့အရှေ့ဖက် မိုင် ၅၀ ခန့်အကွာတွင်တည်ရှိ၏။ မော်လမြိုင်မြို့မှ ဂျိုင်းမြစ်အတိုင်း မိုင် ၄၀ ခန့်ဆန်တက်ကာ ဟောင်သရောမြစ်လက်တက် ဖက်သို့ချိုးဝင်ပါက ကျုံဒိုးရွာသို့ရောက်၍၊ ထိုမှတဆင့်မော်တော်ကားဖြင့် ကော့ကရိတ်မြို့သို့ ၁၅ မိုင်ခန့်သွားရသည်။

ကော့ကရိတ်မြို့သည် ယိုဒယား မြန်မာနယ်စပ်ဖြစ်သော မြဝတီမြို့ နှင့် ၄၁ မိုင်မျှ သာ ကွာ ဝေး၍ ကား လမ်းဖြင့် ဆက်သွယ်ထား၏။ သို့ဖြစ်၍ ကော့ကရိတ်မြို့မှာ ယိုးဒယား နှင့် မြန်မာကူးသန်းရောင်းဝယ်ရေးတွင် အချက်အခြာဌာန တခုဖြစ် လေ သည်။ ယိုး ဒယား၊ ရှမ်း၊ မွန်၊ မြန်မာ၊ ကရင်၊ တရုပ်၊ ကုလားစသည်ဖြင့် လူမျိုးပေါင်းစုံနေထိုင်၍ တောင် သူလယ်သမားအဖြစ်အသက်မွေးမှုသူများသည်။

ကော့ကရိတ်မြို့၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၃.၂ ခန့်ရှိ၍ အိမ်ခြေ ၂,၅၀၀ ခန့်နှင့် လူဦးရေ ၁၅,၀၀၀ ခန့်ရှိ သည်။ ကော့ကရိတ်မြို့နယ်မှာ ရှေးအခါကဟောင်သရောမြို့ နယ်ဖြစ်ခဲ့ဘူး၏။ ယခုအခါ ကော့ကရိတ် မြို့ နယ် နှင့် ကြာ အင်းမြို့နယ် ၂ ခုပေါင်း၍ နယ်ပိုင်ဝန်ထောက်အုပ်ချုပ်လေ သည်။ ဤမြို့နယ် ၂ ခုကို ကရင်ပြည်နယ်သို့ပူးပေါင်းသွတ် သွင်းရန် ၁၉၅၂ ခုနှစ်တွင်သတ်မှတ်ခဲ့သည်။ (ကရင်ပြည် နယ် — ရှု)။

**ကော့ဆု,အယ်** (ခရစ် ၁၈၀၂–၁၈၉၄)။ ။လူဝီကော့ ဆုသည် ဟန်ဂေရီယန်မျိုးချစ်ပုဂ္ဂိုလ်တဦး ဖြစ် ၍၊ ဟန်ဂေရီ နိုင်ငံမိုနော့မြို့တွင် ၁၈၀၂ ခုစက်တင်ဘာလ ၁၉ ရက်နေ့၌ ဖွားမြင်၏။ ဥပဒေပညာကို ဗူးဒပက်တက္ကသိုလ်တွင်လေ့လာ



ဟန်ဂေရီယန်အမျိုးသားခေါင်းဆောင်ကြီး လူဝီကော့ဆု

သင်ကြားခဲ့ပြီးနောက်၊ဟန်ဂေရီပါလီမန်အထက်လွှတ် တော်သို့ ပျက်ကွက်နေသောအမတ်တဦး၏ကိုယ်စား တက်ရောက်ခဲ့လေသည်။ ထိုပြင် နိုင်ငံရေးပြုပြင်မှုများအတွက်ကြိုးပမ်းနေခဲ့သောအဖွဲ့တွင် ပါဝင်ဆောင်ရွက်ခဲ့ရာ မကြာမီအရေးပါသူတဦးဖြစ်လာခဲ့၏။ ထိုနောက်ကော့ဆုသည် ပါလီမန်လွှတ်တော်တွင်အခြေအတင်ဟောပြောချက်များကို ပုံနှိပ်ထုတ်ဝေခဲ့သောကြောင့် ထောင်ဒဏ် ၄ နှစ်အပြစ်ခံရသည်။

ထောင်ထဲ၌နေရစဉ် ရှိတ်စပီးယားစာပေများနှင့် သမ္မာကျမ်းစာတို့ကိုလေ့လာခဲ့ရာ အင်္ဂလိပ်စာကိုထူးချွန်စွာတတ်မြောက် ခဲ့ သည်။ တနှစ် မျှ အကျဉ်း ခံ ရပြီးနောက်လွတ်လာသော အခါ ၁၈၄၁ ခု နှစ် တွင် ဩစတြီး ယန်း တို့ ၏ လက်အောက်မှလွတ်လပ်ရေးအတွက် လှုံ့ဆော်ပေးနေသော ‘ ပက်စသဂျာနယ် ’ ၏အယ်ဒီတာဖြစ်လာသည်။ ၁၈၄၇ ခုနှစ်တွင် ဟန်ဂေရီလွှတ်တော်သို့ တဖန်တင်မြှောက်ခြင်းခံရ၍ လစ်ဗရယ်ဂိုဏ်း၏ခေါင်းဆောင်ဖြစ်လာသည်။ ထိုအခါသူသည် ဩစတြီးယား က ဟန် ဂေ ရီ ကို ဩဇာ လွှမ်း မိုး နေ သည် ကို အကြီးအကျယ်ဝေဖန်ရှုတ်ချ ပြောဆို၍၊ ၁၈၄၈ ခု နှစ် တွင် ဟန်ဂေရီယန်တို့ပုန်ကန်ထကြွကြသောအခါ ခေါင်းဆောင်ဦးစီးခဲ့သည်။ သူ့ကို အမျိုးသားကာကွယ်ရေးကော်မီတီ၏ ဥက္ကဋ္ဌအဖြစ်ခန့်ထားသဖြင့် အုပ်ချုပ်ရေးကိုကြိုးကိုင်ခဲ့၏။ ထို ပြင် ဟန်ဂေရီ နိုင်ငံ လွတ်လပ်ရေးကျေညာစာတမ်းကိုလည်း ထုတ်ပြန်ကျေညာခဲ့သည်။ ထိုအချိန်အခါက ကော့ဆုမှာ အာဏာ ရှင် တမျှတန်ခိုး ကြီးမားခဲ့သည်။ သို့သော်သူ၏ ပ

လွှားမှုကြောင့် အခြားခေါင်းဆောင်များနှင့် သဘောမညီနိုင်ဘဲရှိနေပြီးလျှင်၊ တောင်ပိုင်းဆလဗ်လူမျိုးတို့နှင့် စိတ်ဝမ်းကွဲပြားခဲ့ကြသဖြင့် တော်လှန်ရေးမှာမအောင်မြင်ခဲ့ချေ။ ဩစတြီးယားသည် ရုရှ၏အကူအညီဖြင့် တော်လှန်ရေးသမားများကို တိုက်ခိုက်ချေမှုန်းလိုက်ရာ ကော့ဆုမှာ တူရကီနိုင်ငံသို့ ထွက်ပြေးတိမ်းရှောင်ရလေသည်။ ဩစတြီးယားက ကော့ဆုကိုပေးအပ်ရန် တောင်းဆိုခဲ့သော်လည်း တူရကီအစိုးရသည် အင်္ဂလိပ်တို့၏စကားကို လိုက်နာလျက် ကော့ဆုကိုမပေးအပ်ဘဲ ကောင်းစွာစောင့်ရှောက်ထားခဲ့သည်။ ၁၈၅၁ ခုနှစ်၌သူသည် အင်္ဂလန်ပြည်သို့ရောက်ရှိသွား၍ လူအများကသောင်းသောင်းဖြဖြကြိုဆိုကြလေသည်။

၁၈၅၁–၅၂ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ အစိုးရညွှန့်သည်တော်အဖြစ် အလည်အပတ်သွားရောက်ခဲ့စဉ်က ဟန်ဂေရီနိုင်ငံလွတ်လပ်ရေးတရားများကို ဟောပြောခဲ့ပြီးလျှင် ၁၈၅၂ ခုနှစ်တွင်အင်္ဂလန်သို့ပြန်လာ၏။ ထိုနောက် ၁၆ နှစ်ခန့်ကြာသောအခါ ဟန်ဂေရီအစိုးရက၊ ပြစ်မှုရှိသော နိုင်ငံရေးသမားများအား လွတ်ငြိမ်းချမ်းသာခွင့်ပေးလိုက်သဖြင့် သူသည်ဟန်ဂေရီနိုင်ငံသို့ပြန်မည်ဆိုက ပြန်နိုင်သော်လည်း ဟန်ဂေရီနှင့်ဩစတြီးယားတို့ပူးပေါင်းခြင်းကို မလိုလားသောကြောင့် သူ့တိုင်းပြည်သို့မပြန်တော့ဘဲ ဣတလီ



မျိုးရိုးစဉ်ဆက်ထင်ရှားခဲ့သော ကော့ဆက်မြင်းတပ်သားတဦး

နိုင်ငံ တျူရင်းမြို့၌နေထိုင်ယင်း ၁၈၉၄ ခုမတ်လ ၂၀ ရက်နေ့တွင် ကွယ်လွန်လေသည်။ သူ၏ရုပ်အလောင်းကို အခမ်းအနားနှင့် ဗူးဒပက်မြို့တွင်မြှုပ်နှံခဲ့လေသည်။

**ကော့ဆက်လူမျိုး။** ။ကော့ဆက်တို့သည် ရုရှနိုင်ငံတိုင်းရင်းသားတမျိုးဖြစ်၍ ရှေးဇာဘုရင်များရှိစဉ်က အလွန်ရဲရင့်သောမြင်းစီးစစ်သားများအဖြစ် ထင်ရှားခဲ့ကြ၏။

ကော့ဆက်ဟူသောစကားမှာ တူရကီဘာသာမှဆင်းသက်လာ၍ ‘လွတ်လပ်စွာလှည့်လည်သူ’ သို့မဟုတ် ‘စွန့်စားသွားလာသူ’ ဟုအဓိပ္ပါယ်ရသည်။ သူတို့၏ဘိုးဘေးတို့မှာ ၁၆ ရာစုနှစ်အတွင်းက ဥရောပတိုက်အရှေ့တောင်ပိုင်းရှိ စတက်လွင်ပြင်များတွင်နေထိုင်ကြသည့် ရုရှ၊ ပိုး၊ တာတာလူမျိုးများတွင်ပါဝင်ကြ၏။ သူတို့သည် ကော့ဆက်ဟူသောအမည်နှင့် လိုက်လျောညီစွာ တနေရာမှတနေရာသို့ လှည့်လည်နေထိုင်ကြ၏။ အနီးအပါးနိုင်ငံများကိုလည်း မကြာခဏဝင်ရောက်တိုက်ခိုက်ကြသည်။

ယင်းသို့အခြေမတည်နေထိုင်ခဲ့ကြရာမှ နောက်ဆုံးရုရှနိုင်ငံအတွင်းသို့ သိမ်းသွင်းခြင်းခံရသောအခါ၊ ဇာဘုရင်၏စစ်တပ်တွင် ဝင်ရောက်အမှုထမ်းကြသည်။ သူတို့သည် စစ်မှုထမ်းသောလူမျိုးစုတစုအနေဖြင့် အခွန်တော်လွတ်ငြိမ်းချမ်းသာခွင့်၊ မိမိတို့လူမျိုးချင်းအုပ်ချုပ်ခွင့်စသော အခွင့်အရေးများကိုရကြသည်။ မျိုးရိုးအလိုက်မြင်းစီးကျင်လျှင်၍ မြင်းပေါ်မှပင် ဓါးခုတ်၊ သေနတ်ပစ်ကျွမ်းကျင်ကြသည်။

ကော့ဆက်မြင်းတပ်များသည် တိုက်ခိုက်ရေးကျွမ်းကျင်သလောက် ရက်စက်ကြမ်းကြုတ်ကြသည်။ ဇာဘုရင်များလက်ထက်က ဆူပူသောင်းကျန်းသူများကို နှိမ်နင်းရာ၌ ကော့ဆက်စစ်သားများကိုအသုံးပြုလေ့ရှိသည်။ လူအုပ်ထဲသို့မြင်းကိုဒလကြမ်းစီးလျက် ဓါးလွတ်များဖြင့် ရက်စက်စွာခုတ်သတ်ခြင်း၊ သေနတ်များပစ်ပေါက်ကာ နှိမ်နင်းခြင်းပြုလေ့ရှိသောကြောင့် ကော့ဆက်မြင်းသည်တော်များလာပြီဆိုရုံမျှဖြင့် လူများ ဝေးရာသို့ရှောင်ပြေးလေ့ရှိကြသည်။

ရုရှတော်လှန်ရေးအတွင်းက ကော့ဆက်တို့သည် နှစ်ဖက်လုံးမှပါဝင်တိုက်ခိုက်ခဲ့ကြသည်။ ဗေါ်လရှီဗစ်တို့အောင်မြင်သောအခါ သူတို့၏အထူးအခွင့်အရေးများဆုံးရှုံးကြရသော်လည်း ဆိုဗီယက်အစိုးရက သူတို့၏အဖွဲ့အစည်းကို ပြန်လည်ထူထောင်ပေးခဲ့သည်။ ဒုတိယကမ္ဘာစစ်အတွင်း ဂျာမန်တို့နှင့်တိုက်ခိုက်ရာတွင် ကော့ဆက်တို့သည် ရှုပ်ရှုပ်ချွံချွံဝင်ရောက်အမှုထမ်းခဲ့ကြသည်။

ယခုအခါ ဆိုဗီယက်သမတနိုင်ငံအတွင်းတွင် ကော့ဆက်များနေထိုင်သော သီးခြားပြည်နယ်ရှိသည်။ ထိုပြည်နယ်ကား ကာဇက်စတန်ဖြစ်၍ ‘ကော့ဆက်တို့၏မြေ’ ဟုအဓိပ္ပါယ်ရသည်။

**ကော့ဒငါး။** ။ကော့ဒငါးသည် ကမ္ဘာပေါ်တွင် လူသုံးအများဆုံးငါးတမျိုးဖြစ်သည်။ ဤငါးကို ကမ္ဘာ့မြောက်ဖက်ခြမ်းရှိသမပိုင်းပင်လယ်များတွင် အမြောက်အမြားတွေ့ရသည်။ အထူးသဖြင့် ဥရောပတိုက် ပြင်သစ်နိုင်ငံနှင့် မြောက်အမေရိကတိုက် ဗါဂျင်းနီးယားပြည်နယ်တို့၏မြောက်ဖက်ကျသော အတ္တလန္တိတ်သမုဒ္ဒရာကမ်းခြေများတွင် အထူးပေါများသည်။

ကော့ဒငါးသည် ကိုယ်ထည်ခပ်ပြားပြားဖြစ်၍ အမြီးဖက်သို့သွယ်ဆင်းသွားသည်။ ကျောပိုင်း နှင့် ကိုယ်နံဘေးတွင် အစိမ်း ရောင် သန်း ကာ အညိုစက် ကလေးများဖြင့် ပြည့်လျက်ရှိ၍ ဝမ်းပိုင်းမှာဖြူသည်။ သို့သော် ကျက်စားရာအရပ်ကိုလိုက်၍ အရောင်များ အနည်းငယ်ကွဲလွဲတတ်သည်။ ဆူးတောင်ရှည်လျား၍ မေးအောက်တွင် ငါးနှုတ်ခမ်းမွေးဟုခေါ်သော အမှင်နှစ်ပင်ရှိသည်။ သာမန်အရွယ်ရောက်ပြီးသောကော့ဒငါးသည် အလျား ၂ ပေကျော်မျှ ရှည် သည်။ သို့သော် အလျား ၆ ပေ၊အလေးချိန်ပေါင် ၁၀၀ ကျော်ရှိသည့် ကော့ဒငါး များ ကို လည်း တခါတရံတွေ့ရတတ်၍၊ တခါက အလေးချိန်ပေါင် ၄၀၀ ခန့်စီးသောကော့ဒငါးကိုပင် ဖမ်းဆီးရမိဘူးလေသည်။

ဤငါးမျိုးသည် ဗုဇွန်၊ ကနန်း၊ ယောက်သွား၊ ငါးငယ်ကလေး များ နှင့် ပင် လယ် ကျောက် ပွင့် အမျိုးမျိုးကိုစားသည်။ အလွန်အစားကြမ်းသည့်အတိုင်း ရေထဲ၌တွေ့ရသမျှပစ္စည်းအားလုံးလိုလိုကိုစားမျိုတတ်ရာ၊ ကော့ဒငါး၏ဝမ်းပိုက်အတွင်းမှ ကတ်ကျေး၊ သံဗူး၊ ခါး၊ သားရေစ၊ မှန်စ၊ ကျောက်ခဲ၊ သော့တွဲစသည့် ပစ္စည်းမျိုးစုံတွေ့ရဘူးသည်။

အတ္တလန္တိတ်သမုဒ္ဒရာမြောက်ပိုင်းကျသော ဥရောပကမ်းခြေဖက်ရှိ ကော့ဒငါးများသည် ဖေဖွာရီလမှ ပြေလအတွင်း ဥအုကြ၍၊ အမေရိကတိုက်ကမ်းခြေတွင် အောက်တိုဘာမှ ဇွန်လအထိ အုကြသည်။ အရွယ်ရောက်ပြီးသောကော့ဒငါး တကောင် သည် ဥအု ချိန်တချိန်အတွင်း၌ ဥပေါင်း ၃ သန်းမှ ၁၀ သန်းအထိ အုနိုင်သည်။ သို့သော် ဥများသည် အ လွန် သေး ငယ် ၍ ပင် လယ် ရေ မျောဒိုက် များ နှင့်အတူ ရေပေါ် တွင် ပေါ လောပေါ် လျက် မျောနေတတ်ရာ၊ ထိုသို့မျောနေစဉ် အချိန်တွင်ရင်း၊ ဥမှပေါက်စအရွယ်တွင်ရင်း၊ အခြားငါးအမျိုးမျိုးနှင့် ပင်လယ်သတ္တဝါတို့၏ စားသောက်ခြင်း ကို ခံရ သော ကြောင့်၊ ကော့ဒငါး အရေအတွက်သည် ထင်သလောက်များပြားလာခြင်း၊ လျင်စွာတိုးပွားလာခြင်း မရှိချေ။

ကော့ ဒ ငါး ၏ အသား သည် အနည်း ငယ် ကြမ်း တမ်း၍ အရသာမှာ ပြောပလောက်အောင်မကောင်းချေ။ သို့သော် အာ ဟာ ရဓါတ် နှင့် ပြည့် စုံ ခြင်း၊ လွယ်ကူစွာဆားနယ်နိုင်၊ အခြောက်လှန်းနိုင်ခြင်းတို့ကြောင့်၊ ယင်းတို့ကို နှစ်စဉ်နှစ်တိုင်း မြောက်မြားစွာဖမ်းဆီးပြီးနောက်၊ များသောအားဖြင့် အသားကိုဆားနယ်၍ဖြစ်စေ၊ အခြောက်လှန်း၍ဖြစ်စေ၊ ရောင်းချကြသည်။ အသားသာမက ကော့ဒငါး၏အစိတ်အပိုင်းအားလုံးလိုလိုပင် အသုံးဝင်ပေသည်။ကော့ဒငါး၏ အသည်း မှ ရ သော အဆီ သည် ဗီတာမင် ဒီဓါတ်၊ ထုံး ဓါတ် နှင့် ဖေါ့စဖေါ ရပ် တို့ဖြင့် များ စွာကြွယ်ဝသောကြောင့် ဆေးဝါးဖက်တွင်များစွာအဖိုးတန်သည်။ ဤအဆီကို ငါးကြီးဆီဟုလူသိများလေသည်။ စည်ဖေါင်းများမှ



(ဝဲ) နော်ဝေးပင်လယ်မှဖမ်းမိသော ပေါင်ချိန် ၄၀၀ ရှိကော့ဒငါးကြီး။



(ယာ) နျူးဖေါင်းလန်းကျွန်းမှ ကော့ဒငါးခြောက်လုပ်ငန်း

လည်း ငါးစည်ပေါင်းကော်ကိုရနိုင်သည်။ ငါးခေါင်းနှင့်စား မကောင်းသောအသားများကိုမူ အခြောက်လှန်းပြီးသော် အချို့တိုင်းပြည်များတွင် ကျွဲနွားစာအဖြစ်၎င်း၊ မြေဩဇာ အဖြစ်၎င်း၊ အသုံးပြုကြသည်။

ကော့ဒငါးကို အကြီးအကျယ်ဖမ်းဆီးရောင်းချကြသော တိုင်းပြည်များမှာ နော်ဝေး၊ ဆွီဒင်၊ ဗြိတိန်၊ ပြင်သစ်၊ ကနေဒါ၊ နျူးဖေါင်းလန်း၊ အမေရိကန်ပြည်ထောင်စုနှင့် အလာစကာပြည်နယ်တို့ဖြစ်ကြသည်။ ကော့ဒငါးသည် ရေနက်တွင်ကျက်စားသောငါးမျိုးဖြစ်၍ ယင်းတို့ကို ဆွဲပိုက်များဖြင့်၎င်း၊ ငါးမျှားတန်များဖြင့်၎င်း၊ ဖမ်းဆီးလေ့ရှိကြသည်။

**ကော့ပါးနီကပ်, အင်** (ခရစ် ၁၄၇၃–၁၅၄၃)။ ။ဂရိပညာရှိကြီး တော်လမီလက်ထက်မှစ၍၊ ရှေးလူတို့သည် စကြာဝဠာ၏အလယ်ဗဟို၌ကမ္ဘာတည်ရှိကာ ထိုကမ္ဘာကို နေ၊လနှင့် ကြယ်များက လှည့်ပတ်လျက်ရှိသည်ဟု ယုံကြည်ခဲ့ကြ၏။ ထိုသို့နှစ်ပေါင်း ၁၀၀၀ ကျော်မျှ လူတို့ယုံကြည်ခဲ့ကြသည်မှာ မှားယွင်းကြောင်းကို ပဌမဆုံးထုတ်ဖေါ်ပြောပြသူကား နစ်ကိုလေးယပ် ကော့ပါးနီကပ်ခေါ် ပိုလန်ပြည်သား နက္ခတ္တဗေဒကဝိကြီးဖြစ်၏။

ကော့ပါးနီကပ်သည် ကုန်သည်တဦး၏သားဖြစ်၍ ၁၄၇၃ ခုနှစ်တွင်ဖွားမြင်သည်။ ငယ်စဉ်ကပင် ဖခင်သေဆုံးသွားသဖြင့် ဦးလေးက ပညာသင်ပေးခဲ့ရသည်။ ကရားကောတက္ကသိုလ်၌ သင်္ချာပညာကိုလေ့လာခဲ့ပြီးနောက်၊ ဣတလီနိုင်ငံ ဗလုံးညားမြို့သို့သွားရောက်၍ ခရစ်ယန်အယူဝါဒဆိုင်ရာဥပဒေပညာနှင့် နက္ခတ်ပညာတို့ကို လေ့လာသင်ကြားခဲ့သည်။ နောက်နှစ်အနည်းငယ်ကြာသောအခါ ပက်ဒျူးအားတက္ကသိုလ်၌ ဆေးပညာကိုဆည်းပူးခဲ့ပြန်သည်။

ထိုနောက်သူသည် ပိုလန်နိုင်ငံသို့ပြန်သွားကာ ဖရောအင်ဗတ်မြို့ ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးတွင် အုပ်ချုပ်ရေးဖက်၌အမှုထမ်းခဲ့သည်။ ထိုနောက် ဆေးဝါးလည်းကုသပေးယင်း နက္ခတ်ပညာကိုဆက်လက်လေ့လာခဲ့သည်။နက္ခတ်ပညာကိုလိုက်စားသောအားဖြင့် သူစုံစမ်းသိရှိရသောအချက်များကို စာအုပ်ပြုစုရေးသားထားခဲ့ကာ ထုတ်ဝေရန် ပုပ်ရဟန်းမင်း၏ခွင့်ပြုချက်ကိုပင်ရပြီးဖြစ်သော်လည်း၊ ရိုက်နှိပ်ထုတ်ဝေခြင်းမပြုခဲ့ချေ။ နောက်မှ သူ့တပည့်တာယောက်က တောင်းပန်သဖြင့် ကွယ်လွန်ခါနီး၌ ပုံနှိပ်ထုတ်ဝေခဲ့လေသည်။

ထိုစာအုပ်တွင် စကြာဝဠာ၏အလယ်ဗဟို၌ နေကရပ်တည်နေလျက် နေကို ကမ္ဘာလုံးနှင့် အခြားဂြိုဟ်များကလှည့်ပတ်ကြောင်းဖေါ်ပြထား၏။ သူ့အယူအဆကို ထိုခေတ်ကလူအများက မနှစ်သက်နိုင်ဘဲ ဝိုင်းဝန်းကန့်ကွက်ခဲ့ကြ၏။ သို့ရာတွင် ထိုအယူအဆမှန်ကန်ကြောင်းကို ယခုခေတ်နက္ခတ်ပညာရှိအားလုံးက ထောက်ခံအတည်ပြုကြသည်။ သူစုံစမ်းသိရှိရသောအချက်များကို အမှီတံကဲပြု၍ ကက်ပလာ၊ ဂယ်လီလီယိုစသော နက္ခတ္တဗေဒပညာကျော်များသည် နက္ခတ်ပညာရပ်ကို ဆက်လက်လေ့လာနိုင်ခဲ့ကြလေသည်။



ကမ္ဘာကျော်နက္ခတ္တဗေဒကဝိကြီး ကော့ပါးနီကပ်

**ကော့ဗဒင်,အာ** (ခရစ် ၁၈၀၄–၁၈၆၅)။ ။အင်္ဂလိပ်လူမျိုးနိုင်ငံပြုသုခမိန်ကြီး ရစ်ချတ်ကော့ဗဒင်သည် အင်္ဂလန်ပြည် ဆပ်ဆက်နယ် မစ်ဒဟတ်မြို့အနီး ဒန်းဖိုလယ်တော၌ ဖွားမြင်သည်။ မိဖများမှာ သားသမီး ၁၁ ယောက်ရှိ၍ ဆင်းရဲနွမ်းပါးသောလယ်သမားများဖြစ်ကြသည်။ ကော့ဗဒင် ငယ်စဉ်ကပင် ဖခင်ကွယ်လွန်သောကြောင့် ဆွေမျိုးများကကျွေးမွေးစောင့်ရှောက်ခဲ့ရ၏။ အသက် ၉ နှစ်အရွယ်တွင် ညံ့ဖျင်းလှသည့် အလွတ်ပညာသင်ကျောင်း၌ ကျောင်းအိပ်ကျောင်းစားနေခဲ့ရ၍ ၁၅ နှစ်ရွယ်တွင် ဦးလေးတာယောက်ကလန်ဒန်မြို့ကုန်လှောင်ရုံတခု၌ စာရေးခန့်ထား၏။ ထိုကုန်လှောင်ရုံ၌အလုပ်လုပ်ပြီးနောက် သူ့ဦးလေးလုပ်ငန်းအတွက် နယ်လှည့်ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်သည်။

အသက် ၂၄ နှစ်အရွယ်တွင် မိတ်ဆွေ ၂ ဦးနှင့်စပ်တူ သရက်ထည်ပိတ်ကုန်သည်ကြီးများအဖြစ် လုပ်ကိုင်ခဲ့၍ ၃ နှစ်ခန့်ကြာသော် ဆက်ဗဒင်မြို့၌ သရက်ထည်ပွင့်ရိုက်စက်ရုံကြီးတရုံတည်ထောင်၏။ ဤသို့ဖြင့် ကော့ဗဒင်သည် စီး

ပွားရေးအခြေအနေခိုင်ခံ့လာခဲ့လေသည်။ ထိုအခါ ငယ်စဉ်ကပညာကောင်းစွာမသင်ခဲ့ရသည်ကိုသတိရ၍ အလွတ်သင်ယူလေ့ကျက်ခဲ့ပြီးသော် နိုင်ငံအနှံ့အပြားသို့လှည့်လည်၍ စီးပွားရေးနှင့်ဘဏ္ဍာရေးစံနစ်များကိုလေ့လာခဲ့သည်။

၁၈၃၈ ခုနှစ်တွင် မန်ချက်စတာမြို့မှကုန်သည် ၇ ဦးတို့စတင်လှုံ့ဆော်မှုကြောင့်ပေါ်ပေါက်လာသော ကောက်သီးနှံဥပဒေ တိုက်ဖျက်ရေးအဖွဲ့တွင် ရစ်ချတ် ကော့ဗဒင် သည် ခေါင်းဆောင်တဦးဖြစ်လာခဲ့သည်။ ကောက်သီးနှံဥပဒေတို့မှာ ဗြိတိန်နိုင်ငံတွင်ကောက်သီးနှံထုတ်ယူခြင်း၊ တင်သွင်းခြင်းတို့ကို ချုပ်ချယ်ထားသောဥပဒေများဖြစ်ကြသည်။

တခါက လူထုပညာသင်ကြားရေး အတွက် အတူဆောင်ရွက်ခဲ့ဘူးသော ဂျွန်ဗရိုက်ဆိုသူနှင့် ဤအဖွဲ့တွင်ပြန်ဆုံမိကာ ပူးတွဲဆောင်ရွက်ရပြန်သည်။ ကော့ဗဒင်မှာ အကြံဉာဏ်ထက်မြက်သူဖြစ်၍ ဗရိုက်မှာအဟောအပြောအလွန်ကောင်းမွန်သူဖြစ်လေရာ၊ သူတို့နှစ်ဦးပေါင်းဖက်မိသည့်အချိန်၌ ထိုအဖွဲ့၏လုပ်ငန်းများမှာ များစွာတွင်ကျယ်ခဲ့လေသည်။ (ဗရိုက်၊ ဂျေ — လည်းရှု။) ကောက်သီးနှံဥပဒေတိုက်ဖျက်ရေးလုပ်ငန်းမှာ လွတ်လပ်စွာကုန်သွယ်ခွင့်ရရှိရေး လုပ်ငန်းကြီး၏တစိတ်တဒေသမျှဖြစ်သည်။ ကော့ဗဒင်သည် နိုင်ငံအချင်းချင်း လွတ်လပ်စွာကုန်သွယ်နိုင်မှုသည်သာလျှင် ဗြိတိသျှတို့၏စီးပွားတိုးတက်ရေးအခြေခံဖြစ်သည်ဟု သဘောပိုက်လေသည်။ ထို့ပြင် ပြည်ထောင်ချင်းချင်းလွတ်လပ်စွာကုန်သွယ်နိုင်မှုသည် နိုင်ငံပေါင်းစုံကိုစည်းလုံးမိစေနိုင်သည်ဟုယုံကြည်သူဖြစ်၍ လွတ်လပ်စွာကုန်သွယ်မှုပြဿနာကို ငြိမ်းချမ်းရေးပြဿနာ၊ လက်နက်လျှော့ပေါ့ရေးပြဿနာတို့နှင့်အမြဲလိုပင်တွဲဖက်ကာ ကြိုးပမ်းဆောင်ရွက်ခဲ့သည်။

၁၈၄၁ ခုနှစ်တွင် စတော့ပို့မဲဆန္ဒနယ်အတွက် အောက်လွှတ်တော်အမတ်အဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံရသည်။ ထိုအခါတွင် ကောက်သီးနှံဥပဒေများကိုဖျက်သိမ်းရန် အချက်ကျလှသောအဆိုများတင်သွင်းခဲ့သည်။ ဝန်ကြီးချုပ်ဆာရောဗတ်ပီး ၏ဘဏ္ဍာရေးစီမံကိန်းများကိုလည်း ကန့်ကွက်ခဲ့သည်။ ၁၈၄၅ ခုနှစ်တွင် ကော့ဗဒင်သည်ကောက်သီးနှံဥပဒေတိုက်ဖျက်ရေးနှင့်သက်ဆိုင်သောမေးခွန်းများကို ဆာရောဗတ်ပီးထံ တင်သွင်းရာ၊ ဆာရောဗတ်ပီးပင် မဖြေနိုင်အောင်ရှိခဲ့သည်။ ထိုနှစ်တွင်ပင် ဆာရောဗတ်ပီး ရာထူးမှနုတ်ထွက်၍ ဂျွန်ရပ်ဆဲတက်လာသောအခါ ကော့ဗဒင်အားအစိုးရအဖွဲ့တွင် ရာထူးပေးခဲ့သော်လည်း သူ၏လုပ်ငန်းမှာ လွှတ်တော်အပြင်ဖက်တွင်သာရှိပါသည်ဟုဆို၍ ရာထူးကိုလက်မခံဘဲနေခဲ့သည်။ ထိုနောက် တနှစ်ခန့်အကြာ ဆာရောဗတ်ပီး အစိုးရအဖွဲ့ပြန်တက်လာသောအခါ ကော့ဗဒင်တို့၏လုပ်ငန်းမှာ အောင်မြင်ပြီးမြောက်သွားလေသည်။

ကော့ဗဒင်သည် ပြည်သူ့အကျိုးကို ၇ နှစ်မျှကြိုးပမ်းဆောင်ရွက်ခဲ့ရာ၌ ကိုယ်ပိုင်စီးပွားရေးကိုပင် လျစ်လျူရှုထားခဲ့သောကြောင့်၊ သူ၏ဆောင်ရွက်ချက်အောင်မြင်ချိန်တွင် လူဆင်းရဲတယောက်အဖြစ်လျော့ကျသွားခဲ့သည်။ သို့ရာတွင် တိုင်းပြည်မှကျေးဇူးဆပ်သည့်အနေနှင့် စေတနာရှင်များထံမှရန်ပုံငွေအဖြစ် ရွှေဒင်္ဂါးပေါင် ၇၅,၀၀၀ ကျော်ကောက်ခံစုဆောင်းပေးကြသည်။ ထိုငွေအချို့အဝက်ဖြင့် သူ၏မွေးဖွားရာဇာတိအရပ်ရှိ လယ်တဲနှင့်မြေကွက်ကိုဝယ်ယူ၍နေထိုင်ခဲ့၏။

၁၈၄၆ ခုနှင့် ၁၈၄၇ ခုနှစ်များတွင် ဥရောပတိုက်နိုင်ငံကြီးများသို့သွားရောက်လည်ပတ်ခဲ့၏။ ထိုနောက်ငြိမ်းချမ်းရေးကိုဆောင်ရွက်ခဲ့၍ ၁၈၄၇ ခုနှစ်ရွေးကောက်ပွဲတွင် ယော့ရှိုင်ယာခရိုင် အနောက်ရိုက်ဒင်း မဲဆန္ဒနယ်မှ အမတ်အဖြစ်ပါလီမန်လွှတ်တော်သို့တက်ခဲ့ပြန်သည်။ ဤအကြိမ်တွင် နိုင်ငံပေါင်းစုံအနုညာတစီရင်ဆုံးဖြတ်ရေးနှင့် ပြည်ထောင်ချင်းချင်းသဘောတူလက်နက်လျှော့ပေါ့ရေးဆိုင်ရာအဆိုများကို လွှတ်တော်တွင်တင်သွင်းခဲ့သည်။ ထို့ပြင် ဂျွန်ဗရိုက်နှင့်အတူ ငြိမ်းချမ်းရေးလုပ်ငန်းတွင် စိတ်ပါဝင်စားစွာဝင်ရောက်လုပ်ကိုင်ခဲ့၏။ ၁၈၄၈ ခုနှင့် ၁၈၅၁ ခုနှစ်များအတွင်း ဗရပ်ဆဲ၊ ပါရစ်၊ ဖရန့်ဖို့၊ အက်ဒင်ဗါရာ၊ မန်ချက်စတာ၊ လန်ဒန်စသောမြို့ကြီးများတွင် နိုင်ငံတကာငြိမ်းချမ်းရေးညီလာခံကြီးများကျင်းပနိုင်အောင် ကူညီခဲ့သည်။ ငြိမ်းချမ်းရေးဝါဒလက်ကိုင်ထားသူဖြစ်သည့်အတိုင်း ကရိုင်းမီးယားစစ်ပွဲကိုကန့်ကွက်ခဲ့၏။ တရုပ်နိုင်ငံတွင်အကြမ်းဖက်မှုကိုလည်း ပြစ်တင်ရှုတ်ချခဲ့၏။ သို့ရာတွင် သူ၏ငြိမ်းချမ်းရေးဝါဒကြောင့် နောက်ထပ်ရွေးကောက်ပွဲများတွင် မအောင်မြင်ခဲ့ချေ။ ထို့ကြောင့် ဆပ်ဆက်နယ်ရှိနေအိမ်သို့ ခေတ္တပြန်လည်နေထိုင်ခဲ့ပြီးနောက် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်ခဲ့လေသည်။ ၁၈၅၉ ခုနှစ်တွင်ပြန်လာသောအခါလွှတ်တော်သစ်တွင် အတိုက်အခံမရှိဝင်ခဲ့ရလေသည်။ ထိုအခါတွင်လည်း လွတ်လပ်စွာကုန်သွယ်မှုအတွက်ဆောင်ရွက်ပြန်သည်။

အမေရိကန်ပြည်တွင်းစစ်ဖြစ်ခဲ့စဉ်က ငွေဝယ်ကျွန်စံနစ်ကို ပယ်ဖျက်ရန်လိုလားသူဖြစ်သည့်အတိုင်း မြောက်ပိုင်းနယ်များကိုအားပေးခဲ့၏။ ထိုမျှမကသေး ဗြိတိသျှအစိုးရတို့က တောင်ပိုင်းနယ်များအား အသိအမှတ်ပြုခဲ့သည်ကိုပင် အပြင်းအထန်ကန့်ကွက်ပြောဆိုခဲ့လေသည်။

ကော့ဗဒင်သည် ၁၈၆၅ ခုဧပြီလ ၂ ရက်နေ့တွင် လန်ဒန်မြို့၌ကွယ်လွန်သည်။ သူ၏ရုပ်အလောင်းကို သူ၏ဇာတိအရပ် မစ်ဒဟတ်မြို့အနီး လက်ဗင်တန်အရပ်တွင် မြှုပ်နှံခဲ့လေသည်။



**ကော့ဗက်, ဒဗျူ** (ခရစ် ၁၇၆၃–၁၈၃၅)။ ။ဝီလျံကော့ဗက်သည် အင်္ဂလိပ်လူမျိုးစာရေးဆရာ၊ သတင်းစာဆရာနှင့် နိုင်ငံရေးသမားဖြစ်၏။ စိတ်နောက်ကိုယ်ပါပြုတတ်၍တောင်သူလယ်သမား သားပီပီ၊ တောရွာကျေးလက်ကို ခင်မင်တွယ်တာသည်။ စာရေးဆရာအဖြစ်ဖြင့် မနှစ်သက်စရာတွေ့လျှင် မထောက်မညှာဘဲ ပွင့်ပွင့်လင်းလင်း ရှုတ်ချဝေဖန်ရေးသားလေ့ရှိသည်။

ကော့ဗက်သည် ဆာရီနယ် ဖါးနမ်းမြို့၌ ၁၇၆၃ ခုမတ်လ ၉ ရက်နေ့တွင်မွေးဖွားသည်။ မိဖမျိုးရိုးအဆက်အနွယ်များမှာ တောင်သူလယ်သမားများဖြစ်သော်လည်း မိဖရိုးရာအလုပ်ကိုစွန့်၍ လန်ဒန်မြို့တွင် ရှေ့နေစာရေးအဖြစ်လုပ်ကိုင်ခဲ့သည်။ ထိုအလုပ်တွင်ငြီးငွေ့လာပြန်သောအခါ စစ်ထဲသို့ဝင်ရောက်အမှုထမ်းခဲ့ရာ ကနေဒါနိုင်ငံ နယူးဗရန်ဇွစ်နယ်တွင် တာဝန်ကျခဲ့၏။



အင်္ဂလိပ်နိုင်ငံရေးသမားစာရေးဆရာကြီး ဝီလျံကော့ဗက်

ထိုသို့စစ်မှုထမ်းခဲ့စဉ် အရာရှိအချို့ငွေများကိုအလွဲသုံးစားပြုနေကြောင်းသိရသဖြင့် စစ်တပ်ထဲမှထွက်ပြီးလျှင် စစ်ရုံးသို့တိုင်တန်းခဲ့သည်။ သို့ရာတွင်ကော့ဗက်သည် သက်သေလုံလောက်စွာမပြနိုင်သောကြောင့် ကိုယ့်ရှုံးကိုယ်ပတ်ဖြစ်မည်စိုး၍ ပြင်သစ်နိုင်ငံသို့ ထွက်ပြေးတိမ်းရှောင်နေခဲ့ရ၏။ ပြင်သစ်နိုင်ငံမှ အမေရိကန်ပြည်ထောင်စု ဖိလဒဲလဖီးယားမြို့သို့သွားရောက်လျက် နိုင်ငံရေးစာရွက်စာတမ်းများကို ရေးသားထုတ်ဝေ၍နေခဲ့သည်။ အမေရိကန်ပြည်ထောင်စုတွင် အသရေဖျက်မှုဖြင့် တရားစွဲဆိုဒဏ်ရိုက်ခံရပြီးနောက် ၁၈၀၀ ပြည့်နှစ်၌အင်္ဂလန်ပြည်သို့ပြန်ခဲ့လေသည်။

၁၈၀၂ ခုနှစ်မှစ၍ 'ကော့ဗက်နိုင်ငံရေးမော်ကွန်းအပတ်စဉ်' စာစောင်ကို ပုံနှိပ်ထုတ်ဝေသည်။ ၁၈၀၃ ခုနှစ်တွင် 'ပါလီမန်ဆွေးနွေးချက်များ' စာစောင်ကိုထုတ်ဝေပြန်၏။

၁၈၀၄ ခုနှစ်တွင် အိုင်ယာလန်ပြည်အကြောင်း ဆောင်းပါးတစောင်ရေးသားရာ၌ အိုင်ယာလန်ပြည်ဘုရင်ခံချုပ်နှင့် အခြားအရာရှိများ၏ အသရေကို ထိခိုက်ရေးသားမိသည့်အတွက် တရားစွဲဆိုခြင်းခံရသည်။ ယခင်က အစိုးရကို ထောက်ခံခဲ့သောကော့ဗက်သည် ထိုအခါမှစ၍ အစိုးရအားအတိုက်အခံပြုလျက် ပြင်းထန်စွာဝေဖန်ရေးသားသော ပြုပြင်ပြောင်းလဲရေးသမားတယောက်ဖြစ်လာခဲ့၏။

ထိုနောက် ၁၈၁၀ ပြည့်နှစ်တွင် 'မော်ကွန်း' သတင်းစာ၌ စစ်သားများအားရိုက်နှက်အပြစ်ပေးခြင်းကို ရှုတ်ချသည့် ဆောင်းပါးတစောင်ရေးသားခဲ့သဖြင့် တရားစွဲဆိုခြင်းခံရပြန်သည်။ အစိုးရကိုအကြည်ညိုပျက်စေသည့် ထိုဆောင်းပါးကြောင့် ထောင်ဒဏ် ၂ နှစ်ကျခံရန်အပြင် ဒဏ်ငွေပေါင် ၁,၀၀၀ ပေးဆောင်ရန် ရုံးတော်မှအမိန့်ချမှတ်လိုက်လေသည်။

ထောင်မှလွတ်လာသည့်အခါ ကော့ဗက်၏စီးပွားရေးအခြေမှာ လုံးဝပျက်စီးလုမတတ်ရှိလေပြီ။ သို့သော်အားမလျော့ဘဲ 'မော်ကွန်း' သတင်းစဉ်ကို ၂ ပဲနီသတင်းစာအဖြစ် ပုံနှိပ်ထုတ်ဝေရောင်းချခဲ့ရာ တကြိမ်လျှင်စောင်ရေ ၁ သိန်းမျှရောင်းရလေသည်။ ထိုသတင်းစာကြောင့် ယခင်က နပိုလီယန်စစ်ပွဲများအပြီးတွင် အတိဒုက္ခအမျိုးမျိုးရောက်၍ မကျေမနပ်ဖြစ်ကာ ဆူပူလှုပ်ရှားစပြုနေသောအလုပ်သမားလူတန်းစားများမှာ ပိုမိုအုံကြွလာခဲ့သည်။ ကော့ဗက်သည် သတင်းစာမှနေ၍ အလုပ်သမားများ၏ အကျိုးဆောင်အဖြစ်လှုံ့ဆော်ရေးသားခဲ့၏။ အစိုးရလည်းထိုသို့လှုပ်ရှားလာမှုကို အက်ဥပဒေများဖြင့်ဖိနှိပ်ချုပ်ချယ်၍ ခေါင်းဆောင်များကိုလိုက်လံဖမ်းဆီးခဲ့လေရာ ကော့ဗက်လည်းအမေရိကန်ပြည်ထောင်စုသို့ထွက်ပြေးတိမ်းရှောင်ရပြန်သည်။ ၁၈၁၈ ခုနှစ်တွင် အင်္ဂလိပ်သဒ္ဒါကျမ်းတစောင်ကိုပုံနှိပ်ထုတ်ဝေခဲ့၏။ ထိုသဒ္ဒါကျမ်းမှာ အလုပ်သမားလူတန်းစားများနားလည်နိုင်အောင် ရှင်းလင်းပြတ်သားစွာရေးသားထားသဖြင့် အရောင်းရသွက်သောစာအုပ်ဖြစ်လေသည်။ ၁၈၁၉ ခုနှစ်တွင် အင်္ဂလန်သို့ပြန်လာခဲ့ပြီးနောက် ၁၈၁၉ ခုမှ ၁၈၃၂ ခုနှစ်အထိ ပါလီမန်ပြုပြင်ပြောင်းလဲရေးကိုလုံးပန်းခဲ့သည်။ ထိုပြင်ပါလီမန်သို့တက်ရောက်ရန်လည်းကြိုးပမ်းခဲ့သည်။ ၁၈၃၀ ပြည့်နှစ်တွင် 'ကျေးလက်သို့မြင်းစီးခရီးလှည့်ခြင်းများ' ခေါ် စာအုပ်ကိုရေးသားထုတ်ဝေသည်။ ထိုစာအုပ်တွင် ကော့ဗက်သည် အင်္ဂလန်တပြည်လုံးကိုမြင်းစီးလှည့်လည်သွားလာခဲ့သည့်အကြောင်း ရေးသားထားသည်ဖြစ်ရာ၊ တော



မြန်မာနိုင်ငံတောင်ဖက်အစွန်ဆုံး ဝိတိုရိယအငူရှိ ကော့သောင်းမြို့

လက်ကျေးရွာတို့၏ ရှခင်းသာယာပုံနှင့် တောင်သူလယ်သမားတို့၏ဆင်းရဲနွမ်းပါးပုံတို့မှာ သရုပ်ပေါ်လှပေသည်။

ထိုနောက် ၁၇၃၂ ခုနှစ် ပူပြင်ပြောင်းလဲရေးအက်ဥပဒေအရဖွဲ့စည်းရသော ပါလီမန်သို့ အိုးလဒမ်းမဲဆန္ဒနယ်မှ ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံရ၏။ သို့သော် ကော့ဗက်သည် အသက်အရွယ်ကြီးရင့်ပြီဖြစ်၍ ပါလီမန်တွင်တိုင်းပြည်အကျိုးကို ထိရောက်စွာမဆောင်ရွက်နိုင်သည့်တိုင်အောင် နောက်တကြိမ် ၁၇၃၄ ခုနှစ်တွင် ပါလီမန်အမတ်အဖြစ် ထပ်မံအရွေးခံရပြန်သေးသည်။

ဝီလျံကော့ဗက်သည် စာရေးသားရာတွင် စိတ်၌ဖြစ်ပေါ်လာသည့်အတိုင်းရေးသားတတ်၏။ လူတယောက်ကိုခြီးကျူးရာတွင် ဖေါ်ရွေစွာခြီးကျူးတတ်ပြီးလျှင်၊ ကဲ့ရဲ့ရှုတ်ချရန်ရှိကလည်း မထောက်မညှာဘဲရှုတ်ချတတ်သည်။ မိတ်ဆွေ၊ ရန်သူဟုခွဲခြားခြင်းမရှိ။ မိမိစိတ်၌မှန်သည်ထင်ရာကို ပြတ်ပြတ်သားသားရေးသားဖေါ်ပြတတ်သည်။ ထိုကြောင့်ပင် ကော့ဗက်ရေးခဲ့သောစာများမှာ ယခုထက်တိုင်သစ်လွင်လျက်ရှိ၏။ လွတ်လပ်စွာရေးသားထားသဖြင့်လည်း စကားလုံးပြောင်လေသည်။ ကော့ဗက်ရေးသားထုတ်ဝေခဲ့သောစာအုပ်များအနက် 'ကျေးလက်သို့မြင်းစီးခရီးထွက်ခြင်းများ'၊ 'အင်္ဂလန်ပြည်ပရိုတက်စတန့်ဂိုဏ်းပူပြင်ပြောင်းလဲမှုသမိုင်း' နှင့် 'အင်္ဂလိပ်သဒ္ဒါကျမ်း' တို့သည် မကြာခဏပြန်လည်ပုံနှိပ်ရသောစာအုပ်များဖြစ်လေသည်။

သူသည်စစ်ထဲ၌စစ်မှုထမ်းစဉ်ကလည်း စစ်သားများအတွက် သဒ္ဒါကျမ်းတစောင်ပြုစုခဲ့သေးသည်။

ဝီလျံကော့ဗက်သည် ဂီးလဖို့မြို့အနီး နော်မန်ဒီခြံကြီး၌ ၁၇၃၅ ခု ဇွန်လ ၁၈ ရက်နေ့တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

**ကော့သောင်းမြို့**။ ။ကော့သောင်းမြို့သည် မြန်မာနိုင်ငံ တနင်္သာရီတိုင်း မြိတ်ခရိုင်အတွင်း၌ပါဝင်၍ မြန်မာနိုင်ငံ၏ တောင်ဖက်အစွန်ဆုံးဖြစ်သော ဝိတိုရိယအငူပင်လယ်ကမ်းစပ်၌တည်ရှိသည်။ ကော့သောင်းနယ်ပိုင်၏ ရုံးစိုက်ရာမြို့လည်းဖြစ်၏။ ကော့သောင်းနယ်မှာ တနင်္သာရီနယ်၏ တောင်ဖက်တွင်ကပ်လျက်ရှိ၍ ကော့သောင်းမြို့နယ်နှင့် မလိဝန်းမြို့နယ်များပါဝင်သည်။ ဗင်္ဂလားအော်အတွင်းသို့ စီးဆင်းသော ပတ်ချန်မြစ်သည် မြန်မာနိုင်ငံ၏တောင်ဖက်အစွန်ဆုံးနှင့် ယိုးဒယားနိုင်ငံစပ်ကြားတွင် သဘာဝနယ်နိမိတ်အဖြစ်ဖြင့် တည်ရှိ၍၊ မြို့အရှေ့ဖက်ရှိ ပတ်ချန်မြစ်ဝမှာ လုံခြုံကျယ်ဝန်းသဖြင့် သင်္ဘောကြီးများဝင်ရောက်ဆိုက်ကပ်နိုင်၏။

မြိတ်ကျွန်းစုတောင်ဖက်ရှိ ကျွန်းငယ်ကလေးများမှာ ကော့သောင်းနယ်အတွင်းတွင်ပါဝင်၏။ ကော့သောင်းမြို့အနီးတွင် ဗေါင်းနင်းကျွန်းနှင့် ဗေါင်းဝါးကျွန်းနှစ်ကျွန်းကို အစွဲပြု၍ ယိုးဒယားစကားဖြင့် 'ကော့စွန်း' ကို မြန်မာများ ကော့သောင်းဟုခေါ်ခြင်းဖြစ်သည်။ ကော့စွန်း၏အဓိပ္ပါယ်မှာ ကော့ – ကျွန်း၊ စွန်း – နှစ်၊ 'ကျွန်းနှစ်ကျွန်း' ဖြစ်သည်။ ကော့သောင်းမြို့အနောက်မြောက်ဖက်မိုင် ၃၀ ခန့်အကွာတွင် ရွှေထွက်သည်ဟုကျော်ကြားသော ရွှေကျွန်း

ခေါ် ရပ်ဆဲကျွန်းသည်၎င်း၊ မြို့အနောက်တောင်ဖက် ၄၅ မိုင် အကွာတွင် ဝူးဖရမ် (အဖြိုက်နက်) များထွက်သည့် သံကျွန်းခေါ် ဒေးဝစ်ကျွန်းသည်၎င်းတည်ရှိသည်။

မြို့နယ်တခုလုံးတွင် လူဦးရေ ၆,၀၀၀ ခန့်ရှိ၏။ နယ်အတွင်း ပင်ရင်းထွက်ကုန်များမှာ ဆန်စပါးနှင့်သံပြုဖြစ်၏။ ကြက်ပေါင်စေး၊ ကလမက်၊ ကွမ်းသီးခြောက်နှင့် ငပိငခြောက်များလည်း အနည်းငယ်ရရှိလေသည်။ ကော့သောင်းမြို့မှာ လူနေအိမ်ခြေ ၂၅၀ ခန့်သာရှိ၍ မြန်မာ၊ ယိုးဒယား၊ တရုပ်၊ ကုလား၊ ပသျှူး၊ ဆလုံလူမျိုးများနေထိုင်ကြ၏။ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ လူဦးရေ ၁၅၂၀ ရှိသည်။ လယ်ယာအချိန်အခါ မဟုတ်သောကာလများ၌ နယ်သားများသည် ကျွန်းစုများသို့သွားရောက်၍ တံငါလုပ်ငန်း၊ ငှက်သိုက်ရှာဖွေခြင်းလုပ်ငန်းစသည်တို့ကို လုပ်ကိုင်ကြ၏။

ကော့သောင်းမြို့တွင် နယ်ပိုင်ရုံး၊ မြို့ပိုင်ရုံးနှင့် အစိုးရဆေးရုံရှိသည်။ ယိုးဒယား–မြန်မာနယ်ခြားတွင်ရှိသောမြို့ဖြစ်၍ အရောင်းအဝယ်သွက်လက်သည်။

**ကော်။** ။ပြောင်းဖူး၊ အာဒါလွတ်၊ ပီလောပီနံနှင့် အာလူးများမှရသော 'စတာ့' (ကော်မှုန့်)ကို စေးကပ်စေရန်စိမ်ထားသည်ကို သာမန်အားဖြင့် ကော်ဟုခေါ်သည်။ ဂျုံမှုန့်များကိုရေနှင့်ကျိုခြင်းဖြင့်လည်း ကော်ဖြစ်စေနိုင်သည်။ ထိုကော်တွင် ကျောက်ချဉ်အနည်းငယ်ထည့်ပြီး စာအုပ်ချုပ်ရာတွင် အသုံးပြုသည်။ စက္ကူစသည့် သာမန်ပစ္စည်းပေါ့များကိုကပ်စေရာတွင် ထမင်းစေ့နှင့်မုံ့ဟင်းခါးမုံ့များကို ကော်အဖြစ်အလွယ်တကူအသုံးပြုတတ်ကြသည်။ အင်္ကျီများကို အိမ်ရှင်မများကော်တင်ကြရာတွင် ထမင်းရည်ကိုရေတွင်ရောပြီး ကော်ရည်အဖြစ်အသုံးပြုကြသည်။ ထိုကော်ရည်တွင် လျှော်ပြီးအဝတ်များကိုစိမ်၍ညှစ်ပြီးနောက် အခြောက်လှန်းကြသည်။ ထို့နောက်မှ မီးပူထိုးပြီးဝတ်လေ့ရှိကြသည်။ တမာပင်မှထွက်သောအစေးကိုလည်း ကော်အဖြစ်အသုံးပြုနိုင်သည်။ တမာစေးအနည်းငယ်ကို ခြယ်ဆေးများဖျော်ရာတွင်ထည့်၍ဆေးခြယ်လျှင် ရေဆေးခံသည်ဟုသိရသည်။

စိတ်ဝင်စားဖွယ်ကောင်းသော ကော်လုပ်နည်းတမျိုးရှိသည်။ ထိုကော်မျိုးကိုလုပ်ရာတွင် ချေကြည်မှုန့်များကို အဝတ်စတခုနှင့်ထုပ်ပြီး ရေတွင်နှံပေးရသည်။ အမှုန့်များကုန်သွားသောအခါ အဝါရောင်ဖျော့ဖျော့ရှိသော ကော်ဖတ်နှင့်တူသည့်ပစ္စည်းတမျိုးကိုရသည်။ ထိုပစ္စည်းကို ကော်အဖြစ်အသုံးမပြုနိုင်သေးချေ။ ကွမ်းစားထုံးကို အဆိုပါပစ္စည်း၏တဝက်မျှနှင့်ရောပြီးတေလိုက်သောအခါတွင်မှ စေးလာကာ ကော်ဖြစ်လာသည်။ ထိုကော်ကို သစ်သားများ အချောင်းချောင်းကပ်စေရာတွင် အသုံးပြုနိုင်သည်။ ကော်ခြောက်သွားသောအခါ အလွန်ခိုင်သဖြင့် အဆက်သည် မကွာနိုင်တော့ပေ။ ထိုကော်သည် ကွဲအက်သော တယောများကိုကပ်ရန်အတွက်ကောင်းသည်။

ကော်ကို တိရစ္ဆာန်များ၏အရိုး၊ အရေပြား၊ ဦးချို၊ ခွာနှင့်အူများမှထုတ်ယူကြသည်။ ကျွဲ၊ နွားများ၏ဦးချို၊ ခွာနှင့်အရေပြားမှလုပ်ယူသောကော်ကို ကျွဲကော်ဟုခေါ်သည်။ ထိုကော်မျိုးကို ရှေးမြန်မာများလက်ထက်တွင် သရွတ် (အင်္ဂတေ)ဖော်စပ်ရာတွင် အသုံးပြုသည်ဟုဆိုသည်။ စွန်လွှတ်သောသူများသည် ကျွဲကော်ဖြင့်မှန်စာဖော်ပြီးနောက် စွန်ကြိုးများကိုမှန်စာတိုက်ပေးကြသည်။

တိရစ္ဆာန်များ၏အရိုးများမှ ကော်ဖော်ယူရာတွင် အရိုးများကိုပဌမကြိတ်ရသည်။ ထို့နောက် နက်ဖသားကတ္တရာသို့မဟုတ် ထိုပစ္စည်းကဲ့သို့ အရိုးကိုပျော်စေနိုင်သည့်ပစ္စည်းတမျိုးမျိုးနှင့်ပြုတ်၍ အဆီကိုထုတ်ယူရသည်။ ပြီးလျှင်အပူကဲထားသောရေနွေးငွေ့ဖြင့် ကော်ကိုအရည်ပျော်စေရသည်။ ကော်ရည်ကိုစစ်၍ချေးချွတ်ပြီးနောက် ပျော်ဝင်လျက်ရှိသောရေကို အငွေ့ပျံသွားစေရသည်။ ထိုအခါကော်သည် မာလာသည်။ ထို့နောက်လှီးဖြတ်ပြီးအခြောက်လှန်းရသည်။ အရေပြားများမှကော်ထုတ်ယူလိုသောအခါ အရေပြားကိုသေးသေးစိတ်ပြီးလျှင် ထုံးရည်ကြည်တွင်စိမ်၍ပြုတ်ယူရသည်။ ငါး၏အရေပြား၊ စည်ပေါင်းနှင့် အခြားမလို၍စွန့်ပစ်သောအပိုင်းအစများမှလည်း ကော်ထုတ်ယူကြသည်။ ရေခံကော်များကို နို့မှရသောကေဆီအင်းခေါ် ဓါတ်ပစ္စည်းမှဖြစ်စေ၊ သွေးအယ်လဗျူမင်မှဖြစ်စေ ထုတ်ယူကြသည်။ ပုံနှိပ်စက်မင်လုံးများနှင့် အခြားစက်မှုလုပ်ငန်းများအတွက်အသုံးပြုသောကော်တွင် ဂလစ်ဆရင်းပါသည်။

ကော်ကိုပစ္စည်းများဆက်စပ်ရာတွင် အများအပြားအသုံးပြုသည့်ပြင် ရက်ထည်များကိုကော်တင်ခြင်း၊ ကြိတ်သက္ကလတ်ဦးထုပ်များလုပ်ခြင်းတို့တွင်လည်းအသုံးများသည်။

**ကော်ကေးရှားနယ်။** ။အာရှတိုက်နှင့်ဥရောပတိုက်အကြား သဘာဝနယ်နိမိတ်သဖွယ်တည်နေသော ကော်ကေးဆပ်တောင်တန်းများရှိရာ ဒေသတတိုက်ကို ကော်ကေးရှားနယ်ဟုခေါ်သည်။ ဂရိသမိုင်းပုံပြင်လောကတွင် အလွန်ထင်ရှားသောဒေသဖြစ်၏။ ယခုခေတ်တွင်လည်း တောင်စဉ်တောင်တန်းတို့ဖြင့် ရှုခင်းသာယာသည့်ပြင်အဖိုးတန်သဘာဝတွင်းထွက်ပစ္စည်းများဖြင့် ပြည့်စုံလှသည်ဖြစ်ရာ၊ ကမ္ဘာ့ရှေ့တန်းနိုင်ငံကြီးများအထူးစိတ်ဝင်စားလျက်ရှိလေသည်။ ထိုနယ်သည် စတုရန်းမိုင်ပေါင်း ၁၈၁,၁၇၃ မျှကျယ်ဝန်း၏။

ကော်ကေးဆပ်တောင်တန်းသည် ပင်လယ်နက်မှ ကက်



ကော်ကေးဆပ်တောင်တန်းဒေသ၌ရုရှတို့ဖေါက်လုပ်ထားသော တောင်ကြား စစ်လမ်းအတိုင်း မောင်းလာသည့်သိုးတအုပ်

စပျန်ပင်လယ် အထိ မိုင်ပေါင်း ၇၅၀ ကျော်မျှသွယ်တန်းတည်ရှိလေသည်။ အကျယ်မှာ အချို့နေရာ၌ မိုင် ၃၀ ခန့်သာရှိသော်လည်း အချို့နေရာ၌မူ မိုင် ၁၄၀ ခန့်ပင်ရှိသည်။ ထိုတောင်တန်းသည် အချို့နေရာတွင် မိုင်ဝက်ခန့်သာမြင့်၍ကျောက်နံရံကြီးသဖွယ်ဖြစ်နေပြီး သော် အချို့ တောင် ထိပ်များမှာ ပေ ၁၆,၀၀၀ ကျော်မြင့်သည်။ အမြင့်ဆုံးတောင်ထိပ်မှာ ပေပေါင်း ၁၈,၄၈၁ မြင့်သော အဲလဗရူးတောင်ထိပ်ဖြစ်၏။ ယင်းမှာ ဥရောပတိုက်၏ အမြင့်ဆုံးတောင်ထိပ်လည်းဖြစ်သည်။ အခြားထင်ရှားသောတောင်ထိပ်များမှာ ဒိုက်ခတောတောင်ထိပ် (၁၇,၀၅၄ ပေ)၊ ကော်ရှတန်တော တောင်ထိပ် (၁၆,၈၈၀ ပေ) နှင့် ကပ်ဇဗျက်တောင်ထိပ် (၁၆,၅၅၈ ပေ) တို့ဖြစ်ကြ၏။ထိုတောင်ထိပ်တို့မှာအမြဲလိုပင် နှင်းများဖုံးအုပ်နေသဖြင့် ရှုခင်းအလွန်သာယာသည်။ တောင်ကြားများတွင် ရေခဲမြစ်များပေါ် လျက်ရှိရာ ရေခဲမြစ်ပေါင်း ၉၀၀ ကျော်မျှရှိသည်။ တောင်ခြေ၊ ဆင်ခြေလျှောများတွင် သစ်တောကြီးများပေါက်ရောက်သည်ကို တွေ့ရလေသည်။

ကော်ကေးရှားဒေသတွင် လူမျိုးပေါင်း စုံ နေ ထိုင် သော်လည်း ရုရှ၊ အာမီးနီးယန်း၊ တာ့တား၊ ဆာကက်ရှန်နှင့် ဂျော်ဂျီယန် လူမျိုးများမှာ အများဆုံးဖြစ်သည်။ ထိုနယ်တွင် လူဦးရေ ၁၄ သန်းခန့်နေထိုင်ကြ၏။ ၁၈၆၄ ခုနှစ်တွင် ရုရှနိုင်ငံသည် ထိုနယ်ကိုသိမ်းပိုက်နိုင်ခဲ့သော်လည်း၊ အတိုက်အခိုက်ဝါသနာကြီးလှသော ဆာကက်ရှန်နှင့်ဂျော်ဂျီယန်လူမျိုးများ၏ရန်ကိုစိတ်မချရသဖြင့် ကိုဗီတောင်ကြားလမ်းကိုဖြတ်၍ စတပ်ဗရိုပါး မြို့မှ တစ် ဖလစ် မြို့သို့ စစ် လမ်းမကြီး ဖေါက် ထား ခဲ့ လေ သည်။ ကော်ကေးရှားနယ်သူနယ်သားများသည် ရုပ်ရည်လှပချောမွေ့ခြင်းကြောင့် ကမ္ဘာပေါ်တွင် အထူးနာမည်ကျော်သူများဖြစ်၏။ ဂျော်ဂျီယန်နှင့် ဆာကက်ရှန်လူမျိုးများမှာ ရဲရင့်ခြင်းနှင့် တူရိယာဖက်တွင် ကျွမ်းကျင်ခြင်းတို့ကြောင့် ကျော်စောကြသည်။

ကော်ကေးရှားနယ်၏ကူးသန်း ရောင်း ဝယ်ရေးမှာ ကက်စပျန်ပင်လယ် ကမ်းခြေပေါ် ရှိ ဗါးကူးနှင့်ဒယ်ပင့်မြို့များကိုဖြတ်၍၎င်း၊ ပင်လယ်နက်ကမ်းခြေပေါ် ရှိ ဗာတွမ်း၊ ပိုတီနှင့် နာဗါရပ်ဆီမြို့များကိုဖြတ်၍၎င်း၊ ရောင်းဝယ်ကြသည်။ ဗာတွမ်းနှင့်ဗါးကူးမြို့များကို မီးရထားလမ်းဖြင့်ဆက်သွယ်ထားသည့်ပြင်၊ရေနံပို့ရန် ရေနံပြွန်ကြောင်းကြီးတခုကိုလည်းသွယ်တန်းထားလေသည်။

၁၉၁၇ ခုနှစ် ရုရှတော်လှန်ရေး ကြီး ပြီး ဆုံး အောင် မြင်သောအခါ၊ ကော်ကေးဆပ်တောင်တန်း မြောက် ဖက် ရှိ နယ်ပယ်အားလုံးသည် ရုရှဆိုဗီယက်ဆိုရှယ် လစ် ပြည် ထောင်စုသမတနိုင်ငံ၏ အစိတ်အပိုင်းတခုဖြစ်သွား၍၊ ကော်ကေးဆပ်တောင်တန်း၏ တောင်ဖက်ရှိနယ် ပယ် တို့ သည် ထရန်စကော် ကေး ရှန်း ဆိုဗီယက် ဆိုရှယ် လစ်ပြည်ထောင်စုသမတနိုင်ငံအဖြစ် ပူးပေါင်းခံခဲ့ကြရသည်။ သို့ရာတွင် ၁၉၃၆ ခုနှစ်၌ ထိုပြည်ထောင်စုနိုင်ငံအဖွဲ့အစည်းကိုဖျက်သိမ်းလျက်၊ ဆိုဗီယက်ရုရှ အစိုးရလက် အောက် ခံ ဆိုဗီ ယက် ဆို ရှယ် လစ်

သမတနိုင်ငံငယ်ကလေးများကို သီးခြားဖွဲ့စည်းပေးခဲ့၏။ ယင်းတို့မှာ အဇာဗိုင်ဂျန်၊ ဂျော်ဂျီယာနှင့် အာမီးနီးယားပြည်နယ်များဖြစ်သည်။ ဂျော်ဂျီယာနှင့်အဇာဗိုင်ဂျန်ပြည်နယ်တို့မှာ အစ္စလမ်အယူဝါဒကိုကိုးကွယ်သောနယ်များဖြစ်ကြ၍၊ အာမီးနီးယားပြည်နယ်ကလေးကား ခရစ်ယန်အယူဝါဒကို ကိုးကွယ်သောနယ်ဖြစ်သည်။ ထို ၃ နယ်သည် စတုရန်းမိုင်ပေါင်း ၇၁,၀၀၀ မျှကျယ်ဝန်း၍၊ စုစုပေါင်းလူဦးရေ ၇,၁၀၀,၀၀၀ ခန့်ရှိ၏။

ကော်ကေးရှားဒေသကား သဘာဝတွင်းထွက်ပစ္စည်းတို့ဖြင့် ကုံလုံကြွယ်ဝ၏။ ကြေးနီ၊ ငွေ၊ သံ၊ ကိုဗေါ့၊ ကန့်၊ ပြဒါး၊ မန်ဂနိ စသော အဖိုးတန်ဓါတ်သတ္တုများ အပြင် ရေနံလည်းအကြီးအကျယ်ထွက်၏။ ဗါးကူးနယ်ရေနံတွင်းများကား ကမ္ဘာကျော်ဖြစ်ကြသည်။ တောင်ဖက်ပိုင်းတွင်မိုးကောင်းသဖြင့် သစ်တောကြီးများရှိရာ သစ်များစွာထွက်လေသည်။ ထိုဒေသ၏ထွက်ကုန်များတွင် ကျော်ကြားသောထွက်ကုန်တမျိုးကား ကော်ဇောဖြစ်၍ အရှေ့တိုင်းထွက်ကော်ဇောများအောက်မညံ့လှချေ။

**ကော်စတာရီးကားနိုင်ငံ။** ။ကော်စတာရီးကားမှာ အမေရိကတိုက်အလယ်ပိုင်းရှိ သမတနိုင်ငံငယ်တခုဖြစ်၏။

ကော်စတာရီးကား၏မြောက်ဖက်တွင် နစ်ကရားဂွါနိုင်ငံ၊ အရှေ့ဖက်တွင် ကယ်ရစ်ဗျန်ပင်လယ်၊ အရှေ့တောင်ဖက်တွင် ပနားမားနိုင်ငံ၊ အနောက်ဖက်တွင် ပစိဖိတ်သမုဒ္ဒရာတို့ အသီးသီးရှိကြ၏။

ထိုနိုင်ငံကလေး၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း



ကော်စတာရီးကားနိုင်ငံ ဆန်ဟိုဇေးမြို့တော်၏ရှုခင်းတရပ်



ကာဖီစေ့များကိုနေပူတွင်အခြောက်လှန်းနေစဉ်

၂၃,၀၀၀ ရှိ၍ လူဦးရေမှာ ၁၉၅၁ ခုနှစ်သန်ကောင်စာရင်းအရ၊ ၈၀၀,၈၇၅ ယောက်ဖြစ်သည်။ ကော်စတာရီးကားမှာ ကုန်းမြင့်ဒေသဖြစ်၍ ပင်လယ်ပြင်ထက် ပေ ၃,၀၀၀ မှ ၆,၀၀၀ အထိမြင့်သည်။ မီးတောင်ရှင်များရှိ၏။ တောင်နှင့်မြောက်ဖြတ်လျက်ရှိသောတောင်တန်းနှစ်ခုရှိ၍ အကြားတွင် ဆန်ဟိုဇေးကုန်းပြင်မြင့်ရှိသည်။ ပင်လယ်ကမ်းရိုးတန်းမှာ ကယ်ရစ်ဗျန်ပင်လယ်ကမ်းဖက်တွင် ၁၈၁ မိုင်မျှရှည်လျား၍ ပစိဖိတ်သမုဒ္ဒရာကမ်းဖက်တွင် မိုင် ၃၆၀ ရှည်လျား၏။ အကွေ့အကောက်များပေါများလှသည်။ အကြီးဆုံးသောမြစ်မှာ ဆန်ဟွမ်မြစ်ဖြစ်၍ အရှေ့ဖက်သို့စီးဆင်းသည်။ မြို့တော်မှာ ဆန်ဟိုဇေးဖြစ်၍ လူဦးရေ ၉၃,၈၅၈ ယောက်ရှိသည်။ ပစိဖိတ်သမုဒ္ဒရာကမ်းခြေဖက်တွင် ပွန်တာရေးနပ်မှာ သင်္ဘောဆိပ်ကမ်းမြို့ဖြစ်၍ လူဦးရေ ၈,၈၆၈ ယောက်ရှိသည်။ ကယ်ရစ်ဗျန်ပင်လယ်ကမ်းခြေဖက်တွင် လီမွန်းမြို့မှာ သင်္ဘောဆိပ်ကမ်းမြို့အဖြစ် တိုးတက်ကြီးပွားလာလျက်ရှိ၍ လူဦးရေ ၁၀,၂၂၄ ယောက်မျှရှိလေသည်။

ကော်စတာရီးကားကို ၁၅၀၂ ခုနှစ်တွင် ကိုလံဗပ်သည် အမေရိကတိုက်သို့နောက်ဆုံးအကြိမ်လာရောက်စဉ်က စတင်တွေ့ရှိခဲ့၏။ ကော်စတာရီးကားဆိုသောအမည်မှာ စပိန်ဘာသာဖြစ်၍ 'ကြွယ်ဝသောကမ်းခြေ' ဟုအဓိပ္ပါယ်ရသည်။

ကော်စတာရီးကားမှာ စပိန်တို့လက်အောက်တွင် များစွာကြီးပွားတိုးတက်ခြင်းမရှိခဲ့ချေ။ ၁၈၂၁ ခု စက်တင်ဘာလတွင် စပိန်လက်အောက်မှတော်လှန်ပုန်ကန်၍ လွတ်လပ်သောနိုင်ငံဖြစ်လာသည်။

ကော်စတာရီးကားသမတနိုင်ငံ၏ အရေးအပါဆုံးထွက်ကုန်များမှာ ကာဖီ၊ ငှက်ပျောသီးနှင့် ကိုကိုးတို့ဖြစ်၏။ ဆန်စပါး၊ ဆေး၊ ကြံ၊ အာလူးတို့ကိုလည်း အနည်းငယ်စိုက်



နပိုလီယန်ခေတ်အခြေကိုပြသော ကော်စီကားကျွန်းမှ ရှုခင်းတခု

ပျိုးကြ၏။ ဒုတိယအရေးကြီးဆုံးလုပ်ငန်းမှာ သတ္တုတွင်းတူးဖေါ်ခြင်းပင်ဖြစ်သည်။ ရရှိသောဓါတ်သတ္တုများမှာ ရွှေ၊ မန်ဂနိ၊ ငွေ၊ ပြဒါးနှင့် ကန့်စသည်တို့ဖြစ်သည်။ သစ်တောများရှိသော်လည်း သစ်လုပ်ငန်းမှာ များစွာမကြီးကျယ်ချေ။ ကာဖီခင်းများကို တောင်ကုန်းတောင်စောင်းများတွင်တွေ့နိုင်၏။

ကော်စတာရီးကားတွင်နေထိုင်သူများမှာ စပိန်အဆက်အနွယ်များဖြစ်ရာ အခြားအလယ်ပိုင်းအမေရိကနိုင်ငံများမှလူများထက် စပိန်သွေးပို၍များသည်။ စပိန်နှင့်တိုင်းရင်းသားများပေါင်းဖက်သဖြင့်ပေါက်ဖွားသော ကပြားများလည်းရှိသည်။ ကပ္ပလီများကိုကား မြေနိမ့်ဒေသများတွင်စေခိုင်းရန် ခေါ်ဆောင်ထား၏။

ဗရင်ဂျီဂိုဏ်း ခရစ်ယန်အယူဝါဒကို နိုင်ငံတော်ဘာသာအဖြစ်သတ်မှတ်ထား၏။ သို့ရာတွင် အယူဝါဒလွတ်လပ်ခွင့်ရှိ၍ အခြားအယူဝါဒများကိုလည်း ကိုးကွယ်နိုင်သည်။ ပညာရေးတွင် မသင်မနေရ မူလတန်းအခလွတ်ပညာသင်ကြားရေးစံနစ်ရှိ၏။ စိုက်ပျိုးရေးကျောင်းနှင့် တက္ကသိုလ်ကျောင်းတကျောင်းလည်းရှိသည်။ တနိုင်ငံလုံးတွင် စပိန်ဘာသာကိုအသုံးပြုသော်လည်း ကျောင်းများတွင် အင်္ဂလိပ်ဘာသာကိုသင်ကြားပေးလျက်ရှိလေသည်။

**ကော်စီကားကျွန်း။** ။ကော်စီကားကျွန်းသည်မြေထဲပင်လယ်အတွင်း ပြင်သစ်ကမ်းခြေမှ အရှေ့တောင်ဖက် မိုင် ၁၀၀ ခန့် အကွာတွင် တည်ရှိ၍ ကမ္ဘာတဝှန်းလုံးကို စိုးမိုးရန်ကြံစည်ခဲ့သူ နပိုလီယန်ဗိုနပတ်၏ မွေးဖွားရာဇာတိ ဖြစ်သည့်အတွက် ကမ္ဘာ့သမိုင်းတွင် ထင်ရှားလေသည်။

ကော်စီကားကျွန်းသည် အလျား မိုင် ၁၁၀၊ ,အနံ မိုင် ၅၀ ခန့် ရှိပြီးလျှင် စတုရန်းမိုင်ပေါင်း ၃,၃၆၇ မျှ ကျယ်ဝန်း၏။ ၁၉၄၆ ခုနှစ် သန်ကောင်စါရင်းအရ လူဦးရေ ၂၆၈,၀၀၀ ခန့် ရှိသည်။ ကျွန်းသူ ကျွန်းသားများမှာ ရိုးသား ဖြောင့်မတ်သော်လည်း လုံ့လဝီရိယ နည်းပါးကြ၏။ စိတ်ပြင်း၍ ရန်တုံ့ပြန်တတ်သော လူမျိုးဖြစ်သည်။ တိုင်းရင်းစကားမှာ ဣတာလျံဘာသာဖြစ်၏။ ကျွန်း၏ မျက်နှာပြင်မှာ တောင်ထူထပ်ပြီးလျှင် ကျယ်ဝန်းသော သစ်တောကြီးများ ဖုံးအုပ်လျက်ရှိသည်။ သစ်အယ်ပင်၊ ထင်းရှူးပင်နှင့် ဝက်သစ်ချပင်များ ပေါများသည်။ ကမ်းရိုးတန်းလွင်ပြင်များနှင့် တောင်ကြား ချိုင့်ဝှမ်းများတွင် စပျစ်ပင်၊ လိမ်မော်ပင်၊ ရှောက်ပင်၊ သံလွင်ပင်နှင့် ပိုးစာပင်များ ပေါက်ကြ၏။ မြေဩဇာကောင်းသော်လည်း စိုက်ပျိုးရေးလုပ်ငန်း ညံ့ဖျင်းလှသဖြင့် ပြည်တွင်းသုံးအတွက်ပင်လျှင် ကောက်သီးကောက်နှံ လုံလောက်အောင် မထွက်ချေ။ဆင်းရဲသား လူတန်းစားတို့သည် သစ်အယ်သီးအမှုန့်ကို ပေါင်မုံ့ဖုတ်၍ ပဓာနအစာအဖြစ် စားသုံးကြရသည်။ ဆိ၊ အရက်နှင့် ငါးများကို ထုတ်ကုန်အဖြစ်ဖြင့် တင်ပို့ရောင်းချကြ၏။ သံ၊ ကြေးနီနှင့် ခနောက်စိမ်းတို့ကို အနည်းအကျဉ်း တွေ့ရသည်။ နှမ်းဖတ်ကျောက်နှင့် စကျင်ကျောက်တို့ကို အတော်များများ တူးဖေါ် လုပ်ကိုင်ကြ၏။

ကော်စီကားကျွန်းကို ရှေးဦးစွာ အုပ်စိုးသူများမှာ ဖီနီ

ရှန်လူမျိုး ဖြစ်သည်။ ထိုနောက် လက်ပြောင်းကာ၊ ရောမ၊ ဂေါ့သ၊ ဖရန့်၊ ဆာရဆင်၊ ဂျီနိုးဝီး၊ ပြင်သစ် စသော လူမျိုး အသီးအသီးတို့ အုပ်စိုးခဲ့ကြသည်။ ပြင်သစ်တို့သည် ၁၇၆၈ ခုနှစ်တွင် ထိုကျွန်းကို ဂျီနိုးဝါးအစိုးရတို့ထံမှ ဝယ်ယူခဲ့သည်။ ပြင်သစ် အရေးတော်ပုံ အတွင်းကမူ ဗြိတိသျှတို့ လက်သို့ ခေတ္တမျှ ကျရောက်ခဲ့၏။ သို့ရာတွင် ၁၈၁၅ ခုနှစ်၌ ပြင်သစ်တို့က ပြန်လည် သိမ်းပိုက်ပြီးလျှင် ထိုအချိန်မှစ၍ ပြင်သစ်နိုင်ငံ၏ နယ်တနယ်အဖြစ်ဖြင့် အုပ်ချုပ်ခဲ့ကြသည်။ မြို့တော်မှာ အနောက်ဖက် ကမ်းခြေတွင်ရှိသော အာယတ်ချိုမြို့ ဖြစ်၍လူဦးရေ ၃၁,၄၃၄ ယောက်ခန့် ရှိ၏။ အကြီးဆုံးမြို့မှာမူ အရှေ့မြောက်ဖက်ကမ်းခြေရှိ ဗါးစတီးယားမြို့ ဖြစ်၍ လူဦးရေ ၅၂,၂၀၈ ယောက် ရှိသည်။

**ကော်စေးပင်။** ။ကော်စေးပင်များ၏ ရုက္ခဗေဒဆိုင်ရာ အမည်မှာ 'ပါလေကွီယမ် အော့ဗလောင်းဂျီဖိုးလီးယား' ဖြစ်၍ ဆက်ပိုတေစီး မျိုးစဉ်တွင် ပါဝင်သည်။ ထိုသစ်ပင် မျိုးမှာ မိုးများစွာ ရွာသွန်းသော မလ္လာယုကျွန်းဆွယ်နှင့် ထိုဒေသအနီးတဝိုက်ရှိ ကျွန်းများတွင် ပေါက်ရောက်သည်။ အသားမှာ ပွ၍ အသုံးမဝင်ချေ။ အသုံးဝင်သော အရာမှာ ယင်းအသားပွနှင့် အခေါက်ကြားနေရာမှ ထွက်သော နို့စေး ဖြစ်၏။ ယင်းကို ကျိုချက်လိုက်လျှင် ကော်ဖတ်နှင့်တူ၍ အနီရင့်ရောင်ရှိသော ပစ္စည်းကိုရသည်။

ကော်စေးပင်မှ ရသော ကော်စေးမှာ လျှပ်စစ်ဓါတ် မလိုက်သော အရာဝတ္ထုမျိုး ဖြစ်သည်။ ရေအောက် ကြေးနန်းကြိုးများကို ကော်စေးပြားဖြင့် ရစ်ပတ်ထားရာ ကော်စေးသည် ရေနှင့်ထိသော်လည်း မပြောင်းလဲချေ။ ယင်းကိုနွေးအောင် ပြုလုပ်၍ လိုသလောက် ဆွဲဆန့်နိုင်သည်။

ရော်ဗာခေါ် ကော်ဖတ်ကဲ့သို့ပင် ကော်စေးမှာ ရေစိမ်ခံသည်။ ကန့်နှင့် ရော၍ ချက်နိုင်သော်လည်း ကော်ဖတ်ကဲ့သို့ ရှန်းကန်သတ္တိ မရှိချေ။ သို့သော် ရေနွေးတွင် ထည့်က ပျော့၍ လာသည်။ ထိုအချိန်တွင် ကိုယ်လိုရာပုံသဏ္ဌာန်ကို ပြုလုပ်နိုင်၍ အေးသော အခါ မာကျောသွားသည်။ ကော်စေးကို ခွဲစိတ်ကုသရေးဆိုင်ရာ အချို့သော ပစ္စည်းများ၊သွားစိုက်အံပုံများပြုလုပ်ရာတွင်အသုံးပြုသည်။

အနောက်နိုင်ငံများတွင် ကော်စေးကို စတင်သုံးစွဲလာသည်မှာ နှစ် ၁၀၀ ခန့်မျှသာ ရှိသေးသော်လည်း တရုပ်နိုင်ငံ၌ကား လွန်ခဲ့သော နှစ်ပေါင်းများစွာကပင် သုံးစွဲခဲ့ကြသည်။ ကော်စေးရရန် ပင်စည်ကို အထစ်များထစ်၍ နို့စေးကိုခံယူရသည်။သို့သော် ထိုနည်းမှာ နှေးကွေးပြီးလျှင် နို့စေးထွက်လည်း နည်းသည်။ အများဆုံးထွက်အောင် ပြုလုပ်သော အလွယ်ဆုံးနည်းမှာ ထိုအပင်ကို ခုတ်လှဲပြီးနောက် နို့စေး ထုတ်ယူနည်းပင်ဖြစ်၏။ သို့သော် တပင်လျှင် နို့စေး အလေးချိန် ၂ ပေါင်မှ ၃ ပေါင်ခန့်အထိသာ ရသည်။ ဤကဲ့သို့ ခုတ်လှဲပစ်ခြင်းအားဖြင့် ကော်စေးပင် သစ်တောများမှာ ပြောင်တလင်း ဖြစ်သွားလေ့ရှိရာ ယခုအခါ ထိုပြောင်တလင်းများတွင်အပင်သစ်များကိုထပ်၍ စိုက်ပျိုးကြသည်။

ကော်စေးပင်များကို တောင်အမေရိကတိုက် ဗရာဇီးနိုင်ငံတွင်လည်း စိုက်ပျိုးကြသည်။ ကော်စေးပင်၏ အမြင့်မှာ ပေ ၇၀ မှ ၁၀၀ အတွင်းတွင် ရှိသည်။ ပင်စည်၏ အချင်းမှာ ၂ ပေမှ ၃ ပေအထိ ရှိသည်။ အနှစ် ၃၀ ခန့် ရှိသော အပင်ကို အရွယ်ရောက်ပြီဟု ဆိုနိုင်သည်။ အရွက်များမှာ စိမ်းလဲ့လဲ့ အရောင်ရှိ၍ အလျား ၆ လက်မခန့်ရှိပြီးလျှင် အနံမှာ အလယ်လောက်တွင် ၂ လက်မခန့်ရှိသည်။ ထိုအပင်မှ အဖြူရောင် အပွင့်များ ပွင့်ကြသည်။





မလ္လာယုကျွန်းဆွယ်၌ ကော်စေးပင်ကိုလှဲ၍ နို့စေးထုတ်ယူနေကြခြင်း

# ကျက်သရေဆောင် အခင်းတန်ဆာ

**ပြောင်မြောက်သောလက်မှုပညာတမျိုးဖြစ်သည့် ကော်ဇောရက်လုပ်ခြင်းသည် အရှေ့တိုင်းသားတို့စတင်တီထွင်ခဲ့သည့် လုပ်ငန်းဖြစ်၍ ယခုတိုင် အရှေ့တိုင်းဖြစ် လက်ရက်ကော်ဇောများ သာလျှင်ဗိုလ်စွဲနေပေသည်။ ခြည်မျှင်မှ အဖိုးတန်ကော်ဇောဖြစ်အောင် အရှေ့တိုင်းသား တို့၏ အကြိုက် ရက်လုပ်ထားအပ်သော ကော်ဇောများအကြောင်းကို အောက်တွင်ဖော်ပြထားသည်။**

**ကော်ဇော။** ။ခြေချလိုက်လျှင် မြုပ်သွားမတတ် နူးညံ့လှသည့် မွေးရှည် ကော်ဇောကြီးများကား ရှေးအထက်ထက်မှ စတင်၍ ယနေ့ထက်တိုင် ဘုရင့်နန်းတော်ကြီးများ၊ သဌေးသူကြွယ်၊ မင်းစိုးရာဇာတို့၏ အိမ်များတွင် ခမ်းနားထည်ဝါအောင် ကျက်သရေဆောင်သည့် အခင်းများ ဖြစ်ကြသည်။ ထိုမျှမက ပွဲလမ်းသဘင် အခမ်းအနား တို့တွင်လည်း ထိုကျက်သရေဆောင် ကော်ဇောကြီးမျိုး မပါလျှင် ခမ်းနား တင့်တယ်မှု လိုနေသကဲ့သို့ ဖြစ်ချေသည်။

ထိုအသုံးအဆောင် ကော်ဇောကြီးများကို ပါးရှား၊ တူရကီ စသော အာရှနိုင်ငံများတွင် စတင် လုပ်ကိုင်ခဲ့ရာ၊ ယခုထက်တိုင် အရှေ့တိုင်းဖြစ် ကော်ဇောကြီးများကို ယှဉ်ပြိုင်နိုင်ခြင်း မရှိသေးပေ။ ယခုခေတ်တွင်ကော်ဇောများကို စက်ဖြင့် ရက်လုပ်ကြသော်လည်း သုခုမပညာ လက်မှုလုပ်ငန်းတခုဖြစ်သော လက်ရက် ကော်ဇောများ၏ တန်ဖိုးမှာ လျော့ကျ နည်းပါးမသွားဘဲ ပိုမို ကြီးမြင့်လာသေးသည်။

ထိုကော်ဇောလုပ်ငန်းကို အသက်မွေး ဝမ်းကျောင်းအဖြစ် လုပ်ကိုင်ရာ ဒေသများမှာ အိန္ဒိယ၊ ပါးရှား၊ အီဂျစ်၊ တူရကီ၊ အာရှမိုင်းနားနှင့် တရုပ်နိုင်ငံတို့ ဖြစ်ကြသည်။ ထိုလုပ်ငန်းမှာ ကလေးလူကြီး မရွေး လုပ်ကိုင်နိုင်၍ ခေတ်စားသော အိမ်တွင်းမှု လုပ်ငန်းတခုလည်း ဖြစ်သည်။ အရှေ့တိုင်းနိုင်ငံတို့တွင် ဘိုးစဉ်ဘောင်ဆက် မျိုးရိုးစဉ်လာမှ ဆင်းသက်သော လုပ်ငန်းဖြစ်ရာ၊ ရှေးကပုံစံအတိုင်း ရက်လုပ်ကြ၍ ထိုအခြေခံပုံစံတွင်မှ ရက်လုပ်သူ၏ ထွင်ဉာဏ်အလိုက် အတွန့်အတက်ကလေးများ ထည့်သွင်း ရက်လုပ်သဖြင့်၊ အဆင်ပုံစံချင်းမှာ နယ်ပယ်ဒေသလိုက်၍ ကွဲပြားကြသည်။

ပန်းပွင့် ပန်းနွယ်များဖြင့် အဆင်ဖော်ထားသော ကော်ဇောမျိုးကို ပါးရှားနိုင်ငံမှ ရက်လုပ်၍၊ အဝိုင်း၊ လေးထောင့်၊ စကြာ စသည့် အဆင်များ ဖော်ထားသည်ကို တွေ့ရလျှင် ကော်ကေးရှားနယ်ဖြစ် ကော်ဇောများဟု သိသာနိုင်သည်။ ပါးရှင်းကော်ဇော အဆင်နှင့် ကော်ကေးရှန်းကော်ဇော အဆင် ၂ မျိုးကို ရောစပ်၍ ရက်လုပ်ထားသော ကော်ဇောမျိုးကို ကူးဒစ္စတန်နယ်၌ ရက်လုပ်သည်။ အိန္ဒိယနိုင်ငံမှ ကော်ဇောများမှာ အလယ်၌ ဒိုင်းပုံ ဘယက်ပုံများ ပါရှိသည်။ မွတ်စလင်များအဖို့ သက်ရှိသတ္တဝါတို့၏ အရုပ်များကို ထည့်သွင်းရက်လုပ်ခြင်း မပြုရန် သူတို့၏ အယူဝါဒက တားမြစ်ထားသည်။ တရုပ်နိုင်ငံဖြစ် ကော်ဇောကြီးများကား လှပ တင့်တယ်၍ အဝါ၊ အပြာ၊ အနီစသည့် တောက်ပသော အောက်ခံ အသွေးအရောင်များပေါ်တွင် စံယူလောက်သည့် အဆင်များ ဖော်ထားသည်။

စက်ရက် ကော်ဇောများသည် အဆင်အသွေးနှင့် အရုပ်ပုံ ပန်းဖော်ရာ၌ အရှေ့တိုင်းဖြစ် လက်ရက် ကော်ဇောကို မမှီနိုင်အောင်ရှိသည်။ လက်ရက် ကော်ဇောတွင် ဘိုးစဉ်ဘောင်ဆက်မှ ဆင်းသက်ခဲ့သော ဆိုးဆေးနည်းများဖြင့် ဆိုးထားသော ခြည်မျှင်တို့၏ အသွေးအရောင်များမှာ ဓါတုဗေဒ ဆိုးဆေးများထက် အသွေးအရောင် နူးညံ့သိမ်မွေ့လှပ၍၊ ဆေးခိုင်ပြီးလျှင် ကြာရှည်ခံသည်။ ထိုသမားရိုးကျဆိုးဆေးများမှာ အသီးအရွက်တို့မှ ထုတ်ယူသော အရောင်ဆိုးဆေးများဖြစ်ကြသည်။ ရက်လုပ်သည့် ခြည်မျှင်များမှာ သိုးမွေး၊ ကုလားအုပ်မွေးစသည်တို့ ဖြစ်ကြ၍ တခါတရံ ထိုခြည်မျှင်များကို ရွှေခြည် ငွေခြည်များနှင့် ရောနှောရက်လုပ်ကြသည်။

လက်ရက်ကော်ဇောများ လုပ်နည်းမှာ အရှေ့တိုင်းနိုင်ငံများ၊ ဂရိတ်ဗြိတိန်၊ ဥရောပတိုက်တို့၌ ရှေးအဆက်ဆက်က ရက်လုပ်လာခဲ့သည့် နည်းအတိုင်းပင် လုပ်ကိုင်ကြသည်။ ကော်ဇောရက်လုပ်သည့် ရက်ကန်းစင်မှာ တိုင်နှစ်တိုင် စိုက်ထူပြီးလျှင် အထက်အောက် တန်း ၂ တန်းကို ကန့်လန့် ချည်ထားသည်။ တိုင်နှစ်တိုင်၏ ကြားနေရာအကျယ်မှာ ကော်ဇောအနံဖြစ်၏။ ထိပ်တန်းနှင့် အောက်တန်း ၂ တန်းပေါ်တွင် သွယ်တန်း၍ တိုင်ခြည်များကို ဆင်ထားသည်။

ကော်ဇောကို အောက်ဖက်မှစ၍ ဖေါက်ခြည်သွင်းကာ ကလနားကို ကျစ်လျစ်စွာ ရက်လုပ်ရသည်။ ကလနားအတော်အသင့် ရသည့်အခါမှ ကော်ဇော အဆင်အကွက်ဖေါ်ရန် ခြည်မျှင်များကို တိုင်ခြည်တွင် ချည်နှောင်ရသည်။ ထိုသို့ချည်နှောင်နည်းမှာ ပါးရှင်းချည်နည်းနှင့် တူရကီချည်နည်းဟူ၍ ၂ မျိုးရှိသည်။ ချည်ရမည့် ခြည်မျှင်ကို ၂ လက်မခန့် အပိုင်းကလေးများ ဖြတ်ထားရ၍ တိုင်ခြည် ၂ ပင်တွင် ချည်ရသည်။ ပါးရှင်းချည်နည်းမှာ တိုင်ခြည် ၂ ပင်ရှိသည့်အနက် ချည်ရမည့် ကြိုးစ ၂ စမှာ တိုင်ခြည်တပင်စီ၏ ဘေး၌ တစစီ ထွက်အောင် ချည်ရသည်။ တူရကီချည်နည်းမှာ တိုင်ခြည် ၂ ပင်ကြားထဲ၌ ကြိုးစ နှစ်စလုံး တပြိုင်တည်းထွက်အောင် ချည်သည့်နည်းဖြစ်သည်။

ပါးရှင်းချည်နည်းမှာ ၁ လက်မစတုရန်းတွင် ခြည်မျှင်ကို ပို၍ ချည်နှောင်ထည့်နိုင်သဖြင့် မထုံးမဖြစ်သော ချည်နည်း

ဖြစ်၍၊ စိပ်စိပ်ကလေး ချည်ထည့်နိုင်ပြီးလျှင် ကော်ဇော မျက်နှာပြင်ကို ညှိသည့်အခါ ကပ်၍ ဖြတ်ညှိနိုင်သည်။ ကော်ဇောအမျိုးအစားမှာ ၁ လက်မ စတုရန်း၌ ချည်နှောင် ထည့်နိုင်သော ခြည်မျှင်အရေအတွက်အလိုက် အစားစား ခွဲခြားထား၍၊ အနုဆုံးသော ပါးရှင်း ကော်ဇောအချို့မှာ ၁ လက်မစတုရန်း၌ ခြည်မျှင်စပေါင်း ၆၀၀ ကျော်မျှ ချည် ထည့်နိုင်လေသည်။

တိုင်ခြည်များတွင် ခြည်မျှင်စကလေးများ ချည်ထည့်၍ ခြည်တန်းစာ ပြီးဆုံးသွားသောအခါ၌ ဖေါက်ခြည် ၂ တန်း မျှကို ပင်ကျော်ပင်ချ ရက်သွင်းရသည်။ ချည်ထည့်ထား သော ခြည်မျှင်စကလေးများ ကျစ်လျစ် မြဲမြံသွားအောင် အပေါ်မှ ရက်ထည့်သော ဖေါက်ခြည်ကို ဘီးဖြင့် ဖြီးချပေး ရသည်။ ကော်ဇောပုံစံကို စာရွက်ပေါ်တွင် အကွက်ချပြီးမှ ရက်လုပ်ရသည်။ အချို့မှာ ပုံစံကို အလွတ် ကျက်မှတ်ထား ကြသည်။ ဤသို့ဖြင့် တတန်းပြီးတတန်း ရက်လုပ်သွား၍ အတော်အတန်ရလာလျှင် လိပ်တုံးလှည့်၍ အောက်ဖက်ကို လိပ်ထားရသည်။

ပါးရှင်းကော်ဇောများနှင့် ယှဉ်ကြည့်လျှင် တူရကီနိုင်ငံ ကော်ဇောများမှာ အနည်းငယ် ကြမ်းသည်။ ပါးရှားနိုင်ငံ



ကော်ဇောများကို အမွေးပေး ပြီးနောက်၊ ဤသို့ ဖြတ်ထုတ်ရသည်

ကော်ဇောရက်လုပ်ရာ ဌာနကြီးများမှာ ကဲမန်း၊ကူးဒစ္စတန် နယ်များ ဖြစ်ကြ၍၊ အဆင်အသွေး အမျိုးအစား ကောင်း သော ကော်ဇောကြီးများကို ရက်လုပ်ကြပြီးလျှင် အမျိုး အစားပေါင်း ၁၄ မျိုးခန့် ပါဝင်သည်။ တူရကီကော် ဇောကြီးများကို အူရှက်နယ်မှ အကြီးအကျယ် ရက်လုပ်၍၊ အာရှမိုင်းနားပြည်နယ် အနှံ့အပြားမှလည်း ထိုကော်ဇော မျိုး ထွက်သည်။ အိန္ဒိယနိုင်ငံ၌ မီရာဇပူရ၊ ဗါရာဏသီ၊ မတ်ဆလီပတ်တမ်၊ ကသ္မီရ၊ အမ္ဗရစ်ဆာ၊ ပက်ရှဝါနယ်များ တွင် ရက်လုပ်ကြသော်လည်း ပါးရှင်းကော်ဇောများ၏ အဆင်အသွေးကို မမှီချေ။ သို့ရာတွင် မတ်ဆလီပတ်တမ်၊ ဗါရာဏသီတို့မှ ထွက်သော ပိုးကော်ဇောများမှာမူ အလွန် လှပ၍ လက်ရာကောင်းလေသည်။

အရှေ့တိုင်းများတွင် စတင် အသုံးပြုသော ပစ္စည်းဖြစ် သည့်အလျောက် ကော်ဇောကို ဘုရား၊ ဂူကျောင်း၊ တန် ဆောင်းနှင့် နေအိမ်အဆောက်အအုံတို့တွင် ခင်းကျင်းရန် သာမက၊ နံရံများတွင် ကာရန် ကန့်လန့်ကာ၊ အိပ်ရာခင်း၊ စောင်နှင့် ဆင် မြင်း ကုန်းနှီး ကကြိုး တန်ဆာ အတွက် လည်း အသုံးပြုကြသည်။ ဥရောပနိုင်ငံများတွင် အစပဌမ၌ အရှေ့တိုင်းမှ ကော်ဇောများကို အဖိုးပေး၍ လူကုံထံများ ဝယ်ယူ သုံးစွဲခဲ့ကြသော်လည်း အလယ်ခေတ်လောက်တွင် အရှေ့တိုင်း ကော်ဇောများကို အတုယူ ရက်လုပ်ကြသည်။ သို့ရာတွင် လုပ်ကိုင်ရာ၌ အချိန်ကြာ၍ အဖိုးကြီးမြင့်လှသ ဖြင့် အထူး မှာယူသုံးစွဲသူတို့အဖို့သာ ရက်လုပ်ပေးကြသည်။

ခြည်မျှင်စကလေးများနှင့် ချည်နှောင် ရက်လုပ်ရသော ကော်ဇောမျိုးမဟုတ်ဘဲ ကန့်လန့်ကာ ရက်သကဲ့သို့ တိုင် ခြည် ဖေါက်ခြည် များဖြင့် အဆင်အကွက် ဖေါ်ကာ ရက် လုပ်သည့် ကော်ဇောမျိုးကိုလည်း စတင် အသုံးပြုကြရာ၊ ထိုကော်ဇောမျိုးမှာ တန်ဖိုး မများလှသည့်အတွက် အသုံး များလာလေသည်။ အခြား အသုံးများ၍ လက်ဖြင့် ရက် လုပ်ရသော ကြမ်းခင်းကော်ဇောမျိုးမှာ အင်ဂရိန်းခေါ် အရောင် ၂ မျိုးနှင့် တဖက်လျှင် အရောင်တမျိုးစီ အဆင် ဖေါ်ထားသော ကော်ဇောများ ဖြစ်ကြ၏။ ပန်းပုံရုပ်ပုံ ဖေါ် ရက်နည်းဖြင့် ရက်လုပ်သည့် ကော်ဇောမျိုးမှာ အဆင် အကွက်ဖေါ်ရာ၌ ခြည်ရောင်အမျိုးမျိုး အတွက် ဘီးလုံး အမျိုးမျိုးထား၍ ရက်လုပ်ရလေသည်။ နောက်နည်းသစ် တခုမှာ အဆင်ဖေါ်ရန်အတွက် အရောင်များကို ခြည်မျှင် များ၌ ပဌမ အဆင်ဖေါ် အရောင်ဆိုးပြီးမှ ရက်လုပ်ရ၍၊ အဆင်အကွက် နေသားတကျ ရှိစေရန် သတိထား၍ ရက် လုပ်ရသည့် နည်းဖြစ်သည်။ ထိုနည်းသစ်ကို ၁၈၃၂ ခုနှစ် တွင် စတင်ခဲ့သည်။

မြောက်အမေရိကတိုက်မှ နက်ဗဟိုး အင်ဒီးယန်းလူမျိုးတို့ ရက်လုပ်သည့် ကော်ဇောများ၊ စောင်များမှာ အရှေ့တိုင်း

ဖြစ် ကော်ဇောများနှင့် ယှဉ်ပြိုင်နိုင်သည်။ ထိုလူမျိုးတို့သည်လည်း အရောင်ဆိုးရာ၌ အသီးအရွက်များမှ ထုတ်ယူသောဆိုးဆေးများကို အသုံးပြုကြသည်။

အင်္ဂလန်ပြည်တွင် ကော်ဇောများကို လက်ရက်ကန်းစင်များဖြင့် လုပ်ကိုင်လာရာ ၁၉ ရာစုနှစ်လောက်တွင် ပြင်သစ်လူမျိုး ဂျိုးဇက်ဂျက္ကတ်က ဂျက္ကတ်ရက်ကန်းစင်ကို တီထွင်လိုက်သဖြင့် အတော်အတန် တိုးတက်လာလေသည်။ ထိုထက်တဆင့်တိုး၍ ထွင်လိုက်သူမှာ အမေရိကန် ပြည်ထောင်စု ဖေါ်စတန်မြို့မှ ဆေးကျောင်းသားတဦးဖြစ်သော အီရက်စတပ် ဗစ်ဂီလို ဆိုသူဖြစ်သည်။ ထိုသူသည် ရက်ကန်းစင်များကို ရေနွေးငွေ့အားဖြင့် ရက်လုပ်နိုင်ရန်တီထွင်လိုက်ရာ ထမြောက် အောင်မြင်၍ ကော်ဇောများကို တနေ့လျှင် ၈ ကိုက်မှ ၂၅ ကိုက်အထိ ရက်လုပ်လာနိုင်သည်။ ထိုမှတဆင့် တိုးတက်အောင် ပြုပြင်လာခဲ့ရာ စက်ရက် ကော်ဇောလုပ်ငန်းသည် ဥရောပတိုက်တွင် များစွာတိုးတက်ခဲ့လေသည်။

စက်ရက် ကော်ဇောအမျိုးမျိုးတွင် ဗရပ်ဆဲကော်ဇောမှာ အင်္ဂလန်တွင် ရက်လုပ်သော်လည်း ပန်းပုံရုပ်ပုံဖေါ်ရက်နည်းကို စတင်ရက်လုပ်သည့် ဗရပ်ဆဲမြို့ကို အစွဲပြု၍ ခေါ်ခြင်းဖြစ်သည်။ ထိုကော်ဇောမျိုးမှာ ပန်းပုံရုပ်ပုံဖေါ်ရက်သကဲ့သို့ အကွက်ဖေါ် ရက်လုပ်ထားခြင်း မဟုတ်ဘဲ မျက်နှာပြင်ပေါ်တွင် အကွင်းလိုက် ဖေါ်ထားသည့် မွေးပွ ကော်ဇောမျိုး ဖြစ်သည်။ ဝီလတန် ကော်ဇောမျိုးမှာ ဗရပ်ဆဲ ကော်ဇောမျိုးနှင့် တူသော်လည်း မျက်နှာပြင်ပေါ်မှ ကွင်းကလေးများကို ဖြတ်ညှိထား၍ ကတ္တီပါသားကဲ့သို့ရှိသော မွေးရှည်ကော်ဇောမျိုး ဖြစ်သည်။

ဝီလတန် ကော်ဇောမျိုးကဲ့သို့ မွေးရှည်ဖြစ်သော်လည်း အရှေ့တိုင်း လက်ရက်ကော်ဇောများကဲ့သို့ စက်ဖြင့် ရက်လုပ်ထားသော ကော်ဇောမျိုးမှာ အက်စမင်စတာ ကော်ဇောမျိုးဖြစ်သည်။ ဖေါ်ပြခဲ့သော စက်ရက်ကော်ဇောများ၏ ချတ်ယွင်းချက်မှာ အရှေ့တိုင်း ကော်ဇောများကဲ့သို့ အလိုရှိရာ အရွယ်အစားစားကို မရနိုင်ဘဲ တန်ံတည်းရှိသော ကော်ဇောလိပ်ထဲမှ ဖြတ်၍ စပ်ယူရလေသည်။ ထိုချတ်ယွင်းချက်ကို ကျော်နင်း ရက်လုပ်နိုင်သော ကော်ဇောမျိုးမှာ ရှနီး ကော်ဇောများဖြစ်သည်။ မွေးရှည် ကော်ဇောမျိုးပင်ဖြစ်ကာ အဆင်အကွက်မဖေါ်ဘဲ တောက်ပရွှန်းပြောင်သော အသွေး အရောင်များဖြင့် ပိန်းရက်လုပ်ထား၍ ဈေးကြီးပေးကြရသည်။

ကော်ဇောများကို တာရှည်သုံးနိုင်ရန် တံမြက်သိမ်းဖုံသုတ်စက် (ဓါတ်တံမြက်စည်း) ကိုအသုံးပြုနိုင်လျှင် ကောင်းသည်။ ယင်းမရှိလျှင် ကော်ဇောလှည်း တံမြက်စည်းကို သုံးသင့်ပေသည်။ ကော်ဇောများ ညစ်ပေလာသည့်အခါ ဝက်မှင်ဘီးကြမ်း၊ ကော်ဇောလျှော်သော ဆပ်ပြာ၊ ရေနွေးတို့ဖြင့် ပွတ်တိုက်လျှော်၍ သွေ့ခြောက်အောင် လှန်းပေးလျှင် အရောင်များ ပြန်လည် ကောင်းမွန် ရွှန်းပြောင်လာနိုင်သည်။ ကော်ဇောဆိုင်များတွင်လည်း ကော်ဇောများကို မရောင်းမီ ဤကဲ့သို့ပင် လျှော်ပေးလေသည်။ အသုံးမပြုဘဲ ထားသည့်အခါ၌ကား ပိုး မကိုက်စေရန် သတိပြုသင့်လေသည်။ ကော်ဇောတွင် အပေါက်ငယ်များရှိလာလျှင် လျှင်မြန်စွာ ဖါထေးပေးသင့်သည်။ ဖါထေးရာ၌ လိမ်မာ ကျွမ်းကျင်ရပေမည်။

ဂျာမနီ၊ ပြင်သစ် စသည့် နိုင်ငံများ၌လည်း ကော်ဇောစက်ရုံများရှိသည်။ အနောက်တိုင်းနိုင်ငံများ၌ စက်ရက်ကော်ဇောလုပ်ငန်းမှာ တနေ့တခြား တိုးတက် ကြီးပွါးလျက်ရှိသော်လည်း အရှေ့တိုင်း လက်ရက်ကော်ဇောများမှာ ယနေ့ထက်တိုင်



ကော်ဇော မျက်နှာပြင်ကိုစက်ဖြင့်ဖြတ်ညှိပေးခြင်း

ဂုဏ်သရေ တက်ဖြိုးလျက်ပင် ရှိသေးသည်။ သို့သော် လက်ရက်ကော်ဇောလုပ်ငန်းသည် အလွန်တရာ စိတ်ရှည်စွာ ပြုလုပ်ရ၍ လက်ဝင်လှသည့် လုပ်ငန်းဖြစ်သည့်ပြင် ကုန်ထွက်လည်း နှေးသောကြောင့်၊ ပါးရှားတူရကီစသည့် မျိုးရိုးစဉ်လာ ပြုလုပ်ခဲ့ကြသော အိမ်တွင်းမှုလုပ်ငန်းတရပ်မှာ ယခုအခါ အနောက်နိုင်ငံ ကုမ္ပဏီကြီးများ လက်အောက်ခံ လုပ်ငန်းများဘဝသို့ ကျရောက်လျက်ရှိရချေသည်။

**ကော်နေးယီး, ပီ** (ခရစ် ၁၆၀၆–၁၆၈၄)။ ။ပီယဲ ကော်နေးယီးသည် နာမည်ကျော် ပြင်သစ်လူမျိုး ပြဇာတ်ရေးဆရာတယောက် ဖြစ်၏။ သူသည် လက်ဦးတွင် ရှေ့နေတယောက် ဖြစ်ခဲ့သော်လည်း၊ ၁၆၂၉ ခုနှစ်၌ ရေးခဲ့သော 'မေလိ' ခေါ် ပြဇာတ်ဖြင့် နာမည်ကျော်လာရကား ရှေ့နေ မလိုက်တော့ဘဲ ပြဇာတ်များကိုသာ ရေးသားလေသည်။ ထိုနောက် သူသည် ကာဒင်နယ် ဂိုဏ်းချုပ်ရစ်ရှလျူး၏နိုင်ငံရေး သဘောတရားများကို ပြဇာတ်ဖြင့် ဝါဒဖြန့်ပေးခဲ့သည်။ သို့ရာတွင် လွတ်လပ်စွာ ရေးသားတတ်သဖြင့် ၁၆၃၄ ခုနှစ်၌ အလုပ်မှ နုတ်ထွက်လိုက်ပြီးနောက် ၂ နှစ်ခန့်အကြာတွင် အလွန် ထူးခြားကောင်းမွန်သော 'ဆစ်' ခေါ် ပြဇာတ်ကို ရှုတင်သောအခါ ပါရစ်တမြို့လုံး၏ အသည်းစွဲဖြစ်လာခဲ့သည်။



**ပီယဲ ကော်နေးယီး**

ထိုနောက် ပြဇာတ် ၄ ခုကို ဆက်လက် ရေးသားခဲ့၏။ သို့သော် ၁၆၅၃ ခုနှစ်၌ ရေးခဲ့သော 'ပါသာရိ' ပြဇာတ်ကို လူကြိုက်မများသဖြင့် စိတ်ပျက်ပြီးလျှင် ၆ နှစ်ကြာမျှ ပြဇာတ် မရေးဘဲ နေခဲ့သည်။ ၁၆၅၉ ခုနှစ်၌ ပြဇာတ်များကို ပြန်၍ ရေးသော်လည်း ယခင်ကလောက် နာမည် မထွက်တော့ချေ။ ၁၆၈၄ ခု အောက်တိုဘာလ ၁ ရက်နေ့တွင် ပါရစ်မြို့၌ ကွယ်လွန်သွားလေသည်။

ကော်နေးယီး၏ ဇာတ်ကောင်များမှာ ဒဏ္ဍာရီ ပုံပြင်များထဲမှ လူစွမ်းကောင်းများနှင့် တူလှသည်။ အဆိုးအကောင်း ဒွန်တွဲလျက်ရှိတတ်သော လူ့စိတ်သဘာဝကို မမူဘဲ မတထောင် တကောင်ဖွားကဲ့သို့ ရှာမှရှားသော လူစွမ်းကောင်းများ အကြောင်းကိုသာ ပေါ်ပြထားလေ့ရှိ၏။ သို့ဖြစ်သည့်အလျောက် သူ့ပြဇာတ်များမှာ များစွာ သဘာဝမကျလှဘဲ၊ လူ့ဘဝနှင့် အဆက် ကင်းကွာနေလေသည်။ သို့ရာတွင် လူစွမ်းကောင်းက အခက်အခဲများကို ကျော်နင်း အောင်မြင်လိုက်ပုံကို သူ့ခေတ်က ပွဲကြည့်ပရိသတ်များ ကြိုက်နှစ်သက်ကြသည်။ သူကလည်း သူ့ဇာတ်ကောင်များကို ပရိသတ်စွဲလောက်အောင် ပြုပြင်ဖန်တီးပေးသည်။ မောလျဲမှလွဲလျှင် ကော်နေးယီးသည် နာမည်အထင်ရှားဆုံး ပြင်သစ် ပြဇာတ်ရေးဆရာတဦး ဖြစ်သည်။ သူ၏ အကောင်းဆုံး လက်ရာများကား အလွမ်းပြဇာတ်များ ဖြစ်ပေသည်။

**ကော်ဖစ်တွဘုရင်။** ။ကော်ဖစ်တွ ဘုရင်သည် သမိုင်းပုံပြင်အရ သူတောင်းစားမကလေးအား မိဖုရားမြှောက်သည့် ဘုရင်ဖြစ်သည်။ ကော်ဖစ်တွ၏ အကြောင်းကို ပုံပြင်မှာ



**ဆာ အက်ဒွပ် ဗန်းဂျုန်း၏ "ကော်ဖစ်တွဘုရင်နှင့် သူတောင်းစားမယ်' ပန်းချီကား**

ထက် ကဗျာလင်္ကာနှင့် ပန်းချီကားချပ်တို့တွင် ပို၍ ထင်ရှားစွာ ဖွဲ့နွဲ့ဖော်ပြထားသည်ကို တွေ့ရသည်။ ကဗျာဆရာကြီး တင်နီဆန်သည် ကော်ဖစ်တွအကြောင်း ကဗျာတပုဒ် စပ်ဆိုခဲ့သည်။ ဝိတိုရိယဘုရင်မကြီး လက်ထက်က ကျော်ကြားသော ပန်းချီဆရာကြီး ဆာ အက်ဒွပ်ဗန်း ဂျုန်းကလည်း 'ကော်ဖစ်တွဘုရင်နှင့် သူတောင်းစားမယ်' အမည်ရှိသော အလွန် လှပသည့် ပန်းချီကားတချပ်ကို ရေးဆွဲခဲ့သည်။

ပုံပြင်အလိုအားဖြင့် ကော်ဖစ်တွဘုရင်၏ တိုင်းပြည်မှာ ဝပြော သာယာလှသော်လည်း ဘုရင်မှာ မာနကြီးလှ၍ 'မ'ဆိုလျှင် အလွန် မုန်းတီးသူ ဖြစ်သဖြင့် မိဖုရားမြှောက်ရန်အတွက် အချောအလှ မင်းသမီးကလေးများကိုပင် လျစ်လျူရှုခဲ့သည်ဟု ဆို၏။ တနေ့သော် နန်းတော်တံခါးဝသို့ စုဝေး ရောက်လာကြသည့် သူတောင်းစားများအနက် ရုပ်ရည် အလွန်သန့်ရှင်းသော ဇီနယ်လိုဖွန်း အမည်ရှိ သူတောင်းစားမကလေးကို ဘုရင်ကြီးမြင်လေသော် ချစ်ခင်တပ်မက်စိတ်ကို ဖိနှိပ်မရနိုင်အောင် ရှိသောကြောင့် ချက်ခြင်းပင် မိဖုရားမြှောက်ပြီးလျှင် အသက်ထက်ဆုံး ချစ်ခင်ကြင်နာစွာ ရှိကြသည်ဟု ဆိုလေသည်။

# အဖိုးမဖြတ်နိုင်သည့် အံ့ဖွယ်သစ်စေး

**ကော်ဖတ်၏အာနိသင်ကို သိရှိသည်မှာ နှစ်ပေါင်း ၁၀၀ ကျော်မျှသာ ရှိသေးသော်လည်း ယခုအခါတွင် အမျိုးပေါင်း ၃၀,၀၀၀ ထက်မနည်းသော ပစ္စည်းတို့တွင် ယင်းကိုအသုံးပြုထားလျက်ရှိ၏။ မည်သို့သောစွမ်းအင်ထူးကြောင့် ကော်ဖတ်လုပ်ငန်း အရေးပါ အရာရောက်ရပုံကို ဤအကြောင်းရပ်တွင် ဖြေရှင်းထားလေသည်။**

**ကော်ဖတ်**။ ။လွန်ခဲ့သော နှစ်ပေါင်း ၄၅၀ ခန့်က ကမ္ဘာသစ်ကို တွေ့ရှိခဲ့သူ ကိုလံဗပ်သည် ဒုတိယအကြိမ် အမေရိကတိုက်သို့ ပြန်ရောက်စဉ်၊ တိုင်းရင်းသား အင်ဒီးယန်း လူမျိုးအချို့ မြေကြီးပေါ်၌ ခုန်နိုင်သော အနက်ရောင် ဘောလုံးများနှင့် ကစားနေကြသည်ကို တွေ့ရ၏။ ယခင်က မြေပေါ်တွင် ခုန်နိုင်သော အရာဝတ္ထုမျိုးကို မမြင်ဘူးသောကြောင့် အလွန် အံ့အား သင့် သွား သည့် အတိုင်း၊ အဆိုပါ ဘောလုံးအချို့ကို အထူးအဆန်းအဖြစ်ဖြင့် ပြသရန် စပိန်နိုင်ငံသို့ ယူဆောင်လာခဲ့သည်။ သို့သော် ထိုဘောလုံးများ၌ မည်သည့်ပစ္စည်းမျိုး ပါရှိ သည် ကို ၎င်း၊ ထိုပစ္စည်းသည် နောင်တနေ့တွင် ဤကမ္ဘာ၌ အလွန် အသုံးဝင်သော ပစ္စည်းတခု ဖြစ်လာမည်ကို၎င်း၊ တွေးတောမိဟန် မတူချေ။ ကိုလံဗပ် လက်ထက်က ဥရောပတိုက် သား တို့ သည် အင်ဒီးယန်းလူမျိုးတို့၏ ခေါ်ပုံအတိုင်း အဆိုပါပစ္စည်းကို 'ကူးချူ' ဟု ခေါ် ခဲ့ကြရာ၊ ယခုထက်တိုင် အချို့သော ဘာသာစကားရပ်များ၌ ထိုအတိုင်း ခေါ်ဝေါ် လျက် ရှိပေသေးသည်။ သို့ရာတွင် နောက်နှစ်ပေါင်း ၃၀၀ နီးပါး လွန်မြောက်၍ ၁၇၇၀ ပြည့်နှစ်သို့ ရောက်သောအခါ အင်္ဂလိပ်လူမျိုး သိပ္ပံကဝိကြီး ဂျိုးဇက်ပရီးစလေးသည် ထိုပစ္စည်းကို ခဲဖျက် (ရာဗါ) အဖြစ် ကောင်းစွာ အသုံးပြုနိုင်ကြောင်း တွေ့ရသဖြင့် ရာဗါဟုပင် လွယ်ကူစွာ အမည်ပေးလိုက်သည်။ ထိုအချိန်မှစ၍ အင်္ဂလိပ်ဘာသာစကားအရ ရာဗါဟု ခေါ်တွင်လာခဲ့ကြလေသည်။ ရာဗါကို မြန်မာတို့က ကော်ဖတ် (ကြက်ပေါင်စေး)ဟုသိ၍ ရော်ဗါဟုလည်း ခေါ်ကြသည်။

ကော်ဖတ်သည် ကမ္ဘာတွင် အထူးဆန်းဆုံး ပစ္စည်းတခု ဖြစ်၏။ ရှိရှိသမျှ ပစ္စည်းများအနက် ကော်ဖတ်သည် ရုန်းကန်သတ္တိ အများဆုံးရှိ၍ ရေမတင်နိုင် သည့်ပြင် လျှပ်စစ်ကိုလည်း တားဆီး ကာကွယ်နိုင်သည်။ ပြင်းထန်သော ဓါတ်ပစ္စည်းအချို့၏ ဒဏ်ကိုလည်း ကောင်းစွာ ခံနိုင်သည်။ အခြားပစ္စည်းများနှင့် ရောနှောကာ အမျိုးမျိုး စီမံပေးခြင်းဖြင့် ကော်ဖတ်မှ လူသုံးပစ္စည်း အမြောက်အမြား ပြုလုပ်နိုင်ရာ ယနေ့အထိ ပစ္စည်းအမျိုးပေါင်း ၃၀,၀၀၀ ထက်မနည်း ပြုလုပ်နိုင်ပြီဟု သိရသည်။ ခဲဖျက်၊ ဖိနပ်အောက်ခံခုံ၊ မိုးရေခံဖိနပ်၊ ရေခံဦးထုပ်၊ ဘောလုံး၊ ဂေါက်သီး၊ တင်းနစ်ဘောလုံး၊ တိုင်ယာ၊ ကျွတ်၊ ဖေါင်တိန်၊ ဘီး၊ တယ်လီဖုန်းစကားပြောခွက်၊ ဓါတ်ကာပစ္စည်း၊ မီးသတ်ပိုက်လုံး၊ ရော်ဗာဗူးဆို့၊ လက်အိတ်၊ ဓါတ်ငွေ့ကာမျက်နှာဖုံး၊ ကစားစရာရော်ဗာပူဖေါင်း၊ ဓါတ်အိမ်ပုံ၊ စက်ပတ်ကြိုး၊ ကြမ်း ခင်း ရော် ဗာပြား စသည်တို့ မှာ ကော် ဖတ်မှ ပြုလုပ်ရရှိသော ပစ္စည်း များ အနက် အချို့ အဝက် မျှသာ ရှိသေး၏။ ဤကမ္ဘာတွင် ကော်ဖတ်မရှိလျှင် မည်သို့ ဖြစ်မည်နည်း။ ကော်ဖတ်မရှိလျှင် အဆိုပါ အသုံးအဆောင် ကရိယာများကို မည်သည့် ပစ္စည်းနှင့်မျှ အစားထိုး၍ ပြုလုပ်နိုင်မည်မထင်ချေ။ တနည်းဆိုရသော် ကော်ဖတ်မရှိခဲ့သော် ကျွန်ုပ်တို့၏ နေမှု ထိုင်မှုနှင့်တကွ စက်မှု လက်မှု လုပ်ငန်း အသွယ် သွယ် ကို အ လွန် အမင်း ထိခိုက် မည်ဖြစ်၍ တကမ္ဘာလုံးရှိ တိုးတက်မှု အဝဝသည်လည်း အကြီးအကျယ် ဆုတ်ဆိုင်း ရပ်တန့်သွားဖွယ်ရာ အကြောင်းရှိပေသည်။

ဤမျှလောက် ကော်ဖတ် အသုံးဝင်ခြင်းမှာ ပစ္စည်းအမျိုးမျိုးနှင့် ပေါင်းစပ်နိုင်ခြင်းကြောင့်ပင် ဖြစ်သည်။ ထိုသို့ ပေါင်းစပ် ပြုလုပ်ထား သော ပစ္စည်း များ သည် တခါတရံ ဂုဏ်သတ္တိချင်း ဆန့်ကျင်ဖက် ဖြစ်နေတတ်သည်မှာလည်း ထူးဆန်း၏။ ဥဒါဟရဏ်၊ ကော်ဖတ်သည် သာမန်အားဖြင့် မူလအရှည်ထက် ၁၀ ဆမျှ စန့်ထွက်နိုင်ရာမှ၊ အနည်းငယ်မျှ





းဗားအလုပ်သမားတဦး ကော်ဖတ်စေးခြစ်နေခြင်း

အက်ဆစ်ဖြင့် စုခဲစေပြီး ကော်ဖတ်စိမ်းကို ဒလိမ့်ဖြင့် အပြားလုပ်နေခြင်း



ကော်ဖတ်ပြားများကို ဆွဲချိတ် အခြောက်ခံထားစဉ်



သင်္ဘောတင်ရန် ကော်ဖတ်တုံးများကို ခွဲစိတ်နေခြင်း

သစ်ဗီးယားမှ သင်္ဘောတင်ဆဲ ကော်ဖတ်တုံးကြီး

ကာလီဖိုးနီးယားသို့ သင်္ဘောဖြင့် ရောက်ရှိလာသော ကော်ဖတ်ထုပ်ကြီးများ





စန့်ထွက်ခြင်းမရှိအောင် တမျိုးတဖုံ စီမံပေးနိုင်သည်။ ပျော့ပျောင်းသော ကော်ဖတ်ကို အနည်းငယ်မျှ ကွေးကောက်၍ မရနိုင်သော ပစ္စည်းဖြစ်အောင်လည်း ပြောင်းယူနိုင်သည်။ ရေ၊ လေ၊ အပူနှင့် လျှပ်စစ်စသည်တို့ကို တားဆီး ကာကွယ်နိုင်သော ကော်ဖတ်မှ၊ ရေနှင့် လေကို အဝင်ခံနိုင်သည့်ပစ္စည်း၊ အပူနှင့် လျှပ်စစ်လိုက်သည့် ပစ္စည်းများဖြစ်အောင်လည်း ပြုပြင်ယူနိုင်သည်။ ကော်ဖတ်ဖြင့် ပြုလုပ်ထားသော ဖိနပ်အောက်ခံခုံမှာ အပွန်း အပဲ့ဒဏ်ကို ခံနိုင်အောင် မာကျောသော်လည်း၊ခဲဖျက်မှာမူ အလွယ်တကူနှင့် ပွန်းပဲ့သွားအောင် ပြုပြင်ထားသော ပစ္စည်းဖြစ်လေသည်။

စက်ရုံသို့ ရောက်ရှိလာသော ကော်ဖတ်စိမ်းသည် ဂေါက်သီး၊မော်တော်ကားတိုင်ယာ စသည်တို့နှင့် အခြေအနေချင်း တူဖို့ဝေးစွ ခဲဖျက်နှင့်ပင် လုံးဝ မတူချေ။ အရိုင်းဘဝတွင်ရှိသော ကော်ဖတ်သည် အေးလွန်းလျှင် ကြွပ်ဆတ်၍၊ ပူလာလျှင်လည်း အရည်ပျော် စေးကပ်ကာ ကော်ဖတ်နံ့ထွက်တတ်သောကြောင့် ကောင်းစွာ အသုံးမချနိုင်ပေ။ ကော်ဖတ်ကို ကိုလံဗပ်တွေ့ခဲ့သည်မှာ အချိန် အလွန်ကြာမြင့်ပြီ ဖြစ်သော်လည်း ကော်ဖတ်ကို အနည်းနည်း အဖုံဖုံအသုံးချနိုင်ခဲ့သည့် ကာလမှာ နှစ်ပေါင်း ၁၀၀ မျှလောက်သာ ရှိပေသေးသည်။ ရှေးဦးစွာ၊ ၁၉ ရာစုနှစ် အစလောက်တွင် ကော်ဖတ်ဖိနပ်၊ ကော်ဖတ်ပိုက်လုံး၊ လေသွင်းထားသော ကော်ဖတ်ဘောလုံး၊ ကော်ဖတ်ခံထားသော မိုးကာအင်္ကျီ စသည်တို့ စတင် ပေါ်ပေါက်လာကြသည်။ ထိုသို့ပြုလုပ် ရောင်းချသူများအနက် အက်ဒင်ဗါရာမြို့မှ စကော့လူမျိုး ချားမက္ကင်တော့ မှာ ထင်ရှားသူတဦး ဖြစ်၏။ ၁၈၂၃ ခုနှစ်တွင် မက္ကင်တော့သည် ကော်ဖတ်ဖြင့် မိုးကာအင်္ကျီ ပြုလုပ်သည့် နည်းတနည်းကို မူပိုင်ခွင့် မှတ်ပုံတင်ခဲ့သည်။ ထိုနည်းအရ ကော်ဖတ်ကို ကျောက်မီးသွေး ကတ္တရာ မှ ရသော နက်ဖသား ကတ္တရာတွင် ပဌမ အရည်ဖျော်၍ ထိုပျော်ဝင်ရည်ကို ကျောက်ပြားပေါ်၌ ဖြန့်ကာ အအေးခံခြင်းဖြင့် ပါးလွှာသော ကော်ဖတ်ချပ်များ ရအောင် ပြုလုပ်သည်။ ထိုနောက် ကော်ဖတ်ချပ်ကို အဝတ်နှစ်ထပ်ကြားတွင် သွင်း၍ ချုပ်ပြီးလျှင် မိုးကာအင်္ကျီ ပြုလုပ်ယူသည်။ ထိုကြောင့် ယနေ့ထက်တိုင်အောင် သူ၏အမည်ကို အစွဲပြုပြီးလျှင် မိုးကာအင်္ကျီကို ‘မက္ကင်တော့’ ဟူ၍ပင် ခေါ်ဝေါ်လျက် ရှိကြပေသည်။

သို့ရာတွင် မိုးကာနှင့်တကွ အထက်၌ ဖော်ပြခဲ့သော ပစ္စည်းများတွင် ကော်ဖတ်စိမ်းကို တနည်းတလမ်း ပြုပြင်၍ အသုံးချထားခြင်းမျှသာ ဖြစ်သည့်အတွက် အပူအအေးဒဏ်ကိုရင်း၊ ဓါတ်ပစ္စည်းများ၏ ဒဏ်ကိုရင်း၊ခံနိုင်ရည်မရှိပေ။ ၁၈၃၉ ခုနှစ်သို့ ရောက်သောအခါမှ ကော်ဖတ်ကို တကယ်တမ်း လက်တွေ့ ကျေနပ်လောက် အောင် ပြုပြင်စီရင်နိုင်သည့်နည်းကို တွေ့ရှိရ၍၊ ထိုနည်းကို စတင် တွေ့ရှိသူကား ချားဂွတ်ယီးယားခေါ် ကမ္ဘာကျော် ပုဂ္ဂိုလ်ကြီးပင် ဖြစ်၏။ ဂွတ်ယီးယားသည် အမေရိကန်လူမျိုး ကုန်သည်တဦး ဖြစ်၍ ကော်ဖတ်ကို လက်တွေ့ အသုံးချနိုင်အောင် ၁၀ နှစ်တိုင်တိုင် အမျိုးမျိုး စမ်းသပ်လာခဲ့ရာမှ၊ တနေ့တွင် ထိုနည်းကို အမှတ်မထင် မမြော်လင့်ဘဲ ကံအားလျော်စွာ တွေ့ရှိခဲ့သည်။ ထိုနေ့တွင် ဂွတ်ယီးယားသည် ကော်ဖတ်ကို ကန့်နှင့် ရော၍ စမ်းသပ်စဉ် ကော်ဖတ်နှင့် ကန့်ရောထားသည့် ပစ္စည်းအနည်းငယ်သည် မီးဖိုပေါ်သို့ မတော်တဆ ကျသွားသည်။ ထိုပစ္စည်းကို မီးဖိုထဲမှ ထုတ်၍ အမှတ်မဲ့ပင် စစ်ဆေးကြည့်မိရာ၊ မိမိအလိုရှိသည့်အတိုင်း အပူအအေးနှင့် အက်ဆစ်စသည်တို့၏ ဒဏ်ကို ကောင်းစွာ ခံနိုင်ရည်ရှိသည့်အပြင်၊ စေးကပ်ခြင်း အလျှင်းမရှိဘဲ ရှန်းကန်သတ္တိနှင့်လည်း ပြည့်စုံသည့် ပစ္စည်းဖြစ်နေကြောင်းကို အံ့သြစွာ တွေ့ရလေတော့သည်။ ဂရိနှင့် ရောမ ထုံးဟောင်းပုံပြင်များတွင် ဗာလကန်ခေါ် မီးနတ်သားတပါး ရှိရာ



အမေရိကန်နိုင်ငံရှိ ကမ္ဘာပေါ်၌ အကြီးဆုံး ဓါတ်ချက်ကော်ဖတ် စက်ရုံကြီး

ထိုနတ်သားကိုအစွဲပြု၍၊ ထိုကဲ့သို့ ကော်ဖတ်ကို ကန့်နှင့် ရောပြီး အပူဓါတ်ဖြင့် စီမံပေးသည့်နည်းကို ဂွတ်ယီးယားက 'ဗါလကန်နိုက်ဇင်း' ဟု အမည်ပေးခဲ့လေသည်။ ဤနည်းမှာ ကော်ဖတ်သမိုင်းတွင် အရေးအကြီးဆုံးသော တွေ့ရှိမှုကြီးပင် ဖြစ်တော့၏။ ဤနည်းကိုသာ မတွေ့ရှိသေးပါက၊ မရေတွက်နိုင်အောင် ပေါများသော ယခုခေတ်သုံး ကော်ဖတ်နှင့် ပြုလုပ်ရသည့် ပစ္စည်းများလည်း ပေါ်ပေါက်နိုင်ဦးမည် မဟုတ်ချေ။ ဤနည်းတွင် ကန့်အပြင် အခြားပစ္စည်းများကို လိုသလို ရောစပ်ပေးနိုင်ပေသည်။ သို့သော် ကန့်မှာ အဓိကလိုအပ်သော ပစ္စည်းဖြစ်၍ ပြုလုပ်ရရှိသော ပစ္စည်းအမျိုးမျိုး၏ ဂုဏ်တို့သည် ရောစပ်ထားသော ကန့်အနည်းအများ ပေါ်တွင် တည်ရှိပေသည်။ ယခုအခါ ကမ္ဘာအရပ်ရပ်မှာပင် ကော်ဖတ်ဖြင့် အသုံးအဆောင်ပစ္စည်းအမျိုးမျိုးကို ပြုလုပ်လျက်ရှိရာ၊ အမေရိကန်ပြည်ထောင်စု တခုတည်းမှ တကမ္ဘာလုံးမှ ထွက်သော ပစ္စည်းများအနက် ၄ ပုံ ၃ ပုံနီးပါး ထွက်သည်ဟု သိရသည်။

ကော်ဖတ်သည် သစ်ပင်၊ နွယ်ပင်များမှ ရသော အစေးတမျိုးဖြစ်၍၊ ယင်းကို မြန်မာနိုင်ငံတွင် အရပ်ဒေသအလိုက် ကြက်ပေါင်စေး ဟုလည်း ခေါ်ကြသည်။ ကော်ဖတ်စေး ထုတ်ယူနိုင်သော အပင်မှာ ကမ္ဘာတွင် မျိုးပေါင်း ၁,၀၀၀ ကျော်မျှ ရှိ၍၊ ကော်ဖတ်စေး အနည်းအကျဉ်းသာ ထွက်သော အပင်များကို ထည့်သွင်း ရေတွက်လျှင် အပင်မျိုးပေါင်း ၁၀,၀၀၀ ပင် ကျော်ပေဦးမည်။ သို့သော် ယခုအခါ ကော်ဖတ်စေးကို အများဆုံး ထုတ်ယူလျက် ရှိသည့်အပင်မျိုးကား ဟီးဗီယခေါ် အပင်မျိုးဖြစ်သည်။ ဤအပင်သည် တောင်အမေရိကတိုက်၊ အထူးသဖြင့် ဗရာဇီးနိုင်ငံရှိ အမေဇုန် မြစ်ဝှမ်းဒေသတွင် သဘာဝအလျောက် ပေါက်ရောက်သော အပင်မျိုးဖြစ်၏။ ထိုအပင်မျိုးမှ ရသော ကော်ဖတ်ကို ရှေးဦးစွာ ဗရာဇီးနိုင်ငံ ပါရာမြို့မှ ရရှိသည့်အတွက် ယနေ့တိုင်အောင် ပါရာကော်ဖတ်ဟု ခေါ်တွင်လျက်ရှိသည်။

လက်ဦးတွင် ကော်ဖတ်၏ အသုံးဝင် တန်ဖိုးရှိပုံကိုသိလာသည့်အတိုင်း၊ မိမိတို့ တိုင်းပြည်မှ ကော်ဖတ်မျိုး နိုင်ငံခြားတိုင်းတပါးသို့ ရောက်မသွားနိုင်စေရန် ဗရာဇီးနိုင်ငံက အမျိုးမျိုး ကြိုးစား၍ နှစ်ပေါင်း အတော်ကြာအောင် ကျပ်တည်းစွာ စောင့်ရှောက် ကာကွယ်သေး၏။ သို့သော် ၁၈၇၅ ခုနှစ်တွင် အင်္ဂလိပ်လူမျိုးတဦးသည် ဗရာဇီးနိုင်ငံ ကော်ဖတ်တောများမှ ကော်ဖတ်မျိုးစေ့များကို တိတ်တဆိတ် အောင်မြင်စွာ ထုတ်ယူနိုင်ခဲ့လေသည်။ ထိုမျိုးစေ့များကို လန်ဒန်မြို့အနီးရှိ ကျူးဂါးဒင်း ဥယျာဉ်၌ ရှေးဦးစွာ စိုက်ပျိုး၍ ထိုမှတဆင့် သီဟိုဠ်ကျွန်းသို့ ပို့ဆောင်စိုက်ပျိုးလေသည်။ ထိုနောက် မလ္လာယုကျွန်းဆွယ်၊ ဆုမ



ဓါတုဗေဒနည်းဖြင့် ချက်လုပ်ရရှိသော ကော်ဖတ်တုံးများ

တြားကျွန်း၊ ဂျားဗါးကျွန်း စသော ကမ္ဘာ့အရှေ့ပိုင်း ဒေသများတွင်လည်း စိုက်ပျိုးခဲ့ရာ များစွာ အောင်မြင်ခဲ့လေသည်။ ယခုအခါ ကမ္ဘာပေါ်တွင် နှစ်စဉ် ထွက်လျက်ရှိသည့် ကော်ဖတ်အနက် ရာခိုင်နှုန်း ၉၀ ခန့်ကို သီဟိုဠ်ကျွန်း၊ မလ္လာယုကျွန်းဆွယ်နှင့် ဒပ်ချ အရှေ့အိန္ဒိယကျွန်းစုများမှ ရရှိသည်။ ဗရာဇီးနိုင်ငံ နှင့် တကွ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ လိုက်ဗီးရီးယားနိုင်ငံနှင့် ဖိလစ်ပိုင်ကျွန်းတို့မှ ကော်ဖတ်ထွက်သော်လည်း အထက်ပါ ဒေသများနှင့် စာသော် အနည်းငယ်မျှသာ ဖြစ်သည်။

ကော်ဖတ်ပင်မှ ရရှိသော အစေးအားလုံးသည် ကော်ဖတ် မဟုတ်ချေ။ နို့ကဲ့သို့ ဖြူသော အရည်ဖြစ်၍ ယင်းကို နို့စေးဟု ခေါ်သည်။ ထိုအရည်ထဲတွင် ကော်ဖတ်သည် သာမန်မျက်စိနှင့် မမြင်နိုင်အောင် သေးငယ်သော အလုံးကလေးများအဖြစ် တွဲလောင်းခိုလျက် ရှိသည်။ ကော်ဖတ်စေးတွင် ကော်ဖတ်အပြင် သကြား၊ ဓါတ်ဆား၊ ပရိုတင်း၊ သစ်စေး (ရက်ဇင်) နှင့် ရေတို့လည်း အထိုက်အလျောက် ပါဝင်၏။ ထိုကြောင့် နို့စေးမှာ သူ့ချည်းသက်သက် အသုံးမဝင်သေးဘဲ ယင်းမှ ကော်ဖတ်ကို နည်းအမျိုးမျိုးဖြင့် သီးခြား ခွဲထုတ်ယူရသည်။ များသောအားဖြင့် နို့စေးတွင် အက်ဆိတ်တစ် အက်ဆစ်ကို ရောထည့်ကာ ကော်ဖတ်ကို တစုတည်း ခဲ၍ ပေါ်တက်လာစေသော နည်းကို အသုံးပြုလေ့ရှိကြသည်။

အထက် တနေရာတွင် ကော်ဖတ်ကို အပင်မျိုးမျိုးမှ ရနိုင်ကြောင်း ပေါ်ပြခဲ့ပြီ။ သို့သော် အခြားအပင်မျိုးမှ

ရသော နို့စေးတို့သည် ဟီးဗီယမျိုးနှင့် စာလျှင် ကော်ဖတ် အပါနည်း၍ အမျိုးလည်း ညံ့ကြသည်။ ဟီးဗီယမျိုးမှ ရသော နို့စေး၌ ကော်ဖတ် ၉၀ ရာခိုင်နှုန်းကျော်ကျော် ပါဝင်၍ ထိုကော်ဖတ်မှာ ယနေ့အထိ ကမ္ဘာတွင် မျိုး အသန့်ဆုံးနှင့် အကောင်းဆုံး ဖြစ်သည်။

ဟီးဗီယ မျိုးဖြစ်သော ကော်ဖတ်ပင်တို့သည် ၇၅ ပေမှ ပေ ၁၀၀ အထိ မြင့်ပြီးလျှင် လုံးပတ် ၁၀ ပေမှ ၁၂ ပေအထိ ရှိတတ်သည်။ အပင် ၅ နှစ်သားအရွယ်လောက်သို့ ရောက် သောအခါ ကော်ဖတ်စေးကို စတင် ထုတ်ယူနိုင်ပေပြီ။ သို့သော် ထိုကော်ဖတ်စေးမျိုးသည် အများအားဖြင့် ညံ့သေး၍ ထိုထက် အသက်ကြီးလာမှ အကောင်းဆုံး အစေးကို ရရှိတတ်သည်။ ကော်ဖတ်စေး ထုတ်ယူပုံမှာ ပင်စည်တွင် မြေမှ ၄ ပေ ၅ ပေခန့်မြင့်သော နေရာ၌ ဓါး ကောက်ကလေးတမျိုးဖြင့် အခေါက်ကို နို့စေး စီးဆင်းနိုင် အောင် ခပ်စောင်းစောင်း ခြစ်ပေးရ၏။ အချို့က ဗယ်မှ ညာသို့ဖြစ်စေ၊ ညာမှ ဗယ်သို့ဖြစ်စေ၊တကြောင်းတည်း ခြစ် ပေး၍၊ အချို့ကမူ ဗယ်ညာနှစ်ကြောင်း ခြစ်ကာ ထိုခြစ် ကြောင်းနှစ်ခုကို အလယ်ရှိ အထက်မှ အောက်သို့ ခြစ်ထား သော ခြစ်ကြောင်း၌ လာဆုံစေသည်။ သို့သော် ခြစ် ကြောင်း တိမ်လွန်းလျှင် အစေး ကောင်းစွာမထွက်ဘဲ နေတတ်၍ နက်လွန်းပြန်ကလည်း နူးညံ့သော အတွင်း သားကို ဒဏ်ဖြစ်စေသည့်အတွက် အပင် သေဆုံးသွားတတ် သဖြင့်၊ ခြစ်ကြောင်းဖေါ်ရာ၌ ကျွမ်းကျင်သူများကိုယ်တိုင် သတိကြီးစွာ ရှိဖို့ လိုပေသည်။ ခြစ်ကြောင်း အဆုံးတွင် သတ္တုရေတန်လျှော်က် အငယ်စားကလေးကို ပင်စည်၌ ထိုး စိုက်ထား၍ ထိုရေတန်လျှော်က်မှ စီးကျလာသော နို့စေးကို အောက်ဖက်မှ ခွက်ငယ်ဖြင့် ခံယူရသည်။ အချို့ဒေသတွင် ထိုသို့ စီးကျလာသော နို့စေး ခဲ၍ မသွားစေရန် ခွက်ထဲ၌ အမ်မိုးနီးယား၊ ဆိုဒါ စသော ဓါတ်ပစ္စည်း အနည်းငယ်ကို ထည့်ပေးထားလေ့ ရှိသည်။ ထိုသို့ ခြစ်ရာတွင် နေ့ဆက် ဖြစ်စေ၊ တနေ့ခြား ဖြစ်စေ၊ နံနက် စောစောအချိန်၌ ခြစ် ကြောင်းအဟောင်းပေါ်တွင် ထပ်၍ ခြစ်ပေးရသည်။ ထို ကြောင့် ခြစ်ကြောင်းများသည် တနေ့ပြီး တနေ့ အောက် ဖက်သို့ တရွေ့ရွေ့ နိမ့်ဆင်းလာသည်။ ခြစ်ကြောင်းများ ရွှေ့ဆင်းလာသည်နှင့်အမျှ အပေါ်ဖက်ရှိ ခြစ်ပြီးသားနေရာ တွင် နောင်အခါ ထပ်၍ ခြစ်နိုင်အောင် အသားသစ်သည် တဖြည်းဖြည်း တက်လာပြန်သည်။ အရွယ်ရောက်ပြီးသော ကော်ဖတ်ပင်တပင်မှ တနှစ်လျှင် နို့စေး ၆ ပေါင်ထက် မနည်း ထွက်တတ်သည်ဟု သိရသည်။

ကော်ဖတ်ခြံ အလုပ်သမားများ နောက်တဆင့် လုပ် ရသည့် အလုပ်မှာ ခံယူထားသော ခွက်ငယ်များမှ နို့စေး များကိုလိုက်လံသိမ်းဆည်းရခြင်း ဖြစ်၏။ ဤနို့စေးများကို ခွက်ကြီးထဲသို့ ပြောင်းထည့်ရ၍ တနေရာတွင် ဖေါ်ပြခဲ့ သည့်အတိုင်း အက်ဆီတစ်အက်ဆစ်ကို အချိုးကျ ထည့် ပေးရ၏။ ထိုအခါ နာရီအနည်းငယ် အတွင်းမှာပင် ကော် ဖတ်သည် ပေါင်းစည်း စုခဲ၍ အပြားလိုက် အပေါ်သို့ ပေါ် တက်လာလေသည်။ ဤကော်ဖတ်ပြားများကို ဆယ်၍ ဒလိမ့်များဖြင့် ပြားချပ်သွားအောင် ဖိညှစ်ပေးခြင်း၊ဆေး ကြောပေးခြင်း၊ နေပူ မီးပူတို့ဖြင့် အခြောက်ခံပေးခြင်း စသော အဆင့်များကို လွန်မြောက်ပြီးသောအခါ၊ ကော် ဖတ်မှာ နိုင်ငံခြားသို့ဖြစ်စေ၊ စက်ရုံကြီး များသို့ဖြစ် စေ၊ ပို့ ဆောင်ရောင်းချရန် အတွက် အသင့်ဖြစ်လေတော့သည်။ နို့စေးမှ ကော်ဖတ်ထုတ်ယူသည့် အခြားနည်းများလည်း ရှိသေးသည်။

ကမ္ဘာပေါ်တွင် ကော်ဖတ် အသုံးအများဆုံး လုပ်ငန်း ကား၊တိုင်ယာနှင့်ကျွတ် လုပ်ငန်းပင် ဖြစ်သည်။ မော်တော် ကားများ ခေတ်မစားသေးမီ အချိန်က ကမ္ဘာတဝှန်းလုံး တွင် တနှစ်လျှင် ကော်ဖတ်တန်ချိန် ၉၀,၀၀၀ခန့်လောက်ကို သာ သုံးစွဲခဲ့ကြ၏။ သို့သော် ယခုအခါ တနှစ်လျှင် တန်ချိန် ပေါင်း သန်းနှင့် ချီ၍ အသုံးပြုလျက် ရှိကြရုံမက၊ တနေ့ တခြားလည်း အသုံးပိုလာဆဲ ဖြစ်သည်ကို တွေ့ရပေသည်။ ကော်ဖတ် အထည်ဟောင်းများကိုလည်း ပြန်လည် ပြုပြင်၍ အသုံးပြုနိုင်သည်။ ဤသို့ အသုံးမပြုပါကလည်း ကျွန်ုပ်တို့ သည် ကော်ဖတ်ကို အသုံးလိုသလောက် ရရှိနိုင်ကြမည် မဟုတ်ချေ။ ကော်ဖတ် အထည်ဟောင်းများကို ပြန်လည် အသုံးပြုသောအခါ ထိုအထည်များတွင် ပါဝင်သော ကန့် နှင့် တကွ အခြားမလိုလားအပ်သည့် ပစ္စည်းများကို ရှေးဦး စွာ ဖယ်ရှား ပစ်ရ၏။ သို့သော် ကော်ဖတ်အစစ် (အသစ်) ကဲ့သို့ကား ကော်ဖတ်ဟောင်းကို နေရာတိုင်းတွင် သုံးရန် မသင့်တော်ပေ။

ကော်ဖတ်အကြောင်း ရေးရာတွင် သဘာဝကော်ဖတ်ကို တုရှု၍ ဓါတုဗေဒနည်းဖြင့် လူတို့ ချက်လုပ်ယူကြသော ဓါတ် ချက်ကော်ဖတ် အကြောင်းကို မဖေါ်ပြလျှင် ပြည့်စုံမည် မဟုတ်ချေ။ ဓါတ်ချက်ကော်ဖတ်များမှာ အမှန်စင်စစ် သဘာဝကော်ဖတ်နှင့် အနီးစပ်ဆုံး တူညီ အသုံးပြုနိုင် အောင် လူတို့ ကြံစည် ချက်လုပ်ကြသော ကော်ဖတ်တုများ ပင် ဖြစ်သည်။ ကော်ဖတ်တုများကို ကြံစည် ချက်လုပ် ရခြင်း၏ အကြောင်းရင်းမှာ ကမ္ဘာစစ်ကြီးများအတွင်း သဘာဝ ကော်ဖတ်ထွက်သော နိုင်ငံများနှင့် အဆက်ပြတ် ရသည့် အတွက်ပင်ဖြစ်၏။

ပဌမ ကမ္ဘာစစ်အတွင်းက ဂျာမနီနိုင်ငံတွင် ဗျူနာဟု ခေါ်သော ကော်ဖတ်တုများကို စမ်းသပ် လုပ်ကိုင်နိုင်ခဲ့ကြ သည်။ ဗျူနာ ကော်ဖတ်တုတွင် အခြေခံ ဓါတ်ပစ္စည်းမှာ ဗျူတာဒိုင်အင်း ဖြစ်၏။ ယင်းကို ဂျာမန်တို့သည် ထိုး

ကျောက်နှင့် ကျောက်မီးသွေးကို ပေါင်းစပ်ပေးပြီးနောက် အဆင့်ဆင့် ထုတ်ယူကြရ၏။ ယခုအခါ၌မူ အယ်လကိုဟော သို့မဟုတ် ရေနံမှလည်း ထုတ်ယူလျက် ရှိကြသည်။ သို့သော် ဗျူတာဒိုင်အင်း တခုတည်းမှ ချက်လုပ်ရရှိသော ကော်ဖတ်မှာ ကျေနပ်လောက်အောင် မကောင်းမွန်သေးပေ။ ဗျူတာဒိုင်အင်းတွင် အက်သဲ ဗင်ဇင်းမှ ရရှိနိုင်သော စတိုင်ရင်းခေါ် ဓါတ်ပစ္စည်းကို ထပ်မံ ပေါင်းစပ်ပေးမှ ယခင်ကထက် ကောင်းသော ကော်ဖတ်တမျိုးကို ရလာသည်။ သို့ရာတွင် ဤဓါတ်ပစ္စည်းနှစ်ခု ပေါင်းစပ် ဓါတ်ပြောင်းကာ ကော်ဖတ်တု ဖြစ်လာစေရန် အခြား ကက်တလစ် (ဓါတ်ကူ) တခုကိုလည်း ထည့်ပေးရသေး၍၊ ထိုသို့ ထည့်ပေးရသော ကက်တလစ်ကိုမူ ဂျာမန်တို့က လျှို့ဝှက်ထားခဲ့ကြ၏။ ယခုသော် ဆိုဒီယမ်ကို ကက်တလစ်အဖြစ်နှင့် အသုံးပြုနိုင်ကြောင်း တွေ့ရှိခဲ့ရပေပြီ။

ဗျူတာဒိုင်အင်းနှင့် စတိုင်ရင်းတို့ ပေါင်းစပ်မှုမှ ရရှိသော ကော်ဖတ်တုကို ဗျူနာ-အက် (စ) ဟု ခေါ်၏။ ဗျူတာဒိုင်အင်းကို စတိုင်ရင်းအစား အကရိလို နိုက်ထရီးနှင့် ပေါင်းစပ်ပေးခြင်းဖြင့် ရရှိသော ကော်ဖတ်တုမှာမူ ဗျူနာ-အင်ဟု တွင်၍ ဤကော်ဖတ်တုမျိုးကိုလည်း ဂျာမနီနိုင်ငံကပင် လက်ဦး ကြံစည်ခဲ့လေသည်။

ပဌမကမ္ဘာစစ် ပြီးသွားသောအခါ သဘာဝ ကော်ဖတ်များကို ပြန်လည် ရရှိကြသဖြင့် ကော်ဖတ်တု ချက်လုပ်သည့် လုပ်ငန်းမှာ ကုန်ကျသည့် စရိတ်နှင့် မမျှသည့် အတွက် တိမ်မြှုပ် ကွယ်ပျောက်သလောက် ဖြစ်သွားခဲ့သည်။ သို့ရာတွင် ဒုတိယ ကမ္ဘာစစ်အတွင်းက၊ ကော်ဖတ် အကြီးအကျယ် ထွက်ရာ အရှေ့အိန္ဒိယကျွန်းစုများ ဂျပန်လက်သို့ ကျရောက်နေသည့် အချိန်မှစ၍၊ အမေရိကန်ပြည်ထောင်စုတွင် ဗျူနာ ကော်ဖတ်ချက်နည်းကို မှတည်၍ ကော်ဖတ်တုချက်လုပ်သည့် လုပ်ငန်းများ ပြန်လည် ထွန်းကားလာပြန်သည်။

ဗျူနာ ကော်ဖတ်များအပြင် နီယိုပရင်း ကော်ဖတ်၊ လစ်ဖ်ပါတီ ကော်ဖတ်၊ ဗျူတီ ကော်ဖတ်၊ သိုင်အိုကော ကော်ဖတ် စသော အခြား ဓါတ်ချက်ကော်ဖတ်များလည်း အမျိုးမျိုး ဖြစ်ထွန်းပေါ်ပေါက်လာခဲ့၏။ ဤကော်ဖတ်တုများသည် တမျိုးနှင့်တမျိုး ဂုဏ်သတ္တိချင်း မတူသည့်အတွက် ဂုဏ်သတ္တိအလိုက် သင့်တော်သလို အသုံးချရပေသည်။ သဘာဝ ကော်ဖတ်ကိုမူ မည်သည့် ကော်ဖတ်တုမျိုးမှ နေရာတိုင်းတွင် မမှီနိုင်ချေ။ သို့သော် အချို့နေရာတွင် အချို့သော ကော်ဖတ်တုက သဘာဝကော်ဖတ်ထက် သာသည်ကိုလည်း တွေ့ရ၏။

ကော်ဖတ်တု လုပ်ငန်း၏ အနာဂတ်အရေးမှာ ကုန်ကျမည့်စရိတ်ပေါ်တွင် တည်လျက်ရှိရာ၊ ဤကိစ္စ၌ ကျွမ်းကျင်သူ ပါရဂူအများကပင် ကော်ဖတ်တုကို သဘာဝ ကော်ဖတ်ကဲ့သို့ စရိတ်အကုန်အကျ သက်သာစွာနှင့် ချက်လုပ်နိုင်ရမည်ဟု ယုံကြည်လျက် ရှိကြသည်။ အားလုံးကို ခြုံကြည့်လျှင် ကော်ဖတ်တု ချက်လုပ်သည့် လုပ်ငန်းသည် နောင်အခါ အလွန် ကြီးကျယ်သော လုပ်ငန်းကြီးတရပ် ဖြစ်လာနိုင်ဖွယ်ရာ အကြောင်း များစွာ ရှိပေသည်။

**ကော်မှုန့်**။ ။ကော်မှုန့် (ကစီ) သည် ဆန်၊ ပဲ၊ ပြောင်းဖူး၊ ဂျုံ၊ အာလူး၊ မုန်လာဥဝါနှင့် အခြား သစ်ဥ သစ်ဖု သစ်မြစ်များမှ အများဆုံး ထုတ်ယူ ရရှိနိုင်၍ လုပ်ငန်း၌၎င်း၊ စားရာ၌၎င်း၊ အသုံးဝင်သည်။ အရောင်မှာ ဖြူဆွတ်ဆွတ်ရှိ၍၊ အမှုန့်ကလေးများမှာ မှုန်မှုန်ကလေး ဖြစ်သည်။ လေထိသော်လည်း အရောင်မပျက်ဘဲ၊ စားကြည့်လျှင်လည်း မည်သည့် အရသာမျှ မရှိချေ။ ကော်မှုန့်ကို အင်္ဂလိပ်လို 'စတာ့' ဟု ခေါ်၍၊ ယင်း၏ ဓါတုသင်္ကေတမှာ $C_6H_{10}O_5$ ဖြစ်သည်။

အာလူး၌ ကော်မှုန့် ၅ ပုံ ၁ ပုံ ပါ၍၊ ဂျုံအမျိုးမျိုးနှင့် ပြောင်းဖူးတို့တွင် ၃ ပုံ ၂ ပုံ ပါပြီးလျှင်၊ ဆန်တွင် ၁၀ ပုံ ၉ ပုံခန့် ပါရှိ၏။ ကော်မှုန့်ကို သာမန်မျက်စိဖြင့်ကြည့်လျှင် ဖြူစင် ပြောင်လက်သော အမှုန့်ကလေးများချည်း ဖြစ်သော်လည်း၊ မှန်ဘီလူးဖြင့် ခွဲခြား ကြည့်လျှင်မူ ပြုလုပ်သော အသီးအနှံ သစ်ဥ သစ်ဖုအလိုက် ပုံပန်းသဏ္ဌာန်မှာ တမျိုးစီဖြစ်လျက်၊ ဆန်မှပြုလုပ်သော ကော်မှုန့်၏ ပုံပန်းသဏ္ဌာန်မှာ တမျိုးဖြစ်ကြောင်း တွေ့ရသည်။

ကော်မှုန့်ကို အထည်ရက်လုပ်မည့် ခြည်မျှင်များကို အစာတင်ရန် အသုံးချကြသည်။ အထည်အလိပ်များ အဆင်ရိုက်နှိပ်ရာ၌ ပြောင်လက် ချောမွေ့စေရန် ကော်တင်သည့် အခါတွင်လည်း အသုံးချလေသည်။ အဝတ် အထည်များကို လျှော်ဖွပ်ပြီးနောက် ကော်တင်ခြင်း၊ ကြွေရောင်တိုက်ခြင်းများ ပြုကြရသဖြင့်၊ ခဝါလုပ်ငန်း၌လည်း ကော်မှုန့်မှာ အသုံးကျပေသည်။ ကော်မှုန့်ဖြင့် ချိုချဉ်စားဖွယ် အမျိုးမျိုးကိုလည်း ပြုလုပ်နိုင်ရာ ဂျုံမှုန့်၊ ဆန်မှုန့်၊ သာဂူမှုန့်၊ အာဒါလွတ်မှုန့်တို့ကို ထိုစားသောက်ဖွယ်ရာများ ပြုလုပ်ရာ၌ အသုံးများကြလေသည်။

ကော်မှုန့်ကို ရေနွေးနှင့် ဖျော်မှသာလျှင် အရည်ပျော်၍ ပျစ်ချွဲချွဲ အရည်များ ရသည်။ ကော်မှုန့်၌ ကာဗွန်၊ ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်ဒြပ်စင်များ ပါရှိသဖြင့်၊ ကော်မှုန့်ပါသော အစားအစာများသည် ကာဗိုဟိုက်ဒရိတ်ဓါတ် ဖြစ်စေသည်။

ကော်မှုန့် လုပ်ငန်းကြီးများကို အသီးအနှံ၊ သစ်ဥသစ်ဖု ရရှိရာ ဒေသအလိုက် ပြုလုပ်ကြသည်။ ဂျာမနီနိုင်ငံတွင် ပြောင်းဖူးမှ၎င်း၊ အင်္ဂလန်ပြင်သစ်ဂျာမနီနိုင်ငံတို့တွင် ဆန်မှ၎င်း၊ အရှေ့အိန္ဒိယကျွန်းစု၊ ပေါ် ညီကျွန်းတို့တွင် ကန်စွန်းဥ၊ ပီလောပီနံဥများမှ၎င်း၊ ကော်မှုန့် ပြုလုပ်ကြသည်။

ထိုသို့ တိုင်းပြည်ဒေသအလိုက် ကောင်းနိုးရာရာ တီထွင် ပြုပြင် လုပ်ကိုင်ကြသော်လည်း အခြေခံနည်းများမှာတူကြသည်က များသည်။ သစ်ဥ သစ်ဖု သစ်မြစ်များမှကော်မှုန့် ပြုလုပ်ပုံမှာ အကျဉ်းအားဖြင့် အောက်ပါအတိုင်းဖြစ်သည်။

ပဌမတွင် ကော်မှုန့်ပါရှိသော သစ်ဥ သစ်ဖု သစ်မြစ်များကို ကျောက်ခဲ၊ သလဲ၊ မြေကြီး စသည့် အမှိုက်များမှ စင်ကြယ်စေရန် ဆေးကြောပေးသောစက်သို့ ပို့ရသည်။ ထိုမှတဖန် ကြေအောင် ချေမွ ခွဲစိတ်ပေးသော စက်သို့ ပို့ရပြန်သည်။ ကြေမွ ပျော့အိ နေပြီးသော သစ်ဥ သစ်ဖု သစ်မြစ်များကို အမျှင်များ အမှိုက်များမှ သန့်စင်အောင် အထပ်ထပ် စစ်ချပြီးလျှင်၊ ကော် အနှစ်ကဲ့သို့ ဖြစ်လာသော အရာများမှ ရေကို ထုတ်ပစ်ပြီးနောက် နေလှန်းပေးသော အခါ၊ ကော်မှုန့်များ ဖြစ်လာသည်။



ပိုလန် အမျိုးသားခေါင်းဆောင် ဗိုလ်ချုပ် ကော်ရှပ်စကို

ဆန် နှင့် ပြောင်း ကော်မှုန့် ပြုလုပ်ပုံမှာ အနည်းငယ် ကွဲပြားသည်။ ဆန်နှင့် ပြောင်းတို့ကို ၄၈ နာရီခန့် ရေစိမ်၍ ကြိတ်ပြီးလျှင်၊ဆန်ခါနှင့် စစ်၍ ရေဆေးရသည်။ ထိုနောက် အရောင် ဖြူစင်အောင် ချွတ်ပြီးလျှင် ရေကုန်အောင် ထုတ်ယူ၍ အခြောက် လှန်းရသည်။

ကော်မှုန့်သည် အသုံးများသော ပစ္စည်းတမျိုး ဖြစ်သည့် အတိုင်း၊ စက်ရုံကြီးများ၌ အကြီးအကျယ် လုပ်ကိုင်ပြီးလျှင် ကမ္ဘာ့အရပ်ရပ်သို့ တင်ပို့ ရောင်းချကြရသည်။

**ကော်ရှပ်စကို, တီ** (ခရစ် ၁၇၄၆-၁၈၁၇)။ ။ကော်ရှပ်စကိုသည် ပိုးလူမျိုး မျိုးချစ် စစ်ဗိုလ်တယောက်ဖြစ်၍၊ ၁၇၄၆ ခု ဖေဖွာရီလ ၁၂ ရက်နေ့တွင် လစ်သွေးနီးယား ပြည်နယ်၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ တရားရုံးတော် အရာရှိတဦး ဖြစ်၏။ လူလားမြောက်သောအခါ ပိုလန်စစ်တပ်တွင် ဝင်ရောက် အမှုထမ်းသည်။ သူသည် အမြောက်တပ် ဗိုလ်ကြီး အဖြစ် အမှုထမ်းလျက်ရှိစဉ် အချစ်ကိစ္စကြောင့် စိတ်မချမ်းမြေ့ဖွယ်ရာ အဖြစ်တခုနှင့် တွေ့ကြုံရသဖြင့် ၁၇၇၇ ခုနှစ်၌ အမေရိကန် နိုင်ငံသို့ ထွက်ခွာသွားလေသည်။ ထိုအချိန်၌ အမေရိကန် လွတ်လပ်ရေးစစ်ပွဲ ဖြစ်ပွားလျက်ရှိရာ ကော်ရှပ်စကိုသည် အင်ဂျင်နီယာအဖြစ် ပါဝင် အမှုထမ်းခဲ့၍ မကြာမီ ဗိုလ်ချုပ်ဝါရှင်တန်၏ စစ်ရေးလက်ထောက် ဖြစ်လာလေသည်။

၁၇၈၄ ခုနှစ်တွင် ပိုလန်နိုင်ငံသို့ ပြန်သွား၍ ၅ နှစ်ခန့်ကြာသော် အသစ် ပြန်လည် ဖွဲ့စည်းထားသော ပိုလန်စစ်တပ်တွင် ဗိုလ်ချုပ် အဆင့်အတန်း၌ ခန့်ထားခြင်း ခံရသည်။ ပိုလန်နိုင်ငံကို ၁၇၉၃ ခုနှစ်၌ ရုရှ၊ ပရပ်ရှားနှင့် ဩစတြီးယားတို့ ဒုတိယအကြိမ် ခွဲဝေခြင်းမပြုမီက ပိုလန်သို့ ဝင်ရောက် တိုက်ခိုက်လာသော ရုရှတို့ကို ကော်ရှပ်စကိုသည် ရှုပ်ရှပ် ချုံချုံ ခုခံတိုက်ခိုက် ခဲ့၏။ ၁၇၉၄ ခုနှစ် ၌ ပိုလန် တနိုင် ငံလုံး ရုရှကို တော်လှန် ပုန်ကန်ကြသောအခါ အမျိုးသား အာဏာရှင် ခေါင်းဆောင် ဖြစ်လာသည်။ ရုရှနှင့် ပရပ်ရှင်း စစ်တပ်များက ဝါဆော်မြို့ကို ဝိုင်းရံ တိုက်ခိုက်ကြသော အခါ ထိရောက်စွာ ခုခံ ကာကွယ်နိုင်ခဲ့သော်လည်း နောက်ဆုံး၌ အားချင်းမမျှ၍ အရေးနိမ့်သဖြင့် လွတ်လပ်ရေးအတွက် သူ၏ ကြိုးပမ်းခဲ့သမျှသည် အချည်းနှီး ဖြစ်ရလေသည်။

မေဆီဂျိုးဝစ်တိုက်ပွဲ၌ ပိုးလူမျိုး တို့ အရေး ရှုံး နိမ့် ခဲ့ ၍ ကော်ရှပ်စကိုသည် ဒဏ်ရာရရှိကာ အဖမ်းခံရ၏။ သို့သော် ၁၇၉၆ ခုနှစ်တွင် လွတ်လာသည်။ သူသည် အမေရိကန်၊ ပြင်သစ်နှင့် ဗြိတိန်နိုင်ငံများသို့ လှည့်လည်ခဲ့၏။ အမေရိကန် ပြည်ထောင်စုသို့ ၁၇၉၇ ခုနှစ်တွင် ရောက်ရှိခဲ့စဉ် ကွန်ဂရက် လွှတ်တော်က အမေရိကန် လွတ်လပ် ရေး စစ် ပွဲ တွင် အမှုထမ်းခဲ့သည်ကို ကျေးဇူးသိသောအားဖြင့် အိုဟိုင်းအို ပြည်နယ်တွင် မြေတကွက် ပေးခဲ့သည်။ ထိုနောက် ဆွစ်ဇာလန်နိုင်ငံသို့ သွားရောက် နေထိုင်ခဲ့ရာ ၁၈၁၇ ခု အောက်တိုဘာလ ၁၅ ရက်နေ့တွင် မြင်းပေါ်မှ လိမ့်ကျသော ဒဏ်ရာဖြင့် ကွယ်လွန်လေသည်။

**ကော်လိုရားဒိုးပြည်နယ်**။ ။ကော်လိုရားဒိုးပြည်နယ်သည် အမေရိကန် ပြည်ထောင်စု အနောက်ပိုင်းရှိ တောင်တန်းဒေသ ပြည်နယ် ဖြစ်သည်။ ထိုပြည်နယ်၏ အရှေ့ပိုင်းမှာမြေပြန့်လွင်ပြင်များ ဖြစ်၍ အနောက်ပိုင်းတွင် အလွန်မြင့်မားသော ရော့ကီး တောင်တန်းကြီး တည်ရှိသည်။



ကော်လိုရားဒိုးပြည်နယ် 'နတ်ဥယျာဉ်' အတွင်းမှ ဆန်းကျယ်လှပသော 'ဗေဗယ်တာဝါ' ခေါ် သဘာဝကျောက်ဆောင်

ထိုတောင်တန်းတွင်ပေပေါင်း ၁၄,၀၀၀ ကျော်မြင့်သော တောင်ထိပ်ပေါင်းများစွာ ရှိ၏။ အကြီးဆုံးသော မြစ်မှာ ကော်လိုရားဒိုးမြစ် ဖြစ်၍၊ ရော့ကီးတောင်တန်း၌ မြစ်ဖျားခံပြီးလျှင် အနောက်တောင်ဖက်တွင်ရှိသော အယ်ရီဇိုးနားပြည်နယ် တွင်းသို့ စီးဝင် လေသည်။ ထိုမြစ် နှင့်တကွ ပြည်နယ်အတွင်းရှိ အားလုံးသောမြစ်များသည် ကျဉ်းမြောင်းနက်စောက်သော ကင်ညွန်ချောက်များကို ဖြတ်သန်း စီးဆင်းကြသည်။ သို့ဖြစ်၍ ထိုမြစ်များသည် ရေစီးသန်သည့်ပြင် ကျောက်စွန်း ကျောက်ဆောင် ပေါ်များခြင်းကြောင့် ရေကြောင်းသွားလာရန်အတွက် အသုံး မဝင် ချေ။ ထိုကင်ညွန်ချောက်များမှာ အလွန် လှပသော တောတောင် ရှုမျှော်ခင်းများ ဖြစ်သဖြင့် ကမ္ဘာတွင် ထင်ရှား ကျော်ကြားလေသည်။ ကော်လိုရားဒိုးပြည်နယ်တွင် ကျောက်မီးသွေး၊ ရွှေ၊ ငွေ၊သံ၊ခဲ၊တန်စတင်နှင့် ကြေးနီတို့ကို တွင်ကျယ်စွာ တူးပေါ် လုပ်ကိုင်ကြ၏။ မြေပြန့်ပိုင်းတွင်လယ်ယာလုပ်ငန်းကို အဓိကထား၍ လုပ်ကိုင်ကြလျက်၊ သကြားမုန်လာကို အမြောက်အမြား စိုက်ပျိုးကြသည်။ သစ်တောများ မှလည်း သစ်ကောင်း အမြောက်အမြား ရရှိ၏။

ဒင်ဗားမြို့မှာ မြို့တော်ဖြစ်၍ လူဦးရေ ၄၁၅,၇၈၆ ယောက်မျှ ရှိ၏။ မီးရထားလမ်းဆုံရာမြို့ ဖြစ်သည့်အလျောက် ကော်လိုရားဒိုး ပြည်နယ် အတွက် ကုန်စည် စုဆောင်း ဖြန့်ဖြူးရာ အချက်အခြာ ဖြစ်လေသည်။ ထို့ပြင် ပြည်နယ်အတွင်း၌ ရှိသည့် သဘာဝ အလှစခန်းများ ဖြစ်သော ရော့ကီး တောင်၊ နေရှင်နယ်ပတ်၊ ရှိုင်ယယ်ဂေါ့ ချောက်၊ ပိုက်စပီ တောင်ထိပ်၊ အက်ဗန်း တောင်ထိပ်နှင့် နတ်ဥယျာဉ်တို့သို့ သွားရောက် ကြည့်ရှုလိုသော ခရီးသည်များအတွက် (အထောက်) စခန်းမြို့လည်း ဖြစ်သည်။ ရှိုင်ယယ်ဂေါ့ ချောက်ကိုဖြတ်၍ ဆောက်လုပ်ထားသော ကြိုးတန်တားမှာ ကမ္ဘာတွင် အမြင့်ဆုံးသော ကြိုးတန်တားတခု ဖြစ်၏။ ပိုက်စပီ တောင်ထိပ်မှာ ပေပေါင်း ၁၄,၁၁၀ မျှ မြင့်၍ ထိုတောင်ထိပ်သို့ အရောက် ခွေးသွားစိပ် မီးရထားလမ်း ဖေါက်လုပ် ထားသည်မှာ အံ့ဩဖွယ်ရာ တရပ်ပင် ဖြစ်သည်။ အက်ဗန်း တောင်ထိပ်မှာ ပေပေါင်း ၁၄,၂၆၀ မျှ မြင့်၏။ ထိုတောင်ထိပ်၌ ဒင်ဗာ တက္ကသိုလ်၏ ကော့စမစ်ရောင်ခြည် လက်တွေ့စမ်းခန်း တည်ရှိရာ ကမ္ဘာတွင် အမြင့်ဆုံးသော လက်တွေ့စမ်းခန်း ဖြစ်သည်။ ထိုတောင်ထိပ်သို့ မော်တော်ကားဖြင့် သွားရောက်နိုင်အောင် လမ်းဖေါက် လုပ်ထား၏။ နတ်ဥယျာဉ်ခေါ် 'ဂါးဒင်း-အော့-ဂေါ့' တွင် အနီရောင်ပေါက်နေသော သဲကျောက်တို့သည် လေ၊ ရေ တို့၏ တိုက်စားမှုကြောင့် လှပသော သဘာဝပုံ အမျိုးမျိုး ဖြစ်ကြလေသည်။ ထိုသို့ လူ မပြုမပြင်ဘဲ သဘာဝအလျောက် အဆန်းတကြယ်များ ဖြစ်နေသဖြင့် 'နတ်ဥယျာဉ်' ဟု ခေါ်တွင်ဟန် တူသည်။ ကော်လိုရားဒိုး ပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၀၄,၂၄၇ ဖြစ်၍၊ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် သန်းကောင်စာရင်းအရ ၁,၃၂၅,၀၈၉ ယောက်မျှ ရှိလေသည်။

**ကော်လံဗိုင်းပင်။** ။ကော်လံဗိုင်း ပန်းမျိုးကား ဥယျာဉ်တွင် အလှစိုက်ပန်းများ ဖြစ်သည်။ ရုက္ခဗေဒအမည်ဖြင့် 'အက်ကွီလီး ဂျီး ယားဗါလဂါရစ်' ဟု ခေါ်သည်။ ထိုအပင်မှာ ဗတ်တားကပ်အမျိုး အနွယ်ဝင်ဖြစ်သည်။ အမေရိကတိုက်၊ ဥရောပ တိုက်နှင့် အာရှတိုက် များတွင် တွေ့ရသည်။အပွင့်များမှာမျိုး ကိုလိုက်၍ အရောင် အမျိုး မျိုး ရှိသည်။ သို့ရာတွင်အဖြူနှင့်မရမ်းရောင်ပန်းများမှာ အပေါများ ဆုံးဖြစ်လေသည်။



ကော်လံဗိုင်းပန်းပင်

အပွင့်တွင် ပွင့်ဖတ်များအပြင် အတက် ၅ ခုစီ ရှိသည်။

ထိုအတက်များမှာ ပွင့်ဖတ်များ၏ အရင်းမှ အောက်သို့ ဖါးလျား ကျလျက်ရှိသည်။

ထိုပန်းကို 'ရေခုကီးတောင် ကော်လံဗိုင်းပင်' ဟူ၍လည်း ခေါ်သေးသည်။

**ကော်လွိုက်**။ ။သောမတ်ဂရေဟမ် အမည်ရှိသော စကော့လူမျိုး ဓါတုဗေဒ ကဝိတဦးသည် ပျော်ဝင်ပစ္စည်းတို့၏ ပျံ့နှံ့ပုံကို စုံစမ်းခဲ့ရာတွင် အရည် ၂ မျိုး ၂ စား ရှိကြောင်းကို သိရှိခဲ့လေသည်။ ပဌမအမျိုးမှာ ဆားရိုးရိုးနှင့် သကြားကဲ့သို့သော ပစ္စည်းတို့၏ ပျော်ဝင်ရည်များ ဖြစ်၏။ ထိုပျော်ဝင်ရည်မျိုးသည် လွယ်လင့်တကူ ဆားပွင့်၊ သကြားပွင့်ကလေးများ ဖြစ်စေနိုင်သည့်ပြင် ရေတွင် ကောင်းစွာ ပျံ့နှံ့လျက် ပျော်ဝင်နေနိုင်သည်။ ထိုပျော်ဝင်ရည်ကို တိရစ္ဆာန်သားရေဖြင့် ပြုလုပ်ထားသော စည်ဖေါင်း တခုခုတွင် ထည့်၍ ရေထဲ၌ ကြိုးနှင့်ဆွဲထားလျှင် ထိုပျော်ဝင်ရည်သည် စည်ဖေါင်းထဲမှ ရေထဲသို့ ဖေါက်ထွက် သွားသည်ကို တွေ့ရသည်။ ဤသို့သော ပျော်ဝင်ပစ္စည်းမျိုးကို ခရစ္စတဲလွိုက်ဟု ခေါ်၏။ ဒုတိယအမျိုးမှာ ကြက်ဥ ဘဲဥအကာ (အယ်လဗျူမင်)၊ ကော်၊ ကစီ ကဲ့သို့သော ပစ္စည်းတို့၏ အရည်များ ဖြစ်သည်။ ထိုအရည်မျိုးမှာ အထက်က ဆားပျော်ဝင်ရည်များကဲ့သို့ အပွင့် (ခရစ္စတယ်) ကလေးများ မဖြစ်စေနိုင်သည့်ပြင် ရေတွင်လည်း ကောင်းစွာ ပျံ့နှံ့လျက် ပျော်ဝင် မနေနိုင်ကြချေ။ ထိုအရည်ကို စည်ဖေါင်းတခုခုတွင်ထည့်၍ ရေထဲ၌ ကြိုးနှင့် ဆွဲထားလျှင်လည်း ရေထဲသို့ ဖေါက်ထွက်၍ မသွားနိုင်ပေ။ ထိုကော်ကဲ့သို့သော ပစ္စည်းမျိုးကို ကော်လွိုက်ဟု ခေါ်၏။ ကြက်ဥ ဘဲဥကဲ့သို့သော ဥတို့၏ အကာများ၊ တိရစ္ဆာန်တို့၏ အသား အရိုးတို့မှ ရသည့် ကော်ရည်ကဲ့သို့သောပစ္စည်းများ၊ ကစီရည်၊ ဆပ်ပြာနှင့် ဆေးဝါးများတွင် အသုံးပြုသော အီမားရှင်းခေါ် ဆီပျော်ရည်များသည် ကော်လွိုက်များ ဖြစ်ကြသည်။ ကော်ဖတ်သည်လည်း ကော်လွိုက်ပင် ဖြစ်၏။ ကော်လွိုက်စာရင်းဝင်သော ပစ္စည်းများမှာ အမြောက်အမြား ရှိပြီးလျှင် လွန်ခဲ့သော နှစ်ပေါင်း သုံးလေးဆယ်မှ စ၍ စက်မှုလက်မှု လုပ်ငန်းတွင် အလွန် အရေးပါ အရာရောက်လာခဲ့လေသည်။ ယခုအခါ သိပ္ပံပညာတွင် ကော်လွိုက် ဓါတုဗေဒပညာဟု တခန်း တကဏ္ဍ ထင်ရှားလျက် ရှိ၏။ ကော်လွိုက် ဓါတုဗေဒသည် များစွာ ခေတ်စားလာခဲ့ရာ၊ အထူးသဖြင့် ကော်ဖတ်လုပ်ငန်းနှင့် ပိုးတုလုပ်ငန်းများတွင် အလွန်ပင် အသုံးဝင်လေသည်။

ကော်လွိုက်ပစ္စည်းများသည် ဆားပျော်ဝင်ရည် တို့ကဲ့သို့ အရည်တွင်ပျံ့နှံ့ ပျော်ဝင်နေခြင်းမဟုတ်။ အလွန် သေးငယ်သည့် အမှုန်ကလေးများ အဖြစ်ဖြင့် အရည်ထဲတွင် တွဲလောင်း စီးခိုလျက် နေခြင်းဖြစ်သည်။ ထိုကြောင့် ဆားပျော်ဝင်ရည်ကို စည်ဖေါင်းတခုခုတွင် ထည့်၍ ရေတွင်ကြိုးနှင့် ဆွဲထားသောအခါ ရေထဲသို့ ဖေါက်ထွက်သွားနိုင်သော်လည်း၊ ကော်လွိုက်ရည်များမှာ ထိုကဲ့သို့ ဖေါက်ထွက်မသွားနိုင်ချေ။ ကော်လွိုက်ရည်ကို အလွန် အားကောင်းသော မိုက္ကရိုစကုပ်နှင့် ကြည့်လျှင် စီးခိုလျက် ရှိသည့် အမှုန်များကို မြင်နိုင်သည်။

ကော်လွိုက်များတွင် အခဲနှင့် အရည်ဟူ၍ ၂ မျိုး ၂ စား ရှိ၏။ အရည်အဖြစ်နှင့် တည်ရှိသော ကော်လွိုက်ကို ဆော (ရည်) ဟု ခေါ်၍၊ အခဲအဖြစ်နှင့် တည်ရှိသော ကော်လွိုက်ကို ဂျဲ (ခဲ) ဟု ခေါ်၏။ ထို ၂ မျိုးသော ကော်လွိုက်တို့သည် အရည်မှ အခဲသို့ရှင်း၊ အခဲမှ အရည်သို့ရှင်း၊ အပြန်အလှန် ပြောင်းလဲနိုင်ကြသည်။ ဥဒါဟရဏ်မှာ၊ ဥအကာကဲ့သို့သော ကော်လွိုက်ကို မီးနှင့် ချက်လိုက်သောအခါ ခဲ၍ သွားခြင်းမျိုးဖြစ်သည်။

လေထဲတွင်လည်း ကော်လွိုက်ကဲ့သို့သော ပစ္စည်းများ ရှိကြ၏။ ဥဒါဟရဏ်၊ မြူနှင့် မီးခိုးတို့သည် လေထဲတွင် ရှိသော ကော်လွိုက်များ ဖြစ်ကြ၏။ မြစ်များ ချောင်းများတွင် ရှိသော နုံးများသည်လည်း ကော်လွိုက်ပင် ဖြစ်၏။ သစ်သီးယိုများကိုလည်း ကော်လွိုက်စာရင်းတွင် သွင်းနိုင်သည်။ ဖန်သားထဲ၌ ရွှေမှုန့် ငွေမှုန့်များကို ရောစပ်ထားခြင်းမှာလည်း ကော်လွိုက်တမျိုးပင် ဖြစ်သည်။

**ကောဏာဂုံမြတ်စွာဘုရား**။ ။ကောဏာဂုံ မြတ်စွာဘုရားသည် ဤဘဒ္ဒကမ္ဘာအတွင်း ပွင့်တော်မူခဲ့ပြီးဘုရား ၄ ဆူအနက် ဒုတိယမြောက် ပွင့်တော်မူသော ဘုရားရှင် ဖြစ်သည်။

သောဘဝတီပြည်မှ ယညဒတ္တ ပုဏ္ဏားနှင့် ဥတ္တရာ ပုဏ္ဏေးမ တို့၏ သားတော်ဖြစ်၏။ အရွယ်ရောက်သော် သင့်မြတ်သော သတို့သမီးနှင့် လက်ထပ် ထိမ်းမြား၏။ သားတော် သတ္တဝါဟ တပါးကို ဖွားမြင်ပြီးနောက် လောကီစည်းစိမ်ကို စွန့်ပယ်ကာ တောထွက်တော်မူသည်။ ၆ လကြာမျှ ဒုက္ကရစရိယာ ကျင့်တော်မူပြီးနောက် ရေသဖန်း ဗောဓိပင်ရင်းဝယ် သဗ္ဗညုတ ဉာဏ်တော်ကိုရ၍ ဘုရား ဖြစ်တော်မူသည်။ ထိုမြတ်စွာဘုရား၏ အဂ္ဂသာဝက တပည့် ၂ ပါးမှာ ရှင်ဘိယောသနှင့် ရှင်ဥတ္တရော ဖြစ်သည်။ အဂ္ဂသာဝိကာမ တပည့်မ ၂ ပါးမှာ ဥတ္တရာနှင့် သမုဒ္ဒါဖြစ်သည်။

ထိုမြတ်စွာဘုရား၏ ဉာဏ်တော်အမြင့်သည် အတောင် ၃၀ ဖြစ်၏။ သက်တော် အနှစ် ၂၄,၀၀၀ ရှည်တော်မူ၍ ပဗ္ဗတာရုံ၌ ပရိနိဗ္ဗာန်ပြုတော်မူသည်။

**ကောတက်, အိပ်** (ခရစ် ၁၄၇၅–၁၅၄၇)။ ။ကမ္ဘာသစ်ဟု

ခေါ်ကြသောအမေရိကတိုက်ကို ကိုလံဗပ် တွေ့ပြီးသည့်နောက် မက္ကဆီကိုနိုင်ငံသို့ ပဌမဆုံးစွန့်စား သွားရောက်၍ တိုက်ခိုက် သိမ်းယူခဲ့သူကား ဟာနန်ဒို ကောတက်ဆိုသူ စပိန်လူမျိုးတယောက် ဖြစ်သည်။

ကောတက်သည် ၁၄၈၅ ခုနှစ်တွင် စပိန်နိုင်ငံ မက်ဒလင်းမြို့၌ ဖွားမြင်သည်။ ငယ်စဉ်က ဆာလာမန်းကား တက္ကသိုလ်တွင် ဥပဒေပညာကို သင်ကြားခဲ့၏။ သို့သော် တရပ်တကျေးသို့ စွန့်စား သွားရောက်လိုသောစိတ် ပြင်းပြရကား ဥပဒေပညာကို ဆုံးခန်းတိုင် မသင်ဘဲ အိမ်သို့ ပြန်သွားခဲ့ပြီးနောက်၊ ၁၅၀၄ ခုနှစ်တွင် ဆန်ဒိုမင်းဂိုးသို့ ခရီးထွက်ခဲ့သည်။ ဆန်ဒိုမင်းဂိုးတွင် တိုင်းရင်းသားတို့ ပုန်ကန်ထကြွရာ၌ ရှပ်ရှပ်ချွံချွံ ဝင်ရောက် တိုက်ခိုက်ခဲ့သောကြောင့်၊ ကျူးဗါးကျွန်း စပိန်ဘုရင်ခံက သူ့အား သင်္ဘော ၁၁ စင်း ပါဝင်သောသင်္ဘောတပ်တွင် တပ်မှူးအဖြစ် ခန့်ထားပြီးလျှင်၊ မကြာမီကမှ တွေ့ရှိ၍ ရွှေငွေ ပေါများသည်ဟု ကျော်ကြားသော မက္ကဆီကိုသို့ သွားရောက် သိမ်းယူရန်စေလွှတ်လေသည်။ ၁၅၁၈ ခု နိုဝင်ဘာလတွင် ခရီးထွက်ခဲ့ရာ ဘုရင်ခံက သူ၏အမိန့်ကို ချက်ခြင်း ရုပ်သိမ်း၍ ကောတက်တို့အား ပြန်လည် ဆင့်ခေါ်သော်လည်း၊ အမိန့်ကို ဖီဆန်လျက် ထွက်ခွာသွားခဲ့သည်။ ၁၅၁၉ ခု မတ်လတွင် မက္ကဆီကိုကမ်းခြေသို့ ဆိုက်ရောက်ခဲ့၏။

ထိုနောက် သူသည် ဗေရကရုမြို့ကို တည်ထောင်၍ သူ၏လူသိုက် ထွက်မပြေးသာအောင် သင်္ဘော ၁၀ စင်းကို မီးတင် ရှို့လိုက်၏။ ကျန် တစင်းကို ကား စပိန် ဘုရင် ထံသို့ စေလွှတ်၍ သူပြုလုပ်ခဲ့ သမျှကို သံတော်ဦး တင်ရန် နှင့်၊ သူ့အား မက္ကဆီကိုကို တိုက်ခိုက် သိမ်းယူခွင့် ပေးဖို့ လျှောက်ထားရန်အတွက် ချန်ထားခြင်း ဖြစ်သည်။

ကောတက်ကို ကံချွန် သူတဦးဟု ဆိုရပေမည်။ အကြောင်းမှာ သင်္ဘောပျက်ပြီးလျှင် မက္ကဆီကိုကမ်းခြေသို့ ရောက်ရှိကာ နှစ်ပေါင်းများစွာ နေထိုင်ခဲ့၍ သူတို့အား ကူညီမည့် စပိန်လူမျိုးတယောက်ကို တွေ့ရသောကြောင့် ဖြစ်သည်။ ထိုသူမှာ မက္ကဆီကန်စကားကို ကောင်းစွာ တတ်ကျွမ်း လေ သည်။ ထိုမျှမကသေး မက္ကဆီကန် လူမျိုး အကြီးအကဲတယောက်ကလည်း သူ့သမီးကို ကောတက်အား ပေးအပ်လိုက်ရာ၊ ထိုမက္ကဆီကန် မိန်းမပျိုသည် သူ့ကို ချစ်ခင် ကြည်ညို၍ အကူအညီ များစွာ ပေးလေသည်။

ထို့ပြင် ကောတက်အတွက် စားရက်ကြုံ၍ မုတ်ဆိတ် ပျားစွဲဘိသည့်အလား၊ မက္ကဆီကန်လူမျိုးတို့ကို အသားဖြူ နတ်သားတပါး အုပ်စိုးရန် ရောက်လာလိမ့်မည် ဟူသော တံဘောင်နှင့် ကြုံကြိုက်ခဲ့လေသည်။ မက္ကဆီကန် တိုင်းရင်းသားများသည် မျက်နှာဖြူ စပိန်လူမျိုးတို့ ရောက်လာသောအခါ သူတို့၏ နတ်သားထင်မှတ်၍ အားရဝမ်းသာ



မက္ကဆီကိုနိုင်ငံကို ဦးစွာသိမ်းပိုက်ခဲ့သူ ဟာနန်ဒိုကောတက်

ကြိုဆိုကြ၏။ တေနေ့ာတီတလန်းမြို့ (ယခုမက္ကဆီကိုမြို့) အနီးသို့ စပိန်တို့ ရောက်သောအခါကျမှ၊ သံသယမကင်း ဖြစ်လာ၍ ရန်စ တိုက်ခိုက် ကြလေသည်။ ထိုတိုက်ပွဲတွင် စပိန် တို့ဖက်မှ လက်နက်အင်အား ကောင်းသဖြင့် လူ ၅၀,၀၀၀ မျှ ရှိသော တိုင်းရင်းသားများမှာ မရှုမလှ အရေးရှုံးနိမ့် သွားလေသည်။ ထိုနောက်၌ကား ထိုမက္ကဆီကန်တို့သည် စပိန်တို့နှင့် ပူးပေါင်းလျက်မက္ကဆီကိုမြို့သို့ လိုက်ပါသွားကြ၏။

မက္ကဆီကိုမြို့၌ ကြီးစိုးနေသော တိုင်းရင်းသားများကား အက်ဇတက် လူမျိုးများ ဖြစ်ကြသည်။ အက်ဇတက်တို့သည် စပိန်တို့ကို လိမ်လည် လှည့်ဖြား၍ အလစ် ဝင်တိုက်ရန် ကြံစည်ခဲ့သေး၏။ သို့ရာတွင် ကောတက်နှင့် အတူ ပါလာသောမက္ကဆီကန် မိန်းမပျိုက အချိန်မီ သတိပေးသဖြင့်၊ သူတို့အကြံ အထမမြောက်ဘဲ အရေးရှုံးနိမ့် ခဲ့လေသည်။

၁၅၁၉ ခု နိုဝင်ဘာလ ၈ ရက်နေ့တွင် မက္ကဆီကိုမြို့သို့ ဆိုက်ရောက်ကြရာ အက်ဇတက် ဘုရင် မွန်တီဇူးမားက မခုခံဘဲ ကောင်းစွာ ကြိုဆို ညှော်ခံသည်။ သို့သော် ကောတက်နှင့် နောက်လိုက်များမှာ စစ်နိုင်သူများဟူ၍ နိုင်လိုမင်းထက် ပြုကျင့်ရကား၊ အက်ဇတက်တို့သည် ၎င်းတို့ကို မောင်းထုတ်ရန် ကြံစည်ကြ၏။ ထိုအကြံကို ကောတက် သိသွားပြန်ရာ၊ မွန်တီဇူးမားအား ဖမ်းဆီး၍ အကျယ်ချုပ်ထားပြီးလျှင် ရွှေ၊ ငွေ အမြောက်အမြား တောင်းယူလေ

သည်။ ထိုအတောအတွင်း ကျူးဗားကျွန်းရှိ စပိန်ဘုရင်ခံသည် ကောတက်ကို ဆုံးမရန် စစ်သား ၁,၂၀၀ ခန့် လွှတ်လိုက်၏။ ကောတက်သည် ထိုစစ်သားများနှင့် သဘောချင်းညီသဖြင့် သူ၏စစ်တပ်မှာ လူအင်အား တိုးတက်လာလေသည်။

နောက်မကြာမီ အက်ဇတက်တို့သည် စပိန်တို့ရော သူတို့၏ ဘုရင်ကိုပါ တော်လှန် တိုက်ခိုက်ကြ၏။ ထိုအခါ မွန်တီဇူးမားမှာ တိုက်ပွဲအတွင်း ကျဆုံး၍ ကောတက်သည်လည်း အားမတန်သဖြင့် ဆုတ်ခွာ သွားရလေရာ၊ သူ၏လူ ၃ ပုံ ၂ ပုံခန့် ဆုံးရှုံးသွားလေသည်။ သို့ရာတွင် စိတ်အားမလျော့ဘဲ၊ အက်ဇတက်တို့နှင့် မသင့်မြတ်သော တိုင်းရင်းသားများအား သိမ်းသွင်း၍ ပြန်လည် တိုက်ခိုက်လေသည်။ အက်ဇတက်တို့က ရှုပ်ရှုပ် ချွံချွံ ခုခံသော်လည်း အရေး ရှုံးနိမ့်သဖြင့် ၁၅၂၁ ခု ဩဂုတ်လ၌ မက္ကဆီကိုမြို့ကို စပိန်တို့ ပြန်လည် သိမ်းပိုက်နိုင်ကြသည်။ ထိုနောက် စပိန်ဘုရင် ပဥ္စမချားက ကောတက်အား မက္ကဆီကိုပြည်၏ ဘုရင်ခံနှင့် စစ်ဗိုလ်ချုပ်အဖြစ် ခန့်ထားလေသည်။

၁၅၂၈ ခုနှစ်၌ ကောတက်သည် စပိန်နိုင်ငံသို့ ပြန်သွား၏။ စပိန်နိုင်ငံ၌ သူ့ကို မနာလိုသော လူတစုက သူ၏ ပျက်စီးရာပျက်စီးကြောင်း ကြံစည်လျက်ရှိရာ၊ ကောတက်ရောက်သွား၍ အကြောင်းစုံ ရှင်းပြမှ စပိန်ဘုရင်မှာ သူ့အပေါ်၌ သံသယ ရှင်းသွားလေသည်။ သို့ရာတွင် ဘုရင်က သူ့ကို ရှေးကကဲ့သို့ အခွင့်အရေး များစွာ မပေးတော့ချေ။ သူသိမ်းပိုက်ခဲ့သော နယ်ကို အုပ်ချုပ်ရန် အခြားလူတယောက်အား ဘုရင်ခံအဖြစ် ခန့်ထား၍၊ သူ့အား သာမန် စစ်ဗိုလ်မျုး ရာထူးနှင့်သာ မက္ကဆီကိုပြည်သို့ ပြန်သွားစေသည်။ ၁၅၃၆ ခုနှစ်တွင် ကောတက်သည် အောက်ပိုင်း ကာလီဖိုးနီးယားကျွန်းဆွယ်ကို ရှာဖွေ တွေ့ရှိခဲ့၏။

သို့သော် မက္ကဆီကိုဘုရင်ခံမှာ ကောတက်လုပ်သမျှကို အမြဲတစေ ကဖျက်ယဖျက် လုပ်နေသဖြင့် ကောတက်မှာ သူနှင့် မသင့်မတင့်ဖြစ်၍ စပိန်နိုင်ငံသို့ ပြန်၍သွားသည်။ စပိန်နိုင်ငံသို့ ရောက်သောအခါ သူ၏ အခွင့်အရေးများကို ဘုရင်ထံတွင် ပြန်လည် အသနားခံခဲ့သော်လည်း မရတော့ချေ။ ကောတက်သည် ဇွဲသတ္တိကောင်း၍ ကြံရည် ဖန်ရည်ရှိသူဖြစ်၏။ တိုင်းရင်းသားများအပေါ်၌ ရက်စက် ကြမ်းကြုတ်စွာ ပြုမူ ဆက်ဆံခဲ့သော်လည်း စပိန်အင်ပိုင်ယာကို တည်ထောင်ခဲ့သူတဦး ဖြစ်၏။ သို့ရာတွင် အကျိုးကျေးဇူးများစွာ မခံစားရဘဲ၊ ဆင်းဆင်း ရဲရဲနှင့် ဆဲဗီး မြို့အနီးတွင် ကွယ်လွန်လေသည်။

**ကောလူမျိုး**။ ။ကောလူမျိုးမှာ လိုလိုမိုဆို အစုဝင် လူမျိုး ဖြစ်သည်။ လူဦးရေမှာ ၄၀,၀၀၀ နီးပါးမျှ ရှိ၍ တဖြည်းဖြည်း တိုးတက်လျက် ရှိသည်။ ကောလူမျိုးများသည် နေထိုင်ရာအစုအလိုက် အီကော၊ ခကော၊ ကောဟူ၍ အမည် ကွဲပြားလျက် ရှိသည်။ (လိုလိုမိုဆိုလူမျိုး — ရှု)။

ထိုလူမျိုးတို့၏ မူရင်းဒေသမှာ ယူနန်နယ်ဖြစ်သည်။ ထိုဒေသမှ မဲခေါင် မြစ်ဝှမ်းတလျှောက် ဆင်းသက်လာ၍၊ ရှမ်းပြည်တောင်ပိုင်း ကျိုင်းတုံနယ်အရှေ့ဖက် နယ်စပ်ဆီမှ မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက် လာကြဟန် တူသည်။ ယခုအခါတွင် ထိုသူတို့ကို ရှမ်းပြည်တောင်ပိုင်း အရှေ့စွန် ဒေသများတွင် အများဆုံး တွေ့ရ၏။ ယူနန်နယ် တောင်ပိုင်းနှင့် ယိုးဒယားနိုင်ငံ မြောက်ပိုင်းတို့၌လည်း တွေ့ရသည်။

ကောလူမျိုးတို့မှာ များသောအားဖြင့် နတ်ကိုးကွယ်ကြ၏။ ခရစ်ယန်အယူဝါဒီ အနည်းငယ်မျှသာ ရှိသည်။ အယူသည်း၍ ဘိုးဘေးစဉ်ဆက်ကို ရိုသေ ကိုးကွယ်ကြသူများ ဖြစ်သည်။

ကချင်တို့ကဲ့သို့ပင် လူရည်သန့် လူတောင့်များ ဖြစ်ကြသည်။ ရိုးရိုးနှင့်ရှင်းရှင်း နေတတ်ကြသည်။ အမွှာ၊ ရုပ်ပျက်ဆင်းပျက်၊ မစွမ်းမသန် မွေးဖွားသော ကလေးများကို ဖျောက်ဖျက်ပစ်လေ့ ရှိကြသည်။ ကချင်တောင်များတွင် တွေ့လေ့ရှိသော ကိုယ်အင်္ဂါ ချွိတ်သူမျိုးကို ကောရွာများတွင် တွေ့ရခဲသည်။

ကော အမျိုးသမီးတို့၏ ခါးဝတ်မှာ အတွန့် အခေါက်များဖြင့် လှပစွာတန်ဆာ ဆင်ထားသည်။ ဘာသာဘာဝ



တိုင်းရင်းအဝတ်အစားဖြင့် ကောအမျိုးသမီးများ

သီဆို ကျူးရင့်၍ ပျော်ရွှင်စွာ နေတတ်သည်နှင့်အမျှ လုပ်မှု ဆောင်တာများကို အပင်အပန်း မပျင်းမရိ ဆောင်ရွက်သူများဖြစ်သည်။ ကော အမျိုးသားတို့မှာ ယောကျ်ားပီသ၍ လွတ်လပ်စွာနေလိုသူများ ဖြစ်သည်။

လိုလိုအစုဝင် လီစု၊ လဟူ တို့ကဲ့သို့ပင် ဒူးလေးနှင့် မြားကို သုံးစွဲကြသည်။ အမဲလိုက် ဝါသနာပါ၍ မုဆိုးဘဝတွင် ကျွမ်းကျင်သူများ ဖြစ်ကြသည်။ ဦးဘရှင်။



ကျန်းမာတောင့်တင်းသော ကောလုလင်ပျို ၂ ဦး

**ကောလက်, ဂျေ** (ခရစ် ၁၈၆၇-၁၅၁၉)။ ။ဂျန် ကောလက်သည် စိတ်ထား အလွန် မြင့်မြတ် ပြူ စင်၍ စိန်ပေါ ကျောင်းကိုစတင် တည်ထောင်ခဲ့သူ ဖြစ်သည်။

ဤသို့ စိန်ပေါကျောင်းကြီးကို တည်ထောင်လိုက်ခြင်းအားဖြင့် ပညာရေးကို အားပေးလိုသူများ ပေါ်ပေါက်လာလေရာ၊ ဆင္ဌ အက်ဒ့ပ်ဘုရင်နှင့် အယ်လစ်ဇဗက် ဘုရင်မကြီးတို့ကိုယ်တိုင် အလားတူ အင်္ဂလိပ် သဒ္ဒါကျောင်းများကို အင်္ဂလန်ပြည် တဝန်းလုံး၌ တည်ထောင်ခဲ့ကြ၏။

ကောလက်သည် ၁၄၆၇ ခုနှစ်လောက်တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ သူ၏ဖခင် ဆာ ဟင်နရီ ကောလက် မှာ လန်ဒန်မြို့တော်ဝန် ၂ ကြိမ်တိုင်တိုင် ဖြစ်ခဲ့ဘူးသည်။ ကောလက်သည် အောက်စဖို့ တက္ကသိုလ်တွင် ပညာသင်ကြားခဲ့ရာ ၁၄၉၀ ပြည့်နှစ်တွင် မဟာဝိဇ္ဇာဘွဲ့ကို ရရှိခဲ့၏။ သို့သော်ထိုအချိန် မတိုင်မီကပင် ကောလက်သည် သင်းအုပ်ဆရာ ဖြစ်နေလေပြီ။

ထိုနောက် ကောလက်သည် ဥရောပတိုက်၌ လှည့်လည်လျက် အယူဝါဒဆိုင်ရာ ဗဟုသုတများကို ဆည်းပူးသည်။ ၁၄၉၆ ခုနှစ်တွင် ဥရောပတိုက်မှ အင်္ဂလန်ပြည်သို့ ပြန်ရောက်သည့်အခါ၊ ဘုန်းကြီးအဖြစ် ခံယူပြီးသော် အောက်စဖို့ တက္ကသိုလ်၌ စိန်ပေါ၏ ဩဝါဒ စာများအကြောင်း ဟောပြောလေသည်။ ကောလက်သည် စိန်ပေါအကြောင်းကို ဟောပြောရာ၌ ရှေးက ယူဆချက်များကို ပယ်ဖျက်၍ အမြင်သစ်ဖြင့် ဟောပြောခဲ့သည်။ ၁၅၀၅ ခုနှစ်တွင် စိန်ပေါ ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီး၌ ဂိုဏ်းထောက်အဖြစ် ခန့်ထားခြင်း ခံရ၏။

သူသည် တရားဟော အလွန်ကောင်း၍ ဂိုဏ်းတော် တိုးတက်ရာ တိုးတက်ကြောင်းအတွက် ပြုပြင်ပြောင်းလဲမှုများကို လိုလားလေသည်။ ထို့ပြင် ဘုန်းကြီးတို့၏ အကျင့်စာရိတ များ မဖွယ်ရာ မလျော်ကန်ပတ် သည်တို့ကို မထောက်မညှာဘဲ ဟုတ်တိုင်းမှန်ရာ ထုတ်ဖော် ပြောရသည်။ တကြိမ်တွင် ဂိုဏ်းအုပ်များနှင့် ဘုန်းကြီးများ စုံညီစွာ တက်ရောက်သော စည်းဝေးပွဲတခု၌ ကောလက်က သာသနာ့ဝန်ထမ်းတို့သည် ဂုဏ်ပကာသနတို့ကို မက်မောကြသည်အတွက်ဂိုဏ်းတော်တွင်ချွတ်ယွင်း ချက်များ ပေါ် ပေါက် ရ လေသည် ဟု ရဲဝံ့စွာ ပြောဆိုခဲ့သည်။ ကောလက်သည် စိတ်အားထက်သန်သော ဗရင်ဂျီ ဂိုဏ်းဝင်တဦး ဖြစ်သည့်ပြင်၊ ပညာရေးနှင့် ဂိုဏ်းအတွင်း ပြုပြင်ပြောင်းလဲရေးများ အတွက် ထိရောက်စွာ ဆောင်ရွက်ခဲ့သူလည်း ဖြစ်ပေသည်။ ထင်ရှားသော ဒပ်ချလူမျိုး ပညာရှိ အီရက်ဇမပ်သည် ဂျွန်ကောလက်ကို အလွန် ကြည်ညို လေးစားလေသည်။

ပြုပြင် ပြောင်းလဲရေးသမားကြီး ဂျွန် ကောလက် သည် ၁၅၁၉ ခုစက်တင်ဘာလ ၁၆ ရက်နေ့တွင် ကွယ်လွန်သည်။

**ကောလင်းမြို့**။ ။ကောလင်းမြို့သည် အထက်မြန်မာပြည် ကသာခရိုင်အတွင်း ကောလင်းနယ်ပိုင် ရုံးစိုက်ရာမြို့ဖြစ်၏။ ကောလင်းမြို့မှာ ထီးချိုင့်မြို့ အနောက်ဖက် မိုင် ၄၀ ကွာတွင် မန္တလေး-မြစ်ကြီးနား မီးရထားလမ်းပေါ်၌ရှိသည်။ မြေပြန့်ပေါ်၌ တည်ရှိသော်လည်း ပတ်ပတ်လည်၌ တောင်များ ဝန်းရံလျက် ရှိ၏။ ကောလင်းမြို့သည် ၂၁၇ ဧက ကျယ်ဝန်း၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၃,၇၃၅ ယောက်ခန့် ရှိသည်။ မြို့တဝိုက်တွင် ကျယ်ပြန့်သော စပါးလယ်ကွင်းများကို ကောလင်းကွင်းဟု ခေါ်ကြသည်။

ကောလင်း မြို့နယ်ကို ရှေးမြန်မာမင်းများ လက်ထက်က မြို့ဝန်များ ခန့်ထား၍ အုပ်ချုပ်စေသည်။ မြို့ဟောင်းနေရာမှာ ယခု ကောလင်းမြို့၏ အနောက်ဖက် တမိုင်ခန့် ဝေးကွာသော ရွာမပင် ဖြစ်သည်။ ယခု ကောလင်းမြို့မှာ တောင်အင်းနှင့် မြောက်အင်းခေါ် ရွာ ၂ ရွာကို စုပေါင်း၍ တည်ခဲ့သော မြို့ဖြစ်သည်။

~~~~~~~~~~~
~~~~~~~~~~~

**ကောလင်းဝု, စီ** (ခရစ် ၁၇၅၀–၁၈၁၀)။ ။ဗြိတိသျှ ရေကြောင်းဗိုလ်ချုပ်ကြီး လော့ ကပ်သဗတ် ကောလင်းဝုသည် ၁၇၅၀ ပြည့်နှစ် စက်တင်ဘာလ ၂၆ ရက်နေ့တွင် အင်္ဂလန်ပြည် နျူးကပ်ဆဲ–အပွန်–တိုင်း မြို့၌ ဖွားမြင်သည်။ ငယ်စဉ်က သဒ္ဒါကျောင်းတွင် ပညာသင်ခဲ့၍ အသက် ၁၁ နှစ်အရွယ်တွင် ရေတပ်သို့ ဝင်ခဲ့ပြီးနောက်၊ အစ်ကိုဝမ်းကွဲတော်သူ ရေကြောင်း ဗိုလ်မှူးကြီးတဦး၏ အစောင့်အရှောက်ဖြင့် ရေကြောင်း ခရီးထွက်ခဲ့သည်။ အသက် ၂၄ နှစ်တွင် မြောက်အမေရိကတိုက် ရေတပ်စခန်းတခု၌ ဆက်လက် အမှုထမ်းခဲ့၍ ဗန်းကားတောင်ကုန်း တိုက်ပွဲတွင် ပါဝင် တိုက်ခိုက်ခဲ့ရာ၊ သူ၏ ထူးချွန်မှုကြောင့် ဗိုလ်အဆင့်အတန်းကို ရရှိလေသည်။

၁၇၈၁ ခုနှစ်တွင် ရေကြောင်း ဗိုလ်ချုပ်တဦး၏ မြေးနှင့် လက်ထပ်ခဲ့သည်။ ထိုနောက် မြေထဲပင်လယ် ရေတပ်စခန်းသို့ ထွက်ရလေသည်။ ရေကြောင်းဆိုင်ရာတွင် နှလုံးရည် လက်ရုံးရည်နှင့် ပြည့်စုံသူဖြစ်၍၊ သူပါဝင်တိုက်ခိုက်သော တိုက်ပွဲတိုင်းတွင် ထူးချွန်စွာ အောင်မြင်ခဲ့သည်။ ၁၇၉၄ ခုနှစ် 'ဇွန်လ ၁ ရက်ရေကြောင်းတိုက်ပွဲ' နှင့် ၁၇၉၇ ခုနှစ် 'စိန့်ဗင်းဆင့် ရေကြောင်းတိုက်ပွဲ' များတွင် ရှပ်ရှပ် ချွံချွံ ပါဝင်တိုက်ခိုက်သည်။ ၁၇၉၉ ခုနှစ်တွင် ရေကြောင်းဗိုလ်ချုပ် ဖြစ်လာ၏။

၁၈၀၃ ခုနှစ်တွင် စစ်တဖန် ဖြစ်ပြန်၍ ကောလင်းဝုသည် အင်္ဂလိပ် ရေလက်ကြားကြီး၌ ဗရက်မြို့ကို ရေကြောင်း ပိတ်ဆို့သော ရေတပ်တွင် ဝင်ရောက် အမှုထမ်းသည်။ ၁၈၀၄ ခုနှစ်တွင် ရေကြောင်းဗိုလ်ချုပ်ကြီး ဖြစ်လာသည်။ သူသည် သင်္ဘောတပ်ခွဲတခုကို ဦးစီးကာ အနောက် အိန္ဒိယ ကျွန်းစုမှ ပြန်လာသော ရန်သူသင်္ဘောများကို ကေးဒစ် မြို့တွင် ရေကြောင်းမှ ပိတ်ဆို့ ထားရပြန်သောအခါ၊ ရေကြောင်းဗိုလ်ချုပ် နယ်လဆင်၏ သင်္ဘောတပ်နှင့် ပူးပေါင်းမိလေသည်။ ထိုအခါ မြေထဲပင်လယ်ရေတပ်တွင် နယ်လဆင်၏ ဒုတိယ သေနာပတိအဖြစ် အမှုထမ်းခဲ့ရသည်။

၁၈၀၅ ခု အောက်တိုဘာလ ၂၁ ရက်နေ့တွင် ဖြစ်ပွားသော 'ထရာဖဲလဂါတိုက်ပွဲ' တွင် နယ်လဆင်နှင့်အတူ ပါဝင် တိုက်ခိုက်သည်။ တိုက်ပွဲဖြစ်ပွားစဉ် ကောလင်းဝု၏ သင်္ဘောသည် ရန်သူစစ်သင်္ဘော ၄ စင်း ညှပ်၍ အတိုက်ခံရသော်လည်း သူ၏ ရှပ်ရှပ် ချွံချွံ တိုက်ခိုက်မှုကြောင့် မကျဆုံးခဲ့ချေ။ ထိုတိုက်ပွဲတွင် အောင်ပွဲရတော့မည်မှာ မလွဲဟု သိရသောအချိန်တွင် နယ်လဆင် ကျဆုံးလေရာ၊ ကောလင်းဝုက ဆက်လက် ကွပ်ကဲ၍ တိုက်ပွဲပြီးဆုံးသည့်တိုင်အောင် တိုက်ခိုက်လေသည်။ ထိုတိုက်ပွဲမှာ ကမ္ဘာ့သမိုင်းတွင် ထင်ရှားလှ၏။ (ထရာဖဲလဂါတိုက်ပွဲ — ရှု။) နယ်လဆင် ကျော်ကြားသကဲ့သို့ပင် ကောလင်းဝုလည်း ကျော်ကြားရုံမက၊ သူ၏ အောင်မြင်မှုများကြောင့် ဗဲရွန်ဘွဲ့ဖြင့် သူကောင်းပြု ခြင်း ခံရပြီးလျှင် တနှစ်လျှင် ရိက္ခာတော် ရွှေဒင်္ဂါးပေါင် ၂,၀၀၀ ရရှိလေသည်။

လော့ ကပ်သဗတ် ကောလင်းဝုသည် ၁၈၁၀ ပြည့်နှစ် မတ်လ ၇ ရက်နေ့တွင် ကွယ်လွန်လေသည်။ သူ၏ စွမ်းရည်ကို ဂုဏ်ပြုသောအားဖြင့် စိန်ပေါ ကသီဒရယ် ဘုရားရှိခိုးကျောင်းတွင် ဗိုလ်ချုပ်ကြီး နယ်လဆင်၏ အုတ်ဂူနှင့် ယှဉ်လျက်မြှုပ်နှံထား၏။

**ကောလိပ်များ**။ ။တက္ကသိုလ်များ — ရှု။



ဗြိတိသျှရေကြောင်းဗိုလ်ချုပ်ကြီး လော့ကောလင်းဝု

**ကိုကိုကျွန်း**။ ။မြန်မာနိုင်ငံ အစိုးရပိုင် ကျွန်းစုငယ်များ ဖြစ်သောကိုကိုကျွန်းစုမှာ အိန္ဒိယ သမုဒ္ဒရာထဲတွင် မြောက်ဖက် လတ္တီတွဒ် ၁၄·၄ နှင့် ၁၄·၁၀ ဒီဂရီတို့ အကြားတွင် တည်ရှိ၍ အရှေ့ဖက် လောင်ဂျီတွဒ် ၉၃·၂၂ ဒီဂရီမျဉ်းက ဖြတ်သန်းလျက် ရှိသည်။

ဤကျွန်းစုတွင် တေဗယ်ကျွန်း၊ ကိုကိုကျွန်းကြီး၊ ကိုကိုကျွန်းကလေး၊ ဂျယ်ရီကျွန်းနှင့် ရက်ကျွန်းဟူ၍ ကျွန်းငယ် ၅ ကျွန်း ပါဝင်ပြီးလျှင် အရှေ့မြောက်ယွန်း တန်းလျက် တည်ရှိသည်။ မြောက်ဖက် အစွန်ဆုံးဖြစ်သော တေဗယ်ကျွန်းမှာ မြန်မာပြည်မ ရှိ ပြင်ခရိုင်ကျွန်းဆွယ်မှ ၁၃၅ မိုင်ကျော်


ကိုကိုကျွန်းကမ်းခြေတနေရာမှသာယာကြည်နူးဖွယ်ရှုခင်း

ကျော် ဝေးကွာသည်။ တဖန် တောင်ဖက် အစွန်ဆုံး ဖြစ်သော ကိုကိုကျွန်းကလေးမှာ ကပ္ပလီကျွန်းများအနက်မြောက်ဖက်ဆုံး ဖြစ်သော လန်းဒဖေါကျွန်း မှ ၂၆ မိုင်ခန့်မျှသာ ဝေးကွာသည်။ ကပ္ပလီကျွန်းနှင့် ကိုကိုကျွန်းကလေး အကြားတွင် ကိုကို ရေလက်ကြားကြီး ရှိသည်။ကျွန်းများ ပတ်လည်ရှိ ရေပြင်မှာ နက် ရှိုင်း၍ သန္တာကျောက်ခက် ကျောက်တန်းများနှင့် ပြည့်နှက် နေသည့်ပြင်၊ ကမ်းခြေမှာ အကွေ့အကောက် များလေသည်။

ကိုကိုကျွန်းကြီး၏ အရှည်ဆုံးအလျားမှာ ၆ မိုင် ခန့် ရှိ၍ အကျယ်ဆုံး အနံမှာ ၂ မိုင်ခန့် ရှိသည်။ စတုရန်း ၁၄ မိုင်ခန့် ကျယ်ပြန့်သည်။ ကိုကိုကျွန်းကလေးမှာ တောင်နှင့် မြောက် အလျား ၃ မိုင်ခန့် ရှည်၍ အနံအားဖြင့်အကျယ်ဝန်းဆုံးနေရာတွင် တမိုင်နီးနီး ရှိသည်။ ကိုကိုကျွန်းကြီးနှင့် ကျွန်းကလေးအကြားတွင် အယ်လက်ဇန္ဒြာ ရေလက်ကြားကြီး ရှိသည်။

တေဗယ်ကျွန်းခေါ် မီးပြကျွန်းပေါ် သို့ မြောက်ဖက် လတ္တီတွဒ် ၁၄.၁၁ ဒီဂရီနှင့် အရှေ့ဖက် လောင်ဂျီတွဒ် ၉၃.၂၂½ ဒီဂရီမျဉ်းတို့ ဖြတ်သန်း သွားကြသည်။ ဤကျွန်းမှာညီညာပြန့်ပြူးသော မြေမျက်နှာပြင် ရှိသည်။ ပင်လယ်ကူး သင်္ဘောကြီးများကို လမ်းပြရန်အတွက် မီးပြတိုက်တခုကို မြန်မာနိုင်ငံ အစိုးရ သဘောတူညီချက်အရ အိန္ဒိယ အစိုးရက ထားရှိသည်။

ကိုကိုကျွန်းကြီးပေါ်တွင် အနောက်ဖက် ကမ်းခြေနှင့် မြောင်လျက် မြောက်ဖက်မှ တောင်ဖက်သို့ တဖြည်းဖြည်း နိမ့်ဆင်းလာသော တောင်တန်းငယ်တခု ရှိသည်။ ထိုတောင်တန်း၏ အမြင့်ဆုံးနေရာမှာ ပင်လယ်ပြင် အထက် ပေ ၃၅၀ မျှသာ ရှိသည်။ ဤကျွန်း၏ မြောက်ဖက်အစွန်ဆုံးနှင့် တောင်ဖက်အစွန်ဆုံး ဒေသများတွင် ရေချိုတွင်းတတွင်းစီ ရှိကြသည်။ ကိုကိုကျွန်းစုအားလုံးလိုပင် မြေမျက်နှာပြင် ညီညာ ပြန့်ပြူး၍ အုန်းပင်များနှင့် အထူးသင့်လျော်သော မြေဩဇာ ရှိသည့်အတိုင်း၊ အုန်းပင်များ အနှံ့အပြား ပေါက်ရောက်ကြသည်။ အထူးသဖြင့် နကဗာရီ သို့မဟုတ် နီကိုဗာရီအုန်းခေါ် မိကျောင်းအုန်းသီးမျိုးများကို စိုက်ပျိုးကြသည်။ မိကျောင်းအုန်းမှာ အလုံးသေး၊ အသားထူ၍၊ အုန်းသီး၏ ပုံသဏ္ဍာန်မှာ အလယ်တွင် အနည်းငယ် ကြီးပြီးလျှင် တဖက်တချက်ဆီသို့ ရှူးသွား သည်။ ထိုမှတပါး ဤကျွန်းစုတွင် အုန်းပင်များသည် မြေပြင်တွင် အနှံ့အပြား တွားလျက် ထူးဆန်းစွာ ပေါက်ရောက်တတ်သဖြင့် အုန်းသီးများကို လက်လှမ်းမှီ အလွယ်တကူ ဆွတ်ခူးနိုင်သည်။

ဤကျွန်းများပေါ်တွင် လူအနည်းငယ်ခန့်သာ နေထိုင်ကြသည်။ ထိုသူတို့မှာ အများအားဖြင့် အုန်းပင် စိုက်ပျိုးရောင်းချသော ကန်ထရိုက်တာများက ငှားရမ်းထားသော လုပ်သားများ ဖြစ်ကြသည်။ ကျွန်းများ ပတ်ဝန်းကျင်တွင် ငါးဖမ်း လုပ်ငန်းများ၊ လိပ်ဥ လိပ်ခွံ လုပ်ငန်းများ၊ အုန်းသီး အုန်းဆံ လုပ်ငန်းများကို လုပ်ဆောင်နိုင်ဖွယ်ရာ ရှိသော်လည်း၊ ပြည်မနှင့် ကူးလူး ဆက်ဆံရေးတွင် ခက်ခဲလှသဖြင့် လူနေအိမ်ခြေ နည်းပါးဟန် တူသည်။

ကျွန်းများပေါ်တွင် ဖွတ်ကြီးများအပြင် နွား၊ ဆိတ်၊ ဝက်၊ သမင်၊ ဒရယ်အများ ရှိသည်။ ဖွတ်မှတပါး ကျန်သတ္တဝါများကို ပင်လယ်ကူး ခရီးသည်များ အရေးကြုံက အလွယ်တကူ စားသောက်နိုင်ရန် မြန်မာနိုင်ငံ အစိုးရက လွှတ်ထားခြင်း ဖြစ်သည်။

ကိုကိုကျွန်းများသည် ဟံသာဝတီ ခရိုင်ဝန် လက်အောက်တွင် ရှိ၍ ကွမ်းခြံကုန်း တောင်ပိုင်းမြို့နယ်တွင် ပါဝင်သည်။ ကိုကိုကျွန်းတွင် အုန်းများ စိုက်ပျိုး ရောင်းချရန် အတွက် တနှစ်လျှင် ငွေ ၅,၁၅၀ ကျပ် နှုန်းဖြင့် ကန်ထရိုက် ပေးပြီးဖြစ်သည်။ ကိုကိုကျွန်းနှင့် စပ်လျဉ်း၍ ၁၉၁၃ ခုနှစ်ခန့်က ကက်ပတိန် ဗတ်တာဖီး ဆိုသူသည် ကျောက်တန်း နယ်ပိုင်အဖြစ် ဆောင်ရွက်စဉ် ရေးသား တင်သွင်းသော '၁၉၁၃ ခုနှစ် ကိုကိုကျွန်းစုများ အစီရင်ခံစာ' စာအုပ် တအုပ်မှတပါး အခြားစာအုပ် စာတမ်းများကို မတွေ့ရသေးချေ။

ကိုကိုကျွန်းစုနှင့် မလှမ်းမကမ်းတွင် တည်ရှိ၍ လူအသိနည်းသောကျွန်းငယ်များလည်း ရှိသေးသည်။ တေဗယ်ကျွန်းမှ အရှေ့မြောက်ယွန်း ၄၉မိုင်ခန့်အကွာတွင် ပရက်



ကိုကိုကျွန်းပေါ်ရှိပေါ်မျှားလှသောအုန်းပင်များ

ပရစ်ကျွန်းနှင့် ယင်း၏ မြောက်ဖက်တွင် ကောင်းအင်ကတ်ကျွန်း ရှိလေသည်။ ကိုကိုကျွန်းကလေးမှ အရှေ့တောင်ယွန်း မိုင် ၈၀ ခန့် အကွာတွင် မီးတောင်သေဖြစ်ခဲ့သော နာကွန်ဒမ်ကျွန်း တည်ရှိသည်။

ယခု ရေးသားဖော်ပြသော ကိုကိုကျွန်းစုများ အပြင် ကမ္ဘာပေါ်တွင် အခြား ကိုကိုကျွန်းစု ၂ ခု ရှိသေးသည်။ တခုမှာ ကျွန်းငယ်ကလေးများ ၂၀ မျှ ပါဝင်၍ ဆူမတြား ကျွန်းမှ အနောက်တောင်ဖက် မိုင် ၇၀၀ ခန့် ကွာဝေးသည့် ဗြိတိသျှပိုင် ကျွန်းစုဖြစ်သည်။ ၁၉၀၃ ခုနှစ်မှ စ၍ စင်ကာပူ အစိုးရတို့က အုပ်ချုပ်လျက် ရှိသည်။ ထိုကျွန်းစုများကို ကက်ပတိန် ဝီလျံ ကီးလင်း ဆိုသူက အဦးဆုံး တွေ့ရှိသဖြင့် ကီးလင်းကျွန်းစုဟုလည်း ခေါ်ကြသည်။ ၁၉၁၄ ခုနှစ်နိုဝင်ဘာလအတွင်း ဂျာမနီစစ်သင်္ဘော အင်မဒင်ကို ဗြိတိသျှတို့က ထိုကျွန်းစုအနီးတွင် ဖျက်ဆီး နှစ်မြှုပ်လိုက်သည်။

ကိုကိုကျွန်းအမည်ခံ အခြားကျွန်းစုတခုမှာ ပနားမား တူးမြောင်း၏ အနောက်မြောက်ဖက် ပစိဖိတ်သမုဒ္ဒရာထဲ တွင် ရှိ၍ ကော်စတာရီးကားနိုင်ငံမှ မိုင် ၃၀၀ ခန့် ဝေးကွာသည်။ ယင်းကို ကော်စတာရီးကား အစိုးရကပိုင်သည်။

**ကိုကိုး။** ။၁၄၉၂ ခုနှစ်တွင် ဥရောပတိုက်မှ စပိန်လူမျိုးတို့ အမေရိကတိုက် မက္ကဆီကိုနိုင်ငံသို့ ရောက်သွားကြစဉ်က တိုင်းရင်းသားများ နှစ်ခြိုက်စွာ သောက်လေ့ရှိသော ကိုကိုး ခေါ် ဖျော်ရည်တမျိုးကို သောက်ကြည့်ရာ ရှုံ့မဲ့သွားမိအောင် ခါးလှသော အရသာကို တွေ့ရသည်။ သို့ရာတွင် ဥရောပတိုက်မှ ပါလာသော သကြားနှင့် စပ်၍ သောက်ကြည့်သောအခါ သက်တက်တက် ချိုအီအီနှင့် ထူးခြားသော အရသာမျိုးနှင့် ပြည့်စုံသည်ကို သိရ၏။ ထိုအဖျော်ရည်ကား ကကေးအိုခေါ် အပင်မှ အသီးဆန်ကို အမှုန့်ကြိတ်၍ ရေဖြင့် ရောစပ် ဖျော်ထားခြင်း ဖြစ်သည်။ (ကကေးအိုပင် — ရှု။) ထိုအခါမှစ၍ စပိန်လူမျိုးတို့မှ တဆင့် ဥရောပတိုက်သို့ ရောက်ရှိသွားလေရာ၊ ၁၇ ရာစုနှစ်အတွင်း သို့ရောက်သော် ဥရောပတိုက် နိုင်ငံအများတွင် ကိုကိုးကိုအမြတ်တနိုး သောက် သုံးစပြုလာကြသည်။ ကကေးအိုပင်မှာ ပူအိုက် စိုစွတ်သော ဒေသများ၌ ပေါက်ရောက်ရာ၊ အမေရိကတိုက်နှင့် အာဖရိကတိုက်ရှိ ပူအိုက်စွတ်စိုသော ဒေသများ၌ အလေ့ကျပေါက်သည်။ သေးငယ်သောအပင်မျိုးဖြစ်၍ သစ်ပင်ကြီးများ၏ အရိပ်အောက်တွင် စိုက်ရသည်။ လောင်းရိပ်မရခဲ့လျှင် အသီးများ အောင်မြင်ခြင်း မရှိချေ။

ကကေးအိုပင် တပင်သည် တနှစ်လျှင် အပွင့်ပေါင်း ၆,၀၀၀ ခန့် ဝေဆာအောင် ပွင့်သော်လည်း ၂၀ ကျော်ခန့်လောက်သာ အသီးတင်သည်။ အသီးများမှာလည်း လောင်းရိပ်ရရှိမှသာ အောင်မြင်လေရာ၊ အများအားဖြင့် ငှက်ပျောပင်များအောက်၌ စိုက်ပျိုးလေ့ ရှိကြသည်။



ကကေးအိုပင်မှာ သေးငယ်သော်လည်း အသီးများမှာ အပင်နှင့်မလိုက်အောင် ကြီး၍ အစိတ်သားကျော်ခန့် လေးသည်။ ဆန်းကြယ်သော သဘာဝကြောင့် ထိုမျှကြီးလေးသော အသီးများသည် အကိုင်း အလက်ငယ်များ၌ မသီးဘဲ ပင်စည်နှင့် အကိုင်းကြီးများ၌သာ သီးသည်။ သို့မဟုတ်ပါက အကိုင်းအလက်ကလေးများမှာ အသီး၏ အလေးဒဏ် မခံနိုင်ဘဲ ကျိုးပဲ့ပေလိမ့်မည်။

ကကေးအို အသီးတောင့်များမှာ ခရမ်းရင့်ရောင်ရှိ၍ အတွင်း၌ ဗာဒမ်စေ့ ပုံသဏ္ဌာန်ရှိသော အစေ့ကလေးများ ရှိသည်။ အစေ့ကလေးများမှာ ဖြူဖျော့၍ အရည်အနှစ်များဖြင့် လိမ်းကျံနေသည်။ အသီးတောင့်များကိုဓါးဖြင့် ခွဲ၍ အစေ့ကလေးများကို ထုတ်ယူကာ၊ ကဇော်ဖေါက်ပြီးနောက် ပွလာသည့်အထိ ၃ ရက်ခန့်မျှ စုပုံထားရသည်။ ထိုသို့ထားခြင်းဖြင့် အစေ့ကလေးများမှာ ဓါတ်ပြောင်း သွားလေသည်။

ထိုနောက်မှ ပတ္တူအခင်းကြီးများပေါ်ကျဲဖြန့်၍ ကောင်းစွာခြောက်သွေ့သည်အထိ လှန်းပေးရသည်။ အစေ့များ ကောင်းစွာ ခြောက်သွေ့သောအခါမှ အိတ်များတွင် ထည့်၍ ကိုကိုး၊ ချောကလက်များ ပြုလုပ်သောနိုင်ငံများသို့ တင်ပို့ကြသည်။

ကိုကိုးမှုန့် ပြုလုပ်သော စက်ရုံများတွင် အစေ့များကို အခွံများ ကြွပ်လာသည်အထိ လှော်ပေးလိုက်သောအခါ အရသာ တိုးလာသည်။ ထိုနောက် ဒလိမ့်များဖြင့် ကြိတ်လိုက်သောအခါ၊ အခွံများ အလွယ်တကူ ကျွတ်ထွက်သွား၍ အသားဆန်များသာ ကျန်တော့သည်။ ထိုအသားဆန်များမှာ 'ကိုကိုးနစ်' ခေါ် အဆန်များဖြစ်၏။ အသားမှုန့် ကြိတ်လိုက်ပြီးမှ ကိုကိုး ချောကလက်များ ပြုလုပ်ရန် အမှုန့်များ ရသည်။ အခွံများကိုကား ကျွဲနွားများအား ကျွေးရန်၎င်း၊ မြေဩဇာအဖြစ်၎င်း၊ အသုံးချကြ၏။

ကိုကိုးနစ် အသားဆန်တွင် ကိုကိုးဆီခေါ် အဆီတမျိုး အတန်ငယ်ပါရှိသည်။ ကိုကိုးဆီမှာ အညိုရင့်ရောင်ရှိ၍ အလွန်ဆိမ့်အီသည်။ ကိုကိုးမှုန့် ပြုလုပ်ခါစတွင် ကိုကိုးနစ် အဆန်၌ ပါသော ကိုကိုးဆီကို မထုတ်နုတ်ဘဲ ကိုကိုးမှုန့် ပြုလုပ်ကြလေရာ၊ ကိုကိုး ဖျော်သောက်သောအခါ အလွန်ဆိမ့်အီ၍ အဆီတဝင်းဝင်းနှင့် ဖြစ်နေသည်။ သို့ဖြစ်သောကြောင့် ကိုကိုးမှုန့် ပြုလုပ်နည်းကို တပြည်းပြည်းပြုပြင်လာခဲ့ကြရာ ယခုအခါတွင် ကိုကိုးဆီကို ထုတ်ယူပြီးမှ ပြုလုပ်ကြသည်။ ချောကလက်များပြုလုပ်ရာတွင်မူ ကိုကိုးဆီကို ပြည့်စုံ ထည့်ပေးရသည်။ ယင်းသို့ ပြုလုပ်ပေးသဖြင့် ကိုကိုးမှုန့်မှာလည်း အဆီတဝင်းဝင်း မဖြစ်တော့ဘဲ၊ ချောကလက်မှာလည်း အရသာ ပိုကောင်းသွားသည်။

အနောက်နိုင်ငံများနှင့် ဩစတြေးလီးယားတိုက်၊ နယူးဇီလန်ကျွန်းများတွင် ကိုကိုးမှာ လက်ဖက်ရည် ကာဖီတို့ကဲ့သို့ နေ့တိုင်း ဖျော်သောက်ကြသော ဖျော်ရည်တမျိုး ဖြစ်သည်။ ယခုအခါ၌ အရှေ့နိုင်ငံများတွင်လည်း တနေ့တခြား အသုံးများလာပြီ ဖြစ်၏။ သို့ရာတွင် လက်ဖက်ရည် ကာဖီတို့လောက် အသုံး မများလှသေးချေ။

**ကိုချင်နီးဆိုးဆေး။** ။ကြက်သွေးရောင် သို့မဟုတ် အနီရောင် ဆိုးဆေးတမျိုးကို အမေရိကတိုက်၊ မက္ကဆီကိုနှင့် ပီးရူးနိုင်ငံတို့တွင် တွေ့ရှိရသော ပိုးကောင်ငယ်ကလေးတမျိုးမှ ရရှိသည်။ ထိုပိုးကောင်သည် 'ဟီမစ်တာရာ' မျိုးစဉ်တွင် ပါဝင်၍၊ များသောအားဖြင့် နိုပယ်ခေါ် ရှားစောင်းပင်များတွင် နေတတ်သည်။ ထို့ကြောင့် အာဖရိကတိုက်မြောက်ပိုင်း အယ်လဂျီးရီးယားနယ်နှင့် စပိန်နိုင်ငံတောင်ပိုင်းတွင် နိုပယ် ရှားစောင်းပင်များကို စိုက်ပျိုးထား၍၊ ထိုပိုးကောင်များကို ပိုးမွေးသကဲ့သို့ ဂရုတစိုက် မွေးမြူကြသည်။ ကိုချင်နီး ဆိုးဆေးမှာ အမှန်စင်စစ် ထိုပိုးကောင်အမတို့၏ ကိုယ်များ ဖြစ်သည်။ ရှားစောင်းပင်၏ အကိုင်းများတွင် တွယ်ကပ်နေသော ပိုးကောင်များကို အသင့်ဆောင်လာသော အိတ်ထဲသို့ ဝက်မှင်ဘီးဖြင့် ဖြီးချရသည်။ ထိုနောက် ပိုးကောင်များကို ရေနွေး ဆူဆူထဲတွင် သော်၎င်း၊ မီးဖို၏ အပူရှိန်ဖြင့် သော်၎င်း၊ သေစေသည်။ ပိုးသေကလေးများကို နေပူထဲတွင်အခြောက်လှန်း ထားလိုက်ပြီးနောက် အမ်မိုးနီးယား ပျော်ဝင်ရည်တွင် စိမ်ထားရသည်။ ထိုခွက်ကို တဖန် ရေနွေးထဲတွင် နှစ်လိုက်သည့်အခါ၊ အမ်မိုးနီးယား တချို့တဝက်မှာ အငွေ့ပျံသွား၍ ကျန်ခဲ့သော အရည်ပျစ်ပျစ်ကို ဆိုးဆေးအဖြစ် အသုံးချကြသည်။ သို့ရာတွင် ဆိုးဆေးဖြစ်အောင် ပြုပြင်နည်း အမျိုးမျိုး ကွဲပြားကြသည့်အလျောက်၊ ဆေးရောင်မှာလည်း အနီရောင် အရင့်၊ အလတ်၊ အနု စသည်ဖြင့် ကွဲပြားခြားနားသည်။ ထို့ပြင် ပိုးကောင်များကို စုသိမ်းသည့် အချိန်ကာလကို လိုက်၍လည်း ဆိုးဆေး အရောင် ကွဲပြားသည်။ ပိုးသေကောင်ကလေးပေါင်း ၇၀,၀၀၀ ခန့်သည် အလေးချိန် တပေါင်စီး၍ ထိုပိုးကောင်များမှ ဆိုးဆေး စစ်စစ် ၁၀ ရာခိုင်နှုန်းမျှ ရရှိသည်။

ဆိုးဆေးအတွက် ကိုချင်နီး ပိုးကောင်များကို ဥရောပတိုက်၊ ဩစတြေးလီးယားတိုက်နှင့် အယ်လဂျီးရီးယားနယ်များတွင် ဖြစ်မြောက် အောင်မြင်စွာ မွေးမြူခဲ့ကြရာ၊ ကျောက်မီးသွေးကတ္တရာမှ ထုတ်ယူရရှိသော ဆိုးဆေးများကို အသုံးများလာကြသဖြင့်၊ မက္ကဆီကို နိုင်ငံတခုတည်း၌သာ ထိုလုပ်ငန်းကို ဆက်လက် လုပ်ကိုင်လျက်ရှိသည်။



**ကိုပင်ဟာဂင်းမြို့။** ။ကိုပင်ဟာဂင်းမြို့သည် ဒိန်းမတ်နိုင်ငံ၏ မြို့တော်ဖြစ်သည်။ ဗောလတစ် ပင်လယ်ကမ်းခြေတွင် ဇီလန်ကျွန်းနှင့် အမာဂါ ကျွန်း ၂ ကျွန်းကို ခွလျက်တည်ရှိ၍၊ ကျွန်း ၂ ကျွန်း အကြားရှိ ရေလက်ကြားကြီးမှာ ဗောလတစ် ပင်လယ်တွင် အကောင်းဆုံး သင်္ဘောဆိုရာဆိပ်ဖြစ်သည်။ ဗောလတစ် ပင်လယ်ဝတွင် တည်ရှိ၍ ဆိပ်ကမ်း လုံခြုံ ကောင်းမွန်သဖြင့်၊ ကိုပင်ဟာဂင်းမြို့သည် ၁၂ ရာစုနှစ် အလယ်လောက်တွင် တံငါရွာကလေးမှ အရောင်းအဝယ် စည်ကားသော ပင်လယ် ဆိပ်ကမ်းမြို့ကြီးအထိ တိုးတက်လာသည်။

အလယ်ခေတ် တလျှောက်လုံးတွင် လက်နက်နိုင်ငံ များစွာတို့သည် ကိုပင်ဟာဂင်းဆိပ်ကမ်းကို ကြီးစိုး ပိုင်ဆိုင်ကြရန် စစ်ပြိုင်ခဲ့ကြသည်။ ၁၄၄၃ ခုနှစ်တွင် တတိယ ခရစ္စတိုဖါ ဘုရင်သည် ကိုပင်ဟာဂင်းမြို့ကို ဒိန်းမတ်နိုင်ငံ၏ မြို့တော် ပြုလုပ်ခဲ့၏။ ၁၈၀၇ ခုနှစ်တွင် ပြင်သစ်တို့လက်တွင်းသို့ ဒိန်းမတ်ရေတပ် ကျရောက်သွားမည်စိုးသဖြင့်၊ ထိုရေတပ်ကို ပေးအပ်ရန် ကိုပင်ဟာဂင်းမြို့ကို ဗြိတိသျှရေတပ်က တိုက်ခိုက်ခဲ့ဘူးသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း ဂျာမန်တို့သည် ကိုပင်ဟာဂင်းမြို့ကို ၁၉၄၀ ပြည့်နှစ်မှ ၁၉၄၅ ခုနှစ်တိုင်အောင် သိမ်းပိုက်ခဲ့လေသည်။

ကိုပင်ဟာဂင်းမြို့တွင် သင်္ဘောတည်ခြင်း၊ အထည်အလိပ်ရက်ခြင်း၊ ကြွေထည်လုပ်ခြင်း၊ အရက်ချက်ခြင်း၊ စန္ဒယားလုပ်ခြင်း၊ နာရီလုပ်ခြင်း၊ ငါးဖမ်းခြင်း စသောလုပ်ငန်းများ ထွန်းကား၏။ သကြား၊ မုန့်ညင်းစေ့၊ ထောပတ်၊ ဒိန်ခဲ၊ သိုးမွေး၊ သားရေစိမ်း၊ အမဲသားတို့ကို ထုတ်ကုန်အဖြစ်ဖြင့် နိုင်ငံခြားသို့ တင်ပို့ ရောင်းချ၏။ ၁၉၅၀ ပြည့်နှစ် သန်ကောင်စာရင်းအရ လူဦးရေ ၉၇၄,၉၀၁ ယောက်ခန့် ရှိ၍၊ စက်ဘီးနှင့် စကားပြောကြေးနန်းများကို အများဆုံး အသုံးပြုသော မြို့ဖြစ်သည်။ ဒိန်းမတ် တနိုင်ငံလုံး၏ အရောင်းအဝယ် ထက်ဝက်ခန့်ကို ဤမြို့မှ တဆင့်သာလျှင် ပြုလုပ်ကြသည်။ မြို့၏ မြောက်ဖက်ပိုင်းတွင် တည်ရှိသော 'အကောက်လွတ် ဆိပ်ကမ်းကြီး' မှာအထူး စည်ကား၍၊ အထပ် ၁၁ ထပ်ရှိသော ကျီမြင့်ကြီးနှင့် ကုန်လှောင်ရုံ အမြောက်အမြား ရှိလေသည်။

ကိုပင်ဟာဂင်းမြို့သည် ဥရောပတိုက်တွင် အထူးပင် သာယာ လှပသော မြို့တမြို့ဖြစ်၍၊ နိုင်ငံသမိုင်းတွင် ထင်ရှားသော အဆောက်အအုံ များစွာရှိ၏။ နန်းတော်များ၊ ပြတိုက်များ၊ အနုပညာ ပြခန်းများ၊ ဘုရားရှိခိုးကျောင်းကြီးများ စသော ရှေးအဆောက်အအုံများ အပြင်၊ ဥယျာဉ်ပန်းခြံ၊ မြို့တော်ခန်းမကြီး စသည်တို့လည်း ရှိသဖြင့်၊



ဥရောပတိုက်တွင် အထူးသာယာသော မြို့တမြို့ဖြစ်သည့် ကိုပင်ဟာဂင်းမြို့လယ်မှ လှပသောဥယျာဉ်၏ တစိတ်တဒေသ



ကိုရီးယားစစ်မျက်နှာတနေရာ၌ ရန်သူစခန်းကို အမေရိကန်လေတပ်မှ ဗုံးကြဲပြီးနောက် ခြေလျင်တပ်သားများ ချီတက်နေပုံ

သိုက်မြိုက် စည်ကားလှသည်။ ထရင်နီတီ ဘုရားရှိခိုးကျောင်းကြီး၌ ပေ ၁၀၀ ကျော် မြင့်သော မျှော်စင်ဝိုင်းကြီး ရှိရာ၊ ထိုမျှော်စင်ဝိုင်းကြီး၏ ထိပ်သို့ ကြောင်လိမ်လှေကားဖြင့် တက်ရောက် နိုင်လေသည်။ ၁၄၇၉ ခုနှစ်တွင် တည် ထောင်ခဲ့သော ကိုပင်ဟားဂင်း တက္ကသိုလ်မှာ ဒိန်းမတ်နိုင်ငံ၏ ပညာဆည်းပူးရာ ဗဟိုဌာနကြီး ဖြစ်သည်။

**ကိုဖေါ့။** ။ကိုဖေါ့ ဒြပ်စင်ကို ရှေးအခါက လူများမသိခဲ့ကြသော်လည်း၊ သိပ္ပံပညာရှင်များ စုံစမ်း ရှာဖွေခဲ့ကြသောအခါ ထိုဒြပ်စင်ကို တွေ့ကြလေသည်။ ထိုဒြပ်စင်သည် ငွေကဲ့သို့ဖြူ၍ နစ်ကယ်နှင့် အလွန်တူသော ဒြပ်စင်ဖြစ်သည်။ သို့သော် အရောင်မှာ ပန်းရောင်နုနီးပါး ဖြစ်၏။ ကိုဖေါ့ကို ဒြပ်စင်အဖြစ်ဖြင့် ရောင်းဝယ်ခြင်း မရှိချေ။ သို့ရာတွင် ကိုဖေါ့ဒြပ်စင် ပါဝင်သော ကိုဖေါ့ကလိုရိုက် ဆိုသည့် ဓါတ်ပစ္စည်းကိုကား မမြင်နိုင်သည့်မင် အဖြစ်ဖြင့် အသုံးပြုလေ့ ရှိကြသည်။ ထိုမင်နှင့် ရေးထားသော စက္ကူကို ပူအောင် လုပ်ပေးလိုက်သောအခါ မူလက မမြင်ရသော စာများ ပေါ်လာသည်။

ကိုဖေါ့ကို အပြာအရောင် ဆေး ပြု လုပ် ရာ တွင် ၎င်း၊ ကြွေပန်းကန်ပြားများနှင့် အိုးများ ဆေးသုတ် အရောင်တင်ရာတွင်၎င်း၊ အသုံးပြုကြသည်။ ထို့ပြင် ဖန်များကို အရောင် တင် ပေး ရာ၌လည်း အသုံးပြုကြ သေး သည်။ စက္ကူနှင့် အဝတ်များကို အပြာရောင် တင်ပေးလိုသော အခါများ၌လည်း ကိုဖေါ့ကိုပင် အသုံးပြုကြသည်။ စမော့ဆိုသည့် အရောင်ဆေးမှာ သဲ၊ ကိုဖေါ့၊ အောက်ဆိုက်၊ ပိုတက်ဆီယမ် နိုက်ထရိတ်ဓါတ် တို့ကို ကျိုပြီးနောက် ဖန်ကဲ့သို့ရသည့် ပစ္စည်းကို ကြိတ်ထားသော အမှုန့်ဖြစ်သည်။

ကိုဖေါ့ကို ကနေဒါနိုင်ငံ အွန်တေးရီးယိုးပြည်နယ်ရှိ ကိုဖေါ့မြို့၌ အများအပြား ရရှိသည်။ ဂျာမနီနိုင်ငံ၊ ဆွီဒင်နိုင်ငံ၊ ဗဲလဂျီယန်ကွန်ဂိုနယ်တို့၌ အနည်းငယ် ရရှိသည်။

**ကိုရီးယားစစ်မှု။** ။၁၉၄၅ ခု ဖေဖွာ ရီလ လောက်က ယော်လတာမြို့၌ ကျင်းပခဲ့သော မဟာမိတ် နိုင်ငံကြီးများ၏ ညီလာခံတွင် ကိုရီးယားအရေး၌ စစ်ဆင်မှု လွယ်ကူစေရန်၊ မြောက်ဖက် လတ္တီတွဒ်မျဉ်းကြောင်း ၃၈° ၏ မြောက်ဖက်ပိုင်းကို ဆိုဗီယက်တပ်များက သိမ်းယူရန်နှင့် တောင်ဖက်ပိုင်းကို အမေရိကန်တပ်များက သိမ်းယူရန် သဘောတူညီခဲ့ကြသည်။ ဤအစီအစဉ်မှာ သေနင်္ဂဗျူဟာနည်းအရ စစ်ဆင်မှု လွယ်ကူစေရန် အကြမ်းဖျင်း ပြဋ္ဌာန်းခဲ့ကြခြင်း ဖြစ်၏။ သို့ရာတွင် ဒုတိယကမ္ဘာစစ် ပြီးဆုံးသောအခါ၌ မဟာမိတ်နိုင်ငံကြီးများ၏ အမြင်တိမ်းမှုကြောင့်၊ ထိုနယ်နိမိတ်အတိုင်းပင် ကိုရီးယားနိုင်ငံသည် မြောက်ပိုင်း၊ တောင်ပိုင်း ကွဲပြားလျက် ယခုတိုင် တည်ရှိနေရသည်မှာ ဝမ်းနည်းဖွယ်ဖြစ်လေသည်။ (ကိုရီးယားနိုင်ငံ — ရှု)။

၁၉၄၅ ခု ဒီဇင်ဘာလအတွင်း မော်စကိုမြို့၌ ကျင်းပခဲ့သော နိုင်ငံခြားရေး ဝန်ကြီးများ အစည်းအဝေးက ကိုရီး





(အပေါ် — ဝဲ) မြောက်ကိုရီးယားတပ်များကို ဦးစွာ တားဆီးခုခံရသောတောင်ကုန်းခံတပ်စခန်းတခု

(အပေါ် — ယာ) ကုလသမဂ္ဂ သုံ့ပန်းစခန်းသို့ စစ်မျက်နှာမှ အသစ်ဆိုက်ရောက်လာသော သုံ့ပန်းတစု

(အလယ်) ကိုရီးယားစစ်ဘေးဒုက္ခသည်ကလေး ၂ ဦး

(အောက် — ဝဲ) နာဖျားသူနှင့် ဒဏ်ရာရသူ သုံ့ပန်းများလဲလှယ်ရေးသဘောတူစာချုပ်ကို ကုလသမဂ္ဂနှင့် မြောက်ကိုရီးယားကိုယ်စားလှယ်တို့ ပန်မန်ဂျုံစခန်း၌လက်မှတ်ရေးထိုးနေကြစဉ်

(အောက် — ယာ) ဒဏ်ရာရလာသော ကုလသမဂ္ဂ တပ်သားများအား အိန္ဒိယသူနာပြုတပ်မှဆရာဝန်ကစမ်းသပ်နေခြင်း







ယား တောင်ပိုင်းနှင့် မြောက်ပိုင်းကို တစည်းတလုံးတည်း ပူးပေါင်းစေ၍ နိုင်ငံကြီး ၄ နိုင်ငံက ၅ နှစ်ခန့် ထိန်းသိမ်းထားရန် ဆုံးဖြတ်ကြသည်။ သို့ရာတွင် ဆိုဗီယက်ရုရှနှင့် အမေရိကန်ပြည်ထောင်စုတို့ အယူအဆချင်း မတူညီမှုကြောင့် ထိုစီမံချက်မှာ ပျက်သုဉ်းခဲ့သည်။ သို့ဖြင့် ၁၉၄၈ ခု ဖေဖွာရီလတွင် မာရှယ် ကင်အီဆွန်း ကြီးမှူးသော မြောက်ကိုရီးယား အစိုးရက 'ကိုရီးယား ပြည်သူ့ ဒီမိုကရေစီ သမတနိုင်ငံ' ဟု တည်ထောင်လိုက်၍၊ ဩဂုတ်လတွင် ဒေါက်တာ ဆင်မန်ရီးကြီးမှူးသော တောင် ကိုရီးယားအစိုးရက 'ကိုရီးယား သမတနိုင်ငံ' ဟု ကျေညာသည်။ ထိုသူတို့ ရေးဆွဲသော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ၂ ခုလုံး၌ပင် 'ကိုရီးယား သမတနိုင်ငံ' ဆိုသည်မှာ တောင်ပိုင်းနှင့် မြောက်ပိုင်း ပါဝင်သော ကိုရီးယားတနိုင်ငံလုံးကို ဆိုလိုကြောင်း ဖေါ်ပြထားသည်။

မြောက် ကိုရီးယား အစိုးရကို ဆိုဗီယက်ရုရှနှင့် တရုပ်ပြည်သူ့ သမတနိုင်ငံတို့က အသိအမှတ်ပြုပြီးလျှင် ပြည်ထောင်ချင်း စီးပွားရေးစာချုပ်များ အသီးအသီး ချုပ်ဆိုကြသည်။ မြောက်ပိုင်းတွင် ဆိုဗီယက် စီးပွားရေးစီမံကိန်းအရ မြေယာစံနစ် ပြုပြင် ပြောင်းလဲရေးများ ပြုလုပ်သည့်အပြင် စက်မှု လက်မှုများ ကိုလည်း တည်ဆောက်ကြသည်။ တောင် ကိုရီးယား အစိုးရကိုမူ အမေရိကန်၊ အင်္ဂလန်နှင့် ချန်ကေရှိတ် ခေါင်းဆောင်သော တရုပ် အမျိုးသား အစိုးရတို့က အသိအမှတ်ပြု၍၊ အီး၊ စီ၊ အေ စီမံကိန်းအရ အမေရိကန် အကူအညီဖြင့် စက်မှု လက်မှု လုပ်ငန်းများကို ပြန်လည် ထူထောင်ပေးကြသည်။ ဤသို့ဖြင့် တောင်ပိုင်းနှင့် မြောက်ပိုင်းတို့မှာ အပြိုင် အဆိုင် ဖြစ်နေကြလျက်၊ နယ်ခြားဒေသဖြစ်သော လတ္တီတွဒ် ၃၈° မျဉ်းပြိုင်အနီးတွင် ရံဖန် ရံခါ အချင်း ဖြစ်ပွားကြလေသည်။

၁၉၅၀ ပြည့်နှစ်ဇွန်လ ၂၅ ရက်နေ့နံနက်အစောပိုင်းတွင် မြောက်ကိုရီးယား တပ်များသည် ၃၈° မျဉ်းပြိုင်ကိုဖြတ်ကျော်လျက် ကိုရီးယား တောင်ပိုင်းကို စတင်တိုက်ခိုက်ရာ၊ ဇွန်လ ၂၈ ရက်နေ့တွင် ကိုရီးယား တောင်ပိုင်းမြို့တော်ဖြစ်သော ဆေအူးမြို့ ကျဆုံး၍ ပြင်းထန်သောတိုက်ပွဲကြီးများ ဆက်လက်ဖြစ်ပွါးသည်။ ဇွန်လ ၂၅ ရက်နေ့ညနေပိုင်းတွင် ကျင်းပသော ကုလသမဂ္ဂလုံခြုံရေးကောင်စီက ကိုရီးယား မြောက်ပိုင်းကိုကျူးကျော်သူအဖြစ် ကျေညာပြီးလျှင်၊ တိုက်ခိုက်မှုအမြန်ဆုံးရပ်စဲရန်၊ မြောက်ပိုင်းစစ်တပ်များ ၃၈° မျဉ်းပြိုင်သို့ဆုတ်ခွာသွားရန်၊ ဤဆုံးဖြတ်ချက်များ အောင်မြင်သည်အထိ ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံများက စွမ်းအားရှိသမျှ ကူညီကြရန်၊ ဆုံးဖြတ်လိုက်သည်။ ထိုသို့ဆုံးဖြတ်ချက်ချမှတ်သည့်အတိုင်း ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံများက ဝင်ရောက်ကူညီတိုက်ခိုက်ပေးသဖြင့်၊ နောက်ဆုံးတွင် ဤစစ်ပွဲကြီးမှာ မြောက်ကိုရီးယားတပ်များနှင့် ကုလသမဂ္ဂတပ်များ တိုက်ခိုက်သောစစ်ပွဲ အသွင်သို့ပြောင်းလဲလာခဲ့သည်။ မြောက်ကိုရီးယားတို့ဖက်မှလည်းတရုပ်ပြည်သူ့ သမတနိုင်ငံက အပျော်တမ်းတပ်များဖြင့်ကူညီခဲ့လေသည်။

အိန္ဒိယနှင့်အာရပ်အုပ်စု နိုင်ငံများက ဤစစ်ပွဲကိုအနုနည်းဖြင့် အေးငြိမ်းစေရန် အတန်တန်ကြိုးစားခဲ့ရာ၊ ကုလသမဂ္ဂဖက်မှဗိုလ်ချုပ်ကြီးဟယ်ရီဆန်ခေါင်းဆောင်သောအဖွဲ့နှင့်ကိုရီးယားမြောက်ပိုင်း ဗိုလ်ချုပ်ကြီးနမ်အီခေါင်းဆောင်သော ကိုယ်စားလှယ်များသည် အကြိမ်ကြိမ်တွေ့ဆုံဆွေးနွေးကြသည်။ နောက်ဆုံး၌နှစ်ဦးနှစ်ဖက်သဘောတူညီချက်များ ရရှိသဖြင့် ၁၉၅၃ ခုဇူလိုင်လ ၂၇ ရက်နေ့နံနက်ပိုင်းတွင် ပန်မန်ဂျုံစခန်း၌စစ်ရပ်စဲကြောင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးကြသည်။ ထိုစာချုပ်တွင် ခေါင်းဆောင် ဆွေးနွေးသော နှစ်ဦးနှစ်ဖက် ကိုယ်စားလှယ်များအပြင်မြောက်ကိုရီးယားစစ်သေနာပတိချုပ် နှင့် ဝန်ကြီးချုပ် မာရှယ် ကင်အီဆွန်း၊ တရုပ်နီအပျော်တမ်း တပ် သေနာပတိဗိုလ်ချုပ်မှူးပိန်တေဟွေးနှင့် ကုလသမဂ္ဂစစ်သေနာပတိချုပ်ဗိုလ်ချုပ်မှူးမတ်ကလပ်တို့လည်း လက်မှတ်ရေးထိုးကြသည်။

ဤကိုရီးယားစစ်ပွဲမှာ ၃ နှစ်နှင့် ၁ လကျော်မျှကြာရှည်စွာတိုက်ခိုက်ကြရသဖြင့် အိမ်ခြေတိုက်တာအဆောက်အအုံများ၊ စက်မှုလက်မှုလုပ်ငန်းကြီးများ ပျက်စီးဆုံးရှုံးကြသည်။ နှစ်ဦးနှစ်ဖက်မှထိခိုက်ကျဆုံးခဲ့သူနှင့် သုံ့ပန်းအဖြစ်အဖမ်းခံရသူပေါင်းမှာ ၂ သန်း ၃ သိန်းကျော်မျှရှိသည်။ စစ်ပြေငြိမ်းရေးစာချုပ်အရ၊ နှစ်ဦးနှစ်ဖက်စစ်တပ်များသည်စစ်ကြောင်းတလျှောက် မိမိတို့ရောက်ရှိရာနေရာမှ နောက်သို့ ၂ ကီလိုမီတာ (တမိုင် ၂ ဖါလုံခန့်) ပြန်၍ဆုတ်ခွာကြရသည်။ ကိုရီးယားနိုင်ငံ၏ နောင်ရေးမှာစစ်ပြေငြိမ်းရေးစာချုပ်အရ ကျင်းပမည့်နိုင်ငံရေးရာ ညီလာခံကြီး၏ အဆုံးအဖြတ်အပေါ်တွင်တည်ရှိနေလေသည်။



ကိုရီးယားစစ်ပြေငြိမ်းရေးအတွက်တွေ့ဆုံစည်းဝေးရာဌာန

# နံနက်ခင်း သာယာသော တိုင်းပြည်

ရှခင်းပင်သာသော်လည်း မျက်မှောက်ကာလတွင် ပြည်တွင်းရေး မသာယာသော ကိုရီးယားနိုင်ငံကို ကမ္ဘာက အာရုံစိုက်ကာ နေ့စဉ် နှင့်အမျှ ထိုတိုင်းပြည်၏ သတင်းကို နားစွင့်လျက် ရှိကြ၏။ ထိုသို့ စစ်မီးတောက်ခဲ့သည့် အာရှတိုက်အရှေ့ဖျား နိုင်ငံတခု၏ သမိုင်း၊ ပထဝီ၊ ယဉ်ကျေးမှုတို့ကိုကျွန်ုပ်တို့သည် အရှေ့တိုင်းသားချင်းဖြစ်သည့်အလျောက်လေ့လာရန်ကောင်းပေသည်။

**ကိုရီးယားနိုင်ငံ။** ။ကိုရီးယားနိုင်ငံသည် အာရှတိုက် အရှေ့ဖက်ကမ်းခြေမှ ဂျပန်ပင်လယ်နှင့် ပင်လယ်ဝါအကြား သို့ ထိုး ထွက် နေ သော ကျွန်း ဆွယ် ပေါ် တွင် တည် ရှိ သည်။ ဂျပန်ကျွန်းမှမိုင် ၁၁၀ ကျယ်သောရေလက်ကြားက ခြား ထား သည်။ မြောက် ဖက် တွင် မန်ချူး ရီး ယားနှင့် ဆိုက်ဗီး ရီးယားပြည် တို့ ရှိ ကြ ၏။ အကျယ် အဝန်း မှာ စတု ရန်း မိုင် ၈၅,၂၂၅ ရှိ၍လူဦးရေမှာ ၁၉၅၁ ခု နှစ် ခန့်မှန်း ခြေအရ ၃၀,၀၀၀,၀၀၀ မျှရှိသည်။

ကိုရီးယားနိုင်ငံသည်လွန်ခဲ့သောနှစ်ပေါင်း ၃၀၀၀ ကျော် ခန့်ကပင်ယဉ်ကျေးမှုအဆင့်အတန်းမြင့်မားခဲ့၍ ဘီစီ ၁၁၂၂ ခုနှစ်တွင်တရုပ် အမတ် ကြီး ကီဂျာ သည် ကို ရီး ယား နိုင်ငံ ကို တည်ထောင်ခဲ့သည် ဟု ဆို ၏။ ထို အချိန်မှစ ၍ ကို ရီး ယား ယဉ် ကျေး မှု တွင် တရုပ် တို့ ၏ အ ယူ ဝါ ဒ နှင့် ပညာ ရေး အ တွေးအခေါ် များသက်ဝင်လွှမ်းမိုးခဲ့သည်။လွတ်လပ်စွာနေခဲ့ သောကိုရီးယားကိုအေဒီ ၁၅၉၂ ခုနှစ်တွင်ဂျပန်ကလက်ရုံး အားကိုးတိုက်ခိုက်သိမ်းယူ၍ ၆ နှစ်တိုင်မျှလုယက်ဖျက်ဆီး ကြ၏။ ထို အချိန် မှ စ၍ ကိုရီးယားတို့သည် ဂျပန်တို့အပေါ် တွင်အမုန်းကြီးမုန်းခဲ့ကြသည်။ ထိုနောက်ကိုရီးယားတို့သည် အနှစ် ၂၀၀ ကျော်မျှနိုင်ငံခြားသားတို့နှင့်အဆက်အသွယ် မရှိဘဲအထီးတည်းနေခဲ့၏။သို့ရာတွင် ၁၈၇၆ ခုနှစ်၌ ဂျပန်၏ ဖိနှိပ်မှုကြောင့် ကို ရီး ယား ဆိပ် ကမ်း မြို့ များ ကို နိုင်ငံခြား သင်္ဘောများဆိုက်ကပ်ရန်ဖွင့်ပေးရလေသည်။

တည်နေရာကောင်းသည့်ပြင် သဘာဝပစ္စည်း အား လည်း ကြွယ်ဝသဖြင့် အိမ်နီးချင်းနိုင်ငံကြီး များက မျက်စိကျခဲ့၏။ တရုပ်၊ ဂျပန်နှင့် ရုရှ တို့ သည် ကိုရီးယား ကို လိုချင် သည့် အတွက် တဦးနှင့်တဦးရန်စောင်လျက် စစ်ပွဲများပင် တိုက် ခိုက်ခဲ့ကြသည်။ ၁၈၉၄ ခုနှစ်တွင် ကိုရီးယား အရေးအတွက် တရုပ်နှင့်ဂျပန် စစ်ဖြစ်ကြရာ၊ ဂျပန်တို့က အနိုင်ရသဖြင့်ကိုရီး ယားတွင် ဂျပန်သြဇာ လွှမ်းမိုးလာသည်။တဖန် ၁၉၀၄ ခုနှစ် တွင် ကိုရီးယားအရေးမှ စတင်၍ ဂျပန်နှင့်ရုရှတို့ စစ်ဖြစ်ပွား ကြပြန်ရာ၊ ရုရှတို့ စစ်ရှုံးသဖြင့် ကိုရီးယား၌ ရရှိထားသော သူ တို့ ၏ အ ခွင့် အရေး တို့ ကို ဂျ ပန် အား ပေး အပ် လိုက် ကြရသည်။ ၁၉၁၀ ပြည့်နှစ်၌မူ ဂျပန်သည် ကိုရီးယားကို ရုရှ၏ဘေးမှ စိုးရိမ်ရသည်ဟု အကြောင်းပြကာ သိမ်းပိုက် လိုက်ပြီးနောက် 'ချိုဆင်' ဟူသော ရှေးဟောင်းအမည်ဖြင့် ခေါ် တွင်စေ ခဲ့ သည်။ ထို အမည် ဟောင်း မှာ 'နံနက် ခင်း သာယာသောတိုင်းပြည်' ဟုအဓိပ္ပါယ်ရသည်။

ကိုရီးယား လူမျိုးတို့ကား ဂျပန်တို့ အုပ်စိုးမှုကို လုံးဝ မနှစ် သက်ကြချေ။ ပဌမကမ္ဘာစစ် ပြီးချိန်မှစ၍ မျိုးချစ်စိတ် လွန်စွာ ပြင်းပြလာ ကြ သည်။ ဂျပန်အုပ်စိုး ခြင်းကြောင့် ကိုရီးယားနိုင်ငံတွင် စက္ကူစက်များ၊ လျှပ်စစ်ဓါတ် အားပေး စက်များ ထွန်းကား လာခဲ့၏။ ကျောက်မီးသွေး၊ သံ၊ ရွှေ စသော အဖိုးတန် တွင်းထွက်ပစ္စည်း အားလုံးတို့ကို ပိုမို တူး ဖေါ် လုပ်ကိုင်ခဲ့ကြ၏။ ရေသွင်းပေးခြင်း၊ မြေသြဇာ ဖြည့် လောင်းခြင်း၊ မျိုးသန့်ပေးခြင်း စသည့် ခေတ်မှီ နည်းတို့ဖြင့် ကောက်ပဲသီးနှံတို့ကို ၂ ဆတိုး ထွက်အောင် စိုက်ပျိုးနိုင်ခဲ့ ကြ၏။ မီးရထားလမ်း မိုင်ပေါင်း ၃,၀၀၀ ကျော်နှင့် ကုန်း လမ်းမိုင်ပေါင်း ၁၉,၀၀၀ ခန့်တို့ကို ဖေါက်လုပ်ခဲ့ကြ၏။ လေ ကြောင်း ပို့ဆောင်ရေးလမ်းများ ဖွင့်လှစ်ခဲ့ကြ၏။ သို့ရာတွင် ကိုရီးယား လူမျိုးတို့မှာ ထိုတိုးတက်မှုများတွင် အကျိုးခံစား ခွင့် မရကြချေ။ လုပ်ငန်းနှင့် အရောင်းအဝယ် ဟူသမျှ ကို ဂျပန်တို့သာလျှင် ကြီးစိုး လုပ်ကိုင် ခဲ့ကြသည်။ စသင်



ကျောင်းများကို အားမပေးသည့်ပြင်၊ ဂျပန် အသုံးအနှုန်းတို့ကို အဓမ္မ သွတ်သွင်းခြင်းဖြင့် အမျိုးသားစိတ် ခေါင်းပါးအောင် ပြုလုပ်ခဲ့ကြသည်။ ထိုသို့လျှင် ဂျပန်တို့သည် ကိုရီးယားကို ၃၅ နှစ်တိုင်တိုင် ကြီးစိုး ချယ်လှယ်ခဲ့ကြပြီးနောက် ဒုတိယကမ္ဘာစစ်အပြီး ၁၉၄၅ ခုနှစ်တွင် လက်လွှတ်လိုက်ရလေသည်။

၁၉၄၃ ခုနှစ်တွင်ထုတ်ပြန်ခဲ့သော ကိုင်ရို ကျေညာစာတမ်းအရ၊ ကိုရီးယားအား လျော်ကန်သော အချိန်တွင် လွတ်လပ်ရေး ပေးပါမည် ဆိုထားသော်လည်း ဒုတိယကမ္ဘာစစ် ပြီးချိန်တွင် ကိုရီးယား ကား လွတ်လပ်ရေးကို မရသေး ချေ။ မြောက်ဖက် လတ္တီတွဒ်မျဉ်းကြောင်း ၃၈°၏ မြောက်ဖက်ပိုင်းကို ရုရှတပ်များက သိမ်းပိုက်ထားကြ၍ တောင်ဖက်ပိုင်းကို အမေရိကန်တပ်များက သိမ်းပိုက်ထားကြသည်။ ၁၉၄၈ ခုဖေဖွာရီလအတွင်း ဆိုဗီယက်ရုရှကသူတို့ သိမ်းပိုက်ထားသော မြောက်ပိုင်းကို ' ကိုရီးယား ပြည်သူ့ ဒီမိုကရေစီ သမတနိုင်ငံ ' အဖြစ် ကျေညာလိုက်ရာ ထိုနှစ် ဩဂုတ်လတွင် အမေရိကန် သိမ်းပိုက်ထားသော တောင်ပိုင်းကိုလည်း ' ကိုရီးယား သမတနိုင်ငံ ' အဖြစ် ကျေညာလိုက်၏။ ဆေအူးမြို့မှာ ကိုရီးယား တောင်ပိုင်း၏ မြို့တော် ဖြစ်လာ၍၊ ဒေါက်တာ ဆင်မန်ရီးမှာ ပဌမ သမတ အဖြစ် ရွေးကောက် တင်မြှောက်ခြင်းခံရလေသည်။ ထိုသို့ဖြင့် ကိုရီးယားသည် မြောက်ပိုင်း၊ တောင်ပိုင်း နိုင်ငံ ၂ ခု ကွဲ၍ တိုင်းပြည်အရေး ရှုပ်ထွေးလာသည်။ ၁၉၅၀ ပြည့်နှစ် ဇွန်လတွင် ကိုရီးယား မြောက်ပိုင်းနှင့် ကိုရီးယား တောင်ပိုင်းတို့ စစ်ဖြစ်ပွားကြတော့၏။ ထိုနောက် ကုလသမဂ္ဂ ကော်မရှင်အဖွဲ့၏ စုံစမ်း အစီရင်ခံချက်အရ၊ မြောက်ကိုရီးယားကို ကျူးကျော်သူအဖြစ်ဖြင့် အဆုံးအဖြတ် ပေး၍၊ ကုလသမဂ္ဂ တပ်များသည် တောင်ကိုရီးယားဖက်မှ ဝင်ရောက် တိုက်ခိုက်ကြလေသည်။ (ကိုရီးယားစစ်ပွဲ — ရှု)။

ကိုရီးယားနိုင်ငံ၏ ရာသီဥတုသည် မပူလွန်း မအေးလွန်း၊ အထူး ညီညွတ်ကောင်းမွန်၏။ တရုပ်နိုင်ငံကဲ့သို့ လေပြင်းမုန်တိုင်းများ ကျရောက်ခြင်း၊ ဂျပန်နိုင်ငံကဲ့သို့ လျှင်လှုပ်ခြင်းများ မရှိသဖြင့်၊ ကံထူးသောတိုင်းပြည်ဟု ဆိုရပေမည်။ နွေအခါတွင် မိုးရွာသွန်း၏။ အထူးသဖြင့် ဧပြီလ မှ ဇူလိုင်လအထိ မိုး အရွာများသည်။ တနှစ်လျှင် မိုးရေချိန် ၃၆ လက်မခန့် ရွာ၏။ ကိုရီးယား တောင်ပိုင်းတွင် နွေဥတုသည် အလွန် ရှည်သဖြင့် တနှစ်လျှင် ၂ သီးစိုက်ပျိုးနိုင်သည်။

ကိုရီးယားနိုင်ငံသည် တောတောင် ထူထပ်၏။ တိုင်းပြည်၏ ၄ ပုံ ၃ ပုံမှာ တောင်တန်းတောင်ကုန်းတို့ဖြင့် ဖုံးလွှမ်းလျက် ရှိသည်။ မြောက်ပိုင်းတွင် ရှိသော ပေရှန်တောင်ထိပ်မှာ ပေ ၈,၇၀၀ မြင့်၍ ကိုရီးယားတွင် အမြင့်ဆုံးဖြစ်၏။ အရှေ့ဖက် ကမ်းခြေတလျှောက်တွင် တောင်များ



အမျိုးသားယဉ်ကျေးမှု အစဉ်အလာအရ ကပြလေ့ရှိသော ကိုရီးယားလုံမပျိုတို့၏ဓါးယိမ်းအက

တန်း၍ တည်ရှိကြသဖြင့် မြစ်များသည် အနောက်ဖက်နှင့် တောင်ဖက်သို့ စီးဆင်းကြသည်။ ထင်ရှားသော မြစ်တို့မှာ ယာလူး၊ နက်တန်းနှင့် ဟန်းမြစ်များ ဖြစ်ကြ၏။ တိုင်းပြည်၏ ၅ ပုံ ၁ ပုံ ခန့်မှာ မြေဩဇာ ကောင်းမွန်သော ကွင်းပြင်နှင့် မြစ်ဝှမ်းဒေသများ ဖြစ်၏။ ထိုနေရာများတွင်လယ်ယာ လုပ်ကိုင်ကြသည်။ ဆန်စပါးမှာ အများဆုံး စိုက်ပျိုးသော အသီးအနှံဖြစ်၏။ ဒုတိယ အများဆုံးစိုက်သောအသီးအနှံမှာ မုယောဖြစ်သည်။ အခြား အသီးအနှံများမှာ ဂျုံ၊ နှံစားပြောင်း၊ ပဲပီ၊ အာလူး၊ ဝါ၊ ဆေး၊ ပိုးစာပင်နှင့် ဟင်းသီး ဟင်းရွက်များ ဖြစ်၏။ နွားဝက် စသော တိရစ္ဆာန်မွေးမြူခြင်းနှင့် ငါးဖမ်းခြင်း လုပ်ငန်းများကိုလည်း လုပ်ကိုင်ကြသေးသည်။

သစ်တောများမှ ထင်းရှူးမှတပါး အခြား အဖိုးတန်သော သစ်များ မရကြချေ။ သို့ရာတွင် ထိုသစ်တောများမှာ သားမွေးရသော မြေခွေးကြီးနှင့် ဖျံများအပြင် ကျား၊ ကျားသစ်၊ ဝက်ဝံနှင့် သမင်ဒရယ်များ ခိုအောင်းနေထိုင်ရာ ဖြစ်သည်။ တွင်းထွက် ပစ္စည်းများ ကြွယ်ဝ၍ ကျောက်မီးသွေး၊ ကြေးနီ၊ ငွေ၊ တန်စတင်၊ ဂရက်ဖိုက်၊ မိုလစ်ဒီနမ်နှင့် လချေးတို့ကို တွေ့ရှိရသည်။ သို့ရာတွင် ကိုရီးယား ပြည်သားတို့သည် သတ္တု တူးဖေါ်ခြင်း လုပ်ငန်းကို တိုးတက်အောင် မပြုခဲ့ကြချေ။ ဂျပန်လက်ထက်ရောက်မှ ထိုလုပ်ငန်းကို အားပေး သဖြင့်ရွှေနှင့် သံများကိုပင် တူးဖေါ်ခဲ့လေသည်။



ရှုခင်းသာသည့် ကိုရီးယား ရွာတရွာ။ တဲအိမ်များမှာ ရွှံ့စေးထရံကာ ကောက်ရိုးအမိုးတို့ဖြင့်ဆောက်လုပ်ထား၏။

ကိုရီးယား လူမျိုးတို့သည် တရုပ် ဂျပန် တို့ကဲ့သို့ပင်၊ မွန်ဂိုလူမျိုးမှ ဆင်းသက် လာကြသော်လည်း၊ တရုပ် ဂျပန် တို့နှင့်ကား ရုပ်ဆင်း သွင်ပြင်ချင်း မတူကြချေ။ ကိုရီးယား တို့၏ ဆံပင်မှာ မည်း၍ ဖြောင့်၏။ မျက်ပေါက်မှာ စွေစောင်း၍ နှာခေါင်း ပြားပြီးလျှင် ပါးရိုးကြီး၏။ အသား အနည်းငယ် ညို၏။ အခြား မွန်ဂို အဆက်အနွယ်များထက် အယပ်အမောင်း မြင့်သည်။ ကိုရီးယားတို့၏ နေထိုင် လုပ်ကိုင်ပုံမှာ ရှေးရိုး စဉ်လာမှ များစွာ ပြောင်းလဲခြင်းမရှိချေ။ ထွန်ယက်စိုက်ပျိုးရာ၌ သမားရိုးကျ ကရိယာ တန်ဆာပလာများကိုသာ အသုံးပြုလျက် ရှိကြသေးသည်။ နေအိမ်များမှာ ထရံရွှံ့စေးကာ အမိုး ကောက်ရိုး ပြုလုပ်ထားသော တဲအိမ်ငယ်များ ဖြစ်သည်။ အခန်းများ ကိုမူ စက္ကူခန်းဆီးများဖြင့် ခြားထားကြ၏။ တဲအတွင်း၌ အနွေးဓါတ် ရစေရန် တဲတဖက်ရှိမီးခိုးခေါင်းတိုင်သို့ မီးဖိုမှအခိုးနှင့် အပူရှိန်တို့ကို ကြမ်းပြင်မြေကြီးအောက်မှ လိုဏ်ခေါင်းဖြင့် သွယ်ယူထားသည်။ ယောကျ်ားများသည် အရိုးစဉ်လာ အင်္ကျီရှည်ကြီး များနှင့် နီးသို့ မဟုတ် မြင်းမြီးဦးထုပ်ရှည် အမာကြီးများကို ယခုတိုင် ဝတ်ဆင်လျက် ရှိကြသေး၏။ ကိုရီးယား မိန်းကလေး များသည် ငယ်ငယ် ရွယ်ရွယ်နှင့်ပင် အိမ်ထောင်ပြုတတ်ကြ၍ အလုပ် ပင်ပန်း ကြီးစွာ လုပ်ကြရသည်။ မိန်းမများသည် ယောကျ်ားများထက် နိမ့်ကျသည်ဟုယူဆကြသဖြင့် ရပ်ရေးရွာရေး ကိစ္စများတွင် ဝင်ရောက် စွက်ဖက်ခွင့် မရကြချေ။

ဗုဒ္ဓအယူဝါဒသည် ကိုရီးယားသို့ ၄ ရာစုနှစ် အတွင်းကပင် ပျံ့နှံ့ထွန်းကားခဲ့၏။ ယခုခေတ်တွင် ဗုဒ္ဓဘာသာ ဘုန်းကြီးကျောင်း အများအပြား ရှိသည့်ပြင်၊ ဗုဒ္ဓ အယူဝါဒီ များလည်း ၃ သိန်းကျော်ခန့် ရှိသည်။ ခရစ်ယန် အယူဝါဒမှာ ၁၈ ရာစုနှစ် အတွင်းက ကိုရီးယားနိုင်ငံသို့ ရောက်ရှိခဲ့၍ ဒုတိယ ကမ္ဘာစစ် ဖြစ်စအချိန်တွင် ခရစ်ယန် အယူဝါဒီပေါင်း ၅ သိန်းခန့် ရှိခဲ့သည်။ ဂျပန်လက်ထက်တွင် ရှင်တို အယူဝါဒကို သွတ်သွင်းခဲ့၏။ သို့သော် များစွာသော ကိုရီးယားတို့မှာ အစွဲအလမ်း ကြီး၍ အယူသည်း ကြသည့်အလျောက်၊ ရိုးရာကိုးကွယ်သည့် အလေ့အထများ ကြွင်းကျန် နေသေးသည်။

ကိုရီးယား တောင်ပိုင်း၏ မြို့တော်ဖြစ်သော ဆေအူးမြို့တွင် လူဦးရေ ၁,၄၄၆,၀၀၀ ကျော်ခန့် ရှိသည်။ ဟန်းမြစ်၏ အနောက်ဖက် ကမ်းတွင်တည်ရှိ၍ အင်ချုန် ဆိပ်ကမ်းမြို့မှ ၃၅ မိုင် ကွာဝေးသည်။ ပိုးထည်၊ စက္ကူ၊ ဖျာနှင့် ယပ်တောင်လုပ်ငန်းတို့ကြောင့် ထင်ရှား၏။ ကိုရီးယားမြောက်ပိုင်း၏ မြို့တော်မှာ လူဦးရေ ၄၅၀,၀၀၀ ခန့် ရှိသော ပျုန်ယန်းမြို့ ဖြစ်သည်။အခြား ထင်ရှားသော မြို့များမှာ ပူဆန်၊ တိုင်ဒင်၊ ဂင်ဆန်နှင့် မော့ပိုမြို့များ ဖြစ်ကြသည်။

**ကိုရန်ကျမ်း။** ။ကိုရန်ကျမ်းသည် အလ္လာဘုရားထံမှ တမန်တော် မဟာမက် ပေါ် သို့ပို့ချပေးသောကျမ်းစာအုပ် ဖြစ်၍ ကမ္ဘာပေါ်ရှိ ၂၂၅ သန်းမျှသော မွတ်စလင်တို့ အထွတ်အမြတ် ထားသော ကျမ်းဖြစ်၏။ ကိုရန်ဟူသော စကားမှာ အာရဗီ ဘာသာမှ ဆင်းသက်လာ၍ဖတ်ရန် စာဟု အဓိပ္ပါယ်ရသည်။

တမန်တော် မဟာမက် ရှိစဉ် စာရေးတော်ကြီးများ သည် သူ၏နှုတ်မှ ထွက်သော စကားများကို သားရေစပေါ်၌ငှင်း၊ သစ်ရွက်ခြောက်ပေါ်၌ငှင်း၊ သိုး၏ လက်ပြင်ရိုးပေါ်၌ငှင်း၊ အနီးတွင် ရနိုင်သည့် မည်သည့်ဝတ္ထုပစ္စည်းပေါ်၌မဆို ရေး ခြစ် ထားခဲ့၏။ မဟာမက် မကွယ်လွန်မီကပင် ထိုအပိုင်း အစများကို စုဆောင်းပြီး၍ ကွယ်လွန်သောအခါ စာတအုပ် ဖြစ်အောင်စုပေါင်း၍ အဆင့်ဆင့် ကူးယူခဲ့ကြ၏။

ကိုရန် ကျမ်းမှာ အာရဗီ ဘာသာဖြင့် ရေးထား၍ ခရစ်ယန် ဓမ္မသစ်ကျမ်း ခန့် ရှည်လျား၏။ အခန်းပေါင်း ၁၁၄ ခန့် ရှိပြီးလျှင် နိုင်ငံသမိုင်း၊ အနာဂတ် ဟောပြောချက်၊ ကိုယ်ကျင့်တရားနှင့် ဥပဒေများ ပါဝင်သည်။ ပါဝင် သည့် သမိုင်းအတ္ထုပ္ပတ္တိတို့သည်ကား ဓမ္မဟောင်းကျမ်းမှ အတ္ထုပ္ပတ္တိများပင်ဖြစ်၍ သဘောတရားနှင့် ဥပဒေများ မှာလည်း ခရစ်ယန် အယူဝါဒ၊ ယဟူဒီ အယူဝါဒများနှင့် ဆင်တူသည်။ ထိုကျမ်း၌ မိုးဇက်၊ ယေရှုနှင့် မဟာမက် တို့အပြင် အလ္လာဘုရား၏ အခြားသော တမန်တော်ကြီး များကို လည်း လူအများ ကြည်ညို လေးစားရမည် ဖြစ် ကြောင်း ဖေါ်ပြထားသည်။

ကိုရန်ကျမ်း၌ ထာဝရ ဘုရား တဦး တည်းသာ ရှိကြောင်း၊အလ္လာ ဘုရား မှတပါး အခြား ထာဝရ ဘုရားမရှိ ဟူသောတရား တော်ကို အဓိက ဖေါ်ပြ ထားသည်။ထိုပြင်အလ္လာ ဘုရား နောက်ဆုံး တရား စီရင်ရာ အချိန်၌ မည် သူမဆို မိမိပြုခဲ့သော ကောင်းမှုမကောင်းမှုတို့ အလျောက် အကျိုး အပြစ်ခံစားရလိမ့်မည် ဟူ၍လည်းလေးနက်စွာ ဖေါ်ပြထားသည်။

မွတ်စလင်တို့၏ ရာဇသတ်၊ ဓမ္မသတ်တို့မှာ ကိုရန်ကျမ်းကို အမှီပြုလျက် ပြဋ္ဌာန်းထား၏။ မွတ်စလင် ကျောင်းများ၌ လည်း ကိုရန်ကျမ်းမှာ အဓိက ကျောင်းသုံးစာအုပ် ဖြစ် သည်။ မွတ်စလင်များ ဘုရားရှိခိုးရာတွင်လည်း ကိုရန်ကျမ်း ကိုပင် အမှီသဟဲ ပြုကြ၏။

ကိုရန်ကျမ်းစာအရ မွတ်စလင်များသည် တနေ့လျှင် ၅ ကြိမ်ကျ မက္ကာမြို့ရှိ ကားဗားကျောင်းတော်ဖက်သို့ မျက် နှာမူ၍ ဘုရားကိုအာရုံပြုရခြင်း၊ အလှူဝတ်ကိုပြုရခြင်း၊ ပစ္စည်းဥစ္စာတတ်နိုင်က မိမိ၏ တသက်တွင်အနည်းဆုံး တ ခေါက်မျှ မက္ကာမြို့သို့ ဘုရားဖူး သွားရခြင်း၊ရမ္မဇန်လ အတွင်း ၌ ဥပုသ်စောင့် ရခြင်းကို ပြုလုပ်ကြရလေသည်။ (မဟာ မက် — ရှု)။

**ကိုယ်လက်ကြံ့ခိုင်ရေး။** ။ယခုခေတ်ကဲ့သို့ သက် သောင့်သက်သာနေထိုင်သွားလာရသောခေတ်တွင် ကျန်းမာတောင့်တင်းစွာရှိစေရန် အတွက် ကိုယ်လက်ကြံ့ ခိုင်ရေးလုပ်ငန်းများကို ဂရုပြုလိုက်စားရန် လွန်စွာလိုသည်။ ရှေးခေတ်အခါကမူဝမ်းရေးကိုမိမိကိုယ်တိုင် ပင်ပန်းစွာရှာဖွေ စားသောက်ရသောကြောင့်ကိုယ်လက်လှုပ်ရှားမှု၊ သွေးသား ညီညွတ်မှု၊အာဟာရဓါတ်ပြည့်ဝမှုတို့မှာ တမင်သက်သက်ဂရု ပြု၍လုပ်ရန်မလိုတော့ဘဲ သူ့အလိုအလျောက်ပြည့်ဝပြီးဖြစ် လေသည်။ ငြိမ်သက်စွာထိုင်၍အလုပ်လုပ်ကိုင်ကြသော အညောင်းသမားများအဖို့ အထူးပင် ကိုယ်လက်ကျန်းမာ



အယ်လဂျီးရီးယန်း ကလေးများ ကိုရန်ကျမ်းစာ သင်အံနေခြင်း

ရေးလေ့ကျင့်ခန်းများကို ဂရုတစိုက်လုပ်ကိုင်ရန်လိုသည်။

ကိုယ်လက်လှုပ်ရှားကစားမှုကို ဂရုစိုက် ပြုလုပ်ခြင်း မရှိသူသည် ကျန်းမာရေးချို့တဲ့မည်မှာမလွဲပေ။ တိုင်းပြည်တပြည်၌ ကျန်းမာရေး ချို့တဲ့သူ ပေါ်များ က တိုင်းပြည် မကြီးပွားနိုင်ဘဲ စီးပွားရေး၊ ကြီးပွားရေးများလစ်ဟင်း တတ်သည်။ မြန် မာ နိုင်ငံ ရှိ ကျောင်း အချို့၌ ကိုယ် လက် ကြံ့ ခိုင် ရေးကို သီးသန့်ဆရာများ ဖြင့် သင်ကြားပြသပေး၏။ ဆရာအတတ်သင် ကော လိပ် ကျောင်း များ တွင် ကိုယ် လက် ကြံ့ ခိုင် ရေး လေ့ကျင့်ခန်းများကို မသင် မနေရ ဘာသာရပ်တခု အဖြစ်ဖြင့် ပြဋ္ဌာန်းထားသည်။

ကျန်းမာရေးလေ့ကျင့်ခန်းသင်တန်းများမှာ ကိုယ်ခန္ဓာတောင့်တင်းကျန်းမာရေးကိုသာ အဓိကထားရကား၊ ကျန်းမာရေးလေ့ကျင့်ခန်းယူခြင်း ဖြင့် တံခွန်စိုက် ကစား ခုန်စား သမားတဦး မဖြစ်လာနိုင်သော်လည်း ညောင်းညာသူတို့နှင့် အားအင်ချည့်နဲ့သူတို့ကို ကျန်းမာခြင်းနှင့်ညီညွတ်အောင်မှု ဖန်တီးပေးနိုင်သည်။ ကျန်းမာရေး လေ့ ကျင့် ခန်း များ ကို တန်ဆေးလွန်ဘေးသဘောဖြင့် မပြင်း လွန်း၊ မနည်း လွန်း၊ မျှတ၍ မှန် မှန် လိုက် နာ ပြု လုပ် မှ ဣရိ ယာ ပုတ် မျှတ ကာ ကျန်းမာတောင့်တင်းနိုင်ပေမည်။ များ စွာ သော လေ့ ကျင့် ခန်းများကို ကစားရန်သီးသန့်ဆောက်လုပ်ထားသောအားကစားရုံမရှိဘဲလျက် နေရာမရွေးလုပ်ကိုင်နိုင်၏။ (ကစားရုံ။ အား — ရှု။) သို့ရာတွင် မည်သည့်နေရာ၌ပင်ပြုလုပ် သည်ဖြစ်စေ၊လေကောင်းလေသန့်ရရှိရန် အထူးအရေးကြီးသည်။ လေကောင်းလေသန့်ကို ဝဝကြီးရှူရှိုက်ခြင်း သည် ပင် လျှင် ကျန်းမာရေးလေ့ကျင့်ခန်းများ၏တစိတ်တဒေသဖြစ်၏။

လေ့ကျင့်ခန်းများကိုပြုလုပ်သည့်အခါ အထူးသတိပြုရန်အချက်မှာ လေ့ကျင့်ခန်းများကို နေ့စဉ်အချိန်မှန်မှန်ပြုလုပ်ရန်ပင်ဖြစ်၏။ သို့မှသာလျှင် အကျိုးကျေးဇူးများ တင်းပြည့်ကျပ်ပြည့်ခံစားနိုင်ပေမည်။ သို့ရာတွင် အထူးဂရုပြုရန်တချက်မှာ အစာမစားမီနာရီဝက်နှင့် အစာစားပြီး ၂ နာရီအတွင်း လေ့ကျင့်ခန်းကိုလုံးဝမလုပ်ရန်ဖြစ်သည်။ နံနက်အိပ်ရာမှထ၍ ၁၅ မိနစ်ခန့်နှင့် ညအိပ်ရာဝင်ခါနီးခေတ္တမျှ လေ့ကျင့်ခန်းယူနိုင်ပါက၊ ကျန်းမာရေးအခြေအနေ သိသိသာသာကြီးတိုးတက်လာသည်ကို တွေ့ရပေလိမ့်မည်။ လေ့ကျင့်ခန်းများကို



ကိုယ်လက်ကြံ့ခိုင်ရေးလေ့ကျင့်နေကြသည့် အမျိုး သမီးများ



ဂျပန်ကလေးများ၏ ကိုယ်လက်ကြံ့ခိုင်ရေးလေ့ကျင့်ခန်း

စိတ်ပါဝင်စားစွာ စံနစ်ကျကျလုပ်ကိုင်ခြင်းမပြုခဲ့လျှင် အချည်းနှီးဖြစ်တတ်ကြောင်းကိုလည်း သတိပြုသင့်သည်။ လေ့ကျင့်ခန်းယူစဉ်တွင် ကိုယ်ရောစိတ်ပါအာရုံစိုက်၍ အချိန်မှန်မှန်လုပ်ကိုင်ပါက အံ့သြလောက်အောင် ကျန်းမာရေးတိုးတက်လာပေလိမ့်မည်။

ကျန်းမာရေးလေ့ကျင့်ခန်းများပြုလုပ်နေစဉ်သာမဟုတ်၊ အခြားအမှုကိစ္စများကိုဆောင်ရွက်ရာ၌လည်း ကိုယ်ဟန်အနေအထားကို စံနစ်တကျရှိစေရန်လိုအပ်သည်။ ဥဒါဟရုဏ်၊ မတ်တတ်ရပ်သောအခါ ဒူးကွြက်သားများကို တောင့်ထားခြင်းမပြုဘဲ အနေတော်လျှော့ထားရပေမည်။ ဝမ်းပိုက်ကြွက်သားကို ဆန့်ထား၍၎င်း၊ ရင်ကိုကော့၍၎င်း၊ ပခုံးကိုလျှော့၍

ဇင်း၊ ဦး ခေါင်း ကို ထောင်၍ ဇင်း၊ ရှိ စေ ရန် သတိပြုရမည်။ လမ်းလျှောက်ရာ၌လည်း အထက်ပါကိုယ်ဟန်အနေအထား အတိုင်းရှိစေပြီးလျှင် ခြေဖဝါး များ ကို တည့် တည့် ထား၍ လျှောက်ရပေမည်။ ဖိနပ်စီးလျှောက်လျှင် လည်း အလွန်အ မင်းကျပ်နေသောဖိနပ်ကိုစီးမလျှောက်ရန်သတိပြုရပေမည်။ ထိုင်သည့်အခါ၌ ခြေထောက်ကို ကြမ်းထိနေအောင်ချထား ၍ ကုလားထိုင်နောက်မှီကို ကျောနှင့် မှီနေရမည်။ ဇက်နှင့် ကျောအထက်ပိုင်းကိုမတ်မတ်ထား၍ ခါးနေရာမှချိုးပြီးလျှင် အနည်းငယ်ကိုင်း၍ ထိုင်နိုင် သည်။ သို့သော် ပုံတမျိုးတည်း ဖြင့် တာရှည်စွာထိုင်နေခြင်းမှာ အညောင်းမိစေနိုင်သည်။

အသက်ကို လေးလေးနှင့်မှန်မှန်ရှူရသောလေ့ကျင့်ခဏ်း သည် ရင်အုံ၊ ရင်ပတ်၊ အဆုတ်တို့ကို ကျန်းမာသန်စွမ်းစေ သည်။ ထိုပြင် ဝမ်းပိုက်တွင်ရှိသော မလိုလားအပ်သည့်အဆီ များကိုလည်း လျော့ပါးစေသည်။ ဤသို့ကိုယ် လက် အင်္ဂါ လှုပ်ရှားကစားခြင်းကို နေ့စဉ်မှန်မှန်ပြုလုပ်သွားပါက လေ၊ ဝမ်း၊ ဆီးတို့မှန်ကန်စေ၍ ကျန်းမာအသက်ရှည်နိုင်သည်။

ကိုယ်လက်လှုပ်ရှားကစားခြင်းသည် အသက်ရှည်ရေးအ တွက် လိုအပ်သော အချက် များ တွင် တပါးအပါအဝင်ဖြစ် သည့်အတိုင်း၊ လူတိုင်းပင် လိုက်နာ ပြု လုပ် ရန် သင့် သည်။ ကိုယ်လက်လှုပ်ရှား ကစား ခြင်း ဖြင့် ကိုယ် ခန္ဓာ၌ မ လို အပ် သောအဆီများကို ထွက်သွားစေနိုင်၏။ သွေးသားညီညွတ် ခြင်းကိုလည်း ဖြစ်စေနိုင်၏။ စားလိုက် သော အစာကို ကြေ စေ၍ ဝါတ်ဝမ်းကိုလည်း မှန်စေ၏။ အိပ်ပျော်စေ၏။ အသား အရေများကိုလည်း ကျစ်လစ်တောင့်တင်းစေ၏။ ထို့ကြောင့် ကိုယ်ခန္ဓာတခု လုံး ရှိ အကြော အခြင်များ၊ အင်္ဂါအစိတ်အပိုင်း များကို လှုပ် ရှား စေ သည့် လေ့ ကျင့်ခဏ်းများကို အထူး သဖြင့် လိုက်နာ ပြုလုပ်သင့်ပေသည်။

**ကိုလုန်းမြို့။** ။ကိုလုန်းမြို့သည် ဂျာမနီနိုင်ငံ ရိုင်းမြစ်လက်ဝဲဖက် ကမ်းပေါ်ရှိ မြို့ကြီးတမြို့ဖြစ်၏။ မီးရထား လမ်း များ ဆုံ ရာ ဌာန ဖြစ်သည့်ပြင် ဥရောပ တိုက် တွင် အရေး ပါ သော လေယာဉ် စခန်း တ ခု လ ည်း ဖြ စ် သ ည် ။ မြို့ ၏ မြောက် ဖက် မိုင် ၂၀ ခန့်အကွာ တွင် ကျောက်မီးသွေး တွင်း နှင့် စက်မှုလက်မှုလုပ်ငန်း ထွန်း ကား သော ရှူး ဝါး မြစ် ဝှမ်း ဒေ သ ရှိ သည့် ပြင်၊ တောင် ဖက် ၌ လည်း သံနှင့်ကျောက်မီးသွေးထွက်သော ဆားနယ် နှင့် လိုရိန်း နယ် များရှိသဖြင့်၊ ကိုလုန်း မြို့ သည် ဂျာမနီနိုင်ငံ၏ပို့ဆောင်ရေး လမ်းဆုံမြို့ကြီးနှင့် စက်မှုလက်မှုလုပ်ငန်းထွန်းကား သော မြို့ ကြီး ဖြစ် သည်။ ကုန်ထုတ် လုပ်ငန်း မှာ များပြား ကြီးကျယ် ၍ သကြား၊ ချောကလက်၊ ဆပ်ပြာ၊ ဆေး၊ ကော်၊ အရက်၊ ဗိလတ် ရည်၊ ကတ္တီပါ၊ ပိုးထည်၊ သိုး မွေး ထည်၊ ခြည် ထည်၊ ဓါတ် ပစ္စည်း များ၊ မော် တော် ကား နှင့် စက် ကရိယာပစ္စည်း များမှာ ထင်ရှားလေသည်။ ကမ္ဘာတဝှမ်းလုံးတွင် ထင် ရှား ကျော်ကြား၍ လူအများ နှစ်သက် သုံးစွဲကြသော ‘ အိုဒါကို လုန်း ’ ရေမွှေးမှာ ကိုလုန်းမြို့ထွက်ပစ္စည်းတခုဖြစ်၏။

ကိုလုန်းကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးမှာ ၁၂၄၈ ခု နှစ်လောက်က စတင်တည်ဆောက်ခဲ့၍ ၁၈၈၀ ပြည့်နှစ်ကုန် လောက်တွင်မှ ပြီးစီးခဲ့ ရာ၊ ဥ ရော ပ တိုက် မြောက် ပိုင်း တွင် အကြီး ဆုံး သော ဂေါ့သ ပုံ စံ ဘု ရား ရှိခိုး ကျောင်း ကြီး ဖြစ် ပေသည်။ ထိုအဆောက်အအုံ၏အမိုးချွန်ကြီး ၂ ဆောင်မှာ ၅၁၅ ပေမျှမြင့်၍ ကိုလုန်းမြို့ပတ်ဝန်းကျင်ကို ထိုအမိုးချွန်ကြီး များပေါ်မှ ကောင်းစွာမြင်နိုင်သည်။ ဘုရားရှိခိုးကျောင်းအ တွင်းတွင် ကြည်နူးဖွယ်ရာ သီချင်းဆိုသည့်နေရာများ၊ မုတ်ခုံး များ၊ ဆေးခြယ်ထားသော မှန်ပြတင်း များ နှင့် ရှည် လျား သောတိုင်ကြီးများရှိရာ အလွန်တရာခမ်းနားထည်ဝါလှပေ သည်။ ထိုဘုရားရှိခိုးကျောင်းရှိ နာမည်ကျော် ‘ ဧကရာဇ် ’ ခေါင်းလောင်းကြီးမှာ အလေးချိန် ၂၇ တန်ရှိ၏။ ထိုခေါင်း လောင်းကြီးကို ပဌမကမ္ဘာစစ်အတွင်း ၁၉၁၇ ခုနှစ်၌ ဂျာမနီ က လက်နက်လုပ်ရန် သတ္တုများ လိုနေသဖြင့် အရည်ကျိုပစ်



ဒုတိယကမ္ဘာစစ်အတွင်း မရှုမလှပျက်စီးခဲ့ရသော ကိုလုန်းမြို့တနေရာ

လိုက်သည်။ သို့ရာတွင် စစ်ပြီးသောအခါ ၂၄ တန်ရှိခေါင်းလောင်းသစ်တလုံးကို ၁၉၂၃ ခုနှစ်တွင် အစားထိုးကာထားလေသည်။ အခြားထင်ရှားသော ရှေးဟောင်းအဆောက်အအုံများမှာ ၁၅ ရာစုနှစ်အတွင်းကဆောက်လုပ်ခဲ့သော 'ဂါဇနစ်' ခေါ် ညှော်သည်တော်များ ညှော်ခံရာအဆောက်အအုံ၊ မြို့တော်ခန်းမကြီး နှင့် နိုက်တင်းပလားသူရဲကောင်းများဂေဟာတို့ဖြစ်ကြ၏။

ကိုလန်းမြို့သည် စက်မှုလက်မှုလုပ်ငန်းထွန်းကားသောမြို့ဖြစ်သည့်ပြင် မဟာမိတ်တို့၏စစ်လမ်းကြောင်းတွင်ကျရောက်နေသဖြင့် ဒုတိယကမ္ဘာစစ်အတွင်း၌ မဟာမိတ်လေတပ်တို့က အပြင်းအထန်ဗုံးကြဲတိုက်ခိုက်ခဲ့သောကြောင့် အဆောက်အအုံကြီး အများပင် ထိခိုက်ပျက်စီး ခဲ့သည်။ ဘုရားရှိခိုးကျောင်းကြီးမှာ အနည်းငယ်မျှသာပျက်စီးသွားသော်လည်း ရိုင်းမြစ်ကိုဖြတ်ကူးထားသောတန်တားကြီးများ၊ စက်ရုံကြီးများ၊ မီးရထားဝင်း၊ သင်္ဘောကျင်းနှင့် ရှေးအဆောက်အအုံများစွာတို့မှာ လုံးဝပျက်စီးသွားကြ၏။ ကိုလန်းမြို့၏လူဦးရေမှာ ၅၉၄,၉၄၁ ယောက်မျှရှိလေသည်။

**ကိုလံဗိုမြို့။** ။ကိုလံဗိုမြို့သည် သီဟိုဠ်ကျွန်း၏မြို့တော်ဖြစ်၍ ကျွန်း၏အနောက်ဖက်ကမ်းခြေ ကလျာဏီမြစ်ဝအနီး၌တည်ရှိသည်။အေဒင်မြို့မှ ဩစတြေးလီးယားတိုက်သို့ရှင်း၊ ကရာချိမြို့မှ စင်္ကာပူမြို့သို့ရှင်း၊ သင်္ဘောခရီးလမ်းတွင် ကိုလံဗိုမြို့သည် ဗဟိုဒေသဖြစ်သည့်အလျောက် ထင်ရှားသောသင်္ဘောဆိပ်မြို့ကြီးဖြစ်သည်။

သီဟိုဠ်ကျွန်းတွင် ကုန်စည်ကူးသန်းရောင်းဝယ်ရေးအတွက် ကိုလံဗိုမြို့သည် အချက်အခြာမြို့ကြီးဖြစ်၏။အများဆုံးတင်ပို့ရောင်းချသောထုတ်ကုန်မှာ လက်ဖက်ခြောက်ဖြစ်သည်။ ကိုလံဗိုသင်္ဘောဆိပ်၏အကျယ်အဝန်းမှာ ဧက ၆၀၀ ကျော်မျှရှိ၍၊ ကမ္ဘာပေါ်တွင် လူတို့ဆောက်လုပ်သော အကြီးဆုံးသင်္ဘောဆိပ်တခုဖြစ်ပေသည်။ ကိုလံဗိုမြို့တွင် အုပ်ချုပ်ရေးဆိုင်ရာအဆောက်အအုံများ၊ သီဟိုဠ်တက္ကသိုလ်ကျောင်းတိုက်၊ ဘုရင်ခံအိမ်တော်၊ ပန်းဥယျာဉ်များရှိ၏။

ကိုလံဗိုမြို့မှ သီဟိုဠ်ကျွန်းအရပ်ရပ်သို့ အလွယ်တကူသွားနိုင်ရန် လူသွားလမ်းများ၊ မီးရထားလမ်းများ ဖေါက်လုပ်ထားသည်။ ဗုဒ္ဓစွယ်တော်မြတ်ကိန်းဝပ်တော်မူရာ ကန်ဒီမြို့သည် ကိုလံဗိုမြို့မှ ၇၅ မိုင်ဝေးကွာလေသည်။

၁၉၅၀ ပြည့်နှစ် ဇန္နဝါရီလ ၉ ရက်နေ့မှ ၁၄ ရက်နေ့အထိ ဗြိတိသျှ ဓနသဟာယအဖွဲ့ဝင် နိုင်ငံများမှ နိုင်ငံခြားရေးဝန်ကြီးများ ညီလာခံကို ကိုလံဗိုမြို့တွင်ကျင်းပခဲ့၏။ ထိုညီလာခံသို့ မြန်မာနိုင်ငံမှ ကိုယ်စားလှယ်အချို့ တက်ရောက်လေ့လာခဲ့ကြ၏။ ညီလာခံတွင် ဆွေးနွေးဆုံးဖြတ်ချက်များအနက် အာရှတိုက်အရှေ့တောင်ပိုင်းနိုင်ငံများအတွက် စက်မှုလက်မှုအကူအညီများ၊ ကျွမ်းကျင်သောပါရဂူများနှင့် ငွေကြေးကူညီချေးငှားမှုများ ဆောင်ရွက်ပေးရန်



ကိုလံဗိုမြို့၏ခရီးသည်များ အတွက် လုပ်သောခေတ်မီသင်္ဘောဆိပ်

ဆိုသောအချက်လည်း ပါဝင်သည်။ ထိုစီမံကိန်းမှာ ၆ နှစ်စီမံကိန်းဖြစ်၍ ပေါင်သန်းပေါင်း ၁,၈၆၈ ကုန်ကျမည်ဖြစ်သည်။

၁၉၅၀ ပြည့်နှစ်နိုဝင်ဘာလ ၂၈ ရက်နေ့တွင် ဓနသဟာယအဖွဲ့ဝင် နိုင်ငံ များ ပူး ပေါင်း လျက် ကိုလံဗိုစီမံကိန်း အမည်ဖြင့် လန်ဒန်မြို့မှ ကျေညာခဲ့၏။ ကိုလံဗိုစီမံကိန်း ဟု ခေါ် ဝေါ်ခြင်းမှာ စီမံကိန်းကိုကိုလံဗိုညီလာခံမှအစပျိုးခဲ့သောကြောင့်ဖြစ်သည်။ထိုစီမံကိန်းအရ အာရှတိုက်အရှေ့ပိုင်းနိုင်ငံအများပင် အထောက်အပံ့၊ အကူအညီအမျိုးမျိုးကို ရရှိခဲ့ကြ၏။ မြန်မာနိုင်ငံမှလည်း ပေါင် ၆ သန်းကို ဓနသဟာယဝင်နိုင်ငံများထံမှ ၂ နှစ်စာချုပ်ဖြင့် ချေးငှားခွင့်ရရှိခဲ့သည်။

ကိုလံဗိုမြို့ကို ၁၃၄၀ ပြည့်နှစ်ဆီလောက်က ကာလံဗူဟုခေါ် ကြောင်း အဆိုရှိလေသည်။ ၁၅၁၇ ခုနှစ်အထိ ပေါ်တူဂီပိုင်ဖြစ်ခဲ့သည့်အခါက၊ကိုလံဗပ်ကိုဂုဏ်ပြုသောအားဖြင့် ကိုလံဗိုဟုမှည့် ခေါ် ခဲ့သည်။ ထိုနောက် ထိုမြို့မှာ ဒပ်ချတို့လက်အောက်သို့ကျရောက်ခဲ့ရာမှ ၁၇၉၆ ခုနှစ်တွင် ဗြိတိသျှတို့လက်အောက်သို့ရောက်ရပြန်သည်။သို့သော် ၁၉၄၈ ခုနှစ်တွင်မူ ဒိုမီနီယန် နိုင်ငံ အဆင့် အတန်း သို့ ရောက် နေသော သီဟိုဠ်ကျွန်း၏ မြို့တော်ဖြစ်လာ၏။



ကိုလံဗိုမြို့၏ ကမ္ဘာ့စံမှီကုန်သွယ်ရေးရပ်ကွက်မှ ယောလမ်း

# ကမ္ဘာသစ်ကြီးကိုပဌမတွေ့ရှိသူ

**ကမ္ဘာ့သမိုင်းဝင် ရှာဖွေစွန့်စား ဇာနည် ဖွား များ အနက် အထူးပင် ပေါ် လွင် ထင်ရှား သည့် ပုဂ္ဂိုလ်ကြီး ခရစ္စတိုဖါကိုလံဗပ်သည် အိန္ဒိယတိုင်းပြည်သို့ရောက်ပေါက်ရန် လမ်းခရီးကိုရှာဖွေရာ၌ ရည်ရွယ်ချက်အတိုင်းအထမမြောက်ခဲ့သော်လည်း သူတွေ့ရှိသော နယ်မြေမှာ ယခုခေတ်တွင် ကမ္ဘာ့ထိပ်သီးနိုင်ငံကြီးတခုဖြစ်နေပေပြီ။**

**ကိုလံဗပ်, စီ** (ခရစ် ၁၄၅၁ ခန့်–၁၅၀၆)။ ။၁၄၉၂ ခုနှစ်၌ ရွက်သင်္ဘော ၃ စင်း သည် အတ္တလန္တိတ် သမုဒ္ဒရာ ထဲ တွင် အနောက်စူးစူး သို့ရှေးရှုလျက် သွား နေကြ၏။ သင်္ဘောသားများမှာ ဥရောပတိုက်သားများထံမှ အနောက်ဖက်သို့ ပဌမဆုံး စွန့်စားထွက်ခွာလာကြသူများဖြစ်လေသည်။ သူတို့သည် အပြောကျယ်စွာ မဟာသမုဒ္ဒရာကြီးထဲ၌ ကမ်းမမြင် လမ်းမမြင်၊ တနေ့ဝင်တနေ့ထွက်၊ နေ့စဉ်ရက်ဆက် သင်္ဘောလွှင့်ခဲ့ရသည်မှာ အတော်အချိန်ကြာညောင်းပြီဖြစ်၍စိတ်ပျက်အားငယ်စပြုလာကြလေပြီ။ သူတို့၏သင်္ဘော သူကြီးအား ရှေ့သို့ဆက်မသွားဘဲ ဥရောပတိုက်သို့ပြန်လှည့်ရန် တောင်းပန်ကြသည်။ သို့သော် သင်္ဘောသူကြီးကား သူတို့ကဲ့သို့သတ္တိ ပျော့ညံ့သူမဟုတ်ချေ။ သူမြှော်မှန်း ထား သော ပန်းတိုင်သို့ မရောက်ရောက်အောင်သွားရန် သန္နိဋ္ဌာန်ချမှတ်ထားသူဖြစ်၍၊ မလျော့သောဇွဲသတ္တိဖြင့် ရှေ့သို့သာဆက်လက် သင်္ဘောလွှင့်ခဲ့သည်။

ဤဇွဲသတ္တိကောင်းသောသင်္ဘောသူကြီးကား အမေရိကတိုက်ကို ပဌမစတင်တွေ့ရှိသည့် နာမည်ကျော်ခရစ္စတိုဖါကိုလံဗပ်ပင်ဖြစ်ပေသည်။သူ၏ဇွဲသတ္တိမှာ ရှေးယခင်ကလည်း မှတ်ကျောက်တင်ခံရပြီးဖြစ်၏။ သူသည် ဣတလီပြည် ဂျီနိုးဝါးမြို့၌မွေးဖွား၍ ငယ်စဉ်က သင်္ချာနှင့် နက္ခတ္တဗေဒပညာရပ်များကို သင်ကြားလေ့လာခဲ့၏။ ကိုလံဗပ်သည် ငယ်ရွယ်စဉ်ကပင် သူ့ဖခင်၏ရက်ကန်း လုပ်ငန်း တွင်ကူညီခဲ့ရသည်။သို့သော် သင်္ဘောသားသုံး မြေပုံကိုရေး ဆွဲရာ၌ မကြာမီအထူးတတ်ကျွမ်းလာခဲ့၏။ကိုလံဗပ်သည် တရပ်တကျေးသို့စွန့်စားသွားလာလိုစိတ်ပြင်းပြလှရကား၊ မြေထဲပင်လယ်အရှေ့ပိုင်းသို့ခရီးထွက်မည့်သင်္ဘောတစင်းတွင် သင်္ဘောသားအဖြစ်ဝင်ရောက်လုပ် ကိုင်ခဲ့၏။ ထို နောက် ၂ နှစ်ခန့်ကြာ သောအခါ အင်္ဂလန် ပြည် နှင့် မြောက်ဖက်ပင်လယ်များသို့သွား သော သင်္ဘောတွင် လိုက်ပါပြန် လေသည်။ ၁၄၇၇ ခုနှစ် တွင် တောင်ဖက်ပင်လယ်ပြင်သို့သင်္ဘောလွှင့်ခဲ့ရာ အီကွေတာသို့ပင်ရောက်ခဲ့သည်ဟုဆိုသည်။ ထိုသို့ခရီးထွက်ယင်းနှင့် ကမ္ဘာလုံး ကြောင်း တစတစသိရှိလာသဖြင့်၊ အနောက် စူး စူး သို့ သင်္ဘောလွှင့်လျှင် နောက်ဆုံး၌ အင်းဒီးနယ်မြေသို့ရောက်ရမည်ဟုယုံကြည်ခဲ့၏။ ထိုစဉ်က အင်းဒီးနယ်မြေမှာ အရှေ့



အမေရိကတိုက်ကို ပဌမတွေ့ရှိသူ ခရစ္စတိုဖါကိုလံဗပ်

တိုင်းပြည်များဖြစ်သော အိန္ဒိယနိုင်ငံ၊တရုပ်နိုင်ငံ၊ဂျပန်ကျွန်းနှင့် အရှေ့အိန္ဒိယကျွန်းစုတို့ကိုဆိုလို၍၊ ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြား၊ ဆေးဝါးနှင့် စမဲအမွှေးအကြိုင်များပေါလှသည်ဟုကျော်ကြား ခဲ့သည်။ ထိုပြင် ထိုပစ္စည်း များ မှာ ရေကြောင်း၊ကုန်းကြောင်း၊ခရီးအတန်တန်နှင့် ဥရောပတိုက်သို့ရောက်လာခဲ့ရာအဖိုး ကြီးမြင့်လေသည်။ သို့ဖြစ်၍ထိုနယ်မြေများသို့အလွယ်တကူ ရောက် နိုင် သောခရီးလမ်းကို စူးစမ်းရှာဖွေခဲ့ရာတွင် ပေါ် တူဂီတို့သည်အာဖရိကတိုက်တောင်ဖက်စွန်းကို ခက်ခက်ခဲခဲနှင့်လှည့်ပတ်ခဲ့ကြ၏။ကိုလံဗပ်ကမူ အနောက်စူးစူးသို့ထွက်လျှင် ထိုနယ်မြေများသို့ရောက်မည်ဟု ယုံကြည်ထားသည့်အတိုင်း၊ အနောက်ဖက်သို့ သင်္ဘောနှင့်စွန့်စားသွားလိုသောဆန္ဒမှာသူ၌အတော်ပြင်းပြခဲ့ပေသည်။

သို့ရာတွင်သူသည် ဆင်းရဲလှသည့်ပြင် အားပေးကူညီမည့်သူလည်း သူ့တွင်မရှိချေ။ ပေါ် တူဂီနှင့်အင်္ဂလိပ်ဘုရင်များထံ အကူအညီတောင်းခဲ့သော်လည်း မရဘဲ၊လူအများ၏ပြက်ရယ်ပြုခြင်းကိုသာ ခံရသည်။ ၁၄၉၂ ခုနှစ်တွင် သူသည် ပြင်သစ်ဘုရင်ထံမှ အကူအညီတောင်းခံရန် ခရီးထွက်ခဲ့ရာ၊ လမ်းတွင်ဘုန်းကြီးကျောင်းတကျောင်း၌ ဝင်ရောက်တည်းခိုခဲ့သည်။ကျောင်းထိုင်ဘုန်းကြီးမှာ စပိန်ဘုရင်မ အဇ္ဇဗဲလား၏ဆရာတော်ဖြစ်ခဲ့ဘူး၏။ သူသည် ကိုလံဗပ်၏အကြံအစည်များကိုနှစ်သက်သဘောကျ၍ စပိန်ဘုရင်မထံ ထောက်ခံစာတစောင်ရေးပေးလိုက်လေသည်။ စပိန်ဘုရင်နှင့်ဘုရင်မတို့လည်း ကိုလံဗပ်ကို နန်းတော်သို့ခေါ် ၍ စုံစမ်းမေးမြန်းကြ၏။ အထူးသဖြင့် သူ၏အကြံကို ဘုရင်မက သဘောကျသဖြင့် ဖါဒီနန်ဘုရင်အား ကိုလံဗပ်ကိုကူညီရန် တိုက်တွန်းပြောဆိုခဲ့၏။ ဘုရင်မကပင် သူ၏လက်ဝတ်လက်စားများကိုပေါင်နှံ၍ ကိုလံဗပ်ကိုထောက်ပံ့ခဲ့သည်ဟု အချို့ကဆိုသည်။

မည်သို့ဖြစ်စေ၊ကိုလံဗပ်သည် သူတို့ထံမှ 'ဆန်တာမရီယာ'၊ 'ပင်တာ' နှင့် 'နီနာ' ဟူသောသင်္ဘော ၃ စင်းနှင့်တကွ လိုအပ်သောအကူအညီများကိုရခဲ့၏။ သို့သော် သူနှင့်လိုက် မည့်သင်္ဘောသားများကိုကား အလွယ်တကူရှာမရချေ။ လူအများကပင်သူသွားမည့်လမ်းမှာ မပြန်လမ်းဖြစ်သည်ဟု ထင်နေကြ၏။ သို့ဖြစ်၍ ရာဇဝတ်ကောင်များ၊ တေလေများသာ သူနှင့်အရဲစွန့်ကာလိုက်သွားလိုခဲ့ကြ၏။ ထိုကြောင့် နောက်ဆုံး၌ ရသမျှသောသင်္ဘောသား ၁၀၀ ခန့်နှင့်ပင် အနောက်ဖက်သို့ ၁၄၉၂ ခုနှစ်ဩဂုတ်လ ၃ ရက်နေ့တွင် စွန့်စားထွက်ခွာသွားလေတော့သည်။

သမုဒ္ဒရာထဲတွင် သင်္ဘောလွှင့်ခဲ့၍ ရက်ပေါင်းအတော်ကြာ ညောင်းသွားသောအခါ သင်္ဘောသား များမှာ ကြောက်ရွံ့လာကြ၏။ ဥရောပတိုက်သို့ပြန်လှည့်ရန် ကိုလံဗပ်ကိုအသာတကြည်ပြောမရသောအခါ အကြမ်းဖက်ရန်ကြံစည်ခဲ့ကြသည်။ ကိုလံဗပ်မှာ သူတို့ကိုချောက်ချည်တခါ မြှောက်ချည်တလှည့်ဖြင့် စိတ်အားမငယ်ကြရန်ပြောရလေသည်။ ခရီးမည်မျှ ပေါက်ရောက် ခဲ့ပြီကို လည်း သူ တို့ မ သိ ရ အောင် လျှို့ဝှက်ထားခဲ့ရ၏။ အမျိုးမျိုးပြောမရသည့်နောက်ဆုံးတနေ့၌ ၃ ရက်အတွင်းကုန်းကို မမြင်ရလျှင် သင်္ဘောကိုပြန်လှည့်ပါတော့မည်ဟုကတိပေးလိုက်ရလေသည်။

ကံအားလျော်စွာ ထိုနေ့ည ၁၀ နာရီခန့်တွင် အဝေးမှမီးရောင်ကို မှိတ်တုတ်မှိတ်တုတ်မြင်ကြရ၏။ နောက်တနေ့ဖြစ်သော အောက်တိုဘာလ ၁၂ ရက် နေ့နံနက် ၂ နာရီအချိန်ခန့်၌ ကုန်းကိုမြင်ရပြီဖြစ်ကြောင်း အထိမ်းအမှတ်အဖြစ်ဖြင့် သင်္ဘောတစင်းမှ အမြောက်ပစ်သံကိုကြားရလေသည်။ ထိုနေ့မွန်းမတည့်မီ ကျွန်းတကျွန်းကိုသူတို့မြင်ကြရလေသည်။ ထိုကျွန်းမှာ ယခုအခါ ဗဟားမား ခေါ် ကျွန်းစု၌ပါဝင်သော ဝေါ့တလင်း ကျွန်း ဖြစ်၏။ ကိုလံဗပ်သည် ကုန်းပေါ် သို့တက်ရောက်ကာ ထိုနယ်မြေကို စပိန်ဘုရင်ပိုင်နယ်မြေဖြစ်ကြောင်း ကျေညာခဲ့လေသည်။ ထိုစဉ်ကကိုလံဗပ်သည် အင်း ဒီး နယ်မြေမှ ကျွန်း တကျွန်း သို့ရောက်ရှိခဲ့ပြီဟုယုံကြည်ခဲ့၏။ ထိုသို့မဟုတ်ကြောင်းကို မကြာမီလူတို့သိရှိခဲ့သော်လည်း ကိုလံဗပ်တွေ့ရှိခဲ့သောကျွန်းများကို အနောက်အိန္ဒိယကျွန်းစုဟူ၍ ယခုထက်တိုင်ခေါ် တွင်နေတော့သည်။

ထိုနောက်ကိုလံဗပ်သည် အနီးအနားရှိကျွန်းများသို့လည်း သင်္ဘောလွှင့်ခဲ့ရာ ကျူးဗားကျွန်းအပါအဝင် အခြားကျွန်းများသို့ရောက်ခဲ့၏။

သူသည် အနောက်ဖက်သို့ နောက်ထပ် ၃ ခေါက်သွားရောက်ခဲ့သေးသည်။ ၁၄၉၃ ခုနှစ်တွင် ဒုတိယအကြိမ်သွားရောက်ခဲ့ရာ၌ အနောက်အိန္ဒိယကျွန်းစုရှိ အခြားကျွန်းသစ်များကိုတွေ့ရှိပြီးလျှင် သူ့ လူများကိုနယ်သစ်တည်၍ ပြည်သစ်ထောင်ရန်ထားခဲ့၏။ ၁၄၉၈ ခုနှစ်တွင် တတိယအကြိမ်သွားရောက်ခဲ့စဉ်က တောင်အမေရိကတိုက်၏အရှေ့မြောက်ကမ်းခြေတလျှောက် သင်္ဘောလှည့်ခဲ့၏။ ထိုအခါက်၌ မလိုမုန်းထားသူတို့က ရက်စက်ကြမ်းကြုတ်မှု၊ မတရားအုပ်ချုပ်မှုတို့ဖြင့် မတရားစွပ်စွဲခြင်းကိုခံရသဖြင့်၊ စပိန်နိုင်ငံသို့သံကြိုးနှင့်ချည်နှောင်ခေါ်ဆောင်သွားခြင်းခံခဲ့ရသည်။ မတရားစွပ်စွဲချက်များမှ ရှင်းလင်းလွတ်မြောက်သွားပြီးနောက် ၁၅၀၂ ခုနှစ်၌ စတုတ္ထအကြိမ်သင်္ဘောဖြင့်ခရီးထွက်ခဲ့ပြန်သည်။ ထိုအခါက်၌ အမေရိကတိုက် အလယ်ပိုင်း ဟွန်းဒူးရပ်ကမ်းခြေအနီးသို့ရောက်ရှိခဲ့သော်လည်း၊ ရည်ရွယ်ရင်းဖြစ်သောကျူးဗား ကျွန်းအနီးမှ အိန္ဒိယသမုဒ္ဒရာသို့အရောက်လမ်းပေါက် ရှာဖွေရေးမှာ အထ မမြောက်ဘဲ စပိန်သို့ပြန်သွားရလေသည်။

သို့သော် သူ့အားအထူးပင်ကူညီထောက်ပံ့ခဲ့သူ အဇ္ဇဗဲလားဘုရင်မမှာ ကွယ်လွန်သွားပြီဖြစ်၍၊ ဖါဒီနန် ဘုရင်ကလည်း သူ့ကိုအားပေးကူညီခြင်းမပြုတော့ချေ။ ထိုနောက် ၁၅၀၆ ခုမေလ ၂၀ ရက်နေ့တွင် ဗယ်လာဒိုလစ်မြို့ကလေး၌ ကိုလံဗပ် သည် ဆင်းရဲငြိုငြင်စွာ မထင် မရှား ကွယ်လွန်ရရှာလေသည်။

**ကိုလုံးဗီးယားနိုင်ငံ။** ။ကို လုံး ဗီး ယား နိုင် ငံ သည် တောင်အမေရိကတိုက်အနောက်မြောက်ပိုင်း အစွန်ဆုံးတွင်ရှိသော သမတနိုင်ငံတခုဖြစ်၍ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၄၃၉,၇၂၀ ရှိလေသည်။ ကိုလုံးဗီးယားနိုင်ငံ၏ပင်လယ်ကမ်းရိုးတန်းသည် ကယ်ရစ်ဗျန်ပင်လယ်ဖက်တွင် ၁၀၈၄ မိုင်ရှည်လျား၍ ပစိဖိတ်သမုဒ္ဒရာဖက်တွင် ၈၁၃ မိုင်ရှည်လျားသည်။ နယ်နိမိတ်များမှာ မြောက်ဖက်၌ ကယ်ရစ်ဗျန်ပင်လယ်နှင့် ဗင်နီးဇွဲလား နိုင်ငံ၊ တောင်ဖက်၌ ပီရူး နိုင်ငံနှင့် အက်ကွာဒေါနိုင်ငံ၊ အရှေ့ဖက်၌ပစိဖိတ်သမုဒ္ဒရာတို့ဖြစ်သည်။

အန်းဒီး တောင်တန်း၏မြောက်ပိုင်းသည် ကိုလုံးဗီးယားနိုင်ငံတဝက်ကျော်ကျော်ခန့်ကို ဖြတ်သန်းတည်ရှိလေသည်။ အရှေ့၊ အနောက်၊ အလယ်ဟူ၍ ၃ ခုတန်းလျက်ရှိသော ကော်ဒီလားရား တောင်တန်းကြီးများသည် ပေ ၁၀,၀၀၀ ကျော်မြင့်မားသောကုန်းပြင်မြင့်ကြီးကို ဝိုင်းရံတည်ရှိ၏။ ထိုတောင်တန်းကြီး ၃ ခုတို့၏စပ်ကြားတွင် ကောင်ကာနှင့် မက်သားလေးနားမြစ်ကြီး ၂ သွယ်တို့သည် အလယ်ကော်



စပိန် ဘုရင် နှင့် ဘုရင်မ တို့၏နန်း တော် သို့ ကိုလံဗပ် အခစား ဝင် ရောက် စဉ်

ဒီလားရား တောင်တန်းတွင် မြစ်ဖျားခံ၍ ကယ်ရစ်ဗျန်ပင်လယ်ထဲသို့စီးဝင်ကြ၏။မက်သားလေးနားမြစ်ဝ၌ ကိုလံုးဗီးယားနိုင်ငံ၏ အကြီးဆံုးပင်လယ်ဆိပ်ကမ်း မြို့ကြီးဖြစ်သော ဗာရန်ကီးယားမြို့တည်ရှိသည်။ ထိုမြစ်ကြီး ၂ ခုသည် ပြည်တွင်းမြစ်ညာမှ ထွက်ကုန် များကို ပင်လယ်ဆိပ်ကမ်း မြို့သို့ သယ်ယူပို့ဆောင်ရေးအတွက်များစွာအသုံးဝင်သည်။ မက်သားလေးနားမြစ်အတွင်း၌ သင်္ဘောများသွားလာနိုင်သော ခရီးမှာ မိုင်ပေါင်း ၈၀၀ ခန့်ဖြစ်သည်။

ကိုလံုးဗီးယားနိုင်ငံသည် အပူပိုင်းဇုန်အတွင်း၌ကျရောက်နေ၍ တနှစ်ပတ်လုံး နေ့တာ ညတာညီမျှလေသည်။ ရာသီဥတုမှာ စိုစွတ်သောရာသီဥတုနှင့် ခြောက်သွေ့သောရာသီဥတုဟူ၍ ၂ မျိုးသာရှိသည်။မြေမျက်နှာပြင်အနေအထားမှာ ပင်လယ်ပြင်နှင့်တပြေးတည်းညီသောလွင်ပြင်များမှ ဆည်း




ကိုလံုးဗီးယားနိုင်ငံတည်နေရာပြမြေပံု

နှင်းများဖုံးလွှမ်းနေသော ပေ ၁၈,၀၀၀ ကျော်တောင်ထိပ်များသို့တိုင်အောင် အမျိုးမျိုးရှိသဖြင့်၊ အပူချိန်မှာလည်း အပူပိုင်း အမြင့်ဆံုးအပူချိန်မှ အအေးပိုင်း အနိမ့်ဆံုးအပူချိန်အထိ အမျိုးမျိုးရှိလေသည်။

တောထူထပ်သောလွင်ပြင်ပိုင်းတွင်ပူအိုက်သောရာသီဥတုရှိ၍ အတွင်းဖက် တောင်တန်းဒေသတွင် အနည်းငယ်အေးပြီးလျှင် အရှေ့ကော်ဒီလားရားတောင်တန်းဒေသတွင် သာယာသောရာသီဥတုရှိလေသည်။ ထိုကြောင့် ဤဒေသသည် လူနေအများဆံုး ဖြစ်၏။ ကိုလံုးဗီးယား နိုင်ငံ၏ မြို့တော်ဖြစ်သော ဗိုဂိုးတားမြို့သည် ပင်လယ်ပြင်အထက် ၈,၆၉၄ ပေမြင့်သော အန်းဒီး တောင်ပေါ်၌တည်ရှိ၏။အီကွေတာနှင့်ကပ်လျက်တည်ရှိသော မြင့်မားသည့်တောင်ထိပ်များပေါ်တွင် နှင်းများကျရောက်နေသည်မှာ ကိုလံုးဗီးယားနိုင်ငံ၏ လှပခန့်ညားဆံုးသောရှုခင်းများပင်ဖြစ်လေသည်။

၁၉၅၀ ခုနှစ်တွင် ကိုလံုးဗီးယားနိုင်ငံ၏လူဦးရေမှာ ခန့်မှန်းခြေအရ ၁၁ သန်းကျော်ဖြစ်၍ ထိုအထဲတွင် ၁၆၀,၀၀၀ ခန့်မှာ တိုင်းရင်းသား အင်ဒီးယန်းလူမျိုးများဖြစ်လေသည်။ လူဦးရေအားလုံး၏ထက်ဝက်ကျော်ကျော်မှာ မျက်နှာဖြူများနှင့် ကပြားများဖြစ်ကြ၏။လူအများဆံုးနေထိုင်သည့်ဒေသများမှာ ရာသီဥတုသာယာ၍ အသီးအနှံမြောက်မြားစွာစိုက်ပျိုးလုပ်ကိုင်သော မက်သားလေးနားနှင့် ကောင်ကာမြစ်ဝှမ်းတို့ပင်ဖြစ်သည်။ ကိုလံုးဗီးယားနိုင်ငံသည် မြေသြဇာထက်သန်ကောင်းမွန်သောကြောင့် လယ်ယာစိုက်ပျိုးရေး လုပ်ငန်းမှာ တိုးတက်လျက်ရှိသည်။ ကာဖီပင်များကို အကြီးအကျယ်စိုက်ပျိုးကြ၏။ အခြား အသီး အနှံများ မှာ စပါး၊ ဆေးပင်၊ ဝါဂွမ်း၊ ကကေးအို၊ ကြံပင်၊ ဂျုံနှင့် ငှက်ပျောစသည်တို့ဖြစ် ကြ၏။ ဆိုး ဆေး ပင် စိုက်ပျိုး ရေး လုပ်ငန်း မှာလည်း စီး ပွား ရေး ဖွံ့ ဖြိုး မှုအတွက် များ စွာအ ရေး ကြီး သော လုပ်ငန်းတရပ်ဖြစ်ပေသည်။

ကိုလံုးဗီးယားနိုင်ငံသည် အဖိုးတန် တွင်းထွက် ရတနာတို့ဖြင့် ကြွယ်ဝလှသော နိုင်ငံတခုဖြစ်၏။ ဗိုဂိုးတားမြို့တော်မြောက်ဖက် ၇၅ မိုင်ကွာဒေသ၌ ရှေးနှစ်ပေါင်း ၄၀၀ ကျော်ခန့်က စတင်လုပ်ကိုင်လာခဲ့သော မြတွင်းများ ရှိ၏။ အခြားသတ္တုများမှာ ရွှေ၊ ငွေ၊ ကြေးနီ၊ ခဲ၊ ပြဒါး၊ ပလက်တီနမ်၊ ကျောက်မီးသွေး၊သံရိုင်း၊ဆားနှင့် ရေနံစသည်တို့ဖြစ်သည်။

အခြား နိုင်ငံများမှ ကိုလံုးဗီးယားနိုင်ငံက ဝယ်ယူသော အရေး ကြီး သည့်ကုန်ပစ္စည်း များ မှာ အထည်အလိပ် များ၊ သတ္တုကုန်ချောများ၊သယ်ယူပို့ဆောင်ရေးယာဉ်များဆိုင်ရာ ကရိယာတန်ဆာပလာများ၊ စားကုန်သောက်ကုန်များ၊ စက်ကရိယာပစ္စည်းများ နှင့် ဓါတ်ပစ္စည်း များ ဖြစ် လေသည်။ အခြားတိုင်းပြည်သို့ တင်ပို့ရောင်း ချသောပစ္စည်း များ မှာ ရွှေ၊ ကာဖီ၊ ရေနံ၊ ငှက် ပျော သီး၊ သား ရေ အ ကြမ်း အချောနှင့်ပလက်တီနမ်တို့ဖြစ်ကြ၏။

ကိုလံုးဗီးယားနိုင်ငံတွင် မိုင် ၄,၀၀၀ ကျော်ရှည်လျားသော မော်တော်ကားလမ်းမကြီးများ အပြင်မီးရထားနှင့် ဝန်လေး တင်ယာဉ် ရထား လမ်း များ ဖေါက် လုပ် ထား သော် လည်း ယခုအချိန်အထိ လွန်စွာနည်းပါးလျက်ရှိသေးသည်။

အခလွတ် မူလတန်း ပညာရေး စံနစ် ကို ၁၈၇၀ ပြည့် နှစ်




ကိုလံဘီယာနိုင်ငံမြို့တော် ဗိုဂိုးတားမြို့၏ ခေတ်မီစံနစ်ကျသောမြင်ကွင်းတရပ်

ကတည်းကပင် ကိုလံဘီယာနိုင်ငံသည် လက်ခံခဲ့လေသည်။ အခလွတ်ပင်ဖြစ်သော်လည်း မသင်မနေရကားမဟုတ်ပေ။ အယူဝါဒရေးတွင် ဗရင်ဂျီဂိုဏ်းကို အစိုးရက အသိအမှတ်ပြုထားလေသည်။

ကိုလံဘီယာနိုင်ငံသည် စပိန်အစိုးရ၏လက်အောက်သို့ နှစ်ပေါင်း ၃၀၀ တိုင်တိုင်ကျရောက်ခဲ့၏။သို့ရာတွင် ၁၈၁၀ ပြည့်နှစ်မှ ၁၈၂၄ ခုနှစ်အထိဖြစ်ပွားသော စပိန်လက်အောက်ခံ တောင်အမေရိကတိုင်းပြည်များ၏တော်လှန်ရေးစစ်ပွဲကြီး ပြီးဆုံးသွားသောအခါ ကိုလံဘီယာသည်လည်း လွတ်လပ်ရေးရခဲ့လေသည်။ ကိုလံဘီယာနိုင်ငံ၏ အုပ်ချုပ်ရေးစံနစ်မှာ သမတအုပ်ချုပ်ရေး စံနစ် ဖြစ်၏။ အထက် လွှတ် တော် အောက်လွှတ်တော်ဟူ၍ ဥပဒေပြုလွှတ် တော်နှစ်ခုရှိရာ၊ အထက်လွှတ်တော်တွင် ၄ နှစ်တကြိမ်ရွေးကောက်တင်မြှောက်ရသော ကိုယ်စားလှယ်အမတ် ၆၃ ဦးပါဝင်၍ အောက်လွှတ်တော်တွင် ၂ နှစ်တကြိမ် ရွေးကောက် တင်မြှောက်ရသော ကိုယ်စားလှယ် ၁၃၁ ဦးပါဝင်လေသည်။မိန်းမများသည် မဲဆန္ဒပေး နိုင် ခွင့်ကိုငင်း၊ တာဝန်ခံအစိုးရ၏ ရာထူးကြီးများတွင် ဝင်ရောက်လုပ်ကိုင်ခွင့်ကို ငင်း၊ မရကြသေး ချေ။ နိုင်ငံတော်သမတကို ပြည်သူတို့က ၄ နှစ်တကြိမ် တိုက်ရိုက်ရွေးကောက်တင်မြှောက်ကြလေသည်။

**ကိုးနက်, အိုင်** (ခရစ် ၁၈၉၇ ဖွား)။ ။ဒုတိယကမ္ဘာစစ်အတွင်းက ထင်ရှားခဲ့သောပုဂ္ဂိုလ်ကြီးများတွင် ရုရှတပ်နီ တော်စစ်သူကြီး အိုင်ဗန်ကိုးနက်လည်းပါဝင်ခဲ့ပေသည်။ကိုးနက် သည် ရုရှ နိုင်ငံ ကိန်းဂျဲမြို့ အနီး လဒီနိုရွာတွင် ၁၈၉၇ ခုနှစ်၌ ဖွားမြင်သည်။အသက် ၁၂ နှစ်အရွယ်အထိ ရွာစာသင်ကျောင်း၌ပညာသင်ကြား ခဲ့ပြီး နောက် သစ်စက်တွင် အလုပ်ဝင်၍လုပ်ခဲ့သည်။ ပဌမကမ္ဘာစစ်အတွင်း ၁၉၁၆ ခုနှစ်က စစ်ထဲသို့ဝင်ရောက်ကာ ထူးချွန်စွာတိုက်ခိုက်ခဲ့၏။ ၁၉၁၅ ခု နှစ်ဦး တွင် ရုရှတော်လှန်ရေးသမား များနှင့် ပူးပေါင်းဆောင်ရွက်ခဲ့လေသည်။

ကိုးနက်သည် သူ၏ဇာတိကျေးရွာတွင် ဆိုဗီယက်အဖွဲ့ကို တည်ထောင် ခဲ့သည်။ ၁၉၁၈ ခု မေလနှင့် ဇွန်လအတွင်း မောစကိုမြို့၌ကျင်းပသော ပြည် ထောင်စု ဆိုဗီယက် ညီလာခံသို့လည်း သူ၏ကျေးရွာအတွက်တက်ရောက်ခဲ့သည်။ ၁၉၁၉ ခုနှစ်တွင် တပ်နီတော်သို့ဝင်၍ ထရန်စ ဗိုက်ကား လီးယားရှိ ရုရှဖြူစစ်တပ်များကိုငင်း၊ ဗလာဒီဗော့စတော့ဖက်မှဝင်လာသော ဂျပန်တို့အားငင်း၊တိုက်ခိုက်ခဲ့သည်။ ၁၉၂၁ ခုနှစ်တွင် ကရုန်းစတတ်မြို့သဘော်သား သူပုန်များ ကိုနှိမ်နင်း ရာ၌ ပါဝင် ခဲ့၏။ ထို နောက် ဖရွန်း ဇေး မြို့စစ် တက္ကသိုလ် သို့ တက်ရောက်၍ စစ်ပညာများသင်ကြားပြီးလျှင် ၁၉၂၂ ခုနှစ်မှစ၍




ကိုလံဘီယာနိုင်ငံ၏ ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သောဗါရန်ကီးယားရှိကမ်းနားဈေး

အရာရှိဗိုလ်အဖြစ် ဖြင့် စစ်မှုထမ်း ခဲ့သည်။ ၁၉၂၅ – ၂၆ ခုနှစ်များတွင် တဖန် မောစကိုမြို့ဦးစီးစစ်တက္ကသိုလ်သို့တက်ရောက်ခဲ့ပြန်သည်။ ထိုနောက် ရက်ဂျီမင့်တပ်ရင်း တတပ်ကို အုပ်ချုပ်ရသည်။ ၁၉၃၇ ခုစက်တင်ဘာလတွင် အမှတ် ၂ အရှေ့ဖျားတပ်မတော်၏ တပ်မှူးဖြစ်လာသည်။သူသည်စစ်



ရုရှစစ်သူကြီး အိုင်ဗန်ကိုးနက်

ဖက်၌ရှုပ်ရှုပ်ချွံချွံအမှုထမ်းသဖြင့် ၁၉၄၀ ခုဇွန်လတွင် ဗိုလ်ချုပ်ကြီးအဆင့်အတန်းသို့ရောက်ရှိလေသည်။

၁၉၄၁ ခုနှစ်တွင် ဂျာမန်တို့က ရုရှကိုဝင်ရောက်တိုက်ခိုက်သောအခါ ကိုးနက်သည် အနောက်ဖက် စစ်မျက်နှာတွင် အမှုထမ်း လျက်ရှိသည်။ ရုရှတို့ မောစကို အထိဆုတ်ခွါ ခံပြီးနောက် အနောက်မြောက်စစ်မျက်နှာမှတပ်များအားလုံးကို ကွပ်ကဲရသည်။သူ၏စစ်ရေးကျင်လျှင်မှုဖြင့် ၁၉၄၃ ခုနှစ်တွင် ဂျာမန်တို့အား ရှေ့သို့မတိုးနိုင်ဘဲ ရပ်တန့်သွားစေခဲ့သည်။ ထို နောက် တဆက် တည်း တိုက် စစ် ညှပ် ၍ဖွင့်ရာ ဂျာမန်တို့အကျအဆုံးများစွာနှင့်ဆုတ်ခွါကြရသည်။ ၁၉၄၄ ခု ဖေဖွာရီလတွင် စစ်သူကြီး အဆင့်အတန်း သို့ခန့်ထားခြင်းခံရ၏။ ထိုနှစ်မှာပင် သူ၏အမှတ် ၂ ယူကရိန်းတပ်မတော်သည် ဂျာမန်တို့အား မူလနေရာ အရောက် ပြန်၍တွန်းလှန်နိုင်ခဲ့သည်။ ၁၉၄၅ ခုနှစ်တွင် အမှတ် ၁ ယူကရိန်း တပ်မတော်သို့ပြောင်းရွှေ့ခဲ့ပြီးလျှင် ပိုလန်နိုင်ငံကို ဂျာမန်တို့လက်မှလွတ်မြောက်စေခဲ့၏။ထိုနောက်များမကြာမီ သူ၏စစ်တပ်ကြီးဖြင့် ဂျာမနီနိုင်ငံတွင်းသို့ အောင်မြင်စွာဝင်ရောက်ခဲ့၏။ သူ၏စွမ်းလွန်း တမံဆောင် ရွက်မှု များ ကြောင့် ထင်ရှားသောဘွဲ့ထူးနှင့် တံဆိပ်များစွာ ရရှိခဲ့ရုံမျှမက၊ ၁၉၄၅ ခုနှစ်တွင် ရုရှ တပ်နီ တော်၌ အထက်တန်း အကျဆုံးဖြစ်သော အောင် တံ ဆိပ် တော် (အော် ဒါ – အော့ – ဗစ်ထရီ) ဖြင့် ချီးမြှင့်ခြင်းခံရလေသည်။ ၁၉၄၆ ခုနှစ်တွင်ကား ဆိုဗီယက်ကြည်းတပ်မတော်တွင် သေနာပတိဖြစ်လာ၏။

**ကိုးရိုး, ဂျေဗီ** (ခရစ် ၁၇၉၆–၁၈၇၅)။ ။ဂျီအင်း ဗာတီးကာမီး ကိုးရိုးသည် ကမ္ဘာကျော်ပြင်သစ်လူမျိုးပန်းချီဆရာကြီး ဖြစ်၍ ရှုမျှော်ခင်းပန်းချီကားများ ရေးဆွဲရာတွင် အထူးကျော်ကြားသည်။ ကိုးရိုး၏ မိဖ များ မှာ ပါရစ် မြို့၌ ဖွင့်ထား သော အပ်ချုပ်ဆိုင်ကြီး တဆိုင်ကိုပိုင်ဆိုင်၍၊ မိခင်ဖြစ်သူ မဒမ် ကိုး ရိုး မှာ ပဉ္စမ နပိုလီယန် ဘုရင်၏ နန်းတွင်း အပ်ချုပ်သည်ကြီး ဖြစ်ရာ ငွေကြေး အတော် အတန် ပြည့်စုံ ကြွယ်ဝလေသည်။



ပြင်သစ်လူမျိုးပန်းချီဆရာကြီး ဂျီအင်း ဗါတီးကာမီး ကိုးရိုး

ကိုးရိုးကို ၁၇၉၆ ခုဇူလိုင်လ ၁၆ ရက်နေ့တွင်ဖွားမြင်သည်။ ကျောင်းမှထွက် သောအခါ မိဖ များက အထည် ကုန် သည် တဦးထံတွင်အပ်နှံပြီးလျှင် အရောင်း အဝယ် အတတ်ကို သင်ယူ စေ သည်။ သို့ ရာ တွင် ပန်း ချီ ဆရာ လောင်း ကိုး ရိုး မှာ အရောင်း အဝယ်၌စိတ် မဝင်စား ဘဲ၊ အသက် ၂၆ နှစ်တွင်



ကမ္ဘာကျော်ပြင်သစ်ပန်းချီဆရာကြီး ကိုးရိုး၏ 'နံနက်ခင်း' အမည်ရှိ ရှုခင်းသာပန်းချီကား

အထည်ကုန် သည်အလုပ် ကိုစွန့်လွှတ် လိုက်ပြီးသော် ပန်းချီပညာဖြင့် အသက်မွေးရန်စိတ်ပိုင်းဖြတ်လိုက်၏။

ထိုနောက် ဗစ်တာ ဗာတင်အမည်ရှိပန်းချီဆရာတဦး ထံတွင် စံတင်ရှေးလက်ရာပန်းချီရေးနည်းကိုလေ့လာသည်။

၁၈၂၅၊ ၁၈၃၅ နှင့် ၁၈၄၃ ခုနှစ်များတွင် ဣတလီနိုင်ငံသို့ သွားရောက်ခဲ့၏။ တတိယအကြိမ် ဣတလီမှအပြန်တွင် ဗဟုသုတကျယ်ဝန်း လာသည်နှင့်အမျှ သူ၏လက်ရာများ သည်လည်း များစွာတိုးတက်ကောင်းမွန်လာလေသည်။ ထိုအခါ ဗာဗီဇုန် ရေးဆွဲနည်းအတိုင်း ရှုမျှော်ခင်း များ ကိုရေးခြယ်သည်။ သို့ရာတွင် အခြားသော ဗာဗီဇုန်ဂိုဏ်းဝင်ပန်းချီဆရာများကဲ့သို့ သဘာဝစစ်စစ်ကိုကြည့်၍မရေးခြယ်ဘဲ၊ ရှုခင်းတခုကိုရေးခြယ်တော့မည်ဆိုလျှင် ထိုရှုခင်းကို ပဌမသေချာစွာလေ့လာပြီးမှ ပန်းချီခန်း ထဲသို့ပြန်ဝင်ပြီးသော်၊ သူ၏စက္ကူအာရုံတွင် ထင်မြင်ကာကျန်ရစ်သလောက်ကိုသာ ရေးခြယ်လေသည်။ ကိုးရိုး သည် အရုဏ်တက်ချိန်နှင့် ညနေဆည်းဆာချိန်တို့တွင် ပန်းချီရေးဆွဲလေ့ရှိသည်။

ပန်းချီကားအရောင်းရဆုံး ပန်းချီဆရာ များထဲတွင် ကိုးရိုးသည်တဦးအပါအဝင်ဖြစ်သော်လည်း အသက် ၆၀ ရောက်မှ ပဌမအကြိမ်သူ၏ ပန်းချီကား ချပ်ကိုရောင်း ရ၏။ ကိုး ရိုးသည် ငယ်ရွယ်စဉ်ကပင် ငွေကြေးအတွက်စိတ်မညစ်ခဲ့ရသောကြောင့်၊ သူ၏ပန်းချီကား များ မှရရှိသောငွေကို ဆင်းရဲနွမ်းပါးသူတို့အားပေးလှူစွန့်ကြဲလေ့ရှိသည်။ ပါရစ်မြို့အနုပညာပြပွဲကြီးသို့လည်း ၁၈၂၇ ခုနှစ်မှစ၍ သူ၏ပန်းချီကားများကို မှန် မှန် တင် ပြ၏။ ၁၈၄၆ ခုနှစ် တွင် 'လီဂျန် – အော့ – အော်နာ' ဘွဲ့တံဆိပ်ဖြင့် ချီးမြှင့်ခြင်းခံရလေသည်။ ကိုးရိုး၏မိတ်ဆွေများကလည်း သူ့ အားဂုဏ်ပြုသည့်အနေနှင့် ၁၈၇၄ ခုနှစ်တွင် ရွှေတံဆိပ်တခုချီးမြှင့်ကြသည်။

ကိုးရိုးသည် သူ့ အားလူချစ်လူခင်များသလောက် တဖက်သားကိုသနားကြင်နာတတ်၏။ ဝါကြွားမှုလည်းကင်း၏။ သူ့ကိုလူငယ်လူလတ်များက 'ဘကြီးကိုးရိုး' ဟု ချစ်ခင်စွာခေါ်ကြသည်။ ကိုးရိုးသည် ၁၈၇၅ ခုဖေဖွာရီလ ၂၂ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ကိုးလဗား, ဂျေဗီ** (ခရစ် ၁၆၁၉–၁၆၈၃)။ ။ပြင်သစ်နိုင်ငံ သုခမိန်ကြီး ဂျီအင်းဗာတီး ကိုးလဗားသည် ကုန်သည် မျိုး ရိုး မှ ဆင်းသက် သူဖြစ် ၍ ၁၆၁၉ ခု နှစ် တွင်

ရိမ်းမြို့၌ဖွားမြင်သည်။ ပြင်သစ်စစ်ဝန်ကြီးတဦးနှင့် ဆွေမျိုးတော်စပ် သည့်အပြင် သူ၏ထက် မြက် သော ဉာဏ်ပညာအမြော်အမြင်တို့ကြောင့် အသက် ၂၀ အရွယ်တွင် စစ်ဝန်ကြီး၏ အတွင်းရေးအတွင်းဝန်ဖြစ်လာသည်။ ၁၂ နှစ်ခန့်ကြာသောအခါ၊ ဘုရင်၏ အားကိုး တဆူဖြစ် သော ကာဒင်နယ်ဂိုဏ်းချုပ်မာဇာရင်ကွယ်လွန်ခါနီးတွင် ကိုးလဗားသည်သူကဲ့သို့ပင် စွမ်းလွန်းတမံဆောင်ရွက်နိုင်သူဖြစ်ကြောင်း ထောက်ခံချက်ပေးခဲ့ သော ကြောင့် ၁၄ ဆက် မြောက်လူဝီဘုရင်ထံတွင် အမှုတော်ထမ်းခဲ့ရလေသည်။

ဤသို့ ဘုရင့် အမှုတော်ကို ဝင်ရောက် ထမ်း ရွက် ရသောအချိန်ကား ပြင်သစ်နိုင်ငံ၏စီးပွားရေးပျက်ပြားချိန်၊ နိုင်ငံရေးဆူပူလှုပ်ရှားချိန်ဖြစ်သဖြင့် တပ်ပျက်တွင်ဗိုလ်လုပ်ရသည်နှင့်တူလှ၏။ နိုင်ငံတော်၏ဘဏ္ဍာရေးတွင် ထွက်ငွေသည် ဝင်ငွေထက် အဆမတန် များ နေခြင်း ကြောင့် အခက် တွေ့လျက်ရှိသောလူဝီဘုရင်သည် ကိုးလဗားအား ဘဏ္ဍာရေးဌာနကို ကြီးကိုင်စေသည်။ ယင်းသို့ဘုရင်ကလွှဲအပ်ခြင်း ခံရသည် နှင့် တပြိုင်နက် ကိုးလဗားသည် နိုင်ငံတော်၏ဘဏ္ဍာရေးတွင် ချွတ်ယွင်းချက်နှင့်ထွက်ပေါက်များကို စိစစ်ရှာဖွေကာ ပြုပြင်လေတော့သည်။

နိုင်ငံ၏ဘဏ္ဍာတော်ကို အလွဲသုံးစားပြုနေကြသောအရာရှိကြီးငယ်တို့အား ဖမ်းဆီးပြီးလျှင်၊ထိုသို့သောသူများကို စစ်ဆေးရန်ဖွဲ့စည်းထားသောခုံရုံး၌ တရားစွဲဆို၍ ပြစ်မှုထင်ရှားလျှင် နှိပ် ကွပ် လေ သည်။ ပြစ်မှု ကြီးလွန်း သူတို့ကို ကားသေဒဏ် အထိပင် စီရင် လိုက် ၏။ ဤကဲ့သို့ထွက် ပေါက် များကိုထိရောက်စွာပိတ်ဆို့လိုက် ပြီးနောက်ဘဏ္ဍာတော်တိုးတက်လာစေရန် လမ်းစကိုရှာသည်။ ရှေးဦးစွာတွေ့ရှိသောလမ်းစကား နိုင်ငံတော်အတွင်း စက်မှု လက်မှု လုပ် ငန်း များ ကို ထိရောက်စွာအားပေး လုပ်ကိုင်စေခြင်း ပင်ဖြစ်၏။ထုတ်ကုန်လုပ်ငန်း တွင်လည်း ရှေးကထက် ကောင်းမွန်၍ အသုံးဝင်သောကုန် ပစ္စည်း များ ကိုသာပြုလုပ် စေ၏။ ဤသို့ပြုလုပ်ရာတွင် အစိုးရကလည်း ငွေပင်ငွေရင်းထုတ်၍ စံပြစက်ရုံကြီးများ ကို ဆောက်လုပ် ပေး လေသည်။ ကိုးလဗား ၏ ဆောင်ရွက်ချက် များ ကြောင့် တနှစ် အတွင်း ၌ပင် ပြင်သစ် နိုင်ငံ ၏ ဝင် ငွေ သည် ထွက် ငွေ ထက် ပိုလျှံ လာ ပြီး လျှင် စီး ပွားရေးအခြေအနေ သိသိသာသာကောင်းမွန်လာ၏။

ကိုးလဗားသည် စီးပွားရေးတွင် ပါရဂူကြီးတယောက်ဖြစ်သည် သာမက၊ ရေကြောင်း ပညာ တွင်လည်း သူမတူအောင် ထူးချွန်သူတဦး ဖြစ်သည်။ ပြင်သစ် ရေတပ် ကြီးကိုခိုင်ခံ့စွာတည်ဆောက်ခဲ့၏။ ရေကြောင်းဆိပ်ကမ်းမြို့များကို ပြုပြင်ခဲ့၏။ ပြည်တွင်းကူးသန်းသွားလာရေးလွယ်ကူစေရန်အတွက် တူးမြောင်းများ လည်း ဖေါက်လုပ်ခဲ့သည်။ ထိုကြောင့်ပင် ၁၆၆၉ ခုနှစ်၌ ပြင်သစ်ရေကြောင်းဌာနဝန်ကြီးဖြစ်လာခဲ့သည်။

ကိုးလဗားသည် နိုင်ငံတော်သားတို့အား စာပေနှင့်သုခုမပညာရပ်များ အပြင် သိပ္ပံပညာရပ်များ ကိုလိုက်စား ကြရန်အားပေးခဲ့၍၊ သိပ္ပံပညာတံခွန်အသင်းကြီးကို တည်ထောင်ပေးခဲ့သည်။ နိုင်ငံ ခြားသား သုခုမပညာသည်များကို ပြင်သစ်နိုင်ငံသို့ပင့်ဖိတ်ပြီးလျှင် ပြင်သစ်တို့အား သင်ကြားပေးစေသည်။ သူ့လက်ထက်မှစ၍ ပညာရှိကဝိအမော်များကို ရိက္ခာ တော် များ ထောက်ပံ့ခဲ့၏။ နိုင်ငံတော်၏ဘဏ္ဍာရေး၊ ပညာရေးတို့တွင်သာမက၊ တရားဌာနတွင် ပြုပြင်ရန်လိုအပ်သမျှကိုလည်း အချိန်ယူကာပြုပြင်ခဲ့လေသည်။

ဤသို့ပြင်သစ် နိုင်ငံကို ကျေး ဇူး အထူး ပြုခဲ့သော နိုင်ငံပြုသုခမိန်ကြီး ကိုးလဗား သည် ၁၆၈၃ ခုနှစ် တွင် ကွယ် လွန်လေသည်။ သူ၏ဆောင်ရွက်ချက်များကြောင့် ပြင်သစ်နိုင်ငံသည် ဘဏ္ဍာရေး အကျပ်အတည်း မှလွတ်မြောက်ခဲ့ရုံမျှမက တိုးတက် ကောင်းမွန်လာသော အခြေအနေသို့ပင် ရောက်ခဲ့၏။ သို့ရာတွင် ဘုရင်၏အသုံးအဖြုန်းများကိုကား ပိတ်ပင်တားဆီးခြင်းငှာမတတ်နိုင်ခဲ့ချေ။ နိုင်ငံတော်၏ ထွက်ငွေနှင့်ဝင်ငွေကိုမျှတစေရန် အခွန်အကောက်များကိုသာ တိုးမြှင့်၍ကောက်ခံရန် စီမံခဲ့ရခြင်း ကြောင့် ပြည်သူပြည်သား တို့၏မလိုမုန်းထားခြင်းကိုခံခဲ့ရသော်လည်း၊ ပြင်သစ်လူထုအတွက် ကျေးဇူးဆပ်၍ မကုန်နိုင် အောင် ရွက်ဆောင် ပေး ခဲ့သူတယောက်ဖြစ်သည်ကိုကား မည်သူမျှမငြင်းကွယ်နိုင်ချေ။

**ကိုးလားရစ်, အက်(စ)၊တီ** (ခရစ် ၁၇၇၂–၁၈၃၄)။ ဆမ်မျူယယ်တေလာကိုးလားရစ်သည် အင်္ဂလန်ပြည်ဒက်ဗွန်ရှိုင်ယာနယ်ရှိ အော့တာရီစိန်မေရီရွာကလေး၌ ၁၇၇၂ ခု အောက်တိုဘာလ ၂၁ ရက်နေ့တွင် ဖွားမြင်သည်။အတန်ငယ်ဆင်းရဲနွမ်းပါးသောသင်းအုပ်ငယ်တဦး၏ ၁၀ ယောက်မြောက်သားဖြစ်လေသည်။

ကိုးလားရစ် သည် ကျောင်း သား အရွယ် ငယ်စဉ်ကပင်တွေး တော စိတ် ကူး နေတတ် သူဖြစ်သည်။ လယ် ပြင်ထဲ၌ လျှောက်သွားယင်း ပေါင်းပင်များကို တုတ်ဖြင့်ပုတ်ခတ်ရိုက်နှက်သွား ရသည်ကိုပင် လူစွမ်းကောင်း စိန်ဂျော့ကဲ့သို့ နဂါးကြီးကိုသန်လျက်ဖြင့်ခုတ်ပိုင်းနေရသည်ဟုထင်တတ်၏။

ပညာဉာဏ်ထက်မြက်သူဖြစ်သည့်အလျောက် ၅ နှစ်သားအရွယ်ကပင် သမ္မာကျမ်းစာကိုရင်း၊ ‘ရော်ဗင်ဆန်ကရူးဆိုး’ နှင့် ‘ပသီပုံပြင်’ ဝတ္ထုများကိုရင်း၊ဖတ်ပြီးဖြစ်လေသည်။

၉ နှစ်သား အရွယ်တွင် ကိုးလားရစ်၏ဖခင် ကွယ်လွန်သဖြင့် သူ့အား လန်ဒန်မြို့ရှိ ခရိုက်စဟော့စပီတယ်ကျောင်း

သို့ ပညာသင်ကြားရန်ပို့လိုက်သည်။ ကိုးလားရစ်သည် ရသမျှစာအုပ်များကို ဖတ်ရှုလေ့လာရုံမျှမက ဖတ်ခဲ့သောအကြောင်းအရာများကို စိတ်ကူးတွေးတောကာနေလေ့ရှိ၏။ ထိုကျောင်းတွင် သူသည် နောင်အခါ၌စကားပြေအရေးအသားအလွန်ကောင်းသော စာရေးဆရာကြီးတယောက်ဖြစ်လာမည့် ချားလမ်းဗနှင့် မိတ်ဆွေဖြစ်ခဲ့သည်။ နောက် ဂနှစ်ခန့်ကြာသောအခါကိုးလားရစ်သည်ကိမ်းဗရစ်တက္ကသိုလ်တွင် ပညာဆက်လက်သင်ကြားပြန်သည်။ ခရိုက်စဟော့စပီတယ်ကျောင်းတွင်၎င်း၊ ကိမ်းဗရစ်တက္ကသိုလ်တွင်၎င်း၊ အတော်ဉာဏ်ထက်မြက်သောကျောင်းသားတယောက်ဖြစ်ခဲ့သည်။ သို့သော် အကြွေးပူသောကြောင့် တက္ကသိုလ်ကျောင်းမှထွက်ပြေးပြီးနောက် နာမည်ပြောင်း၍ စစ်တပ်တွင် ဝင်ရောက်အမှုထမ်းခဲ့သည်။

မကြာမီပင် ကိုးလားရစ်၏အစ်ကိုသည် သူ့အားစစ်တပ်မှရွေးနုတ်၍ ကိမ်းဗရစ်တက္ကသိုလ်သို့ပြန်ပို့သည်။ သို့သော် တက္ကသိုလ်ကျောင်းမှ ဘွဲ့တစုံတခုမျှမရခဲ့ချေ။



အင်္ဂလိပ်ကဗျာဆရာကြီး ဆမ်မျူယယ် တေလာ ကိုးလားရစ်

ကိုးလားရစ်သည် ပြင်သစ်တော်လှန်ရေး၏ အခြေခံသဘောတရားများကို အားတက်သရောထောက်ခံသူဖြစ်သည့်အလျောက်၊ ကဗျာဆရာ ရောဗတ်ဆောက်သေး နှင့်အတူ အမေရိကတိုက်သို့သွား၍ လူတန်းစား ခွဲခြားခြင်း မရှိသောနယ်သစ်တခုတည် ထောင်ရန်ကြံစည်ခဲ့သည်။ သို့သော် ငွေကြေးချို့တဲ့မှုကြောင့် ထိုအကြံကို စွန့်လွှတ်ခဲ့ရ၏။ ၁၇၉၅ ခုနှစ်တွင်ကိုးလားရစ်သည် ဆယ်ယာဖရစ်ကာနှင့် ထိမ်းမြားလက်ထပ်ခဲ့သည်။ ရောဗတ်ဆောက်သေးသည် သူနှင့်မယားညီအကိုဖြစ်လေသည်။

ထိုနောက် ကိုးလားရစ်သည် နိုင်ငံရေးနှင့် အယူဝါဒရေးများကိုဟောပြောကာ ကဗျာများ စပ်ဆိုရေးသားယင်း အင်္ဂလန်ပြည်အနောက်ပိုင်းရှိ ဗရစ္စတိုမြို့တွင်နေထိုင်ခဲ့သည်။ ထိုအရပ်တွင် နေစဉ်က ဝပ်ဇဝပ်မောင်နှမတို့ နေထိုင်သောဒေါ်ဆက်ရှိုင်ယာတောင်ကုန်းများရှိ ရေ့စဒေါင်းအရပ်သို့သွားရောက်လည်ပတ်ခဲ့ရာတွင် သူတို့နှင့်မိတ်ကျွမ်းဝင်ခဲ့၏။

ဝီလျံဝပ်ဇဝပ် သည် ကမ္ဘာကျော်ကဗျာဆရာကြီး တဦးဖြစ်သည်။ ဝပ်ဇဝပ် နှင့်ကိုးလားရစ်တို့ ၂ ဦး ပေါင်းစပ်၍ 'လစ်ရစ်ကယ်ဗဲလက်' ခေါ် ကဗျာ့ပဒေသာ စာစောင်ကို ၁၇၉၈ ခုနှစ်တွင်ရေးသားထုတ်ဝေခဲ့ကြ၏။ ထိုစာစောင်တွင် ကိုးလားရစ်ရေးသားသော 'ရှေးသင်္ဘောသား' ကဗျာသည် ထိပ်တန်းကဗျာဆန်းတပုဒ်ဖြစ်ပေသည်။ 'ကူဗလိုင်ခန်' နှင့် 'ခရစ္စတာဗဲ' တို့မှာလည်း ကိုးလားရစ်၏လက်စွမ်းကိုသိသာနိုင်သော ကဗျာကောင်းများဖြစ်ကြသည်။

ထိုနောက် ကိုးလားရစ်သည် ယထာဘူတပညာရပ်တွင်စိတ်ဝင်စားသဖြင့် ဂျာမနီနိုင်ငံသို့ တနှစ်နီးပါး သွားရောက်ကာ ထိုပညာရပ်ကိုလေ့လာသည်။ လန်ဒန်မြို့သို့ တဖန်ပြန်ရောက်လာသောအခါ သတင်းစာများ၌ ဆောင်းပါးများနှင့် ကဗျာအချို့ကိုရေးသားခဲ့၏။ ၁၈၀၀ ပြည့်နှစ်တွင်အင်္ဂလန်ပြည်မြောက်ပိုင်း အိုင်ဒေသသို့ပြောင်းရွှေ့နေထိုင်သည်။ ကိုးလားရစ်၊ ဝပ်ဇဝပ်နှင့် ဆောက်သေးတို့သည် ထိုအိုင်ဒေသတွင် နေထိုင်ကြသဖြင့် သူတို့ကို 'အိုင်ကဗျာဆရာများ' ဟု ခေါ်စမှတ်ပြုကြသည်။

ထိုအချိန်လောက်တွင် ကိုးလားရစ်သည် အကြောကိုက်ရောဂါကြောင့် အကိုက်အခဲမှသက်သာရာရစေရန် ဘိန်းကိုအသုံးပြုမိလေရာ နောက်ဆုံး၌ဘိန်းစွဲသွားလေသည်။ ထိုကြောင့် ကိုးလားရစ်သည် ဉာဏ်စွမ်းဉာဏ်စတုံးသွား၍ သူရေးသားသောစာများမှာလည်း အပိုင်းအစများသာဖြစ်နေလေတော့သည်။ ထို့ပြင်ကိုးလားရစ်သည် အတော်ပင်နွမ်းပါးသွားသဖြင့် မိတ်ဆွေများကငွေကြေးထောက်ပံ့ခဲ့ကြရ၏။ ချားလမ်းဗသည် ကိုးလားရစ်၏အရင်းနှီးဆုံးမိတ်ဆွေဖြစ်လေသည်။ ထိုသို့သူ၏မိတ်ဆွေများကထောက်ပံ့ကြသောကြောင့်သာသက်ဆိုးရှည်ခဲ့သည်။

ကိုးလားရစ်သည် အိုမင်းမစွမ်းသည်အထိ စကားပြောကောင်းသူဖြစ်သဖြင့် ထင်ရှားသောပုဂ္ဂိုလ်အများပင် သူ့ထံသို့လာရောက်နာယူကြသည်။

ကမ္ဘာကျော်ကဗျာဆရာကြီး ဝပ်ဇဝပ်က 'ကျွန်ုပ်တွေ့ဘူးသမျှသူထဲတွင် ကိုးလားရစ်သည် အံ့ဖွယ်သရဲပုဂ္ဂိုလ်ထူးဖြစ်ပါပေသည်' ဟု ချီးကျူးခဲ့ဘူး၏။

စကော့လူမျိုးစာရေးဆရာကြီး ကာလိုင်းကလည်း ‘ဤသူကား လူတို့၏ ဘုရင် ပေ တည်း’ ဟု မိန့်မြွက်ခဲ့ ဘူး ၏။ ချားလမ်းဗကမူ ‘သူသည်အနည်းငယ် ပျက်စီး ယိုယွင်း နေ သော ကောင်းကင်တမန်မင်း’ ဟု ကိုးလားရစ်ကိုရည်ညွှန်း၍ပြောခဲ့ဘူးလေသည်။

လူအများကပင် ကိုးလားရစ်ကို ကဗျာဆရာကြီးဟုအသိအမှတ် ပြုကြ သော်လည်း၊ စင်စစ်အားဖြင့် သူသည် ကဗျာထက်စကားပြေကို ပိုမိုရေးသားခဲ့လေသည်။အနိစ္စမရောက်မီ ၁၈ နှစ် အတွင်း ရေး သား ခဲ့သောစာအုပ်များ အနက် ကဗျာ လင်္ကာ သရုပ် သဘာဝ နှင့် ဝေ ဖန် မှု အခြေခံ များကို ဖေါ်ပြ သော ‘ဗိုင် အို ဂရပ် ဖီးယား လစ် တာ ရေး ရီး ယား’ (၁၈၁၇) စာအုပ်မှာ အထူးပင်ထင်ရှားလေသည်။ ‘ရိုတ်စပီးယားအကြောင်း ဟောပြောချက်များ’ စာအုပ်ကို ကိုးလားရစ်ကွယ်လွန်ပြီးနောက် ၁၈၄၉ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေခဲ့သည်။ ၁၈၂၅ ခုနှစ် တွင်သူသည် ယထာဘူတပညာရပ်အကြောင်းစာအုပ်တအုပ်ကို ရေးသားထုတ်ဝေခဲ့၏။

ဆမ်မျူယယ်ကိုးလားရစ်သည် နောက်ဆုံး ဟိုင်းဂိတ်အရပ်တွင် မိတ်ဆွေဆရာဝန်တဦး၏ အိမ်၌ နေထိုင်လျက်ရှိစဉ် ၁၈၃၄ ခုဇူလိုင်လ ၂၅ ရက်နေ့တွင် အနိစ္စရောက်လေသည်။

**ကက်စတာနှင့် ပေါလပ်။**

ကက်စတာ နှင့် ပေါလပ်တို့သည် ဂရိနှင့် ရောမ ထုံး ဟောင်းပုံပြင်လာ ဇုနတ်မင်းကြီး ၏ အမြွှာညီနောင် သား များဖြစ်ကြ၍ ဟယ်လင်မင်းသမီးမှာသူတို့၏ နှမဟုဆိုကြသည်။ အချို့ အချို့ သော ကျမ်း များ တွင် ဇု နတ် မင်းကြီးနှင့် စပါးတားပြည်ဘုရင် တင်ဒေး ရီး ယပ် ၏ မိဖုရား လီဒါ တို့၏ သား များ ဟူ၍ ၎င်း၊ တင်ဒေး ရီး ယပ် ဘုရင်နှင့် လီဒါ မိဖု ရား တို့၏ သား တော် များ ဟူ ၍ ၎င်း၊ ကက်စတာ မှာ တင် ဒေး ရီး ယပ် ဘုရင်၏ သားဖြစ် ၍ ပေါလပ်မှာဇုနတ်မင်းကြီး၏သားဖြစ်သည် ဟူ၍ ၎င်း၊ မူအမျိုးမျိုးကွဲလျက်ရှိ လေ သည်။ ထို အမြွှာ ညီနောင် တို့ သည် တဦးလျှင် အတတ် တမျိုးစီ ကျွမ်းကျင်ကြသည်။ ပေါလပ်သည် လက်ဝှေ့ကျော်ဖြစ်၍၊ကက်စတာမှာ မြင်းများကိုယဉ်အောင်သင်နိုင်ခြင်း၌ကျော်ကြား၏။ထိုနတ် ၂ ပါးသည် ပင်လယ်ခရီးသွားများကို အထူးဂရုစိုက်၍ စောင့် ရှောက် ၏။ ကစား ခုန်စား ပွဲများ တွင် လည်း နာယကအဖြစ်စောင့်ရှောက်၏။ ထို့ကြောင့် သင်္ဘောများ လေမုန်တိုင်းမိလျှင် ထိုအမြွှာညီနောင်ကိုပသ၍ အကူအညီ တောင်း လေ့ရှိကြသည်။ ထိုအမြွှာညီနောင်တို့ အနိစ္စရောက်သောအခါ ကောင်းကင်၌ ဂျင်မိနိုင်နက္ခတ်အဖြစ် ဇုနတ်မင်းကြီးကနေရာပေးသည်ဟုဆို၏။



ဂရိနှင့်ရောမထုံးဟောင်းပုံပြင်မှ ကက်စတာနှင့်ပေါလပ်

ထိုအမြွှာနတ်ညီနောင်ကို ဒိုရီယန်ယူမျိုးတို့က အထူးယုံကြည်ကိုးကွယ်ကြ၏။ ရှေးကျသောရောမလူမျိုးတို့ကလည်း ကိုးကွယ်ကြသည်။ ရောမတို့၏အယူမှာ ရီဂျီးလပ်ရေအိုင်တိုက် ပွဲ ကို မြင့် မြတ် သော အမြွှာညီ နောင် ၏ မ စ ခြင်းကြောင့် အောင်မြင်သည်ဟုယူဆကြ၏။ ပေါလပ်နှင့်ကက်စတာတို့၏ အရေးအကြီးဆုံးသော စွန့်စား မှုများ အနက်၊ တခုမှာ နှမတော်ဟယ်လင်မင်းသမီးကို သီးဇူး၏လက်မှကယ်တင်ရန် အက်သင်ပြည်သားတို့ကိုတိုက်ခိုက်ခြင်းပင်ဖြစ်၏။ နောက်စွန့်စားမှုများမှာ အာဂိုနောက်သူရဲကောင်းများနှင့်အတူ ရွှေသိုးမွေးရှာဖွေသွားလာခြင်းနှင့် ကယ်လီဒိုးနီးယန်းတောဝက်ကြီးကို လိုက်လံဖမ်းဆီးခြင်းပင်ဖြစ်၏။ သူတို့၏ တတိယစွန့်စားမှုကား နွားများ အတွက် စကား အချင်းများကာ အက်ဖရူး၏ သားများနှင့် စစ်တိုက်ခြင်းပင်ဖြစ်လေသည်။

**ကက်စပျန်ပင် လယ်။**

ကက်စပျန် ပင် လယ် သည် ကမ္ဘာတွင် အကြီး ဆုံး ကုန်းတွင်း ပင် လယ် နှင့် အကျယ်ဆုံးရေအိုင်ကြီးဖြစ်သည်။ ဥရောပနှင့်အာရှတိုက်တို့ နယ်နိမိတ်ချင်း ဆုံရာ၌ တည် ရှိ၍၊ အ ကျ ယ် အ ဝ န်း အား ဖြင့် စတုရန်းမိုင်ပေါင်း ၁၆၈,၇၉၀ မျှ ရှိ သည် ။ မြောက် အမေရိကတိုက် ရှိ ဆူပီးရီးယား အိုင်ကြီး ထ က် ၅ ဆ ကြီး ၏ ။ တောင်မှမြောက်သို့မိုင် ၇၆၀ ရှည်၍ အရှေ့မှအနောက် သို့ မိုင် ၁၂၀ မှမိုင် ၃၀၀ အထိ ကျယ်လေ သည်။ မြေထဲပင်

လယ်၏ရေမျက်နှာပြင်အောက် ၇၅ ပေမျှနိမ့်၏။ တောင်ဖက်တွင် အီရန်နိုင်ငံရှိ၍အရှေ့ အနောက်နှင့်မြောက် ၃ ဖက်လုံး တွင် ကား ဆိုဗီယက် ရုရှနိုင်ငံ ပိုင် နယ်ပယ်များက ဝိုင်းရံလေသည်။ထိုပင်လယ်၏ရေရောင်သည်ဝါကြန့်၍ အရသာမှာခါး၏။ သို့ရာတွင် ပင်လယ်ရေလောက်မငန်ချေ။

ကက်စပျန်ပင်လယ်သည် ရှေးအခါက ပင်လယ်နက်၊ အေရယ်ပင်လယ်တို့နှင့် တဆက်တည်းဖြစ်သည့်ပြင်၊မြောက်ဖက်အာတိတ်သမုဒ္ဒရာသို့တိုင်အောင် ရေပြင်ကြီး ဖြစ်ခဲ့သည်ဟု ပထဝီဆရာတို့က ယူဆကြသည်။ တောင်ဖက်ပိုင်း တွင် ပေပေါင်း ၃,၂၀၀ ခန့် အထိ နက်ရှိုင်း သော် လည်း မြောက် ဖက်တွင်မူ ရေအလွန်တိမ်၍ သောင်ပြင်များထွန်းနေသည်။ဗော်လဂါမြစ်၊ ယူရယ်မြစ်၊ တေးရက်မြစ်နှင့် ကူးမြစ်တို့သည် ထိုပင်လယ်ထဲသို့စီးဝင်ကြကုန်သည်။

ထိုပင်လယ်ထဲတွင် ရေချိုရေငန်ငါး အမျိုး မျိုး ရရှိရာ၊ တံငါလုပ်ငန်းကို အကြီးအကျယ်လုပ်ကိုင်ကြ၏။ထိုမျှမကသေး၊ ဗါးကူးမြို့အနီးတွင် ရေနံရရှိ၍၊ကက်စပျန်ပင်လယ်သည် ရေနံနှင့် ငါးဥ ဆားနယ် လုပ်ငန်း တို့ ကြောင့် ကမ္ဘာ့ ရောင်း ဝယ် ဖေါက်ကားမှုတွင် အရေးပါလေသည်။ ဗော်လဂါမြစ်တွင်တူးမြောင်းများဖေါက်သွယ်ထားသဖြင့် အနောက်ဖက်တွင် ပင်လယ်နက်သို့ရင်း၊ မြောက် ဖက် တွင် ဗေါလတစ် ပင်လယ်နှင့် ပင်လယ်ဖြူတို့သို့ ရင်း၊ လွယ်ကူစွာ ပေါက် ရောက် နိုင်သည်။ ကက်စပျန်ပင်လယ် သင်္ဘောဆိပ်မြို့ကြီးများမှာဗါးကူး၊ ဒယ်ဗင့်၊ အက်စထရာကန်နှင့် ကရက်စနိုဗေါ့မြို့များဖြစ်ကြ၏။



သြစတြေးလီးယားတိုက်နှင့်အနီးတဝိုက်ရှိ ကက်ဆွေရီငှက်

**ကက်ဆွေရီငှက်။** ။ငှက် ကု လား အုပ်၊ ငှက် ကု လား အုပ်ပုတို့နှင့် မျိုးတူဖြစ်သော ကက်ဆွေရီငှက်များကို သြစတြေးလီးယားတိုက်၊ နယူးဂင်းနီကျွန်း နှင့် ပတ်ဝန်း ကျင်ရှိကျွန်းများတွင်တွေ့ရသည်။ ပုံပန်းသဏ္ဍာန်မှာ ငှက်ကုလားအုပ်များနှင့်တူသော်လည်း အရွယ်အားဖြင့် ငှက်ကုလားအုပ်များထက်ငယ်ပေသည်။ ရုတ်တရက်ကြည့်သော် ထိုငှက်များတွင် အမြီး၊အတောင်နှင့် အမွေးများမရှိဟုထင်ရ၏။စင်စစ်အားဖြင့် အမွေးများဖုံးအုပ်သောအမြီးတိုရှိသည်။ ခြေထောက်များမှာတိုတုတ်ပြီးလျှင် အလွန်သန်မာသည်။ပြေးရာ၌လည်း အလွန်လျင်မြန်သည်။ ကန်ကျောက် ခြင်း ဖြင့်လည်း ရန်သူများကိုခုခံတိုက်ခိုက်နိုင်၏။ သို့ရာတွင် ကက်ဆွေရီငှက်များသည် ပျံသန်းနိုင်သောငှက်များ မဟုတ်ချေ။ အပြေးကိုအားကိုးကြသည်။အခြားမျိုးတူငှက်များနှင့်မတူ၊ ထူးခြားသောအချက်မှာ ကက်ဆွေရီငှက်၏ဦးခေါင်းပင်ဖြစ်သည်။ ဦးခေါင်းမှာ အမွေး အတောင်များမရှိဘဲ ပြောင်နေသည်။ အရိုးသာ ဖြစ် သော အမောက် ကို ဦးခေါင်း ထက် ၌ ထင်ရှားစွာတွေ့ရသည်။

ကက်ဆွေရီငှက် သုံး လေး မျိုးရှိ ၍ အားလုံးပင်တောထဲ၌ ကျက်စားကြသည်။ ထိုငှက်တို့၏အစာမှာ သစ်သီး၊သစ်ဥ၊ သစ်ဖုနှင့် ပိုးကောင်များ ဖြစ် သည်။ အားလုံး သော ကက်ဆွေရီငှက်များတွင် အမွေးအတောင်များမှာ ထူထဲခြင်းမရှိဘဲ ပေါက်စအခြေအနေမျိုး၌သာရှိသည်။

**ကက်တလစ်။** ။ကက်တလစ် (ဓါတ်ကူ) ဆို သည် မှာ ကိုယ်တိုင်ပြောင်းလဲခြင်းမရှိဘဲ၊ ဓါတ်ပြောင်းမှုကိုထက်သန်စေသော သို့မဟုတ်တားဆီးပေးသော ပစ္စည်းဖြစ်သည်။သင့်တော်သောအခြေအနေတွင် ပစ္စည်းတိုင်းလိုပင် ကက်တလစ်ဖြစ်နိုင်သည်။ စက်မှုလက်မှု လုပ်ငန်းများ တွင် သတ္တုများသည် အလွန်အရေးကြီးသော ကက်တလစ်များဖြစ်သည်။ အစာချေမှုအဖွဲ့တွင် အစာချေချက်ရာ၌ပါဝင်သော အင်ဇိုင်းများသည် ကိုယ်ခန္ဓာအတွင်း၌ရှိသော ကက်တလစ်များဖြစ်သည်။အများအားဖြင့် ဓါတ်ပြောင်းမှုတို့သည် ကက်တလစ်ရှိမှဖြစ်နိုင်ပေသည်။

လက်တွေ့စမ်းခန်းတွင် ပိုတက်ဆီယမ်ကလိုရိတ်ကို အပူတိုက်ပေး၍ အောက်ဆီဂျင်ဖေါ် ယူရာ၌၊ မန်ဂနီဒိုင်အောက်ဆိုက်အနည်းငယ်ရောပေးလျှင် အောက်ဆီဂျင်ကိုလျင်မြန်စွာရနိုင် သည့် အပြင် အပူ ပြင်းထန်စွာတိုက်ပေး ရန်လည်း မလိုချေ။ ရောင်းဝယ်ရာ၌ ဟိုက်ဒရိုဂျင်ပါအောက်ဆိုက်တွင် အက်ဆက်တန်နီလိုက် အနည်းငယ်ရောပေးလေ့ရှိကြသည်။ ထိုသို့ရောပေးရသောအကြောင်းမှာ ဟိုက်ဒရိုဂျင်ပါအောက်ဆိုက်ကို အလွယ်တကူပြိုပျက်မသွားစေရန်ဖြစ်သည်။ ဤသို့ဓါတ်ပြောင်းမှုကိုမဖြစ် ပွား ရအောင် တားဆီး ပေးသည့် ကက်တလစ်ကို နက်ဂတစ်ကက်တလစ်ဟုခေါ် သည်။ အင်္ဂတေခင်းရာ၌လည်း ဂျစ်ပဆမ်ကို နက်ဂတစ်အဖြစ်ဖြင့်အသုံးပြုကြသည်။ အင်္ဂတေသည် အလွန်အခြောက်မြန်၍ ကွဲအက်

သွားတတ်သဖြင့်၊ ဂျစ်ပဆမ်သည် အင်္ဂတေကိုအခြောက်နေ့အောင်ပြုလုပ်၍ ကွဲအက်မသွားအောင်ကာကွယ်ပေးသည်။

အလွန်ညက်သော နစ်ကယ် အမှုန့်ကို ကက်တလစ် အဖြစ်ဖြင့်အသုံးပြု၍ ဆီကို ဟိုက်ဒရိုဂျင်နှင့်ပေါင်းစပ်ယူသောအခါ ဟင်းချက်ရာ၌သုံးသည့် အဆီခဲကိုရသည်။ နိုက်ထရိုဂျင်နှင့် ဟိုက်ဒရိုဂျင်ကို တိုက်ရိုက်ပေါင်းစပ်စေပြီးလျှင် အမ်မိုးနီးယားပြုလုပ် သောလုပ်ငန်း တွင် သံနှင့်မိုလစ်ဒီနမ် ဒြပ်ရောကို ကက်တလစ်အဖြစ်ဖြင့်အသုံးပြုသည်။ဤနည်းဖြင့် အမ်မိုးနီးယားရသောအခါ၊ ပလက်တီနမ်ကို ကက်တလစ်အဖြစ်သုံး၍ အောက်ဆီဂျင်နှင့် ပေါင်းစပ်စေပြီး သော် နိုက်ထရစ် အက်ဆစ်ပြုလုပ်သည်။ ဇင့်အောက်ဆိုက်ကို ကက်တလစ်အဖြစ်အသုံးပြုလျက် မက်သဲအယ်လကိုဟောကို ကာဗွန်မွန်အောက်ဆိုက်နှင့် ဟိုက်ဒရိုဂျင်တို့မှ ဓါတ်ပေါင်းစပ်ယူနိုင်သည်။ဤနည်း မှာ မက်သဲအယ်လကိုဟော ထုတ်လုပ် ရာတွင် အလွန်အဖိုးတန်သောနည်းဖြစ်သည်။ ကလိုရင်း ထုတ်လုပ်ရာတွင် ကော့ပါးကလိုရိုက်ကို ကက်တလစ်အဖြစ်ဖြင့်အသုံးပြု၍၊ကန့်ဒြပ် ပေါင်း များ ထုတ်လုပ် ရာ၌မူကား အိုင်ယန်း အောက်ဆိုက်နှင့် ပလက်တီနမ်သတ္တုတို့ကို ကက်တလစ်အဖြစ်အသုံးပြုကြသည်။



နွားကျောင်းသားမှ ကဗျာဆရာကြီးဖြစ်လာသူ ကက်ဒမန်

**ကက်ဒမန်** (ခရစ် ၆၇၅ ခန့်ဆုံး)။ ။အင်္ဂလိပ် ကဗျာလောကတွင်ရှေးဦးပေါ် ကဗျာများအကြောင်းလေ့လာရာ၌ ထိုကဗျာလောကကြီးကိုတည်ဆောက်ခဲ့သူ ကဗျာဆရာကြီး ကက်ဒမန်အကြောင်း မပါလျှင်မပြီးချေ။ထိုကဗျာဆရာကြီး ကက်ဒမန်ကား အခြေအနေအားဖြင့် သာမန်နွားကျောင်းသား တယောက်မျှသာ ဖြစ် သော်လည်း၊ ကဗျာပါရမီဓါတ်ခံရင့်သန်ခဲ့သူ ဖြစ်ရာ၊ သူ၏ကဗျာများ သည် ယခုခေတ် တိုင်အောင်ပင် ကဗျာအဆောက်အအုံကြီး၏အုတ်မြစ်ကျောက်ချပ်များသဖွယ် ခိုင်မြဲတည်တံ့လျက်ရှိပေသည်။ ကက်ဒမန်သည် အင်္ဂလိပ်လူမျိုး ခရစ်ယန် အယူဝါဒီ ကဗျာဆရာများတွင် ရှေးအကျဆုံး သောပုဂ္ဂိုလ်ကြီးဖြစ်၍၊ ထိုခေတ်ထိုအခါက သီကုံး နှုန်းဖွဲ့သောဘာသာစကားမှာလည်း အင်္ဂလို–ဆက္ကဆွန်ဘာသာစကားဖြစ်လေသည်။ အင်္ဂလို – ဆက္ကဆွန်ဘာသာ စကား သည် ယခုခေတ် အင်္ဂလိပ် ဘာသာ စကားနှင့်မတူချေ။

ကက်ဒမန်သည် မိမိတည်ဆောက်အံ့သော ကဗျာ လောကကြီးအတွက် ကြိုတင်ရည်မှန်း ထားချက်မရှိသော်လည်း၊ ထိုလောကကြီး၏ လင်း အရုဏ်ရောင်ခြည် ကလေးပမာ ခဏတာမျှ မက်လိုက် သောအိပ်မက် ကလေး တခုသည် ပင် သူ့အားကဗျာအဆောက်အအုံဗိသုကာကြီးတဦးအဖြစ်ကို ပေးအပ်ခဲ့လေသည်။ ဖြစ်ပုံမှာကား တနေ့သ၌သူသည် အိပ်ပျော်နေစဉ်၊ တစုံတယောက်သည် သူ့ထံသို့လာရောက်၍ သီချင်းတပုဒ် သီဆိုပါမည့် အကြောင်း တောင်းပန် လေရာ ပဌမတွင် သီချင်းမဆိုတတ်ကြောင်းရိုးသား ပွင့်လင်းစွာငြင်းဆိုလိုက် ၏။ သို့သော် ထိုသူ ၏ မရမနေ တောင်း ပန်မှု ကြောင့် နောက်ဆုံး ၌ မည်သည့် အကြောင်း ကို သီဆိုရမည်နည်းဟု ပြန်၍ မေး လိုက် လျှင်၊ ထိုသူက ကမ္ဘာဦး အခါက ထာဝရဘုရားသခင်သည် သတ္တဝါအပေါင်းတို့အားဖန်ဆင်းခဲ့သည့်အကြောင်းကိုဖွဲ့နွဲ့ သီဆိုရန် တောင်း ပန် ခိုက်၊ ကက်ဒမန် သည် အိပ်ရာမှလန့်နိုး သည်ဟု အမှတ် အသားများ တွင် တွေ့ ရ၏။

နံနက်လင်းသောအခါ ကက်ဒမန် သည် ဝှစ်တဗီကျောင်းတော်ရှိ သီလရှင်ကြီး စိန်ဟီလဒါ ထံ သို့ သွား ၍ မိမိမြင်မက်သောအိပ်မက်အကြောင်းကို ပြောကြား၏။ စိန်ဟီလဒါ၏ တိုက်တွန်းချက်အရ ကက်ဒမန်သည် ခရစ်ယန်သမ္မာကျမ်းစာအချို့ကို ကဗျာဖွဲ့ခဲ့ရာ၊ သီလရှင်ကြီးလည်း သူ၏စွမ်းရည်ကို အကဲခတ်မိသဖြင့်၊ မိမိ၏ကျောင်း၌လာရောက်၍ ပညာသင်ကြားရန်တိုက်တွန်း လေသည်။ ဤသို့ဖြင့် ကက်ဒမန်သည် နွားကျောင်းသားဘဝကိုစွန့်လွှတ်၍ ထိုကျောင်း၌ပင် ကဗျာများဖွဲ့ဆိုသီကုံးခဲ့လေသည်။ သူ၏ဂုဏ်သတင်းကား တမုဟုတ်ခြင်းပျံ့နှံ့ လေတော့သည်။

ကက်ဒမန်၏နောက်ခေတ်တွင် ကဗျာစာဆိုတို့သည် ကက်ဒမန်ကဲ့သို့ အယူဝါဒဆိုင်ရာကဗျာများကို စပ်ဆိုသီကုံးရာ၌ ကက်ဒမန်၏ကဗျာများ ကို အထောက်အထားပြုကြရကုန်သည်။ ကက်ဒမန်သည် ကဗျာအများအပြားပင် ဖွဲ့နွဲ့ခဲ့ဟန်ရှိသော်လည်း ယခုခေတ်တွင်မူ သူ၏ကဗျာများကိုမတွေ့ရတော့ချေ။ သူ့ အကြောင်းကိုသိရှိမှတ်သားရခြင်းမှာ ဗီ အမည်ရှိ စာဆိုကဝိကြီးတဦး ရေးသားသောစာပေများတွင် ကက်ဒမန်၏ ကဗျာ များ မှ ကောက်နုတ် ချက်အချို့ကိုတွေ့ရသော ကြောင့်ပင်ဖြစ် လေသည်။ ၁၇ ရာစုနှစ် အတွင်းက

ဂိုဏ်းချုပ်ကြီးအပ်ရှားသည် လွန်ခဲ့သည့် ၁၀ ရာစုနှစ်အတွင်း ကရေးသားခဲ့ဟန်ရှိသောစာပေတခုကို တွေ့ရှိခဲ့၏။ ထိုစာပေတွင် ဗိဖေါ်ပြသည့်အတိုင်း ကက်ဒမန်၏ကဗျာလင်္ကာများဟုယူဆနိုင်ဖွယ်ရှိသော ကဗျာအချို့ကိုတွေ့ရသည်။ ထိုဂိုဏ်းချုပ်ကြီးသည် မိမိတွေ့ရှိရသောစာတို့ကို ဖရန်ဆွာဒူးဂျုန်းဆိုသူထံသို့ပေးအပ်ခဲ့၏။ထိုပုဂ္ဂိုလ်မှာ ဖရန်စဂျူးနယပ်ဟုထင်ရှားသော ဟျူးဂျနိုးဂိုဏ်းဝင် စာပေဝါသနာထုံသူတဦးပင်တည်း။

သူသည်အင်္ဂလန်ပြည်တွင် အနှစ် ၃၀ ကာလပတ်လုံးနေထိုင်ခဲ့သူတဦး ဖြစ်သည်သာမက၊ အင်္ဂလို – ဆက္ကဆွန် စကားကိုလည်း အထူးလိုက်စားခဲ့လေသည်။မိမိရရှိထားသောစာမူကို ကက်ဒမန် ကိုယ်တိုင်ဖွဲ့နွဲ့ခဲ့သော ကဗျာအဖြစ် ၁၆၅၅ ခုနှစ်တွင် အမ္မစတာဒမ်မြို့၌ပုံနှိပ်၍ ထိုစာမူ၌ပါရှိသောကဗျာများကို ထုတ်ဝေခဲ့ဘူးသည်။

ယခုခေတ်စာပေအကဲဖြတ်များက ယင်းစာမူသည် ကက်ဒမန်တဦးတည်းပြုစုခဲ့သောစာမူမဟုတ်စေကာ၊ 'ဂျင်းနီဆစ်' ခေါ် ပဌမပိုင်းကိုမူကား ကက်ဒမန်ကိုယ်တိုင်ပြုစု ဖွဲ့နွဲ့ခဲ့ လိမ့်မည်ဟု ယူဆကြလေသည်။ကမ္ဘာကျော်စာဆိုဂျွန်မီလတန်ပင်လျှင် 'ဆုံးခဲ့ပေါ့ပြည်နိဗ္ဗာန်' ကဗျာကိုသီကုံးရာ၌ ကက်ဒမန်၏ 'ဂျင်းနီဆစ်' ကဗျာမှ စိတ်တက်ကြွမှုရခဲ့သည်ဟုဆိုကြလေသည်။

**ကက်ဒမပ်။** ။ကက် ဒ မပ် ၏ အ ကြောင်းကို ဂရိထုံးဟောင်းပုံပြင်တွင်ဤသို့တွေ့ရ၏။

နတ်တို့ဘုရင် ဇုအရှင်သည် လှလှမြင်လျှင် ကြိုက်တတ်သော ဝသီ ရှိရကား၊ ကက်ဒမပ်၏နှမတော် ယူရိုးပါးကိုမြင်လတ်သော် နွားသိုးယောင်ဆောင်၍ မင်းသမီးအား ဆောင်ကြဉ်းသွား လေသည်။ ခမည်းတော်ဘုရင်ကြီးက သမီးတော်ကို ဆောင်ကြဉ်းသွားသော နွားသိုးရိုင်းကို ရအောင်ရှာရမည်ဟု အမိန့်တော်ချေသဖြင့် ကက်ဒမပ်သည် နှမတော်ကို အမျိုးမျိုးကြိုးစား၍ ရှာဖွေသော်လည်း အချည်းနှီးသာဖြစ်သောကြောင့် ဒဲလဖိုင်နတ်ကွန်းသို့ သွားရောက်တိုင်တည်၏။

ဒဲလဖိုင်နတ်ထိန်းကြီးက နှမတော်အား မရှာဖွေတော့ဘဲ ဆက်လက်၍ခရီးထွက်ရန်တိုက်တွန်းလေသည်။ ထိုပြင် လမ်းခရီး၌ နွားမကြီး တကောင်ကို တွေ့လိမ့် မည်။ နွားမကြီးနောက်မှ လိုက်သွား၍ နွားမဝပ်ရာတွင် မြို့တည်ရန် ဟောပြောလိုက်သည်။ ကက်ဒမပ်လည်း နတ်ထိန်းကြီး ဟောသည့်အတိုင်း ထွက်ခွာလာရာ နွားမကြီးကိုတွေ့၏။ နွားမကြီးနောက်မှ လိုက်သွားသည်တွင် ဗီအိုးရှားပြည်သို့ ရောက်လေသည်။ ကက်ဒမပ်လည်း နွားမဝပ်သောနေရာ၌ မြို့တည်ရန်ရည်ရွယ်ချက်ဖြင့် စောင့်ကြည့်၏။ မြို့မတည်မီ နွားမကြီး



ဂရိထုံးဟောင်းပုံပြင်မှ နဂါးနိုင်မင်းသားကက်ဒမပ်

ကိုယဇ်ပူဇော်ရန် ရေလိုသောကြောင့် သူ၏နောက်လိုက်များအား စမ်းချောင်းမှရေကို ခပ်ယူရန်စေလွှတ်လိုက်၏။ သို့သော် စမ်းချောင်းကို နဂါးကြီးတကောင် စောင့်နေသဖြင့် ကက်ဒမပ်၏ နောက်လိုက်များသည် နဂါးကြီးအစာ ဖြစ်သွားကြလေသည်။ ထို့ကြောင့် ကက်ဒမပ်သည် နဂါးကြီးကို သတ်ဖြတ်လိုက်၏။ ထိုခဏ၌ပင် အသီးနားနတ်သမီး ပေါ်လာ၍ နဂါးသွားများကို မျိုးစေ့အဖြစ်စိုက်ပျိုးရန် ကက်ဒမပ်အား ပြောကြားသည်။ ကက်ဒမပ်လည်း အသီးနားနတ်သမီး ပြောကြားသည့်အတိုင်း နဂါးသွားများကိုစိုက်ပျိုးလိုက်ရာ ချက်ခြင်းပင် လက်နက်အစုံအလင်နှင့် စစ်သားအများပေါ် ပေါက်လာ၏။ ကက်ဒမပ်သည် ထိုစစ်သားများအကြားသို့ ကျောက်တုံးတတုံးကိုပစ်သွင်းလိုက်ရာ စစ်သားများသည် တယောက်ကိုတယောက်အထင်မှားလျက် အချင်းချင်းထိုးခုတ်သတ်ဖြတ်ကြလေသည်။ နောက်ဆုံးတွင် ၅ ယောက် တည်း သာ ကျန် ၏ ။ ကက်ဒမပ် သည် ထို ၅ ယောက်၏အကူအညီဖြင့် သီးဗီးမြို့ကြီးကို တည်ဆောက်လေသတည်း။

**ကက်ပတိန်။** ။ကက်ပတိန်ဆိုသော အင်္ဂလိပ်စကားသည် အကြီးအကဲဟု အနက်ထင်သည့် လက်တင်စကား 'ကက်ပတ်' မှ ဆင်းသက်လာသည်။ အလယ်ခေတ်က ပြည်နယ် ဘုရင်ခံ တို့ကို ကက်ပတ် ဟု ခေါ် ကြ၏။ ထို သူတို့ မှာ

အများအားဖြင့် စစ်ထဲတွင် အမှုထမ်းများ ဖြစ် ကြ သည်။

အကြီးအကဲဟူ၍အနက်ရသည့်အတိုင်း စာသင်ကျောင်း ကစားသင်းများတွင် ခေါင်းဆောင်များကို ကက်ပတိန်ဟု ခေါ်ကြ၏။ ကုန်တင်သင်္ဘောကိုဦးစီးအုပ်ချုပ်သူ၊ ကြည်း တပ်၊ ရေတပ်တို့တွင် ကြီးကြပ်ကွပ်ကဲသူတို့ကိုလည်း ကက် ပတိန်ဟုခေါ်ကြသည်။ စင်စစ်အားဖြင့် ကက်ပတိန်ဟူသော အမည်မှာ ကြည်းတပ်၊ ရေတပ်၊ လေတပ် တခုခုတွင် အမှု ထမ်းဆောင်သော တာဝန်ခံအရာရှိတဦး၏ ရာထူးအဆင့်အ တန်းကို တိကျစွာ သတ်မှတ်ခေါ်တွင်သော အမည်ဖြစ်၍ ယခုထက်တိုင် တည်မြဲနေသည့် ရှေးအကျဆုံး ရာထူးအဆင့် အတန်းအမည်ဖြစ်သည်။ ၁၆ ရာစုနှစ်မတိုင်မီက ကက်ပတိန် ရာထူးရရှိသူတဦးမှာ ယခုခေတ် ကက်ပတိန်ရာထူးခံသူထက် တန်ခိုးအာဏာရှိသည်။ သူသည် သူကိုယ်တိုင်ဖွဲ့စည်းထား သောတပ်၏ ခေါင်းဆောင်ဖြစ်ပေသည်။

အလယ်ခေတ်က ကက်ပတိန်ဂျင်နရယ် ရာထူးသည် ယခု ခေတ် သေနာပတိအဆင့်အတန်းနှင့်တူညီသည်။ ဗြိတိသျှ ရေတပ်တွင် အမှုထမ်းသက် ၃ နှစ်ရ ကက်ပတိန် (ဗိုလ်မှူး ကြီး) ရာထူးသည် ကြည်းတပ်မှ ကာနယ်ခေါ်ဗိုလ်မှူးကြီး နှင့်၎င်း၊ လေတပ်မှ ဂရုကက်ပတိန်ခေါ်ဗိုလ်မှူးကြီးနှင့်၎င်း၊ ရာထူးအဆင့်အတန်းချင်းတူညီသည်။ ထိုနည်းတူ ဗြိတိသျှ




**ပင်လယ်ကူးသင်္ဘောတစီးမှ တာဝန်ခံအရာရှိချုပ် ကက်ပတိန်**

အင်္ဂလိပ်နီယာတပ်မှ အမှုထမ်းသက် ၈ နှစ်ရကက်ပတိန်မှာ လည်း ကြည်းတပ်နှင့်လေတပ်မှ ဗိုလ်မှူးကြီးရာထူးများနှင့် တူညီလေသည်။

ပင်လယ်ကူးသင်္ဘောများမှ တာဝန်ခံ အရာရှိချုပ်ကို သင်္ဘောကက်ပတိန် (ကပ္ပိတန်) ဟု ခေါ်ကြသည်။ စစ်သင်္ဘောများမှ ကက်ပတိန်များကိုမူ ပို့စကက်ပတိန်ဟု ခေါ်လေ့ရှိကြ၏။

ကြည်းတပ်တွင် ကက်ပတိန် ခေါ် ဗိုလ်ကြီး၏ရာထူးမှာ မေဂျာခေါ်ဗိုလ်မှူး၏ရာထူး အောက်ဖြစ်၍၊ လက်ဖတင်နင် ခေါ် ဗိုလ်ရာထူး၏အထက်ဖြစ်သည်။ ရာထူးတံဆိပ်အမှတ်အ သားမှာ ဗြိတိသျှတပ်၌ ပခုံးထောက် သို့မဟုတ် အင်္ကျီလက် ပေါ်တွင်တပ်ဆင်ရသော ကြယ် ၃ ပွင့်ဖြစ်သည်။ မြန်မာ တပ်မတော်တွင် ဗိုလ်ကြီး ရာထူး အဆင့်အတန်း ရသူသည် အောင်သပြေရွက်တန်းဗား ၃ ခုကို ပခုံးထောက်၌တပ်ဆင်ရ လေသည်။

တိုက်ပွဲများတွင် ကိုယ်ထိလက်ရောက် ဝင်တိုက်ခိုက်ခြင်း မပြုရသော စစ်ဖက်ဌာနများလည်း ရှိသေးသည်။ ထိုဌာန များရှိ ကက်ပတိန်ရာထူး အဆင့်အတန်းရှိသူအရာရှိများကို ထိုသူဆောင်ရွက်ရသောအလုပ်နှင့် ယှဉ်တွဲ၍ ခေါ်ရသည်။ ထို့ကြောင့် အင်ဂျင်နီယာတပ်မှကက်ပတိန်ကို အင်ဂျင်နီယာ ကက်ပတိန်ဟူ၍၎င်း၊ ဆေးဖက်ဌာနမှကက်ပတိန်ကို ဆာဂျင် ကက်ပတိန်ဟူ၍၎င်း၊ လစာငွေများ ထုတ်ပေး သည့်ဌာနမှ ကက်ပတိန်ကို ပေးမာစတာ ကက်ပတိန်ဟူ၍ ၎င်း သီးခြား ခေါ်ဆိုကြလေသည်။

**ကက်ပလာ, ဂျေ** (ခရစ် ၁၅၇၁–၁၆၃၀)။ ။ယော ဟန်ကက်ပလာသည် နာမည်ကျော် နက္ခတ်ပညာရှိတဦးဖြစ် သည်။ ၁၅၇၁ ခုနှစ်တွင် ဖွားမြင်၍ ဖခင်မှာ ဂျာမန်လူမျိုး စစ်သားတဦးဖြစ်၏။ ငယ်စဉ်က ဆင်းရဲ၍ ကောင်းမွန်စွာ ပြုစုစောင့်ရှောက်ခြင်းကို မခံခဲ့ရသဖြင့် အသက်အရွယ်ကြီး ပြင်းလာသောအခါ လက်များမသန်မစွမ်းဖြစ် နေသည့်အ တွက်၊ နက္ခတ်ပညာကိုလိုက်စားရာတွင် တန်ဆာပလာများ ကို ကျင်လျင်စွာ မကိုင်တွယ်နိုင်ရှာပေ။ မျက်စိမကောင်း သဖြင့် စူးစူးစိုက်စိုက်မကြည့်နိုင်။ အားအင်ချည့်နဲ့သဖြင့် လည်း ညဖက်တွင် နက္ခတ်တာရာများကိုကြည့်ရန် အချိန် ကြာမြင့်စွာ အိမ်ပြင်သို့ထွက်၍မနေနိုင်ချေ။ နက္ခတ်ဆရာ အပေါင်းတွင် ကက်ပလာလောက် ကျန်းမာရေးချို့တဲ့သူ ကား ရှိနိုင်မည်မဟုတ်တော့ပေ။

ကက်ပလာလက်ထက် ပေါ်ပေါက်သော နက္ခတ်ဆရာတို့ သည် အများအားဖြင့် ဗေဒင်ဆရာများသာဖြစ်ကြသော် လည်း၊ ကက်ပလာသည် ဗေဒင်ပညာ၌ စိတ်မဝင်စား ဘဲ နေလကြယ်ဂြိုဟ်တို့၏ ရွေ့ရှားမှုတွင်အာရုံပြုကာ နက္ခတ္တ

ဗေဒဆိုင်ရာ လက်တွေ့မှန်ကန်သောအချက်အလက်များကို သာ ရှာဖွေလေ့လာလေသည်။ ထိုအချိန်က ဂြိုဟ်များနှင့် စပ်လျဉ်းသောယူဆချက်တခုမှာ 'ဂြိုဟ်တို့သည် နေကို စက်ဝိုင်းပုံလမ်းကြောင်း များဖြင့် လှည့်ပတ်ကြသည်' ဟူသော ကော့ပါးနီကပ်၏ယူဆချက်ဖြစ်၏။ နက္ခတ်ပညာကို ကက်ပလာလိုက်စားနေချိန်တွင် ဇာတာလျံသိပ္ပံကဝိ ဂယ်လီလီယို နှင့် ဒိန်းလူမျိုး တီကိုဗရာဟေးဆိုသူတို့သည်လည်း နက္ခတ်ပညာကို ဂရုတစိုက် လိုက်စားလျက် ရှိကြပေသည်။ တီကိုဗရာဟေး သည် ဗိုဟီးမီးယား နယ် ပရာဟာမြို့အနီးတွင် နက္ခတ်မျှော်စင်တခုဆောက်လုပ်၍ ကက်ပလာအား ကူညီရန်ဖိတ်ခေါ် သည်တွင်၊ ကက်ပလာလည်းလက်ခံကာ တတ်စွမ်းသမျှ အကူအညီပေးခဲ့လေသည်။ တနှစ်နီးပါးမျှ အတူတကွလုပ်ကိုင်ကြပြီး နောက် တီကိုဗရာဟေး ကွယ်လွန်သောအခါ၊ ကက်ပလာသည် တီကိုဗရာဟေး ၏ နေရာတွင် ဒုတိယရုဒေါ့ဘုရင်၏ သင်္ချာနှင့် နက္ခတ် ဆရာကြီး အဖြစ် ဆက်ခံထမ်းရွက်လေသည်။ တီကိုဗရာဟေးစတင်၍ပြုစုခဲ့သော ကြယ်စာရင်းကိုလည်း ဆက်လက်၍ ပြီးဆုံးသည့်တိုင်အောင် ပြုစုသည်။ထိုကြယ်စာရင်းမှာ နှစ်ပေါင်း ၂၅ နှစ်ကြာမျှပြုစုခဲ့ရသော စာရင်းဖြစ်၏။ ထိုအတောအတွင်းတွင်လည်း ကက်ပလာသည် အခြား နက္ခတ္တဗေဒနှင့်ဆိုင်သောအလုပ်များကို လက်မလွှတ်ခဲ့ချေ။

သူသည် ဂြိုဟ်အချို့နေကိုဖြတ်သွားမည့်အချိန်ကို တင်ကြို၍ပြောနိုင်ခဲ့သည့်ပြင်၊ ဒီရေအတက်အကျမှာ လကြောင့်ဖြစ်သည် ဟုဆိုခဲ့သည်။ ကြယ်တံခွန် များ စွာ တို့ ကို လည်း ကိုယ်တိုင် တွေ့မြင် ခဲ့သည်။ နောင်အခါ နျူတန် ကြံ စည် တွေ့ရှိသော အာကာစုနသတ္တိနိယမအတွက် အထောက်အပံ့ဖြစ်စေသည့် အာစုန သတ္တိ နှင့် ဆိုင် သော အချက် များ ကို လည်း လမ်းစဖေါ် ပေးခဲ့လေသည်။ (နက္ခတ္တဗေဒ — ရှု)။

ကက်ပလာသည် သူ၏တသက်တာတွင် မကြာခဏပင် အတိဒုက္ခရောက်ခဲ့ရလေသည်။ စစ်ကြောင့်အလုပ်ရပ်ဆိုင်းထားရသည့်အခါလည်းရှိ၍၊ နာမကျန်းသည့်အတွက်အလုပ်မ လုပ် နိုင်သည့် အခါ လည်း ကြုံခဲ့ ရ၏။ လခ မှန်မှန် မရမှုကြောင့် အမြဲပင် ချို့တဲ့ကျပ်တည်းခဲ့ရပေသည်။ ၁၆၂၈ ခုနှစ်တွင် အဆိုပါအလုပ်မှထွက်၍ နှစ်သုံးဆယ်စစ်ပွဲတွင်ဦးစီးတိုက်ခိုက်သော ဗိုလ်ချုပ်ဝေါလင်စတိုင်းလက်အောက်တွင် ဝင်ရောက်အမှုထမ်းပြီးနောက် ၁၆၃၀ ခုနှစ်တွင် ကွယ်လွန်ရှာလေသည်။

ဂြိုဟ်တို့ရွေ့ရှားပုံနှင့်စပ်လျဉ်း၍ ကက်ပလာ သည် နိယမ ၃ ခုကိုပြဋ္ဌာန်းထားခဲ့၏။ ကက်ပလာကိုအစွဲပြု၍ ယင်းတို့ကို ကက်ပလာ၏နိယမ ၃ ခုဟုယခုတိုင်ခေါ် တွင်လျက်ရှိ၏။

**ကက်ပလာ၏နိယမ ၃ ခု**

(၁) မည်သည့်ဂြိုဟ်မဆို နေကိုလှည့်ပတ်ရာ၌ အီလစ်ပုံ (ဝိုင်းရှည်) လမ်းကြောင်း ဖြင့်လှည့်ပတ်၍၊ နေသည်ထို အီလစ်ပုံ လမ်းကြောင်း ၏ ဖိုးကပ် (ဆုံချက်) တနေရာတွင်ရှိသည်။

(၂) လှည့်ပတ်သောလမ်းအတိုင်း ရွေ့ရှားရာတွင် ဂြိုဟ်၏ အမြန်သည်ပြောင်းလဲလျက်ရှိ၍၊ ပြောင်းလဲပုံမှာ နေ၏ဗဟိုနှင့် ဂြိုဟ်၏ဗဟိုတို့ကိုဆက်ထားသောမျဉ်းသည် တူညီသောအချိန်တွင် တူညီသောရေိယာကို ဖြတ်သွား နိုင် အောင် ပြောင်းလဲသည်။

(၃) နေကိုဂြိုဟ်လှည့်ပတ်သွားသောအချိန်သည် ဂြိုဟ်နှင့် နေ တို့၏ အကွာ အဝေး ပေါ် တွင် အကြောင်း ပြုလေသည်။ အကြောင်းပြုပုံမှာ ကြာသောအချိန်၏ ၂ ထပ်ကိန်း သည် အကွာအဝေး၏ ၃ ထပ်ကိန်းနှင့် အချိုးကျဖြစ်သည်။

ကျွန်ုပ်တို့သည် ထိုနိယမ ၃ ခုဖြင့် မည်သည့် အချိန် တွင် မည်သည့်ဂြိုဟ်သည် မည်သည့်နေရာ၌ရှိမည်ကို တွက်ချက်ယူနိုင်ပေရာ၊ ထိုနိယမတို့ကို လွန်ခဲ့သောအနှစ် ၃၀၀ ကျော်က ကက်ပလာကြံစည်နိုင်ခဲ့ခြင်းမှာ အကယ်ပင် ထူးခြားသော ကမ္ဘာ့အံ့ဖွယ်တရပ် ဖြစ်ပေတော့သည်။

**ကက်ဗိနက်အဖွဲ့**။ ။အစိုးရဝန်ကြီးအဖွဲ့ — ရှု။

**ကောက်တမန်း, ဂျေ၊ အက် (စ)** (ခရစ် ၁၇၇၂–၁၈၄၂)။ ။အင်္ဂလိပ်လူမျိုး နာမည်ကျော် ရှုမျှော်ခင်း ပန်းချီဆရာ ဂျွန်ဆဲကောက်တမန်းသည် ၁၇၇၂ ခုမေလ ၁၆ ရက်နေ့တွင် နော်ရစ်မြို့၌ဖွားမြင်၍၊ ဖခင်မှာ ပိုက်ဆံချမ်းသာသော ပိုးကုန်သည်တဦးဖြစ်သည်။

ကောက်တမန်းသည် လန်ဒန်မြို့တွင် အနုပညာရပ်များကို ဆည်းပူးခဲ့ရာ၊ တားနား၊ ဂါတင် အစရှိသော နာမည်ကျော် ပန်းချီ ဆရာကြီး များ နှင့် မိတ်ဆွေဖြစ် ခဲ့၏။ သူ၏လက်ရာများမှာ သူအသက်ထင်ရှားရှိစဉ်က နာမည်မထွက်ခဲ့သော်လည်း ယခုအခါ၌မူ သူ့ ကို ထင်ရှားသောပန်းချီဆရာကြီးတယောက်အဖြစ် အသိအမှတ်ပြုကြသည်။ ကောက်တမန်းသည် ရေဆေးရေးဆွဲရာတွင် အကောင်းဆုံးပန်းချီဆရာတဦးဖြစ်လေသည်။

ဂျွန်ဆဲကောက်တမန်း၏ သားများ ဖြစ်ကြသော မိုင်းအက်ဒမန် ကောက်တမန်းနှင့် ဂျိုးဇက် ဂျွန် ကောက်တမန်း တို့သည်လည်း အင်္ဂလန်ပြည်၏ ရှုမျှော်ခင်းပန်းချီဆရာ ကောင်းများ ဖြစ်ကြသည်။

ဂျွန်ဆဲကောက်တမန်းသည် ၁၈၄၂ ခုဇူလိုင်လ ၂၄ ရက်နေ့နေ့တွင် ကွယ်လွန်လေသည်။



အင်္ဂလိပ်ပန်းချီကျော် ဂျွန်ဆဲကောက်တမန်းရေးဆွဲခဲ့သည့် 'ဂရီတာတန်တား' ခေါ် ရှုမျှော်ခင်းပန်းချီကား

**ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့**။ ။ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့သည် လွတ်လပ်သော ပြည်ထောင်စုမြန်မာနိုင်ငံခေတ်တွင်မှ ဖြစ်ပေါ်လာသော နိုင်ငံတော်အစိုးရဌာနတခု ဖြစ်သည်။ ယင်းအဖွဲ့သည် အထူးသဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်မှ ဆန်စပါးများကို လယ်သမားများထံမှ ဝယ်ယူကာ နိုင်ငံခြားသို့ ပို့ထုတ် ရောင်းချသော အစိုးရဌာနအဖွဲ့ဖြစ်၍ လက်ဦးတွင် လယ်ယာစိုက်ပျိုးရေး နှင့် သစ်တော ရေး ဝန်ကြီး ဌာန လက် အောက် တွင် ထား ရှိခဲ့၏။ ၁၉၅၂ ခုဇူလိုင်လတွင်မှ ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနလက်အောက်သို့ ပြောင်းရွှေ့ထားရှိခဲ့လေသည်။

ထိုအဖွဲ့ပေါ်ပေါက်လာပုံမှာ ဤသို့ဖြစ်၏။ ဗြိတိသျှစစ်ပြေးအစိုးရသည် ၁၉၄၂ ခုနှစ်တွင် အိန္ဒိယနိုင်ငံ ဆင်းမလားမြို့၌ရှိနေစဉ်၊ ဆန်စပါး၊ နှမ်း၊ မြေပဲ၊ ဝါ၊ ပဲအမျိုးမျိုး၊ သကြား၊ သားရေ၊ ဆား စသည့်လုပ်ငန်းများကို ပြန်လည်ထူထောင်ရန် အဖွဲ့များဖွဲ့စည်းစုံစမ်းစေ၍ စီမံကိန်းများရေးဆွဲကာ မြန်မာနိုင်ငံတွင်းသို့ မဟာမိတ်တပ်များ ဝင်လာသောအခါ၊ ထိုစီမံကိန်းအတိုင်း စစ်အုပ်ချုပ်ရေးအဖွဲ့မှ ဆန်စပါးများ ကိုဝယ်ယူခဲ့၏။ ၁၉၄၅ ခုအောက်တိုဘာလ ၁၆ ရက်နေ့တွင် စစ်အုပ်ချုပ်ရေးအစိုးရသည် မြန်မာနိုင်ငံအစိုးရသို့ အုပ်ချုပ်ရေး လွှဲအပ်လိုက်ရာ အစိုးရက လယ်ယာစိုက်ပျိုးရေးစီမံကိန်း ယာယီအဖွဲ့ကိုဖွဲ့စည်းသည်။ မြန်မာနိုင်ငံအရပ်ရပ်ရှိ ဆန်စပါးများကို ထိုအဖွဲ့မှ အဝယ်တော်ကိုယ်စားလှယ်များထား၍ ဝယ်ယူခဲ့သည်။ အချို့နေရာတွင် တိုက်ရိုက်ဝယ်ယူသည်။

၁၉၄၇ ခု နိုဝင်ဘာလသို့ ရောက် သောအခါ နိုင်ငံတော်ကောက်ပဲသီးနှံရောင်းဝယ်ရေးဘုတ်အဖွဲ့ ဟူသောအမည်ဖြင့် စတင်ဖွဲ့စည်းကာ၊ အဝယ်တော်များမှတဆင့်မဟုတ်တော့ဘဲ အဖွဲ့မှတိုက်ရိုက်ဝယ်ယူရန် စီစဉ်ခဲ့လေသည်။ ဤသို့စီစဉ်ခြင်းဖြင့် လယ်သမားတို့မှာ အကျိုးကျေးဇူး များစွာခံစားကြရ၏။

၁၉၅၁ ခုနှစ်တွင် စက်ပိုင်များမှတဆင့်ဝယ်ယူသည့်စံနစ်ကို အသုံးပြုခဲ့သည်။ သတ်မှတ်သောနှုန်းထားနှင့် စက်ပိုင်များကစပါးကိုဝယ်ယူပြီးလျှင် ထိုစက်ပိုင်များထံမှဆန်ကို စာချုပ်စည်းကမ်းအတိုင်း အဖွဲ့ကဝယ်ယူ၏။ သို့ရာတွင် ၁၉၅၂ ခုနှစ်သို့ရောက်သောအခါ၊ အဖွဲ့မှအဝယ်တော်များ လုံလောက်စွာခန့်အပ်ထားရှိပြီးလျှင် စပါးကိုတိုက်ရိုက်ဝယ်ယူ၍ စက်များတွင် ကြိုးကြပ်ခွဲကြိတ်ပြီးနောက်၊ အဖွဲ့မှနိုင်ငံခြားသို့ တိုက်ရိုက်တင်ပို့ရောင်းချလေသည်။

အဖွဲ့ ဖွဲ့စည်းစဉ်က စပါး ဝယ်ယူနိုင်ရန် နိုင်ငံတော်အစိုးရကငွေများထုတ်ပေးခဲ့ရာ၊ အဖွဲ့မှ ဆန်စပါးရောင်းချ၍ရသော

အမြတ်ငွေကို ပြန် လည် ထူ ထောင် ရေး အ တွက် ပြန်၍ ထောက်ပံ့ရလေသည်။

ဆန်စပါးဝယ်ယူရာတွင် အဝယ်ဒိုင်များဖွင့်ကာတိုက်ရိုက် ဝယ်ယူ၏။ ရောင်းချရာတွင် ဝယ်ပြီးစပါး ၃ ပုံ ၂ ပုံကို အစိုးရအချင်းချင်း ရောင်း ချသည့် စံနစ်ဖြင့် အလျဉ်းသင့်သလို တင်ပို့ရောင်း ချ၏။ ကျန် ၃ ပုံ ၁ ပုံကိုမူ ပုဂ္ဂလိက ရောင်း ဝယ်ရေးအဖွဲ့များက မိမိတို့ကြိုက် သလိုဆက်သွယ် ရောင်းချနိုင်ရန်တင်ဒါခေါ်၍ လွှဲပေးရောင်းချလေသည်။ သို့ရောင်းချရာတွင် နိုင်ငံတော်သားများဖွဲ့စည်း တည်ထောင်သောကုမ္ပဏီများကို ဦးစားပေးသည့်ပြင်၊ အကယ်၍သမဝါယမအဖွဲ့များဖြစ်က၊ ကြိုတင်ပေးသွင်း ငွေကို သာမန် တောင်းယူမြဲ ၃ ရာခိုင်နှုန်းမှ ၁ ရာခိုင်နှုန်းသို့လျှော့ချတောင်းယူသည်။ ဆန်စပါးဝယ်ယူရေးတွင် သမဝါယမအဖွဲ့များကိုဦးစား ပေးရန် သမဝါယမဌာနသို့လည်း ငွေများချေးသည်။ ဆိပ်ကမ်းကုန်တင်ရေး ၌လည်း နိုင်ငံတော်သား အလုပ်သမား များ နှင့် သမဝါယမအလုပ် သမား အဖွဲ့ များ ကို အခွင့်အရေး ပေးလေသည်။

အဖွဲ့အလုပ် ဝတ်တရားများ မှာ ကောက်ပဲသီးနှံများ ကို ခွဲကြိတ်ပြုပြင်ခြင်းနှင့် ရောင်း ချခြင်း ဝယ်ခြင်းတို့ကို ယေဘုယျအား ဖြင့်ကြီး ကြပ်အုပ်ချုပ်ခြင်း၊ စီမံခန့်ခွဲခြင်း နှင့် တိုးတက်အောင်ဆောင်ရွက်ခြင်းဖြစ်သည်။ (၁) စက်ကြိတ်လုပ်ငန်းကိုကြီးကြပ်ခြင်း နှင့် တိုးတက် အောင်ဆောင်ရွက်ခြင်း၊ (၂) ပြည်တွင်း ဈေးတည်တံ့စေရန်နှင့်ပိုမိုစိုက်ပျိုးစေရန်အတွက် နိုင်ငံခြားသို့ တင်ပို့၍ ပိုလျှံသမျှကို ကန့် သတ်ထားသောဈေးနှုန်းအတိုင်း ဝယ်ယူခြင်း၊ (၃) ပြည်တွင်းစားသုံးရန်အတွက် လုံလောက်စွာချန်လှပ်ပြီးလျှင် ပိုလျှံသမျှကို နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းစသည်တို့မှာ အဓိက လုပ်ငန်းဖြစ်သော ဆန်စပါး လုပ်ငန်း တွင် ယေဘုယျဆောင်ရွက်ချက်များဖြစ်၏။

ကောက်ပဲသီးနှံရောင်း ဝယ်ရေး အဖွဲ့သည် မြန်မာနိုင်ငံမှ ပြည်ပသို့ကောက်ပဲသီးနှံထုတ်ဆောင်ခွင့်အားလုံးကို ပေါင်းစုချုပ်ကိုင်ထားသောအဖွဲ့ဖြစ်သည်။ သို့သော် ဆန်စပါးနှင့် ဆန်ထွက်ပစ္စည်းများကိုသာ တိုက်ရိုက်ရောင်းဝယ်၏။ ကျန်ပဲအမျိုးမျိုး၊ ကပ်စေးနဲ၊ အာလူးနှင့် ဝါ စသည်တို့နှင့်စပ်လျဉ်း၍မူ နိုင်ငံတော်သားအဖွဲ့ကုမ္ပဏီများသို့ ထုတ်ကုန်လိုင်စင်များ သတ်မှတ်ထုတ်ပေးလေသည်။

ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့ကို အဖွဲ့ဝင်လူကြီး ၁၀ ဦးပါဝင်သောအဖွဲ့က အုပ်ချုပ်၏။ အဖွဲ့၏သဘာပတိမှာ အမြဲတမ်းလုပ်ကိုင်ရသောအရာရှိဖြစ်၍၊ သူ၏လက်အောက်တွင် အဖွဲ့နှင့်ရုံး၊ ကုန်စည်ပစ္စည်းစုဆောင်း ရေး ဌာန၊ သယ်ယူပို့ဆောင်ရေး နှင့် ဂိုနီအိတ်ဂုံနီကြိုး ဌာန၊ နိုင်ငံခြား သို့ ကုန်ပစ္စည်းများတင်ပို့ရောင်းချသောဌာန၊ စာရင်းအင်းဌာနတို့ရှိ၏။ အဖွဲ့၏ရုံးချုပ်ဌာနကိုကြီးကြပ်ရန် အတွင်းရေးမှူးတယောက် ခန့်အပ်ထားလေသည်။

စတင်ဖွဲ့စည်းစဉ်အခါကပါဝင်သော အဖွဲ့ဝင်ပုဂ္ဂိုလ်များမှာ နိုင်ငံတော် လယ်ယာစိုက်ပျိုးရေးနှင့်သစ်တောရေးဝန်ကြီးဌာနအတွင်းဝန်၊ ဘဏ္ဍာတော်မင်းကြီး၊ ဘဏ္ဍာရေးနှင့်အခွန်တော်ဝန်ကြီးဌာနအတွင်းဝန်၊ ကြေးတိုင်နှင့်မြေစာရင်းမင်းကြီး၊ စိုက်ပျိုးရေးဌာနညွှန်ကြားရေးဝန်အပြင်၊ ဘုရင်ခံက ခန့်အပ်သော အစိုးရအရာရှိမဟုတ်သူ ၅ ဦးတို့ပါဝင်သည်။

မြန်မာနိုင်ငံတော်လွတ်လပ်ရေးရပြီး သောအခါ၊ သဘာပတိအပြင် ဌာနဆိုင်ရာအရာရှိကြီး ၅ ဦးနှင့် အစိုးရအရာရှိမဟုတ်သူ ၅ ဦး ပေါင်း ၁၁ ဦးဖြစ်လေသည်။ အစိုးရအရာရှိမဟုတ်သူကို နိုင်ငံတော်သမတကခန့်အပ်ရသည်။ ယင်းအဖွဲ့အား ကုန်သွယ်ရောင်းဝယ်ရေးဌာနဝန်ကြီး လက်အောက်သို့ လွှဲပြောင်းလိုက်သောအခါ၊ ကုန်သွယ် ရောင်းဝယ်ရေး ဝန်ကြီးဌာနအတွင်းဝန်ကို အရာရှိတဦးအဖြစ်ဖြင့်ထည့်သွင်းကာ အရာရှိမဟုတ်သူ ၄ ဦးသာ ပါဝင်တော့၏။ (ကုန်သွယ် ရောင်းဝယ်ရေးဝန်ကြီးဌာန – ရှု) ။

**ကောက်မျိုး။** ။ကောက်ပင်များမှာ စင်စစ် မြက်ပင်များဖြစ်ကြ၏။ သို့ရာတွင် သာမန်မြက်ပင်သည် အစေ့နှင့်အမြစ်များမှ ပေါက် ပွား ၍ ကောက် ပင် မှာမူ အစေ့မှ ပေါက်ပွားသည်။ ကောက်ပင်မှအစေ့များ သည် လူတို့အတွက်အာဟာရဓါတ်ပါရှိသဖြင့်စားသုံးရန်စိုက်ပျိုးကြသည်။ လူတို့စားသုံးရန် ကမ္ဘာပေါ် တွင်စိုက်ပျိုးကြသော ကောက်



ရိတ်သိမ်းချိန်ရောက်လှဆဲ ဂျုံပင်များ



ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့မှ ဝယ်ပြီးစပါးများကို သယ်ယူစုပုံနေကြစဉ်

ပင်အမျိုးမျိုးအနက် ဆန်၊ ဂျုံနှင့် ပြောင်းဖူးတို့မှာ အစိုက်များသောကောက်ပင်များ ဖြစ်သည်။ ဂျုံနှင့်ပြောင်းဖူးတို့ကို အမှုန့်ဖြစ် အောင် ကြိတ် ပြီး ပေါင်မုံ့ ကဲ့ သို့ မုံ့ တမျိုး မျိုး ပြုလုပ်၍ စားလေ့ရှိကြသည်။ ဆန်ကိုမူ အစေ့လိုက်ချက်၍ စားလေ့ရှိ၏။

ဆန်၊ ဂျုံနှင့် ပြောင်းဖူးတို့အပြင် အခြားကောက်ပင်များမှာ မုယော၊ မြင်းစားဂျုံ၊ ရိုင်းစပါး၊ နှံစားပြောင်းနှင့် ရှရီမန်ပင်တို့ ဖြစ်သည်။ မုယောကို ရှေးမဆွကပင် အီဂျစ်လူမျိုး၊ ဟီဗြူ လူမျိုး နှင့် တရုပ် လူမျိုးများစိုက်ပျိုးခဲ့ကြသည်။ မုယောမှုန့်ကို မုံ့ ပြုလုပ်ရန်မသင့်တော်သဖြင့် အရက်ချက်ရာ၌သာ လျှင် ယခုအသုံးချလျက် ရှိကြသည်။ ရုရှ နိုင်ငံ တွင် မုယောကို အကြီးအကျယ်စိုက်ပျိုးကြသည်။

စကော့တလန်ပြည်တွင် မြင်းစားဂျုံကို နေ့စဉ်အစားအစာအဖြစ်ဖြင့် အသုံးပြုကြ၍၊ အခြားတိုင်းနိုင်ငံများ၌ တခါတရံသာကျိုချက်၍စားကြသည်။မြင်းစားဂျုံကို အမှုန့်ဖြစ်အောင်ကြိတ်၍မရနိုင်သဖြင့် ဂျုံရိုးရိုးလောက် အသုံးမများချေ။ သို့ရာတွင် တိရစ္ဆာန်အစာအတွက်အထူး အသုံးဝင်သော ကောက်ပင်ဖြစ်သည်။ ထိုပြင် မြင်းစားဂျုံပင်၏ ကောက်ရိုးကို စက္ကူကြမ်းများပြုလုပ်ရာ၌ အသုံးချသည်။ ရိုင်းစပါးသည် ရိုးရိုးဂျုံပင်နှင့်တူ၍ ဂျုံကဲ့သို့အမှုန့်ပြုလုပ်နိုင်သည်။သို့ရာတွင်ဂျုံပင်စိုက်ပျိုး၍မဖြစ်နိုင်သောအလွန်အေး၍ညံ့ဖျင်းသည့်မြေမျိုးတွင် ရိုင်းစပါးပင်များကိုစိုက်ပျိုးလုပ်ကိုင်နိုင်သည်ဖြစ်ရာ၊ ဥရောပတိုက်မြောက်ပိုင်း၌ ထိုအပင်မျိုးကိုစိုက်ပျိုးကြသည်။ အချို့တိုင်းပြည်တို့တွင် ရိုင်းစပါးကို မြင်းစာ၊ နွားစာအဖြစ်အသုံးပြုကြသည်။ အရက်ချက်ရာ၌လည်း ထိုစပါးမျိုးကို အသုံး ချနိုင် သည်။ ရိုင်းစပါးပင်၏ ကောက်ရိုးဖြင့် ဦးထုပ်များရက်လုပ်ကြသည်။

နှံစားပြောင်းမှာ အမျိုးပေါင်းများစွာရှိသည်။ အာဖရိကတိုက် တွင် နှံစား ပြောင်း ကို အနှံ့ အပြားစိုက် ပျိုးကြ၍ လူတို့၏နေ့စဉ်အစားအစာအဖြစ် အသုံးပြုကြ၏။ အိန္ဒိယနိုင်ငံ၌လည်း နှံစားပြောင်းများကို အကြီးအကျယ်စိုက်ပျိုးကြသည်။ အင်္ဂလန်ပြည်နှင့်အမေရိကန်ပြည်ထောင်စုတို့၌မူ နှံစားပြောင်းကို တိရစ္ဆာန်အစာအဖြစ်စိုက်ပျိုးကြသည်။

ရှရီမန်ပင်ကို မြန်မာနိုင်ငံအထက်ပိုင်း ကချင်တောင်ကုန်းဒေသ၌စိုက်ပျိုး၍ ဤအမည်မှာ ကချင်အခေါ် ဖြစ် သည်။ အမေရိကန် ပြည်ထောင်စု၊ ဥရောပတိုက် အလယ်ပိုင်း နှင့်



တလင်းနယ်ပြီးနောက် မလှေ့မှီ စပါးတခြား ကောက်ရိုးတခြားခွဲ၍ သိမ်းဆည်းစုပုံနေခြင်း

အာရှတိုက် တို့တွင် ထို ရှုရှီမန်ပင်မျိုးကို စိုက်ပျိုး ကြသည်။ အများအားဖြင့် ထိုအပင်များကို ကြက်၊ ငှက်၊ တိရစ္ဆာန်များကျွေးရန်အတွက် စိုက်ပျိုး ကြ၏။ လယ်မြေတို့တွင် မြေသြဇာထက်သန်လာအောင် ရှုရှီမန်ပင်များကိုစိုက်ပျိုး၍၊ ထယ်ထိုးပြီးလျှင် သစ်စိမ်းမြေသြဇာကျွေးနည်းဖြင့် ပြုပြင်ပေးနိုင်သည်။

**ကောက်သိမ်းခြင်း။** ။စပါး၊ ဂျုံ၊ မြင်းစားဂျုံ၊ မုယောစသည်တို့သည် ကမ္ဘာပေါ်တွင် ထင်ရှားသောကောက်ပင်များ ဖြစ်ကြသည်။ မြန်မာနိုင်ငံကဲ့သို့ စိုက်ပျိုးရေးထွန်းကားသည့်တိုင်းနိုင်ငံတို့တွင် အဆိုပါ ကောက်ပင်တမျိုးမျိုးကို စိုက်ပျိုး လုပ်ကိုင်ကြ၍၊ စားနပ် ရိက္ခာလိုသည့် အခြားတိုင်းနိုင်ငံများသို့ တင်ပို့ရောင်းချကြသည်။ ထိုကဲ့သို့ ကမ္ဘာပေါ်ရှိလူများအတွက် ရိက္ခာဖြည့်တင်းပေးရန် ကောက်ပင်တမျိုး မျိုး ကိုစိုက် ပျိုး လျက် ရှိသော တိုင်းနိုင်ငံ အသီးသီးတို့ တွင် ကောက် သိမ်း ချိန် သည် တောင်သူလယ်သမားတို့အဖို့ အလုပ်အများဆုံးအချိန်ဟု ဆိုရပေမည်။

မြန်မာနိုင်ငံ၌ဆိုလျှင် ကောက် သိမ်းချိန်သို့ရောက် သောအခါ လယ် လုပ် သူ နှင့် အိမ် သူ အိမ် သား၊ ကလေး များသည် လယ် ခင်း သို့ဆင်း က ကောက် လှိုင်း စည်း ခြင်း၊ ကောက်သင်း ကောက်ခြင်းစသည့် လုပ်ငန်းများ ကို အသီးအသီး တာဝန် ယူလျက်၊ အဖက်ဖက်မှ လစ်ဟင်း ခြင်း မရှိရအောင် ဝိုင်းဝန်းကူညီကြရသည်။ ကောက်သိမ်းခြင်းကိစ္စကို အချိန်မှီပြီးမြောက်စေရန် လူများကိုပင် ရိတ်ခပေး၍ငှားရမ်းကြရသည်။ ကောက်သိမ်းချိန်တွင် လယ်လုပ်သူများကိုယ်လက် ပင်ပန်း သလောက် စိတ်အရွှင်လန်းဆုံးအချိန်ဖြစ်သည်။ ကောက်သိမ်းချိန်ကို မြှော်မှန်း လျက် လယ်လုပ်သူတို့သည် တနှစ်ပတ် လုံး နေပူ မိုးရွာမရှောင် အပင်ပန်းခံခဲ့ကြ၏။ ကောက်သိမ်းချိန်ပြီးလျှင် အနားယူ၍၊ ဘုရားဖူးထွက်မည်၊ အလှူအတန်းများပြုလုပ်မည်စသည်ဖြင့် ကုသိုလ်ကောင်းမှုပွားများ ရမည့်အချိန် ကို စောင့်ဆိုင်း၍ပျော်မြူးလျက်ရှိကြ၏။ ထိုအချိန်မှာ ပွဲလမ်းသဘင်များ အပေါဆုံးအချိန်လည်းဖြစ်သည်။

ရှေး ပဝေဏီ အချိန်မှစ ၍ တိုင်း နိုင်ငံ အသီး အသီး တွင် ကောက်သိမ်းချိန်၌ ကောက်သိမ်းပွဲကိုအမျိုးမျိုးအဖုံဖုံ ဆင်ယင်ကျင်းပကြသည်။ ကောက်သိမ်းပွဲကိုကျင်းပကြခြင်းမှာ ပျော်ရွှင်မှုကိုအခြေခံသည်ထက် လူတို့၏အသက်သွေးခဲဖြစ်သောကောက်ပင်များကို ဆုံးခန်းတိုင်အောင်ပေါက်ပွားဖြစ်ထွန်းစေသည့်နတ်ကောင်း နတ်မြတ် တို့အား ကျေးဇူးတင်အထိမ်းအမှတ်ကို ပြုလို၍ဖြစ်သည်။

ကောက် သိမ်း ချိန်၌ ကောက်ပင်အချို့ကိုလူရုပ်သဏ္ဍာန် ပြုလုပ်၍ ကောက်သိမ်းပွဲဆင်နွှဲခြင်းဓလေ့ထုံးစံတခုမှာ ပင် လယ်ရပ်ခြားတိုင်း နိုင်ငံ များ တွင် ယနေ့ထက်တိုင် တည်မြဲ လျက်ရှိနေသေးသည်။ အခြားတိုင်းနိုင်ငံတို့တွင်လည်းတိုင်း သူပြည်သား များ ၏ ဓလေ့ထုံးစံ အလိုက် ကောက် ရိတ် ပွဲ၊ ကောက်သိမ်းပွဲများကိုနှစ်စဉ်ကျင်းပဆင်နွှဲလျက်ရှိကြ၏။

ကောက်ပင်များကိုစတင်စိုက်ပျိုးစအချိန်တွင် လူတို့သည် မည် သည့် ကရိယာကို မျှ အသုံး မပြုကြဘဲ လက် ဖြင့် သာ ကောက်နှံ များ ကို ဆွတ်ယူကြ သည်ဟု ထင်မှတ်ရ သည်။ တဆင့်တက်၍ ကျောက်သွား၊ သတ္တုသွားများ တပ်ဆင် ထားသော ဓါး များ ဖြင့် ကောက်ပင်များကို ရိတ် သိမ်း လာကြရာ၊ အလုပ်ရလွယ်ကူအောင် ထိုဓါးသွားကိုအနည်း ငယ်ကောက်ကွေးလိုက်ခြင်းဖြင့် တံစဉ်ဖြစ်လာသည်။ မြန်မာ နိုင်ငံ တွင် ယနေ့ထက် တိုင် တံစဉ်ကို အသုံးချလျက် ရှိကြ သေး သည်။ ထို့မှတဆင့် ကောက် ပင် အများ ကိုရိတ် နိုင် သည့် လက်နှစ်ဖက်လွဲတံစဉ်ကြီးကို တီထွင်လိုက်ကြသည်။ ခေတ်ပေါ် ကောက်ရိတ်စက်ကြီးများ မပေါ် မီတချိန်လုံးတွင် အဆိုပါ တံစဉ်ကလေးနှင့် တံစဉ်ကြီးများကိုသာ အသုံးပြု ခဲ့ကြ၏။

စပါး၊ဂျုံစသည့်ကောက်ပင်များကိုရိတ်သိမ်းရာ၌ ကောက် ရိတ်သမားသည် တံစဉ်ဖြင့် ကောက်ပင်များကိုလျှောက်၍ ရိတ်ပြီး နောက်၊ ရသမျှအပင်များ ကို လယ်ကွက်ထဲတွင် အပုံလိုက်ချပစ်ခဲ့၏။ ထိုကောက်ပင်အပုံကလေးများကို အ ခြားတယောက်ကလိုက်၍စုသိမ်းလျက်၊ ကောက်လှိုင်းများ ကို စည်းနှောင်ပေးရသည်။ စပါးနယ်ရန် တလင်းသို့ကောက် လှိုင်းများကို လှည်းနှင့်တိုက်ပို့ရသည်။ ဤသို့ဖြင့် ကောက် ပင်များကို တလင်းအရောက် အဆင့်အဆင့်ပြုလုပ်ရသော အလုပ်မှာ အလွန်လက်ဝင်၍ အချိန်ကြာသောလုပ်ငန်းဖြစ် လေသည်။ အထူးသဖြင့် ဂျုံ (စပါးပင်) များ မှည့်လာလျှင်၊ ရက်ကြာကြာမဆိုင်းဘဲ မြန်နိုင်သမျှမြန်အောင် ရိတ်သိမ်း ရသည်။ ထို့ကြောင့် 'ဝန်နှင့်အားလေးနှင့်မြား' ဆိုဘိသကဲ့ သို့ မိမိတို့ အင်အား နှင့်ချင့်ချိန်၍ အင်တန်ရုံလောက်လယ် များကို စိုက်ပျိုးလုပ်ကိုင်ကြသည်။ တိုး ချဲ့၍စိုက်ပျိုး လို သော်လည်း မနိုင်မနင်းရှိမည်စိုးသောကြောင့်၊ အကျိုးမဲ့ဖြစ် မည့်ဘေးကို ကာကွယ်သည့်အနေနှင့် လုပ်ရိုးလုပ်စဉ်အတိုင်း သာ နှစ်စဉ်ထွန်ယက်စိုက်ပျိုးကြလေသည်။

ရိတ်ပြီး ကောက် ပင် များ ကို စုသိမ်းရလွယ်ကူ အောင်၊ လက်နှစ်ဖက်လွဲတံစဉ်ကြီးတွင် သစ်သားခက်ရင်းသွားများ



ရွှေဝါရောင်စပါးခင်းတွင် ငုံ့ကျအောင်ကောက်ရိတ်နေကြသော မြန်မာလယ်သမများ



ရိတ်သိမ်းပြီးစပါးပင်များမှ အနှံများကျွတ်ထွက်စေရန် ကျွဲများအကူအညီဖြင့်တလင်းနယ်နေစဉ်

ကို အဆင့်ဆင့်တပ်ထားကြပြန်သည်။ အနောက်နိုင်ငံများတွင် အဆိုပါ နှစ်ဖက်လှဲတံစဉ်ကြီး မျိုး နှင့် ကောက်ပင် များကိုရိတ်သိမ်း လာခဲ့ရာ၊ ၁၈၂၈ ခုနှစ်သို့ ရောက် သော အခါ၌၊ စကော့လူမျိုးပက်ထရစ်ဗဲသည် မြင်းများနှင့် နောက်မှနေ၍ တွန်းရသော ကတ်ကျေး ကဲ့သို့ အသွား ၂ ဖက်ပါ သည့် ကောက်ရိတ်စက်ကို ထွင်လိုက်၏။ သို့ရာတွင် ထိုကောက်ရိတ် စက်၌ ချွတ် ယွင်း ချက် များ စွာရှိ နေသဖြင့်၊ မြက် ပင်၊ ပေါင်းပင် ထူပြောသည့် လယ်ခင်း နှင့် မြေအနိမ့်အမြင့် များသောလယ်ခင်းတို့ တွင် ထိရောက် စွာ အသုံး မပြုနိုင် ချေ။ သို့သော် ယခင်က တံစဉ်ကြီး တံစဉ်ငယ် တို့ထက် ထိုသို့စက်ဖြင့် ရိတ်သိမ်းခြင်းက ၁၀ ဆမျှပို၍ လျင်မြန်လာခြင်း ကြောင့်၊ ကောက်သိမ်းခြင်းလုပ်ငန်းမှာ ပိုမိုလွယ်ကူလာသဖြင့်၊ လယ်မြေ ကေများစွာ တိုးချဲ့လုပ်ကိုင်နိုင်လာကြသည်။ လူများအတွက်ရိက္ခာလည်းပို၍ ဖူလုံတောင့်တင်းလာ၏။

အမေရိကန်ပြည်ထောင်စု အနောက်ဗါဂျင်းနီးယားပြည်နယ်သား လယ်သမားကြီး ဆိုင်းရပ်ဟော မက္ကောမစ် သည် သူ၏ဖခင်နှင့်အတူ ကောက်ရိတ်စက်တခုကို ၁၈၃၁ ခုနှစ်တွင် ထွင်လိုက်သည်။ ထိုစက်ကို မြင်းနှင့်ရှေ့မှဆွဲရသည်။ တီထွင်ခါစ၌ လိုအပ်သည့်အခြင်းအရာများနှင့် ပြည့်ပြည့်စုံစုံမရှိသော်လည်း တစတစပြုပြင်လာခဲ့ရာ၊ ၁၈၇၄ ခုနှစ်သို့ရောက်သောအခါ၊ ကောက်ပင်များကိုရိတ်ရုံတွင်မျှမက ကောက်လှိုင်းများ ဖြစ်အောင် စည်းနှောင် ပေး သည့် ကောက်ရိတ်စက်ကိုပင် ဖြစ်မြောက်စေခဲ့သည်။ အနောက်နိုင်ငံများတွင် လက်ရှိအသုံး ပြုလျက်ရှိကြသော ကောက်ရိတ်စက်များ မှာ မက္ကောမစ် ထွင်လိုက်သည့်စက်မှ ပေါက်ပွား လာသောစက်များပင်တည်း။



ခေတ်မှီကောက်ရိတ်စက်ဖြင့် ဂျုံပင်များကိုရိတ်သိမ်းနေခြင်း

**ကိုက်ဖြတ်သတ္တဝါ**။ ။ကမ္ဘာတွင် အားကောင်းထက်မြက်သောရှေ့သွားများဖြင့် ကိုက်ဖြတ်တတ်သည့်တိရစ္ဆာန်မျိုးပေါင်း ၃,၀၀၀ ခန့်ရှိသည့်အနက် ရှဉ့်၊ ကြွက်၊ ဖြူ၊ ယုန်နှင့် ဗီဗာဖျံများကိုလူသိများကြသည်။ ထိုတိရစ္ဆာန်များ၌ အစွယ်ဟူ၍မရှိ။ ရှေ့သွားနှင့်အံသွားများသာရှိသည်။ ရှေ့သွားများမှာ အပေါ် ၂ ချောင်း အောက် ၂ ချောင်းပါရှိ၍၊ ဆောက်သွားကဲ့သို့ပြားထက်ပြီးလျှင် ရှေ့သို့ငေါ်ထွက်နေသည်။ အရာဝတ္ထုများကိုကိုက်ဖြတ်၍ အဖျားတုံးသွားသည်နှင့်အမျှ သွားအရင်းမှ ရှည်ထွက် လိုက်လာသည်။ ထိုကြောင့် အသက်ရှင်လျက်ရှိစဉ် သွားတုံးသွားသည်ဟူ၍မရှိချေ။ ကိုက်ဖြတ်သတ္တဝါများသည် များသောအားဖြင့် အကောင်အထည်ငယ်ကြသည်။ သို့သော် တောင်အမေရိကတိုက်ရှိ ကက်ပီဗားရားခေါ် ပူးကြီးတမျိုးမှာ အလျား ၄ ပေခန့်ရှည်ကာ ဝက်ငယ်ပမာဏရှိသဖြင့် အကြီးဆုံးဖြစ်ပေသည်။ ကိုက်ဖြတ်သတ္တဝါတို့သည် သားငယ်ကိုနို့တိုက်မွေးမြူသောသတ္တဝါမျိုး ဖြစ်၍ နို့တိုက် သတ္တဝါအပေါင်းတွင် ဦးရေအများဆုံးဖြစ်၏။ ဦးရေများ ရခြင်းမှာ ပေါက်ပွားမှုမြန်ဆန်ခြင်း၊ ဒေသမရွေး နေထိုင်ခြင်း၊ နေရာထိုင်ခင်းကို လုံခြုံစွာ ရှာဖွေနေထိုင် တတ်ခြင်း တို့ကြောင့် ဖြစ်သည်။

ဤကိုက်ဖြတ် သတ္တဝါများကို ကမ္ဘာအနှံ့ အပြားမှာပင်တွေ့နိုင်သည်။ အကောင်ငယ်သလောက် လူတို့၏လယ်ယာကိုင်းကျွန်းနှင့်တကွ လှောင်ကုန်များကို အဖျက်ဆီးဆုံးလည်းဖြစ်၏။သို့သော် အချို့မှာ အိမ်၌လက်သပ်မွေးထားချင်လောက်အောင် ချစ်စရာကောင်း သည်။ ရှဉ့်ကလေးများ၊ ပူးကလေးများနှင့် ယုန်ကလေးများသည် ငယ်စဉ်ကစ၍မွေးလျှင် အလွန်ယဉ်လွယ်သောသတ္တဝါများ ဖြစ်ကြသည်။ ရှဉ့်၊ ဗီဗာဖျံနှင့် ယုန်တို့မှ လူတို့အတွက်အလွန်အသုံးဝင်သော သားမွေးများရသဖြင့်လည်း ယင်းသတ္တဝါများမှာ အဖိုးတန်သည်။

**ကင့်နယ်**။ ။ဗြိတိန်ကျွန်း၏ အရှေ့တောင်ဖက်စွန်း၌ 'အင်္ဂလန်ပြည်၏ ဥယျာဉ်' ဟု အမည်တွင်သော ကင့်နယ်သည် သိမ်းမြစ်ဝကျယ်နှင့် ဒိုဗာရေလက်ကြားတို့အကြားတွင် တည်ရှိ၏။

ထိုနယ်သည် အင်္ဂလန်ပြည့်ရှင်ဘုရင်များ၏ ဆွေတော်မျိုးတော်များ၊ မြို့စားနယ်စားကြီးများ အစဉ်အဆက်နေထိုင်ခဲ့ရာဒေသဖြစ်၍ဗြိတိသျှကျွန်းစုတွင် အထူး ထင်ရှားလေသည်။ ထိုပြင် ဥရောပတိုက်နှင့် အနီးကပ်ဆုံးဖြစ်၍ ယခင်က အင်္ဂလန်ပြည်သို့လာရောက်တိုက်ခိုက်သူများ ပဌမဆုံး ခြေကုပ်ပြုရာစခန်းလည်း မကြာခဏဖြစ်ခဲ့ရသဖြင့် ဗြိတိသျှနိုင်ငံသမိုင်းတွင်ထင်ရှားခဲ့လေသည်။

မြောက်ဖက်တွင် ဒေါင်းခေါ် မြေဖြူတောင်တန်းသည် အရှေ့မှအနောက်သို့တန်းလျက် တည်ရှိသည်။ အရှေ့တောင်ဖက်နှင့် သိမ်းမြစ်ကမ်းခြေတလျှောက်တွင် ညွှန်ပျောင်းဒေသရှိ၏။ မက်ဒဝေးမြစ်၊ စတောင်ဝါမြစ်နှင့် ဒါရင့်မြစ်တို့သည် ထိုနယ်အတွင်း ဖြတ်သန်းစီးဆင်းလေသည်။ မက်ဒဝေးမြစ်သည် ကင့်နယ်ကို အရှေ့ပိုင်း၊ အနောက်ပိုင်း၊ ၂ ပိုင်းခွဲခြား၍ ဖြတ်သန်းစီးဆင်းသည်။ ကင့်နယ်သည် စတုရန်းမိုင် ၁,၅၂၅ ခန့်ကျယ်ဝန်း၍ မြေသြဇာထက်သန်ပြီးလျှင် ရာသီဥတုမျှတ



ကင့်နယ်ကျေးလက်ဒေသတွင် ဂျုံခင်းများအလယ်၌ သာယာစွာတွေ့ရသောရွာတရွာ

သည်။ ဒေါင်းမြေဖြူတောင်တန်း၏ အောက်ဖက်တွင် ဝီးလဒခေါ် ဒေသတည် ရှိ၏။ ထိုဒေသမှာ လယ်ယာစိုက်ပျိုးလုပ်ကိုင်ရာဒေသ ဖြစ်၍ သစ်သီး ခြံများ၊ ဟော့ပင် စိုက်ပျိုးထားသောခြံများနှင့် ဟင်းသီးဟင်းရွက်ခြံများ ရှိလေသည်။ ထိုမျှ ဥယျာဉ်များ၊ ခြံများပေါများလှသော ဝီးလဒဒေသကို အစွဲပြု၍ ကင့်နယ်ကို 'အင်္ဂလန်ပြည်၏ဥယျာဉ်' ဟု အမည်ပေးခဲ့ခြင်းဖြစ်ပေသည်။

ထိုနယ် အရှေ့တောင်ပိုင်း ရှိ ရွမ့်နီညွန်ပျောင်း ဒေသတွင် သိုးအကြီးအကျယ်မွေးမြူသည်။ အထူးသဖြင့် ကင့်နယ်တွင် မွေးမြူသည့်သိုးမျိုးမှာ အင်္ဂလန်ပြည်တွင် ထင်ရှားလေသည်။

ကင့်နယ်အရှေ့မြောက်ပိုင်းတွင် မကြာမီကမှ တွေ့ရှိတူးဖေါ် လုပ်ကိုင်နေသော ကျောက်မီးသွေးတွင်းရှိလေသည်။

ကင့်နယ်တွင် ပျားမွေးသည့်လုပ်ငန်းကို အကြီးအကျယ်လုပ်ကိုင်၏။ ထိုပြင် အခြားလုပ်ငန်းဆောင်တာများမှာ အုတ်ဖုတ်ခြင်း၊ အိုးခွက်လုပ် ခြင်း၊ ဗိလတ်မြေ လုပ် ခြင်း၊ စက္ကူလုပ်ခြင်း၊ စက္ကူအိတ် လုပ် ခြင်း၊ ယမ်းမှုန့် ချက် ခြင်း စသည်တို့ ဖြစ်ကြ၏။ ထိုမှတပါး အရက် ချက် ရုံကြီး များ၊ အင်ဂျင်နီယာ အလုပ်ရုံကြီး များ၊ သင်္ဘောကျင်း ကြီး များ လည်း ရှိလေသည်။

မိတ်စတုန်းမြို့မှာ ကင့်ခရိုင်၏မြို့တော်ဖြစ်၍၊ အခြားအရေးပါသောမြို့များမှာ အက်ရှဖို့၊ ဂရေ့ဗဇင်း၊ ဝှစ်စတေဗယ်၊ ရော့ချက်စတာ၊ ကန်တာဗာရီ၊ ဝူးလစ်၊ ဒိုဗာနှင့် ဆင်းဒဝစ်စသော သင်္ဘောဆိပ်မြို့ များ နှင့် စစ်သင်္ဘော ကျင်း ကြီး ရှိသည့် ချက်တမ်မြို့ တို့ဖြစ်သည်။ ဟန်းဗေး၊ မားဂိတ်၊ ဗရော့စတဲယား၊ ရမ်းဇဂိတ်နှင့် ဖုတ်စတုန်း မြို့ များ မှာ အပျင်းပြေသွားရောက် လည်ပတ်ရာ မြို့များဖြစ်ကြ၏။

ကင့် နယ်၏ လူဦး ရေ မှာ ၁၉၅၁ ခုနှစ်တွင် ၁,၅၆၃,၂၈၆ ဟုခန့်မှန်းရလေသည်။

**ကင်ဂရူးကောင်။** ။ပါဏဗေဒပညာရှင်များကို အံ့အား သင့် စေသော ဒေသမှာ ဩစတြေးလီးယားတိုက် ဖြစ်သည် ။ အဘယ် ကြောင့် ဆိုသော် ထိုတိုက်တွင် အခြားနေရာ ဒေသများ၌ မမြင်ဘူး မကြားဘူး သော တိရစ္ဆာန် အထူးအဆန်းများကို တွေ့ရှိရသောကြောင့် ဖြစ်၏။ ဥဒါဟရုဏ်၊ နို့တိုက်တိရစ္ဆာန်မျိုးဆိုလျှင် ဥမအုတတ်သော်လည်း ဩစတြေးလီး ယား တိုက်တွင်မူ ယင်းတို့သည်ငှက်များ ကဲ့သို့ဥမှပေါက်ဖွား ကြီး ပြင်းလာကြ သည် ကို တွေ့ ရ သည်။ အခြား နေ ရာ တိုင်း တွင် ကျီး သည် မည်း သည် ချည်း ဖြစ် ၏။ သို့သော် ဩစတြေးလီယားတိုက်၌ ကျီးအဖြူလည်းရှိပေ သည်။ ထိုကဲ့သို့ ထူးဆန်းသော သတ္တဝါအမျိုးမျိုးအနက် ကင်ဂရူးကောင်မှာ ဩစတြေးလီးယားတိုက်နေ သတ္တဝါများအနက် အံ့ဩဖွယ်အ ကောင်း ဆုံး ဟု ဆို ရ ပေ မည် ။ ကင်ဂရူး ကောင် သည် နို့တိုက်သတ္တဝါမျိုးပေါင်းတွင် မာဆူးပီးယဲခေါ် သားပိုက်ကောင်မျိုး စဉ်၌ ပါဝင်သည်။ မာဆူးပီးယဲ၏ အဓိပ္ပါယ် မှာ 'အိတ်ဆောင်သတ္တဝါ' များဟု ဆိုလိုသည်။ ကမ္ဘာပေါ် ရှိ အိတ် ဆောင် သတ္တဝါ အား လုံး လိုလိုကို ပင် ဩစတြေးလီး ယား တိုက် ၌ အနှံ့ အပြား တွေ့ ရ သည်။ (သား ပိုက် ကောင် — လည်းရှု)။

ကင်ဂရူး ကောင်တို့သည် တခါက ကမ္ဘာအနှံ့အပြား၌ နေထိုင်ခဲ့သော သတ္တဝါဟောင်းများဖြစ်သည်။ နောင်သော် အခြားတိရစ္ဆာန်များ၏ တဖြည်းဖြည်း လွှမ်း မိုး မှုကြောင့် အခြားဒေသတို့၌ပျောက်ကွယ်တိမ်ကောပြီးလျှင်ဩစတြေးလီးယားတိုက်တွင်သာ ကျန်တော့သည်။ ဩစတြေးလီးယားတိုက်သည် အခြားတိုင်းနိုင်ငံများနှင့် မဆက်စပ်ဘဲ၊ ရေလယ်ခေါင်တွင် သီးခြားတည်ရှိနေသောကြောင့် ကင်ဂရူးကောင်များကို နှိပ်စက်ညှင်းပန်းမည့်တိရစ္ဆာန်ကြီးများ



သားငယ်ဆောင်သည့်အိတ်၊ သန်မာသောနောက်ခြေနှင့် အမြီးများရှိသည့်ကင်ဂရူးကောင်

မရောက်ရှိ နိုင်သည့်အတွက် ဤကဲ့သို့ မျိုးမပြုတ်ဘဲ တည်မြဲနေခဲ့ခြင်းဖြစ်သည်။

ကင်ဂရူးကောင် တို့သည် ဩစတြေး လီးယား တိုက်တွင်ရှေးပဝေဏီမှစ၍ ယခုထက်တိုင်အောင် အစဉ်အဆက် အနှံ့အပြား နေထိုင်လာခဲ့ကြသော်လည်း၊ ယင်းတို့၏နေထားသွင်ပြင်မှာ အချိန်ပြောင်းလဲသလောက် များစွာပြောင်းလဲခြင်းမရှိသည်ကို တွေ့ရသည်။ ကင်ဂရူး ကောင်အမျိုးမျိုးရှိ၏။ နေရာဒေသ ပတ်ဝန်းကျင်အခြေအနေကိုလိုက်၍၊ ယင်းတို့၏ အရွယ်အစား၊ အပြုအမူ၊ အကျင့်အကြံတို့သည် အနည်းငယ်မျှမသိမသာကွဲပြားကြမည်ဖြစ်သော်လည်း၊ အားလုံးတွင် ရင်ပတ်အောက်၌ သားငယ်ကို ထည့်ဆောင်ထားရန် အိတ်ကလေးများပါရှိသည့်အချက်တွင် တူကြသည်။ (ဩစတြေးလီးယားတိုက် — လည်းရှု)။



၁၀ ပေခန့်ကျယ်သောမြောင်းကို လှပစွာခုန်ကျော်နေသည့် ကင်ဂရူးများ

ကင်ဂရူးကောင်များ ထိုင်နေစဉ်ကြည့်လျှင် သုံးချောင်းထောက်ခွေးခြေနှင့် ဆင်တူသည်။ အဘယ်ကြောင့်ဆိုသော် ကြီးမားထွားကျိုင်းသော နောက်ခြေ ၂ ချောင်းနှင့် ရှည်လျားကြီးမားသောအမြီးပေါ်တွင် အမှီပြုကာ ထိုင်တတ်သောကြောင့် ဖြစ်၏။ ကင်ဂရူးကောင်တို့သည် အခြား ခြေလေးချောင်းတိရစ္ဆာန်များကဲ့သို့ မြေပေါ်၌ လေးဖက်ထောက်၍သွားလာလေ့မရှိချေ။ တခါတရံတွင်သာ လေးဖက်သွားကာ ယုန်ကလေးများသဖွယ် စားသောက်တတ်သည်။ သို့သော် လေးဖက်ထောက်မသွားနိုင်သောကြောင့် အသွားအလာခက်ခဲခြင်းကား မရှိပေ။ ယင်းတို့သည် သန်မာသော နောက်ခြေထောက်ရှည်ကြီး ၂ ချောင်းဖြင့် ခုန်လွှားပြီးလျှင်၊ အခြား ခြေလေးချောင်းတိရစ္ဆာန်များထက်ပင် အံ့ဩဖွယ်ကောင်းလောက်အောင် ပိုမိုလျင်မြန်လွယ်ကူစွာ သွားလာနိုင်ကြလေသည်။ အမြီးသည် ပြေးလွှားသွားနေသည့်အချိန်၌ မြေကြီးကိုရိုက်၍ ရိုက်၍ သွားလေ့ရှိသည်။ တခါခုန်လျှင် ၁၂ ပေမှ ၁၅ ပေလောက်အထိ ရောက်နိုင်၍၊ အရေးကြုံက ထိုထက်ပင် သာလွန်၍ ခုန်နိုင်သေးသည်။ ကင်ဂရူးကောင်တို့သည် သာမန်အချိန်များ၌ ဘာသာဘာဝအေးဆေးစွာနေတတ်၍၊ လူကိုလည်းကြောက်ရွံ့တတ်သည်။ သို့သော် သူတို့ကိုလိုက်လံဖမ်းဆီး၍ မှီလျှင်သော်၎င်း၊ ချောင်ပိတ်မိနေလျှင်သော်၎င်း၊ သန်မာသောနောက်ခြေထောက်များဖြင့် ပြင်းထန်စွာ ကန်ကျောက်တတ်သည်။ နောက်ခြေထောက်တွင် ၁၀ လက်မမှ ၁၂ လက်မအထိရှည်သော ခြေသည်းများလည်းရှိသဖြင့် ကုတ်ဖဲ့ကန်ကျောက်ခြင်းခံရလျှင် မသက်သာချေ။

ကင်ဂရူးကောင်၏ ခြေထောက်မှာ ကိုယ်အရွယ်နှင့်စာလျှင် ကမ္ဘာပေါ်၌ အသန်မာဆုံးနှင့် အကြီးမားဆုံးပင်ဖြစ်သည်။ ခြေချောင်း ၄ ခုပါရှိ၍၊ အပြင်ဖက်မှ ဒုတိယခြေချောင်းသည် အသန်မာဆုံးနှင့် အရှည်ဆုံးဖြစ်ပြီးလျှင် ဓါးမြှောင်သဖွယ် ရှည်လျားချွန်ထက်သော ခြေသည်းကြီးတခုပါရှိသည်။ အပြင်ဖက်မှ ပဌမခြေချောင်းမှာ ငယ်၍ ထိုခြေချောင်းကြီးနှင့်အတူ ခုန်လွှားရာတွင် အားပြုဖို့ အသုံးချလေသည်။ အတွင်းဖက်မှခြေချောင်းငယ် ၂ ခုတို့မှာမူ ပျော့ပျောင်း၍ ပူးတွဲနေပြီးလျှင်၊ အစာကိုတူးဆွကုတ်ခြစ်ရန် အတွက်သာလျှင် အသုံးပြုသည်။

ဤထူးဆန်းသော ကင်ဂရူးကောင်များကို ဩစတြေးလီးယားတိုက်နှင့် အနီးတဝိုက်ရှိကျွန်းများတွင်သာ တွေ့မြင်ရသည်။ ယင်းတို့သည် မြက်ပင်များ၊ သစ်ပင်ငယ်များနှင့် တောချုံတို့၏အမြစ်ကလေးတို့ကို စားသောက်လေ့ရှိသည်။

ကင်ဂရူးကောင်အမျိုးပေါင်း ၅၀ ကျော်ရှိသည့်အနက်၊ အကြီးဆုံးအမျိုးမှာ လူလောက်ကြီးမား၍ အလေးချိန်ပေါင် ၁၅၀ ခန့်ရှိသည်။ အငယ်ဆုံးအမျိုးမှာ ယုန်လောက်ပင်မကြီးသည်ကို တွေ့ရ၏။ အချို့မှာ လွင်ပြင်များတွင် နေထိုင်လေ့ရှိ၍၊ အချို့မှာ တောင်ကုန်းများပေါ်တွင်

နေထိုင် ကျက်စားလေ့ရှိသည်။ သစ်ပင်တက်နိုင်သည့် ကင်ဂရူးကောင်တမျိုးကိုလည်း ဩစတြေးလီးယားတိုက် ကွင်းစလန်ပြည်နယ်တွင် တွေ့ရသည်။

ကင်ဂရူးကောင် နှင့် စပ်လျဉ်း၍ အံ့ဖွယ်အကောင်းဆုံးအချက်ကား မိခင်က သားငယ်ကိုပြုစု ယုယပုံပင်ဖြစ်၏။ ပေါက်ဖွားခါစ ကင်ဂရူးကောင်ကလေးမှာ မယုံနိုင်လောက် အောင်သေးငယ်သည်။ မွေးခါစ ကင်ဂရူးကောင်သည် ၂ လက်မခန့်ပင် မကြီးချေ။ ပျော့လည်း ပျော့နွဲ့၏။ ထိုသားငယ်ကလေးကို မိခင်သည် ရင်ပတ်အောက်ရှိအိတ်ထဲတွင် ကြာမြင့်စွာ ထည့်ထားလျက် နွေးစေ၊ ကြီးထွားစေသည်။ အတန်ငယ်ကြီးထွားလာသောအခါ၊ သားငယ်သည် ခေါင်းကို အိတ်အပြင်သို့ထုတ်၍ ပြူတစ်ပြူတစ် နှင့်ကြည့်တတ်သည်။ ထိုနောက်အိတ်ထဲမှထွက်လာပြီးသော် မိခင်၏ အနားတွင်ပင် ကျက်စားနေတော့သည်။ ဤကဲ့သို့ အစဉ်တစိုက်ကြီးထွားလာရာ၊ နောက်ဆုံးတွင် မိမိဖါသာ အန္တရာယ်ကိုကာကွယ်နိုင်သောအခြေသို့ ရောက်မှ လွတ်လပ်စွာနေနိုင်သော ကင်ဂရူးကောင်ကြီးဖြစ်လာသည်။



အမေရိကန်နိုင်ငံရှိကမ္ဘာပေါ်တွင်အကြီးဆုံးဖြစ်သော ကင်ညွန်ချောက်ကြီး

ကင်ဂရူးကောင်သည် သားပိုက်ကောင်မျိုးစဉ်ရှိ မက်ကရိုပေါ့ဒီးမျိုးရင်း၌ပါဝင်သည်။ ကင်ဂရူးကောင်တို့တွင် မီးခိုးရောင်ရှိသောအမျိုးမှာ အကြီးဆုံးဖြစ်၏။ ယင်းတို့သည် လွင်တီးခေါင်အရပ်ကို ပို၍နှစ်သက်ကြသည်။ သို့သော် အနီရောင်ရှိသောအမျိုးကား ကျောက်တောင်ထူထပ်သော တောင်ကမ်းပါးယံများကို ပို၍နှစ်သက်ကြ၏။

အခြားကင်ဂရူးကောင်များအနက် ဝေါလရူးသားပိုက်ကောင်မျိုးမှာ အနီရောင် သို့မဟုတ် မီးခိုးရောင်ကင်ဂရူးမျိုးတို့လောက် ဖေါ်ရွေခြင်းမရှိဘဲ တကောင်တည်းသော်၎င်း၊ အတွဲလိုက်သော်၎င်း၊ နေထိုင်လေ့ရှိသည်။ မကြာခဏလည်း ခိုက်ရန်ဖြစ်ပွားတတ်သည်။

ဝေါလဗီသားပိုက်ကောင်မျိုးမှာ ဝေါလရူးမျိုးထက် သေးငယ်၍၊ အခြားကင်ဂရူးကောင်မျိုးတို့ထက် အမွေးထူထပ်ပြီးလျှင် အရောင်လည်း ပို၍လွင်သည်။ အကာအကွယ်ရသည့်အတွက် ချုံတောများကို ပို၍နှစ်သက်၏။

သစ်ပင်ပေါ်တွင်နေထိုင်ကျက်စားသော သစ်တက်ကင်ဂရူးကောင်မျိုးသည် သာမန်ကင်ဂရူးကောင်တို့ထက် ရှေ့ခြေထောက်ပိုရှည်၍ ကိုယ်ကာယအချိုးအစား ပိုမိုပြေပြစ်ပြီးလျှင် သာမန်ခြေလေးချောင်းသတ္တဝါများနည်းတူပင် သွားလာပြေးလွှားလေ့ရှိပေသည်။

**ကင်ညွန်ချောက်ကြီး**။ ။ကင်ညွန်ချောက်ကြီးသည် အမေရိကန်ပြည်ထောင်စု အယ်ရီဇိုးနားပြည်နယ် အနောက်မြောက်ပိုင်းတွင် တည်ရှိ၍၊ ကမ္ဘာတွင် အကြီးဆုံးသော ချောက်ကြီးအဖြစ် ထင်ရှားသည်။ ထိုချောက်ကြီးသည် အလျားမိုင် ၂၀၀ ကျော်ရှိ၍ ၂ မိုင်မှ ၁၃ မိုင်အထိကျယ်ပြီးလျှင် တမိုင်ခန့်အထိနက်ရှိုင်းသည်။ ဤချောက်ကြီးသည် ကော်လိုရားဒိုးမြစ်ကြောင့်ဖြစ်ပေါ်လာသဖြင့် ကော်လိုရားဒိုးကင်ညွန်ချောက် ဟူ၍လည်း ခေါ်ကြ၏။

ကင်ညွန်ချောက်ကြီးကို ကမ္ဘာ့အံ့ဖွယ်တပါးဟုပင် ခေါ်လောက်သည်။ ချောက်ကြီး၏ထိပ်မှ အောက်သို့ငုံ့ကြည့်လိုက်လျှင် ကော်လိုရားဒိုးမြစ်ကြီးကို ငွေခြည်မျှင်ကလေးမျှပင်ထင်ရလေသည်။ ချောက်ကြီးတွင်ရှိသည့်ကျောက်စိုင်ကျောက်ခဲများတွင် အရောင်မျိုးစုံလေသည်။ ကင်ညွန်ချောက်ကြီး၏ပကတိအရောင်မှာ နီမှိုင်းသော်လည်း နေရောင်ကျရောက်သည့်အခါ အဝါ၊ အပြာ၊ အစိမ်း၊ အညို၊ ပန်းရောင်စသည်ဖြင့် ရောင်စုံဖြာထွက်လေသည်။ ထိုကြောင့်လည်း ရှုမဝနိုင်သော ရှုခင်းတရပ်ဖြစ်လေတော့သည်။

ထိုချောက်ကြီး၏ ဘေးတဖက်တချက်ရှိ ကမ်းပါးကြီးများ

ပေါ် တွင် ကြီးမားသော အဖုအထစ်အဆင့်များသည် တခု နှင့်တခု အဆက်ကွာလှမ်း သော်လည်း လှေကား ထစ် များ သဖွယ်ဖြစ်နေကြသည်။ ကော်လိုရားဒိုးမြစ်သည် အချို့နေရာ များတွင် ကျောက်ဆောင်ကျောက်ချပ်များကို ဖြတ်သန်း စီးဆင်း သော်လည်း၊ ရေမစား ဘဲ မူလအတိုင်း တည် ရှိနေ သည့် ကျောက် တောင် ကျောက် စွန်း ကြီး များ သည် တန် ဆောင်းအို ကျောင်းပျက်ကြီးများအသွင်ကို ဆောင်လျက် ရှိသည်။ ကင်ညွန်ချောက်ကြီး ၏ အလှပဆုံး နှင့် အဆန်း ကြယ်ဆုံး နေရာမှာ ၅ မိုင် မျှရှည် လျား၍ ဂရင်း ကင်ညွန် နေရှင်နယ်ပတ်ဟု ခေါ် တွင်လေသည်။

ထိုချောက်ကြီးကို စပိန်လူမျိုးကာဒီနက်သည် ၁၅၄၀ ခုနှစ် တွင် တွေ့ရှိခဲ့၏။ သို့ရာတွင် နှစ်ပေါင်း ၃၀၀ ခန့်တိမ်မြုပ်နေခဲ့ ရာမှ ၁၈၆၉ ခုနှစ်တွင်မှ မေဂျာပေါင်းဝဲ နှင့် အဖေါ် ၉ ဦး တို့သည် ထိုဒေသသို့ ရှေးဦးစွာ စွန့်စားသွားရောက်ခဲ့ကြ သည်။ ထိုနောက်တွင် အလွန်ဘေးအန္တရာယ်များသဖြင့် သွားရောက်သူ များစွာမရှိတော့ချေ။ ယခုအခါ အမေရိ ကန်ပြည်ထောင်စုအစိုးရသည်ကင်ညွန်ချောက် ကြီး ကို ဖြတ် ကျော်၍ မီးရထားလမ်းဆောက်လုပ်နိုင်မည့် နည်းလမ်းများ ကို စူးစမ်းရှာဖွေလျက်ရှိ၏။

**ကင်တပ်ကီးပြည်နယ်**။ ။အပြာရောင်မြက်ပင်များ ထူး ခြားစွာပေါက်ရောက်ရာဒေသဖြစ်၍ 'မြက်ပြာပြည်နယ်' ဟု ခေါ်စမှတ်ပြုကြသော ကင်တပ်ကီးပြည်နယ်သည် အမေရိ ကန် ပြည် ထောင် စု တောင် ဖက် အ လယ် ပိုင်း ပြည် န ယ် တခုဖြစ်၏။ ထိုနယ်၏မြောက် ဖက်၌ အင် ဒီ ယား န ား ပြည် နယ်နှင့် အိုဟိုင်း အိုပြည် နယ်၊ အ ရှေ့ဖက် ၌ အ နေ ာက် ဗ ာ ဂျင် း နီး ယ ား ပြည် န ယ်၊ တောင် ဖက် ၌ တင် န က် ဆီ ပြည် နယ်၊ အနောက်ဖက်၌ မိဇူးရီပြည် နယ် နှင့် အီလီနွိုင် ပြည် နယ် များ ရှိ ကြ သည်။ အိုဟိုင်းအိုမြစ်သည် ဤနယ် ၏ အ နောက် မြောက် န ယ် နိမိတ်ဖြစ်သည်။

ကင်တပ်ကီးပြည်နယ်သည် အကျယ် အဝန်း စတု ရန်း မိုင် ပေါင်း ၄၀,၃၉၅ ရှိ၍၊ လူဦး ရေ ၂,၉၄၄,၀၆၆ ယောက် (၁၉၅၀) ရှိသည်။



ကင်တပ်ကီးပြည်နယ် ဖရန့်ဖို့မြို့တော်ရှိ ပြည်နယ်ဥပဒေပြုလွှတ်တော်အဆောက်အအုံ

ကင်တပ်ကီးပြည်နယ်၏ မြေမျက်နှာပြင်သည် ပေ ၃၀၀ အမြင့်ရှိသောမစ်စစ်စပီမြစ်ဝှန်းမှ အက်ပလက်ချီယန်တောင် တန်းအနောက်ဖက်အထိ တစတစမြင့်တက်သွား၏။ နယ်၏ အ ရှေ့ တောင် ပိုင်း မှ ာ တော တောင် ထူ ထပ် သည် ။ နယ် တခုလုံး၏ပျမ်းမျှအပူချိန်သည် ဖါရင်ဟိုက် ၅၅ ဒီဂရီဖြစ်၏။ ကင်တပ်ကီးပြည်နယ်တွင် လယ်ယာစိုက်ပျိုးခြင်းလုပ်ကိုင်၍ အများဆုံးစိုက်ပျိုး သော အသီး အနှံမှာ ဆေးပင် ဖြစ် ၏။ အခြားစိုက်ပျိုးသောအသီးအနှံများမှာ ပြောင်းဖူး၊ ဂျုံ၊ မုယော၊ ရိုင်းစပါး၊ အာလူးနှင့် သစ်သီးဝလံများဖြစ်သည်။

ကင်တပ်ကီးပြည်နယ်၏ အဓိကတွင်းထွက်ပစ္စည်းများမှာ ကျောက်မီးသွေး၊ ရေနံနှင့် ဗိလတ်မြေတို့ဖြစ်၏။ နွား၊ သိုး ဆိတ်မွေးမြူခြင်းသည် ကင်တပ်ကီးပြည်နယ်၏ အရေးကြီး သောလုပ်ငန်းတရပ်ဖြစ်၍ မြင်း၊ နွား၊ သိုး၊ ဆိတ်နှင့် ဝက် များကိုအကြီးအကျယ်မွေးမြူကြသည်။ သစ်ထုတ်သစ်ခွဲလုပ် ငန်းသည်လည်း အရေးကြီးသောလုပ်ငန်းတရပ်ပင်ဖြစ်၏။

ကင်တပ်ကီးပြည်နယ်တွင် အထက်တန်းပညာ သင်ကြား ရေးဌာနပေါင်း ၃၇ ခု၊ တက္ကသိုလ် ၁၃ ခု၊ သက်မွေးမှုပညာ သင်ကျောင်း ၅ ကျောင်းနှင့် ဆရာဖြစ်သင်ကျောင်း ၅ ကျောင်း ရှိလေသည်။

ကင်တပ်ကီးပြည်နယ်တွင် သွားရောက်လည်ပတ်ကြည့်ရှု စရာ များစွာရှိ၏။ ဟော့ဂျင်ဗီးမြို့ကလေး တောင်ဖက်ရှိ အေဗရာဟမ် လင်ကွန်း ဖွားမြင်ခဲ့သောနေရာတွင် အေဗရာ ဟမ်လင်ကွန်းနေရှင်နယ်ပတ်ကို ပြုလုပ်ထားရာ၊ ကေ ၁၁၀



မြန်မာကင်ဒါဂါတင်ကလေးတစုအား ဆရာမက စိတ်ဝင်စားဖွယ်ပုံတစ်ခုဖြင့် စိတ်ဓါတ်ကိုပြုပြင်မြှင့်တင်ပေးနေစဉ်

မျှကျယ်ဝန်းလေသည်။ ထိုပြင် ကေပေါင်းများစွာကျယ်ဝန်းသော ဂူကြီးများလည်းရှိ၏။

ကင်တပ်ကီးပြည်နယ်၏မြို့တော်မှာ ဖရန့်ဖို့မြို့ဖြစ်၍ လူဦးရေ ၁၁,၉၁၆ ယောက်ရှိသည်။ အခြားမြို့ကြီးမှာ လူဝီဗီးနှင့် ကဗင်တန်မြို့များဖြစ်ကြသည်။

**ကင်ဒါဂါတင်။** ။ကင်ဒါဂါတင်ခေါ် သူငယ်တန်းကျောင်းသည် ၁၈၃၇ ခုနှစ်တွင် ဂျာမန်လူမျိုး ပညာရေးဆိုင်ရာ ပြုပြင်ပြောင်းလဲရေးသမားကြီး ဖရားဗယ်က စထွင်လိုက်သော အသက် ၄ နှစ်မှ ၆ နှစ်စပ်ကြားကလေးများအတွက် သီးသန့်ကျောင်းတမျိုး ဖြစ်သည်။ ထိုကျောင်းမျိုးကို ဖရားဗယ် စတင်တည်ထောင်ခဲ့ရာတွင် ကလေးများကို ကျောင်းပို့ချိန်မရောက်မီ ပြုစုစောင့်ရှောက်ပေးမှု မရှိသလောက်ပင်နည်းပါးလှသောကြောင့် သူတို့အား ပညာသင်ကြားပေးရာတွင် အခက်အခဲ အမျိုးမျိုး တွေ့ရသဖြင့်၊ ထိုအခက်အခဲများ ပပျောက်သွားစေရန် ရည်ရွယ်ချက်နှင့် တည်ထောင်ခဲ့ခြင်းဖြစ်လေသည်။

ကလေးများသည် တဆင့်ပြီးတဆင့် ကြီးပြင်းလာသည့်အခါ သူတို့၏ပညာရေးသည်လည်း ကြီးပြင်းလာသည့် အဆင့်နှင့် သင့်လျော်သော ညွှန်ကြားမှုသာ ဖြစ်ရပေမည်။ ကလေးဘဝက ကောင်းမွန်သောပညာရေးကို စံနစ်တကျ လေ့လာသင်ကြားခဲ့ရသောသူသည် အခြေခံအုတ်မြစ်ခိုင်ခဲ့ကောင်းမွန်သဖြင့်၊ နောင်ကြီးပြင်းလာသောအခါ ပုဂ္ဂိုလ်ကျော်ဖြစ်နိုင်လေသည်။ 'အသေးကစ၊ ကြီးပွားရ၊ လောကဓမ္မတာ' ဟူသည့်အတိုင်း၊ ကြီးပွားလိုသောလူမျိုးတမျိုးသည် ကလေးပညာသင်ကြားရေးကို အထူးတိုးတက်ကောင်းမွန်လာအောင် ကြိုးစားရပေလိမ့်မည်။ ဖရားဗယ်သည် လူမျိုးတမျိုး၏အဆင့်အတန်းကို ပညာရေးကသာ မြှင့်တင်ပေးနိုင်ကြောင်းကောင်းစွာသဘောပေါက်မိပြီးလျှင်၊ ပညာရေးစံနစ်ကောင်းကိုတီထွင်မည်ပြုသော် ကလေးပညာသင်ကြားရေးသာ အရင်းခံဖြစ်ကြောင်း စဉ်းစားမိသဖြင့်၊ ကလေးများအတွက်သာ လုံးပန်းဆောင်ရွက်ခဲ့လေသည်။ ကလေးများသည် စိတ်နေသဘောထား၊ လုပ်ပုံကိုင်ပုံ၊ ရုပ်အသွင်အပြင်မှာ လူကြီးများနှင့်များစွာကွာခြား၍၊ ကလေးတို့၌လိုအပ်သော ပညာရေးသည် သူတို့စိတ်ကြိုက်နှင့်လည်းလိုက်လျောပြီးလျှင် သူတို့၏တသက်တာ အတွက်လည်း အသုံးကျမည့် စံနစ်မျိုးသာဖြစ်ရန် ရည်ရွယ်လျက် ဖရားဗယ်သည် ကင်ဒါဂါတင် ကျောင်းမျိုးကို တည်ထောင်ခဲ့လေသည်။ ကလေးများကို သဘာဝနှင့် မိတ်ဆက်ပေးနိုင်သည့် ကျောင်းမျိုးဖြစ်သောကြောင့် ကင်ဒါဂါတင် (ကလေးဥယျာဉ်) ဟုပင် ခေါ်ဝေါ်ခဲ့သည်။

ကလေးများသည် ကစားရန်သာ အထူးစိတ်ဝင်စားလေရာ၊ သူတို့ကို ကစားစေယင်းပင် ပညာသင်ကြားပေးသွားလျှင် အလွန်အကျိုးဖြစ်ထွန်းနိုင်စရာ အကြောင်းရှိ

လေသည်။ ထို့ကြောင့် ဖရားဗယ်သည် ပညာပေးနိုင်သော ကစားနည်းအမျိုးမျိုးကို ထွင်ခဲ့သည်။ ကစားခြင်းဖြင့် ကျန်းမာရေး၊ ပေါင်းသင်းဆက်ဆံရေး၊ အကျင့်စာရိတ္တနှင့် ဉာဏ်ပညာတို့ တိုးတက်နိုင်ပေသည်။ ကလေးအရွယ်တွင် စိတ်ထဲ၌ဖြစ်ပေါ်နေသည်တို့ကို နှုတ်ဖြင့်ရှင်းလင်းနားလည်အောင် မပြောတတ်သေးချေ။ သူတို့သည် မည်မျှလောက် စွမ်းရည်ရှိသည်၊ သူတို့၌ မည်သည့်အရာများလိုနေသည်၊ မည်သည့်အရာများတွင် သူတို့စိတ်ပါဝင်စားသည် စသည်တို့ကို သူတို့ကိုယ်သူတို့ ကောင်းစွာမသိသေးသောကြောင့် ဆရာ၏အကူအညီ များစွာလိုလေသည်။ ဆရာက ကလေးများ လိုအပ်သည့်အချက်တို့ကို ယူဖို့ အလိုအလျောက် နားလည်သွားအောင် စွမ်းဆောင်သွားနိုင်အောင် ပတ်ဝန်းကျင်ဖန်တီးပေးပြီးလျှင်၊ သင့်မြတ်လျော်ကန်သော ဝတ္ထုပစ္စည်းကလေးများဖြင့် များကာ ခေတ်မှီနည်းအမျိုးမျိုးဖြင့် သင်ကြားပေးလေသည်။ ကင်ဒါဂါတင်ကျောင်းသည် ကစားကျောင်းသက်သက် မဟုတ်သော်လည်း ကစားခြင်းကိုအသားပေးကာ ကစားရာမှ ပညာရအောင် ပြုပြင်သွန်သင်ပေးသော ကျောင်းဖြစ်လေသည်။ ကလေးများ၏ ကျန်းမာရေး၊ အကျင့်စာရိတ္တကောင်းမွန်ရေး၊ စိတ်ဓါတ်တိုးမြှင့်ရေး တို့ကို အဓိကထားသောကြောင့်၊ ကင်ဒါဂါတင်ကျောင်းကို လေကောင်းလေသန့်နှင့် နေရောင်ခြည်ကောင်းစွာရနိုင်သော ကွင်းပြင်၌ တည်ဆောက်ထားတတ်၍၊ ကျန်းမာရေးဖြင့်ညီညွတ်စွာ ကလေးများအိပ်စက်နားနေရန်အခန်းများ၊ ကစားရန်ကစားကွင်းများ၊ ကိုယ်လက်ကြံ့ခိုင်ရေးအတွက် လေ့ကျင့်ခဏ်းများ ကျင့်ရန် နေရာ၊ အစားအသောက်များ ကျွေးမွေးရန်အခန်း စသည်တို့ကိုလည်း အဆင်သင့် ဆောက်လုပ်ထားရှိပြီးလျှင် အရည်အခြင်းကောင်းသော ဆရာလက်ရွေးဆန်များကိုသာ ခန့်ထားလေသည်။

ထိုသို့မဟုတ်လျှင်လည်း မူလတန်းကျောင်းများနှင့် ပူးတွဲကာ ကင်ဒါဂါတင်အတန်းကို ဖွင့်လှစ်ထားတတ်သည်။ ထိုသို့ထားရှိသည့်အခါ ကင်ဒါဂါတင်အတန်းကို အောက်ဆုံးထပ်တွင် ထွက်ပေါက်တခုခုနှင့် နီးနီးထားရှိရသည်။ ဤသို့ဖြင့် ကလေးငယ်များသည် အခြားကလေးကြီးများနှင့် ရောနှောခွင့်မရပေ။ ၎င်းတို့အတွက် သီးခြား ကိုယ်လက်ဆေးကြောသုတ်သင်ရန်အခန်းများကို ကစားခန်းနှင့် အများအားဖြင့် ကပ်လျက်ထားရှိလေသည်။ ထိုပြင် ကလေးကြီး







(အပေါ်ပုံ) ကင်ဒါဂါတင်ဆရာမသည် မိမိတပည့်ကလေးများအား တခါတရံ အတီးအမှုတ်ဖြင့်နှစ်သိမ့်ဖျော်ဖြေ၏။ (အလယ်ပုံ)တခါတရံတွင်လည်း ကလေးငယ်များအား မိမိတို့ဖါသာသီဆိုတီးမှုတ်စေခြင်းဖြင့် လက်တွေ့သင်ကြားတတ်မြောက်စေလေသည်။
(အောက်ပုံ) မိမိစိတ်ကူးမိရာပုံများရေးဆွဲစေခြင်းသည်လည်း ကင်ဒါဂါတင်သင်တန်း၏ အစိတ်အပိုင်းတခုဖြစ်သည်။

များနှင့်ရောနှော မကစားရအောင် သီးခြားကစားကွင်းလည်း ထားပေးရ၏။ အများအားဖြင့် ကစားခန်းနှင့်ဆက်လျက် ထားရှိလေသည်။

ကင်ဒါဂါတင်အတန်းမှာ အခြားအတန်းများနှင့်မတူ၊ အိမ်ခန်းနှင့်သာတူလေသည်။ ထိုသို့ဖန်တီးထားရသည်မှာ အိမ်နှင့်ခွဲခွာ ကလေးများအတွက် ပတ်ဝန်းကျင်အခြေအနေ ရုတ်ခြည်းပြောင်းလဲမသွားရန်နှင့် တဖြည်းဖြည်းနေသားတကျဖြစ်သွားရန်အတွက် ဖြစ်၏။ အချို့ခေတ်မီကင်ဒါဂါတင်တန်းများတွင် မီးဖိုများပင် ထားရှိသည်။ ပြတင်းပေါက်များကို နိမ့်နိမ့်ဖေါက်ထား၍ ခန်းဆီးများတပ်ဆင်ထားသည်။ ပြတင်းပေါက်အနီးတွင် ခုံများပြုလုပ်ထားရာ ထိုခုံများပေါ်တွင်ထိုင်ကာ အပြင်ကိုလှမ်းကြည့်နိုင်သည်။ ထို့ပြင် အခန်းထဲတွင် ပန်းပင်များ၊ ပန်းအိုးများ၊ ငါးမွေးကန်ကလေးများ၊ တိရစ္ဆာန်လှောင်အိမ်ကလေးများကိုလည်း ထားရှိ၏။ ကင်ဒါဂါတင်အတန်းသားကလေးများ၏ အရွယ်မှာ လွန်စွာကိုယ်လက်လှုပ်ရှားနေတတ်သော ၄–၅ နှစ်သားအရွယ်ဖြစ်၍၊ အခန်းမှာကျယ်ရသည်။ အများအားဖြင့် မူလတန်းကျောင်းတွင် အကျယ်ဆုံးအခန်းဖြစ်သည်ဟု ဆိုနိုင်ပေသည်။ထိုသို့ကျယ်မှသာ ကလေးများလှုပ်ရှားသွားလာနိုင်ပြီးလျှင် ကစားခုန်စားပြုလုပ်နိုင်၍၊ သစ်သားတုံးများဖြင့် အဆောက်အအုံကြီးများ သဏ္ဌာန်ဆောက်လုပ်နိုင်သည်။စားပွဲကုလားထိုင်နိမ့်နိမ့်များကို အလွယ်တကူရွှေ့နိုင်၊ အခန်းကို အလွယ်တကူရှင်းနိုင်ပေသည်။

ကင်ဒါဂါတင်သို့ရောက်လာသောကလေးများသည် တယောက်ချင်းဖြစ်စေ၊ အပေါင်းအဖေါ်များနှင့်ရောနှော၍ဖြစ်စေ၊ လွတ်လပ်စွာကစားသူကစား၊ ဆရာ၏အကူအညီဖြင့် စု၍ကစားသူကစား၊ ကိုယ်လက်ကြံ့ခိုင်ရေး လုပ်သူလုပ်၊ လက်ဖြင့် ကစားစရာပစ္စည်းအမျိုးမျိုးကို လုပ်သူလုပ်၊ လမ်းလျှောက်သွားလိုသူသွား၊ သီချင်းသင်သူသင်၊ အတီးအမှုတ်တီးသူတီး၊ ပုံပြောသူပြောကြ၊ အရုပ်ကားများကြည့်သူကြည့်ကြ၊ ဥယျာဉ်ထဲ၌ပန်းပင်ဝိုင်းစိုက်သူစိုက်ကြနှင့် ဖရားဗယ်တီထွင်ထားခဲ့သောလုပ်ငန်းစဉ်တို့ကို စံနစ်တကျ ပျော်ပျော်ပါးပါး လိုက်နာဆောင်ရွက်ကြလေသည်။ ကလေးကစားစရာများကိုလည်း အထူးတလည် စီမံထားရသည်။ ကစားစရာသေတ္တာကလေးတခုတွင် သစ်သားဘောလုံး ၆ လုံးကို အနီ၊ အပြာ၊ အဝါ၊ အစိမ်း၊ လိမ်မော်၊ ခရမ်းရောင်ဆေးများခြယ်၍ ထည့်ထားသည်။ အခြားသေတ္တာတခု၌ သစ်သားဘောလုံး၊ သစ်သားအန်စာတုံးနှင့် သစ်သားဒလိမ့်တုံးများ ထည့်ထားလေသည်။ အချို့သေတ္တာများ၌ ဂျီဩမေတြီပညာတွင်အထောက်အပံ့အခြေခံရနိုင်စေရန် ပုံသဏ္ဌာန်အမျိုးမျိုးရအောင်စိတ်ထားသော သစ်သားအန်စာတုံးတည်းဖြစ်စေ၊ အများဖြစ်စေ၊ ထားရှိလေသည်။ သံကွင်းများ၊ သံကွင်းတပိုင်းပြတ်များ၊ ဆေးခြယ်ထားသည့် သေးသွယ်ဖြောင့်တန်းသောတုတ်ချောင်းများ၊ တြိဂံပုံ၊ စတုဂံပုံ သစ်သားပြား သို့မဟုတ် စက္ကူကတ်ပြားများကိုလည်း တသီးတခြား သေတ္တာတခုစီတွင်ထည့်၍ထားရှိလေသည်။ ထို့ပြင် ကျောက်စရစ်ခဲလုံးများ၊ ခရုခွံများ၊ သစ်စေ့များ ထည့်ထားသော ကစားစရာသေတ္တာတခုလည်း ထားရှိသေး၏။ ဤကစားစရာများကို ကိုင်တွယ်ကစားရခြင်းဖြင့် ကလေးသည် အရောင်များကို ခွဲခြားတတ်၍၊ အလုံး၊ အပြား၊ အချွန်၊ အဝိုင်းစသောပုံသဏ္ဌာန်အမျိုးမျိုးကိုလည်း လက်တွေ့အားဖြင့် ကောင်းစွာနားလည်မှတ်သားခွဲခြားတတ်ပေသည်။ ကလေးအားတုတ်ချောင်း၊ သစ်သားတုံးတို့ဖြင့်ကစားစေလျှင် ကလေးသည် သူ့ဉာဏ်စွမ်းဖြင့် အိမ်ကလေးများဆောက်ခြင်း၊ သင်္ဘော၊ မော်တော်ကား၊ မီးရထားစသည်ဖြင့် သူ့စိတ်ကူးရရာလူ့အသုံးအဆောင်တို့ကို သူ့ဖာသာသူ စမ်းသပ်ပြုလုပ်ကြည့်ပေလိမ့်မည်။ ထိုအခါ ကလေး၏စိတ်ကူး စိတ်သန်းသည်တိုးတက်လာ၍ လက်ကလည်း မည်သည်ကိုမဆိုလုပ်ချင်ကိုင်ချင်စိတ် ပေါက်လာပေမည်။ အများအားဖြင့် ကလေးများ၌ သိချင်၊ တတ်ချင်၊ လုပ်ချင်သောစိတ်ဓါတ်ပြင်းထန်သောကြောင့် သူတို့ကို အထက်ပါကစားစရာများပေးထား၍ သူတို့ဖာသာသူတို့ လွတ်လပ်စွာလုပ်ကိုင်ခွင့်ပေးထားလျှင်၊ ကလေးများသည် အလွန်ပျော်ရွှင်နေတတ်လေသည်။ စိတ်ကြည်လင်နေသောအခါ ဦးနှောက်ကို ကောင်းစွာအသုံးချနိုင်သဖြင့်၊ ကလေးများသည် ကစားနေရချိန်တွင် သူတို့၏ဉာဏ်စွမ်းဉာဏ်စကလေးများကို ထုတ်ဖေါ်ပြသနိုင်သည်။ အနီးအနားပတ်ဝန်းကျင်၌ ရှက်ရကြောက်ရမည့်သူများမရှိသောအခါ ကလေးများသည် စိတ်ကလှုံ့ဆော်သည့်အတိုင်း ပြောတတ်လုပ်တတ်ကြသည်။ တခါတရံ ကလေးများနှုတ်မှ လွန်စွာဆန်းကြယ်သောစကားများ ထွက်လာတတ်လေသည်။ သူတို့အား လူကြီးနှင့်မခြား လူမှုရေးရာနှင့်ဆိုင်သောပတ်ဝန်းကျင် ဖန်တီးပေးခဲ့လျှင်၊ သူတို့လည်း လောကအကြောင်းကို သူတို့ဉာဏ်မှီသရွေ့ နားလည်ပြီးနောက် ကြီးပြင်းလာသောအခါ လူမှုရေးရာပြဿနာများကို ဖြေရှင်းနိုင်လိမ့်မည်ဟု ဖရားဗယ်သည် တထစ်ချယုံကြည်သောကြောင့်၊ ကလေးတို့ကို ယင်းတို့နှင့်တန်သည့်ပတ်ဝန်းကျင်၊ ဝတ္ထုပစ္စည်း၊ အနေအထိုင်မှစ၍ အမျိုးမျိုးပြုပြင်စီမံပေးခဲ့သည်။

ထို့ပြင် သုခုမပညာဖက်ဆိုင်ရာ ဝတ္ထုပစ္စည်းများလည်း ထားရှိသည်။ ယင်းတို့မှာ စုတ်တံများ၊ လက်ခြယ်ဆေးများ၊ ကရေယွန်ရောင်စုံဆေးတောင့်များ၊ ရောင်စုံခဲတံများ၊ မြေစေးစသည်တို့ဖြစ်၏။ တည်ဆောက်မှုတွင်ဝါသနာပါသော ကလေးများအတွက် တူများ၊ လွှများနှင့်အခြားလက်သမား

အသုံးအဆောင်များ အစုံအလင်ရှိသည့်အလုပ်ခုံများ ထား ရှိပေးလေသည်။

ကလေးတိုင်းလိုလိုပင် ဟန်ဆောင်ကစားတတ်ကြသည်။ သို့ဖြစ်၍ ထောင့်တထောင့်တွင် ကစားစရာအိမ်ထောင်ပရိဘောဂများ၊ မီးဖိုဆောင်သုံးအိုးခွက်များ၊ ဆေးခြယ်ထားသောဝတ္ထုပစ္စည်းများနှင့် အဝတ်အစားများ ထားပေးရသည်။ ကလေးများသည် ကစားစရာမီးဖိုများ၊ အိုးခွက်များနှင့် အိမ်ဆောက်တမ်းကစားတတ်၏။ သူတို့အတွက် အိမ်အသုံးအဆောင် မှန်သမျှ ကစားစရာ အဖြစ်ထားရှိပေးရာ စိတ်ကူးရသည့်အတိုင်းကစားနိုင်ကြပေသည်။ ထိုမှတပါး သဲပုံတခုထားရှိပေးသဖြင့် သဲထဲကွင် စိတ်ကူးရသလိုတိုက်အိမ်၊ လမ်း၊ တန်တားစသည်ဖြင့် ပုံသဏ္ဌာန်အမျိုးမျိုးပြုလုပ်ကစားနိုင်၏။

အတီးအမှုတ်၊ အကအခုန်မှာ ကင်ဒါဂါတင်သင်တန်းကလေးများအတွက် အရေးကြီးသော သင်ခန်းစာလည်းဖြစ်၍ အတန်းထဲတွင် စန္ဒယားတလုံးရှိတတ်သည်။ ကလေးများသည် သီချင်းအဆိုသင်၍ ဆရာနှင့်အတူ သံပြိုင်သီဆိုကြ၏။ စည်ကလေးများ၊ လင်းကွင်းကလေးများ၊ သုံးထောင့်ကွေးသံချောင်းကလေးများကို တီးခေါက်၍စည်းလိုက်ကြသည်။ ထို့ပြင် ကလေးများလှန်လှောကြည့်ရန်စာအုပ်များ၊ ဆရာကဖတ်ပြရန်စာအုပ်များလည်း ရှိလေသည်။

ဂျာမနီနိုင်ငံရှိအိမ်ရှင်မများသည် စီးပွားရေးဖူလုံအောင်



ဘုရားဝတ်ကျောင်းမှပြန်လာကြသော ကိုရီးယန်းကလေးများ

မိမိတို့ခင်ပွန်းသည်များနည်းတူ တနေကုန် အလုပ်လုပ်ကိုင်ဆောင်ရွက်ရသဖြင့် သားငယ်သမီးငယ်များကို မကြည့်ရှုမပြုစုနိုင် ဖြစ်ခဲ့လေသည်။ ထိုအလုပ်သမားများ၏ သားသမီးများကို ကင်ဒါဂါတင်ကျောင်းများကလက်ခံပြုစုစောင့်ရှောက်ရန်တာဝန်ယူပြီးလျှင် နံနက်မှညနေထိ ကလေးများကို ကျောင်း၌ကျွေးမွေးသုတ်သင်ထားပေး၏။ ကလေးတို့ကို ရှေးဦးစွာ သန့်သန့်ရှင်းရှင်းနေတတ်ထိုင်တတ်သည့်အလေ့အကျင့်ရအောင် ကျောင်းကသွန်သင်ပေးလေသည်။ ထို့နောက် ကလေးများစည်းကမ်းစနစ်နှင့်ကစားတတ်အောင် စကားပြောပုံနေပုံထိုင်ပုံမှစ၍ သေဝပ်ပိပြားအောင်၊ အမျိုးမျိုးလေ့ကျင့်ပေး၏။ ပုံပြောခြင်း၊ အရုပ်ကားများကိုကြည့်စေခြင်းတို့သည် ကလေးတို့၏ဇာတိစိတ်ကိုက်ကိုလိုက်၍ အတတ်ပညာပေးခြင်းပင်ဖြစ်သည်။ ကလေးတို့သည် ပုံနားထောင်ရန်၊ ပုံပြောရန်၊ အရုပ်ကားများကိုကြည့်ရန် အထူးဝါသနာပါသောကြောင့်၊ သူတို့ကိုဗဟုသုတလည်းတိုး၊ နောင်အခါတွင်လည်းအသုံးကျမည်ဖြစ်သော အကြောင်းအရာများကို ပုံဝတ္ထုသဖွယ်ဖန်တီး၍ပြောပြခြင်း၊ ထူးဆန်းအံ့ဩဖွယ်ကောင်း၍လှပဆန်းကြယ်သောအရုပ်ကားများကိုပြကာ သူတို့စိတ်ထဲ၌ဖြစ်ပေါ်သမျှကိုနှုတ်ဖြင့်ပြောပြစေခြင်း စသည်တို့ကို လေ့ကျင့်ပေးခြင်းဖြင့်စိတ်ကူးဉာဏ်ရင့်သန်စေပြီးလျှင်၊ မိမိစိတ်ထဲ၌ရှိသည်ကိုစကားဖြင့်ဖေါ်ထုတ်ပြောပြတတ်လာစေနိုင်သည်။

ဤသို့ မျက်စိဖြင့်မြင်ရသောအကြောင်းအရာပစ္စည်းတို့ကိုစဉ်းစားချိန်ဆပြီးလျှင် နှုတ်ဖြင့်ထိရောက်အောင်ပြောပြနိုင်ခြင်းသည် လူတို့အဖို့ အရေးကြီးသောအချက်တရပ်ဖြစ်၏။ ဖရားဗယ်သည် ထိုကဲ့သို့ပြောနိုင်အောင် ကလေးများကို ကင်ဒါဂါတင်တန်း၌လေ့ကျင့်ပေးရန် သင်နည်းအမျိုးမျိုးထွင်ထားခဲ့ပေသည်။ ကဗျာလင်္ကာကို ကလေးအားသင်ကြားသောအခါ၊ ထိုကဗျာပါအကြောင်းအရာတို့ကိုကလေးသည် ခြေဟန်လက်ဟန်ပြ၍ဆိုတတ်အောင်၊ တနည်းအားဖြင့် ကစားနေသကဲ့သို့ကလေးစိတ်၌ထင်ရအောင် သင်ပေးလေသည်။ ခြေဟန်လက်ဟန်နှင့်သီဆိုခြင်းဖြင့် ကလေး၏စိတ်ကူးဉာဏ်၌ ကွင်းကွင်းကွက်ကွက်သရုပ်ပေါ်လာနိုင်လေသည်။ ကစားနည်းအမျိုးမျိုးကိုလည်း ဖြတ်ထိုးဉာဏ်၊ စဉ်းစားဉာဏ်၊ တိုင်းဆနိုင်သောစွမ်းရည်များရရှိနိုင်ရန် ကြံဖန်စီမံထားလေသည်။ (ကစားခြင်း၏အရေးကြီးပုံ၊ ကလေးကြီးပြင်းလာပုံ၊ ဖရားဗယ်,အက် (ဖ)၊ ဒဗျူ — လည်းရှု)။

**ကင်ပွန်းတပ်မင်္ဂလာ။** ။ကင်ပွန်းတပ်မင်္ဂလာမှာ မွေးစကလေးကို ကင်ပွန်းရည်၊ တရေ်ရည်စသည်တို့ဖြင့် ဦးခေါင်းဆေးခြင်းအခမ်းအနားကို ခေါ်ဆိုသည်။ တနည်းအားဖြင့် မွေးစကလေးအား ဝမ်းတွင်းဆံပင်ရိတ်ပေးသော

မင်္ဂလာပွဲဖြစ်သည်။ ထို့ကြောင့် ကင်ပွန်းတပ်မင်္ဂလာသည် 'ကေသစ္ဆေဒနမင်္ဂလာ' ဖြစ်သည်။ ကေသစ္ဆေဒနဟူသည်မှာ ခေါင်းရိတ်ခြင်းဟုအနက်ရ၏။ သန့်ရှင်းစင်ကြယ်ခြင်းအလို့ငှာ ကလေး၏ဦးခေါင်းကို တရော်ကင်ပွန်းတို့ဖြင့်ဆေးကြောသည်ကိုစွဲ၍ ကင်ပွန်းတပ်သည်ဟု အခေါ်လေ့ကြသည်။ သို့ရာတွင် ယခုခေတ်၌ ထိုမင်္ဂလာအခမ်းအနားမှာပင် နာမသမုတိမင်္ဂလာတည်းဟူသော နာမည်ပေးခြင်းအမှုကိုလည်း တပါတည်းဆောင်ရွက်လေသည်။

ဤမင်္ဂလာပွဲမျိုးကို တရုပ်၊ အိန္ဒိယနှင့် ဂရိနိုင်ငံများတွင် ရှေးပဝေဏီအခါကပင် ပြုလုပ်လေ့ရှိကြသည်။ ယဟူဒီလူမျိုးတို့သည် မွေးခါစကလေးအား ဆားရည်ဖြင့်ဆေးကြောခြင်း၊ အမည်ပေးခြင်း အခမ်းအနားများကို ခရစ်တော်မပေါ်မီအချိန်ကာလကပင် ပြုလုပ်လေ့ရှိသည်။ မြန်မာနိုင်ငံ၌ပြုလုပ်လေ့ရှိသော ကင်ပွန်းတပ်မင်္ဂလာအခမ်းအနားမှာ တရုပ်လူမျိုး၊ ဟိန္ဒူလူမျိုးတို့ပြုလုပ်ပုံနှင့် ဆင်တူယိုးမှားပင်ဖြစ်သည်။ ဤထုံးစံဓလေ့မှာ ဟိန္ဒူလူမျိုးများထံမှ ဆင်းသက်ပြန့်ပွားလာဟန်တူသည်။ တရုပ်လူမျိုးများကမူ ဤမင်္ဂလာပွဲကို 'ခေါင်းရိတ်ပွဲဟု' ခေါ်ဆိုကြသည်။

ဇိနတ္ထပကာသနီကျမ်းတွင် ဘုရားအလောင်းတော် သိဒ္ဓတ်မင်းသားအား ဖွားမြင်ပြီးသည့်နောက် ၅ ရက်မြောက်သောနေ့၌ အမည်မှည့်အပ်သောအခမ်းအနားကျင်းပပုံကို ဖော်ပြထားရာ၊ ယခုခေတ် မြန်မာလူမျိုး၊ ဟိန္ဒူလူမျိုးတို့ကျင်းပပုံနှင့် များစွာတူလှသည်။ ဤအချက်ကို ထောက်ရှုခြင်းဖြင့် ကင်ပွန်းတပ်မင်္ဂလာပွဲကျင်းပခြင်းမှာ အလွန်ရှေးကျသော ထုံးတမ်းစဉ်လာတခုဖြစ်ကြောင်း ထင်ရှားပေသည်။

မြန်မာနိုင်ငံ၌ ကင်ပွန်းတပ်မင်္ဂလာဆင်ယင်ပုံမှာ ကလေးသူငယ်ကိုမွေးဖွားပြီးနောက် ရက်သတ္တတပတ် သို့မဟုတ် ၂ ပတ်အတွင်း နေ့ကောင်းရက်သာရွေး၍ ကျင်းပလေ့ရှိသည်။ ချမ်းသာသူများအဖို့ ပုဏ္ဏားဆရာများကိုပင့်ဖိတ်ကာ ကြီးကျယ်ခမ်းနားစွာ ကျင်းပလေ့ရှိသည်။ ပုဏ္ဏားဆရာများက ဂါထာမန္တရားများကိုရွတ်ဖတ်သရဇ္ဈာယ်ပြီးနောက် မင်္ဂလာပွဲကိုစတင်ကျင်းပလေသည်။ သတ်မှတ်ထားသောနေ့ရက်တွင် မင်္ဂလာပွဲကို ဦးစီးရှေ့ဆောင်ပြုလုပ်သူက မင်္ဂလာစကားများပြောကြားပြီးနောက်၊ အသင့်ပြုလုပ်ထားသော ကင်ပွန်းရည်၊ တရော်ရည်တို့ဖြင့် သူငယ်၏ဦးခေါင်းကို ဆေးကြောပေးသည်။ အကယ်၍ ဦးခေါင်းရိတ်ရန်လိုအပ်လျှင်လည်း ဦးခေါင်းရိတ်ပြီးမှဆေးကြောပေးလေသည်။ ဖိတ်ကြားရောက်ရှိနေကြသောပရိသတ်ထဲမှ ရင်းနှီးသောဆွေမျိုးမိတ်သင်္ဂဟများကလည်း ကင်ပွန်းရည်ဖြင့် ကလေးအား စတိသုတ်လိမ်းဆေးကြောပေးကြသည်။

ထို့နောက် သူငယ်အားသန့်ရှင်းဖြူစင်သော အဝတ်အစားသစ်များဝတ်ဆင်ပေးပြီးလျှင်၊ အမွှေးနံ့သာတို့ဖြင့်ပက်ဖျန်းလိမ်းကျံပေးကြသည်။ တဖန် မင်္ဂလာပွဲကိုဦးစီးဆောင်ရွက်သည့်ပုဂ္ဂိုလ်ကပင် သူငယ်အား သင့်လျော်သောအမည်နာမကို ခြီးမြှင့်လေသည်။

'အရင်းမွေးနံ၊ အဖျားခံ၊ မှတ်ရန်ပဉ္စပွတ်။ သားသမီးရတနာ၊ မည်သညာ၊ ပြုရာလောကဝတ်' ဆိုသော ဗေဒင်ကျမ်းဆောင်ပုဒ်နှင့်အညီ ခေါ်ဝေါ်သမုတ်ကြသည်။ ပုံစံအားဖြင့်၊ တနင်္ဂနွေနေ့မွေးဖွားသောသူငယ်ကို တနင်္ဂနွေနံ အစထား၍ တနင်္ဂနွေမှ ၅ ရက်မြောက်သောကြာသပတေးနံကို အဖျားတွင်ထားလျက်မှည့်ခေါ်ရမည်ဟု ဆိုလိုသည်။ ထို့ကြောင့် တနင်္ဂနွေသား၏အမည်ကို 'အောင်ပွင့်၊' 'အောင်ပန်း' စသည်ဖြင့် မိဘများနှင့်ဆွေးနွေးတိုင်ပင်၍ မှည့်ခေါ်လေ့ရှိသည်။

ကလေးအားအမည်မှည့်ပြီးနောက် ကြေးမုံပြင် (ယခုခေတ်တွင်မှန်) ကို ကြည့်ရှုစေသည်။ ဓါး၊ အပ်၊ ကညစ်စသောလူသုံးပစ္စည်းများကိုလည်း စတိအဖြစ် ကိုင်တွယ်စေသည်။ ထို့နောက်တဖန် မြေကြီးပေါ်တွင် ၇ ကြိမ်မျှခြေထောက်ချစေ၍ သွားသည်ဟန်ပြုစေသည်။ မင်္ဂလာပွဲသို့ကြွရောက်လာကြသော ဧည့်ပရိသတ်များက သူငယ် ကျန်းမာချမ်းသာစေရန်၊ အသက်ရှည်စေရန် ဆုတောင်းမေတ္တာပို့ကြသည်။ 'ယံဒုန္နိမိတ္တံအဝမင်္ဂလဥ္စယောစာမနာပေါ........' အစရှိသော ပုဗ္ဗဏှသုတ်ကို ရွတ်ဖတ်သရဇ္ဈာယ်လိုကလည်း ရွတ်ဖတ်ကြလေသည်။ ဖိတ်မန္တကပြုထားသော ဧည့်ပရိ



လူ့လောကသို့ရောက်လာခါစကလေးငယ်အတွက် အန္တရာယ်ကင်းပရိတ်များရွတ်ဖတ်၍ ဆုတောင်းပတ္ထနာပြုနေကြခြင်း

သတ်တို့အား စားသောက်ဖွယ်တို့ဖြင့် တည်ခင်းကျွေးမွေးလေသည်။ ဤမင်္ဂလာပွဲတွင် မိဖဆွေမျိုးများက ကလေးသူငယ်အား ရွှေငွေပစ္စည်းရတနာများလက်ဖွဲ့လေ့ရှိသည်။

မရွှေ့မပြောင်းနိုင်သော လယ်ယာမိုးမြေပစ္စည်းများကို လက်ဖွဲ့လိုလျှင် စာချုပ်စာတမ်းနှင့်ပေးကမ်းမှသာ တရားဝင်သည်။ ဓမ္မသတ်ကျမ်းများတွင် ဤသို့ မင်္ဂလာပွဲများ၌ရရှိသောလက်ဖွဲ့ပစ္စည်းများကို 'သင်းသီး' ပစ္စည်း အမျိုးအစားထဲ၌ထည့်သွင်းထားပြီးလျှင်၊ ထိုပစ္စည်းများမှာ လက်ခံရရှိသူ၏တဦးတည်းပိုင်ပစ္စည်းများ ဖြစ်သွားတော့သည်။ အမွေခွဲဝေသည့်အခါ၌ဖြစ်စေ၊ လင်မယားကွာရှင်း သည့် အခါ၌ဖြစ်စေ၊ အခြားသူများက သက်ဆိုင်ခြင်းမရှိလေ။

ကင်ပွန်းတပ်မင်္ဂလာပွဲ ပြုလုပ်ခြင်း၏အဓိပ္ပါယ်သဘောမှာ လောကအတွင်းသို့ရောက်ရှိလာသော ကလေးသူငယ်အား တစိမ်းသက်သက်ဘဝမှ အမည်သညာပေးကာ လူ့လောကကြီးနှင့်၎င်း၊ လူသုံးပစ္စည်းများနှင့်၎င်း၊ မိတ်ဆက်ပေးလိုက်သည့်အပြင်၊ လူ့ဆက်ဆံမှုအဆောက်အအုံထဲသို့ ထည့်သွင်းမြှင့်တင်ပေးလိုက်ခြင်းပင် ဖြစ်သည်။

ဤသည်တို့ကို အကြောင်းပြု၍ မြန်မာလူမျိုး တို့သည် အခြားလုပ်ငန်းရပ်များ တွင် လည်း လုပ်ငန်းစ တင်ခြင်း၊ အမည်ပေးခြင်းတို့နှင့်သက်ဆိုင်လျှင် ကင်ပွန်းတပ်သည်ဟုပင် တင်စားခေါ်ဝေါ်ကြသေးသည်။

**ကင်ပွန်းပင်။** ။ရုက္ခဗေဒအလိုအားဖြင့် 'အကေးရှားကွန်စင်းနား' ဟုခေါ်သောအပင်မှာ ကင်ပွန်းပင် ပင်ဖြစ်သည်။ ထိုအပင်ကို ကင်ပွန်းချဉ်၊ ဆူးပုပ်ဟုလည်း ခေါ်ကြသေးသည်။ မျိုးစိတ်ပေါင်း ၅၅၀ မျှရှိပြီး ကမ္ဘာတဝှမ်းလုံးရှိ နွေးသောဒေသများတွင်ပေါက်လေ့ရှိသည်။ အရွက်များမှာ ရွက်ပေါင်းဖြစ်သည်။ မွှေးကြိုင်၍ သေးငယ်သောအပွင့်ကလေးများ အပြွတ်လိုက် ပွင့်လေ့ရှိသည်။ အစေ့များပါရှိသော အသီးတောင့်များ သီးသည်။ အစေ့များ ရှိရာတွင် အဆစ်သဖွယ်ချိုင့်လျက်ရှိသည်။

ထနောင်းစေးသည် 'အကေးရှားဆင်နီဂေါ' ခေါ် ကင်ပွန်းပင်တမျိုးမှထွက်သော အစေးဖြစ်သည်။

ကင်ပွန်းပင်မျိုးမှအခေါက်များသည် သားရေနယ်ရာတွင် အသုံးဝင်သည်။

မြန်မာနိုင်ငံရှိကင်ပွန်းပင်ကို အစေ့မှစိုက်ပျိုးယူကြသည်။ အပင်မှာ နွယ်ယောင် ပင်ယောင်ဖြစ်သည်။ ပင်စည်နှင့် အရွက်တံတို့တွင် ဆူးများရှိသည်။ အရွက်များသည်ရွက်ဆိုင်ထွက် ကြပြီး ရွက်ပေါင်း များ ဖြစ် သည်။ မန်ကျည်းရွက်လောက်မကြီးကြချေ။ ပင်စည်အရွယ်မှာ ခြေသလုံးအရွယ်၊ ပေါင်လုံးအရွယ်မျှရှိသည်။ နွယ်လျှင်အပင်ရှည်တတ်သည်။

အရွက်ကိုစားရသည်။ ကင်ပွန်းသီးကို မြန်မာအမျိုးသမီးများ ခေါင်းလျှော်ရာတွင်အသုံးပြုလေ့ရှိကြသည်။ ဆေးဖက်လည်းဝင်သည်။



ခေတ်ပေါ် ရိုးရိုးရုပ်ရှင်ရိုက်ကင်မရာ

**ကင်မရာ။** ။နေသာလျက်ရှိစဉ်၊ အလုံပိတ်ထား၍မှောင်နေသော အခန်းတွင်းသို့ အပြင်မှအလင်းကို အပေါက်ငယ်တခုမှဖြတ်၍ဝင်စေသောအခါ၊ ထိုအမှောင်ခန်း၏ အတွင်းဖက်ရှိနံရံပေါ်၌ အပြင်ဖက်ရှိအရာဝတ္ထုတို့၏ပုံရိပ်များ ထင်နေပုံကို တွေ့မြင်ရပေမည်။ ဤအမှောင်ခန်းမျိုးကို ရိပ်ထင်မှောင်ခန်း (ကင်မရာအော့စကျူးရား) ဟု ခေါ် သည်။ ရိပ်ထင် မှောင် ခန်း ကို ရှေး နှစ် ရာပေါင်း များ စွာကပင် နေလကြတ်ပုံများ ကို ကြည့်ရှုလေ့လာ ရန် အတွက် အသုံးပြုခဲ့ကြသည်။ ဓါတ်ပုံရိုက်ကရိယာမှာ အဆိုပါအမှောင်ခန်းကိုအခြေပြု၍ ပြုလုပ်ထားသောကရိယာဖြစ်သဖြင့် ကင်မရာဟုခေါ် တွင်ခြင်းဖြစ်သည်။

ရိုးရိုးကင်မရာတခုကို လက်တွေ့စမ်းသပ်ပြုလုပ် ကြည့်နိုင်ပေသည်။ အတွင်းအပြင် ၂ ဖက်စလုံးကို ဆေးမဲသုတ်ထားသော အလုံပိတ်သေတ္တာတလုံးတွင်၊ ထိပ်တဖက်၌အပေါက်ငယ်ဖေါက်မည့်အစား မှန်ဘီလူးတခုကိုတပ်ထားပါ။ မှန်ဘီလူးတပ်ထားခြင်းဖြင့် အပေါက် ငယ် ဖေါက် ရုံ ဖေါက် ထားသည်ထက် ပိုမိုပြတ်သားကြည်လင်သောပုံရိပ်များ ထင်နိုင်သည်။ အခြားတဖက်တွင် စက္ကူဖြူပါးပါးတရွက်ကိုဖြစ်စေ၊ မှန်နေ့ာက်တချပ်ကိုဖြစ်စေ၊ ကပ်ထားပါ။ ထိုအခါ မှန်ဘီလူး



သုံးချောင်းထောက် ရုပ်သေရိုက်ကင်မရာ

ရှေးရှိဝတ္ထုပစ္စည်းတို့၏ ပုံရိပ်များသည် စက္ကူဖြူ သို့မဟုတ် မှန်ချပ်ပေါ်၌ လာ၍ထင်သည်ကို တွေ့ရလိမ့်မည်။ သို့သော် ပုံရိပ်သည် ထက်အောက်ပြောင်းပြန်ဖြစ်၍နေသည်ကို တွေ့ရပေမည်။ ဤကဲ့သို့ဖြစ်ခြင်းမှာ မှန်ဘီလူးမှတဆင့်ဖြတ်သန်း၍ မှောင်ခန်းအတွင်းသို့ဝင်ရောက်လာသော လင်းတန်းတို့သည် လမ်းဖြောင့်အတိုင်းသာ လာသောကြောင့်ဖြစ်သည်။

ဓါတ်ပုံရိုက် ကင်မရာ၌ ရိပ်ထင် မှောင် ခန်းထက် ထူးခြားသောအချက်တခုရှိ၏။ ထိုထူးခြားချက်မှာ ပုံရိပ်ကိုရိပ်ဖမ်းဖလင် (ရိပ်ဖမ်း ကော်ပြား) သို့မဟုတ် ရိပ်ဖမ်း ပလိတ် (ရိပ်ဖမ်းမှန်) တွင်း ကျရောက် စေခြင်းပင် ဖြစ် သည်။ ထိုကော်ပြား သို့မဟုတ် မှန်ချပ်များကို အလင်းမိလွယ်သော ဓါတ်ပစ္စည်းများဖြင့် သုတ်လိမ်းစီမံထားသည်။ အလင်းမိလွယ် သောဓါတ် ပစ္စည်း ဆိုသည် မှာ အလင်း မိလျှင်ဓါတ်ပြောင်းလွယ်သောပစ္စည်းကိုဆိုလိုသည်။ ဓါတ်ပုံရိုက်ပြီး၍ ဓါတ်ပုံ ပုံဖေါ်ဆေး၊ ပုံချုပ်ဆေး စသော အခြား ဆေး ရည်များဖြင့် ထပ်မံစီမံပေးသောအခါ၊ ပုံရိပ်သည် မပျောက်မပျက်နိုင်သောရုပ်ပုံအဖြစ်ဖြင့် ထင်လာသည်။ သို့ရာတွင် ဤပုံရိပ်မှာ မူလဓါတ်ပုံရိုက်ယူထားသောအရာဝတ္ထုများနှင့် အလင်းအမှောင်အားဖြင့် ပြောင်းပြန်ဖြစ်၍နေ၏။ ပုံကူးစက္ကူပေါ်တွင်တဖန် ကူးယူကာ၊ ပုံဖေါ်ဆေး ရည်၊ ပုံချုပ်ဆေးရည်များဖြင့် ထပ်မံစီမံပေးသောအခါမှ၊ ကျွန်ုပ်တို့အလိုရှိသော ဓါတ်ပုံကိုရသည်။ ပုံရိပ် ပြတ် သား စွာထင် ခြင်း၊ မထင်ခြင်းမှာ ကင်မရာ မှန်ဘီလူး နှင့် ဝတ္ထု ပစ္စည်း တို့၏ အကွာအဝေးပေါ် တွင် တည်သည်။ ထို့ကြောင့် ဓါတ်ပုံရိုက်ကင်မရာတွင် ပုံရိပ်ပြတ်ပြတ်သားသားထင်နိုင်စေရန် မှန်ဘီလူး ကို အနီး အဝေး လိုသလို ရွှေ့ယူချိန်ဆနိုင် အောင် ပြုလုပ်ထားရသည်။ ဓါတ်ပုံရိုက်ကင်မရာများတွင် သေတ္တာပုံကင်မရာမျိုးလည်းရှိ၍၊ ဗါဂျာအိမ်ပါသောခေါက်ကင်မရာမျိုးလည်း ရှိပေသည်။

ဓါတ်ပုံရိုက်ကင်မရာများတွင် မြင်ကွင်းချိန် တပ်ဆင်ထားသည်ကို တွေ့ရလိမ့်မည်။ မြင်ကွင်းချိန်သည် ရိပ်ထင်မှောင်ခန်းအငယ်စားပင်ဖြစ်၍၊ အတွင်းဖက်၌ ကြေးမုံကဲ့သို့သော မှန်တချပ်ကို အလင်းလမ်းကြောင်းနှင့် ၄၅° ဒီဂရီဖြတ်၍ တပ်ဆင်ထားသည်။ ထိုကဲ့သို့တပ်ဆင်ထားခြင်းကြောင့် ပုံရိပ်ကို အပေါ် ဖက်မှကြည့်၍မြင် နိုင် သည်။ ကတုတ်ကျင်း တိုက်ပွဲများနှင့် ရေငုပ်သင်္ဘောများတွင် အထူးအရေးပေး၍အားကိုးအသုံးပြုရသော ပယ်ရီစကုပ်မှန်ပြောင်းမှာလည်း ရိပ်ထင်မှောင်ခန်းပင်ဖြစ်၍၊ ထိုမှန်ပြောင်းတွင် ပုံရိပ်ကိုအောက်ဖက် သို့ အလင်း ပြန်ဟပ်အောင် ပြုလုပ်ထားသည်။ ဓါတ်ပုံရိုက်ကင်မရာတွင် မှန်ဘီလူးသည် အရေးအကြီးဆုံးဖြစ်သည့်အတိုင်း၊ မှန်ဘီလူး အကောင်း အညံ့ကို လိုက်၍ ကင်မရာအသီးသီး၏တန်ဖိုးများ ခြားနားကြပေသည်။ (ဓါတ်ပုံပညာ၊ မှန်ဘီလူး၊ ပယ်ရီစကုပ် — လည်းရှု)။

**ကင်း**။ ။ရှေးမြန်မာဘုရင်များ လက်ထက်တော်အခါက နေပြည်တော်နှင့် အဝေးမြို့ကျေးလက်နယ်များတွင် ထွက်ဝင် သွား လာ သူ များ ကို စစ် ဆေး ၍၊ အ ကောက် အ ခွန် ကောက် ခံသင့် က ကောက် ခံ စ ည်း ကြပ် ရသော ဌာနများကို ‘ ကင်း ’ ဟုခေါ် သည်။ ကြည်းကင်း၊ ရေကင်း၊ အနီးကင်း အဝေးကင်းဟူ၍ ကင်း ၄ မျိုးခွဲထားသည်။ ကြည်းကင်းကို ကုန်းကြောင်းလမ်းများ၌၎င်း၊ ရေကင်းကိုမူ ပင်လယ်ဝနှင့် မြစ်စခန်းများ၌၎င်း၊ ချထားလေသည်။ နေပြည်တော်ပတ်ဝန်းကျင်၌ အစောင့်အနေချထားသော ကင်းကို အနီးကင်း သို့မဟုတ် ကင်းတိုဟုခေါ်၍ နိုင်ငံအစွန်အဖျား၊ ရပ်ဝေး၌ရှိသောကြည်းကင်း၊ ရေကင်းများကို အဝေးကင်း၊ ကင်းရှည် သို့မဟုတ် ကင်းဖျားဟုခေါ် သည်။ ထို့ပြင် နိုင်ငံခြားနှင့် ဆက်ဆံရသော နယ်ခြားကင်းများလည်း ရှိသေးသည်။ ထိုကင်းများမှာ ရေကင်း၊ ကြည်းကင်းတွင် ပါဝင်လေသည်။

ထိုကင်းများတွင် ဘုရင်၏အရာရှိအမှုထမ်းများက လူဝင်လူထွက်ကိုစစ်ဆေး၍၊ ကုန်သည်ဈေးသည်များထံမှ ဖြတ်သန်းခ အခွန် များ ကို ကောက် ခံလေ့ရှိ သည်။ ထိုအခွန်ကို ကင်းခွန်ဟုခေါ် ၍ ကင်းခွန် များ ကို ကြည်း ကြပ် ရ သူ အား

ကင်ဝန် ဟုခေါ် လေသည်။ ကင်းဝန်၏ လက် အောက် တွင် ကင်းအုပ်၊ ကင်းကိုင် စသောအမှုထမ်းများ ရှိသည်။ စစ်ချီ စစ်တက်ရာ၌ ရပ်နားရာစစ်စခန်းများတွင် အစောင့်အနေ တာဝန်ချထားသူကို ကင်းစောင့်ဟုခေါ် လေသည်။ ရှေး အခါက ကင်းစောင့်သည်ကို ကင်းဝပ်သည်ဟုလည်း ခေါ် သေးသည်။ ယင်းသို့ စစ်စခန်းများ၌ ချရပ်စောင့်နေရုံသာ မက၊ ရှေးဦးကြိုထွက်၍ ရန်သူ သို့မဟုတ် လူဆိုးခါးပြစသည် တို့၏ ဘေးရန်အလားအလာ၊ အနေအထိုင်၊ အခြေအနေကို စုံစမ်းထောက်လှမ်းရန် တာဝန် ဖြင့် စေလွှတ် သော လူစုမှာ ကင်း သို့မဟုတ် ကင်းရှည်ဖြစ် လေသည်။ ထိုကင်းသည် တ နေရာမှတနေရာသို့ လှည့်လည်သွားလာစုံစမ်းထောက်လှမ်း သည်ကို ကင်းလှည့်သည်၊ ကင်းထောက်သည်၊ ကင်းထိုး သည်ဟုပြောဆိုကြ၏။ တနေရာရာတွင် ချရပ်စောင့်ကြည့် နေရသော ကင်းသေ သို့မဟုတ် ကင်းဝန်းနှင့် လှည့်လည် သွားလာနေရသောကင်းပတ်တို့ကို ရာဇဝင်များ၌ ကင်းဝန်း ကင်းပတ်လှည့်လည်သည်ဟု ဖေါ်ပြပါရှိလေသည်။

ယခုခေတ်တွင်နယ်ခြားကင်းစခန်းများကို အကောက်ဌာန သို့မဟုတ် လူဝင်လူထွက်စစ်ဆေး ရေးဌာနဟု ခေါ် တွင်၍၊ အစောင့်ချထားသည်ကို သာ ကင်းဟူ၍ ခေါ် ဝေါ် လျက်ရှိကြလေသည်။

**ကင်းခြေများ။** ။ကင်းခြေများကို အပူပိုင်း ဒေသ များ ၌ အတွေ့ရ များ သည်။ ဖြစ်ရာ၊ ဗြိတိန်ကဲ့သို့သမပိုင်း နိုင်ငံ တွင်ကင်း ခြေ များအ ငယ်စား အနည်း ငယ် မျှကို သာ တွေ့ရှိရသည်။ ဗြိတိန် နိုင်ငံ၌ရှိသော ကင်းခြေ များ သည် ခြံဥယျာဉ်အ တွင်း၌ စိုက်ပျိုးထားသော အပင်များ ကို ကိုက်ဖြတ် ဖျက်ဆီးမည့်ပိုးကောင်မွှား ကောင် တို့အား သတ်ဖြတ် စား တတ်ကြ သဖြင့်၊ ခြံဥ ယျာဉ်စိုက် ပျိုး လုပ် ကိုင် သူတို့၏ မိတ် ဆွေကောင်း များသဖွယ် ဖြစ်ကြသည်။



ကင်းခြေများ

ကင်းခြေများအကြီးစားတို့ကို အနောက်အိန္ဒိယကျွန်းစု နှင့် တောင်အမေရိကတိုက်တို့တွင်တွေ့ရ၍ အချို့မှာ ၁၈ လက်မမျှရှည်လျားကြသည်။ ကင်းခြေများသည် အလွန် ရက်စက်ကြမ်းကြုတ်သည့်အလျောက်ပိုးမွှားများ၊တိရစ္ဆာန် ငယ်များနှင့် ငှက်ကလေးတို့ကို အဆိပ်ဆူးများဖြင့်ထိုးသတ် ပြီးမှ စားသောက်လေ့ရှိသည်။ ယင်း၏ အဆိပ်ဒဏ်မှာပြင်း ထန်လွန်းသဖြင့် တိရစ္ဆာန်အချို့ကို သေစေနိုင်သည့်အပြင်၊ ကင်းခြေများထိုးမိလျှင် လူတို့ပင် မချိမဆန့်ခံရတတ်သည်။

ကင်းခြေများ၏ကိုယ်မှာရှည်၍ အဆစ်အပိုင်းမြောက်မြား စွာရှိသည်။ အဆစ်အပိုင်းတခုစီတွင် ခြေ ၂ ချောင်းကျ ပါရှိရာ၊ ခြေထောက်ပေါင်းများစွာရှိသောကြောင့် ကင်း ခြေများဟုအမည်မှည့်ခေါ် ထားသည်။ ကင်းခြေများတမျိုး နှင့် တမျိုး တွင် ကိုယ် အဆစ် အပိုင်း အရေ အတွက် ချင်း မညီကြသဖြင့် ခြေထောက်အရေအတွက်မှာလည်း ကွာခြား ကြသည်။ သို့ရာတွင် များသောအားဖြင့် ကင်းခြေများ၌ ကိုယ်အဆစ်အပိုင်း ၂၃ ပိုင်းခန့်ရှိတတ်သည်။ ကင်းခြေများ တို့ကဲ့သို့ ပိုးနသန်ကောင်များ၌လည်း ခြေချောင်းများစွာ ရှိသည်။ သို့သော် ကင်းခြေများလောက်မဖျတ်လတ်ချေ။ ကင်းခြေများတွင် ခေါင်းပိုင်းရှိ ရှေ့ဆုံးခြေထောက်အစုံမှာ အဆိပ်ဆူးများ ဖြစ် သည်။ ဦး ခေါင်း ပေါ် တွင်ရှိ သောအာ ရုံမှင်ရှည်များသည် အစဉ်သဖြင့်လှုပ်ရှားလျက်ရှိ၍၊ ကင်း ခြေများသည်ထိုအာရုံမှင်ကို မျက်စိသဖွယ်အသုံးပြုသည်။

**ကင်းစဖို့စမစ်, စီ၊အီ** (ခရစ် ၁၈၉၇–၁၉၃၅)။ ။ပဌမ ကမ္ဘာစစ်ပြီးသည့်နောက် ကမ္ဘာပေါ်၌ထင်ရှားခဲ့ကြသော လေကြောင်းသူရဲများ တွင် ဩစတြေး လီး ယား တိုက် သား ဆာ ချား အက်ဒွပ် ကင်းစဖို့စမစ် သည် လည်း တယောက် အပါအဝင်ဖြစ်ခဲ့သည်။ ကင်းစဖို့စမစ်သည် ၁၈၉၇ ခုနှစ်တွင် ဗရစ္စဗိန်းမြို့၌ဖွားမြင်၍ ပဌမကမ္ဘာစစ်အတွင်း ထူးချွန်စွာ အမှုထမ်းခဲ့သည်။ စစ်ပြီးသောအခါ မြို့ပြလေကြောင်းဖက် တွင် ဆက်လက် လုပ် ကိုင် သည်။ ၁၉၂၇ ခုနှစ်တွင် ဩစ တြေးလီးယားတိုက်ကိုပတ်၍ ပျံသန်းခဲ့ရာမှ ထင်ရှားကျော် ကြား လာ သည်။ ၁၉၂၈ ခုနှစ်၌ အပေါ် ၃ ဦးနှင့်အတူ အမေရိကန်ပြည်ထောင်စုမှ ပစိဖိတ်သမုဒ္ဒရာကိုဖြတ်၍ ဩစ တြေးလီးယားတိုက်သို့ပျံသန်းခဲ့ရာ ကမ္ဘာနှံ့ အောင်ကျော် ကြားသွားလေသည်။ ထိုနောက် သူ၏စွန့်စားပျံသန်းမှုများ သည် ကမ္ဘာ့စံချိန် အဖြစ် မှတ် တမ်း တင်ခြင်း ခံရလောက် အောင်ထူးချွန်အောင်မြင်ခဲ့သည်။ ထိုသို့ထူးချွန်အောင်မြင် မှုများကြောင့် ၁၉၃၂ ခုနှစ်တွင် ဆာဘွဲ့ကိုရရှိခဲ့၏။

ဆာကင်းစဖို့စမစ်ထွင်ခဲ့သော စံချိန်များမှာ ဩစတြေး လီးယားမှအင်္ဂလန်သို့ပျံသန်းခြင်း၊ အတ္တလန္တိတ်သမုဒ္ဒရာကို ဖြတ်၍ ပျံ ခြင်း၊ အမေရိကန် ပြည်ထောင်စု သို့ ပစိဖိတ် ကို ဖြတ်၍ပျံခြင်း စသည်တို့ဖြစ်၏။ ဆာဘွဲ့ရရှိပြီးနောက် ဩစ တြေး လီး ယန်း ဘုရင့် လေတပ်မတော်တွင် ဂုဏ်ထူး ဆောင် ဗိုလ်မှူးချုပ်အဆင့်အတန်း အပ်နှင်းခြင်းခံရသည်။ ယင်းသို့

လေကြောင်းပျံသန်းရာ၌ အရည်အခြင်းနှင့်ပြည့်စုံသော ကင်းစဖို့စမစ်သည် ၁၉၃၅ ခုနှစ်တွင် ဝိုင်ယာလက်မပါသော စက်ခေါင်းတလုံးတပ်လေယာဉ်ပျံကလေးဖြင့် ပိုမိုလျင်မြန်စွာ ပျံသန်းရာ၊ ဗင်္ဂလားပင်လယ်အော်အတွင်း၌ လေယာဉ်ပျံပျက်ကျ၍ အနိစ္စရောက်သွားလေသည်။

**ကင်းစလေ, စီ** (ခရစ် ၁၈၁၉-၁၈၇၅)။ ။တသက်လုံး ဘုန်းကြီးဘဝတွင် နေထိုင်ခဲ့သူတယောက်သည် နိုင်ငံပြုပြင်ပြောင်းလဲရေးတွင် ထက်သန်စွာ ဆောင်ရွက်သော စာရေးဆရာကြီးတဦးအဖြစ်သို့ ရောက်ရှိခဲ့သည်ဆိုလျှင် အံ့သြကောင်း အံ့သြကြပေမည်။ ထိုသူကားအခြားမဟုတ်၊ အင်္ဂလိပ်စာပေလောကတွင် ထင်ရှားခဲ့သော စာရေးဆရာကြီး ချားကင်းစလေပင် ဖြစ်ပေသည်။

ကင်းစလေသည် ၁၈၁၉ ခုနှစ်တွင် အင်္ဂလန်ပြည် ဒက်ဗွန်ရှိုင်ယာနယ်၌ ဖွားမြင်၏။ သူ၏ဖခင်မှာ ရေဖျန်းဂိုဏ်းဝင်ဘုန်းကြီးတပါးဖြစ်သည်။ လန်ဒန်မြို့ ဘုရင့်ကောလိပ်ကျောင်းတွင် ပညာသင်ကြားပြီးနောက် ကိမ်းဗရစ်တက္ကသိုလ် မောဒလင်ကောလိပ်ကျောင်းတွင် ဆက်လက်၍ တက္ကသိုလ်ပညာရပ်များကို ဆည်းပူးခဲ့ရာ၊ ၁၈၄၂ ခုနှစ်တွင် ပဌမတန်းဂုဏ်ထူးဖြင့် အောင်မြင်ခဲ့လေသည်။

ကင်းစလေသည် တက္ကသိုလ်မှထွက်ပြီးနောက် ဟမ့်ရှိုင်ယာနယ် အဲဗားဇလီရွာတွင် သင်းထောက်ဆရာရာထူးကို ပေးအပ်ခြင်းခံရ၏။ ထိုနောက် မျှားမကြာမီပင် သင်းအုပ်ဆရာအဆင့်အတန်းသို့ တိုးမြှင့်ပေးခြင်းခံရပြန်သည်။ ကင်းစလေသည် ထိုရာထူးတွင် ကွယ်လွန်သည်အထိ စွဲမြဲစွာ လုပ်ကိုင်သွားလေသည်။

ကင်းစလေသည် ဘုန်းကြီးဖြစ်လင့်ကစား အဖက်ဖက်က စုံလင်သော ပုဂ္ဂိုလ်ကြီးတဦးဖြစ်သည်။ သူသည် ပြုပြင်ပြောင်းလဲရေးသမားလည်းဖြစ်၍ စာရေးဆရာ၊ ကဗျာစာဆိုလည်း မှန်ပေသည်။ ထိုမျှမကသေး၊ ကင်းစလေသည် ကိမ်းဗရစ်တက္ကသိုလ်တွင် ခေတ်သစ်နိုင်ငံသမိုင်း ပါမောက္ခအဖြစ်ဖြင့်လည်း ၉ နှစ်တိုင်တိုင် ဆောင်ရွက်ခဲ့ဘူးသည်။

စာရေးဆရာကြီး ကင်းစလေသည် လူမှုရေးရာနှင့် စီးပွားရေးကိစ္စအဝဝတို့၌ စိတ်ပါဝင်စားသူဖြစ်ရကား၊ သူ၏ အယူဝါဒရေးဆိုင်ရာ ရာထူးကို ဂရုမထားဘဲ၊ ဆင်းရဲသားလူထုအကျိုးအတွက် ပြုပြင်ပြောင်းလဲရန် သင့်သည်ဟူသော သူ၏ထင်မြင်ချက်များကို စာအုပ်စာတမ်းများရေးသားခြင်း၊ ပြုပြင်ပြောင်းလဲရေးတရားများ ဟောပြောခြင်းစသော လုပ်ငန်းများဖြင့် အားကြိုးမာန်တက်ဆောင်ရွက်ခဲ့သည်။ သူသည် ခရစ်ယန်ဆိုရှယ်လစ်အသင်းကြီး၌လည်း ပါဝင်ခဲ့သည်။ ထိုအသင်းမှာ ထိုခေတ်အခါက အင်္ဂလန်ပြည်တွင်ပေါ်ပေါက်လျက်ရှိသော နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေးရာပြဿနာအရပ်ရပ်တို့ကို ဖြေရှင်းရန်အလို့ငှာ ဖွဲ့စည်းထားသော အသင်းကြီးဖြစ်သည်။

၁၈၄၈ ခုနှစ်တွင်ပုံနှိပ်ထုတ်ဝေသော 'တဆေး' အမည်ရှိ ဝတ္ထုမှာ ကင်းစလေ၏ ပွဲဦးထွက်ဝတ္ထုဖြစ်သည်။ ထိုဝတ္ထုမှာများစွာအဆင့်အတန်းမမြင့်လှသော်လည်း ထိုဝတ္ထုတွင် ကင်းစလေ၏ ပြုပြင်ပြောင်းလဲရေးသဘောတရားများကို တွေ့ရှိနိုင်သည်။ 'ဝက်စဝပ်ဟိုး' ဝတ္ထုမှာ အယ်လစ်ဇဗက်ဘုရင်မကြီးလက်ထက် စွန့်စားမှုများအကြောင်းကို သရုပ်ဖေါ်ထားသော ရာဇဝင်ဝတ္ထုကြီးဖြစ်၍ ကင်းစလေ၏ အကောင်းဆုံးလက်ရာဟု ဆိုရပေမည်။

ကင်းစလေသည် ဝတ္ထုကဗျာအမြောက်အမြားကို ရေးသားခဲ့ပြီးနောက် ၁၈၇၅ ခုနှစ် အသက် ၅၆ နှစ်အရွယ်တွင် ကွယ်လွန်အနိစ္စရောက်လေသည်။ သူရေးသားပြုစုခဲ့သော ဝတ္ထုများအနက် ကလေးသူငယ်များအတွက် ရေးသားခဲ့သော 'ရေပျော်ကလေးများ' ဝတ္ထုမှာ ကလေးသူငယ်များ အထူးပင် နှစ်သက်ကြသော ပုံပြင်ဝတ္ထု ဖြစ်ပေသည်။

# တွမ်နှင့်အယ်လီ — ရေပျော်ကလေးများ

ရှေးသရောအခါ တွမ်အမည်ရှိ သူငယ်လေးတယောက် ရှိသတတ်။ ထိုသူငယ်ကလေးသည် မိဖမရှိ ဆင်းရဲလှသဖြင့် တအိမ်ဝင်တအိမ်ထွက် မီးခိုးခေါင်းတိုင်မှ ကျပ်ခိုးများကို တက်၍ရှင်းလင်းပေးခြင်းဖြင့် အသက်မွေးရရှာသည်။ တွမ်ကလေးကို အုပ်ထိန်းသူမှာ မစ္စတာဂရိုင်းအမည်ရှိ လူကြီးတယောက်ဖြစ်၏။ ထိုလူကြီးမှာ တွမ်နှင့်ဆွေမျိုးတော်သူမဟုတ်ချေ။ တွမ်၏သခင်သာဖြစ်၏။ ထို့ကြောင့် တွမ်မှာ သခင်ခိုင်းစေသမျှကို လုပ်ပေးရရှာသည်။ သူ၏သခင်ကလည်း သူ့အပေါ် ရက်စက်ကြမ်းကြုတ်လှသည်။

တနေ့သ၌ တွမ်နှင့်မစ္စတာဂရိုင်းတို့သည် ကျပ်ခိုးသုတ်ရာမှ ပြန်လာကြစဉ် တောင်ခြေရင်းတခုအနီးသို့ ရောက်သောအခါ မစ္စတာဂရိုင်းသည် ချောင်းငယ်ကလေးတခုထဲသို့ ဆင်း၍ ပေကျံနေသောကျပ်ခိုးများ စင်ကြယ်စေရန် ရေချိုးလေသည်။တွမ်ကလေးသည်လည်း ရေချိုးချင်ရှာသည်။ သို့ရာတွင် အကြင်နာကင်းမဲ့သောသူ၏သခင်က 'မင်းရေမချိုးရဘူး' ဟု တားမြစ်ရုံမျှမက ရိုက်နှက်လိုက်သေးသည်။ ထိုအချိန်၌ အနီးအနားတွင် အမယ်အိုတယောက်လည်း ရှိလေသည်။ ထိုသို့နှိပ်စက်နေသည်ကို အမယ်အိုမြင်သောအခါ 'ဟေ့တော်ကွဲ့၊ ရေချိုးချင်တဲ့လူဟာ ရေချိုးရမှပေါ့' ဟု ဆိုပြီးလျှင် ရုတ်တရက် ပျောက်ကွယ်သွား၏။

တနေ့သော် တွမ်ကလေးသည် အိမ်ခေါင်းတိုင်တခုကိုတက်၍ ကျပ်ခိုးရှင်းရ၏။ သို့သော် ပြန်ဆင်းလာသောအခါ အခြားခေါင်းတိုင်တခုမှဆင်းလာမိသဖြင့် အခန်းတခုထဲသို့ ရောက်သွားရာ၊ ထိုအခန်းထဲတွင် အလွန်လှပသော သူငယ်မ ကလေး တ ယောက် အိပ် ပျော် နေ သည် ကို တွေ့ ရ လေ သည်။ ထိုသူငယ်မကလေး၏အမည်မှာ အယ်လီဖြစ်၏။ တွမ်သည် မှန်ကြီးတခုထဲတွင်ပေါ်နေသော သူ၏ရုပ်ပုံကို ရုတ်တရက် မြင်ရသော အခါ 'အောင်မယ်လေး သူရဲကြီး' ဟူ၍ လန့်ဖျပ်အော်ဟစ်မိ၏။ ထိုနောက်မှ ကျပ်ခိုးတွေပေနေသော သူ၏ ရုပ်ပုံသာ ဖြစ်ကြောင်းသိရှိသောအခါ တွမ်ကလေးသည် ဝမ်းနည်းလှသဖြင့် ရှိုက်ကြီးတငင် ငိုကြွေးလေ တော့ သည် ။ ထိုငိုသံကြောင့် အိပ်ပျော်နေသော သူငယ်မကလေးသည် နိုးလာပြီးသော် သူ၏ရုပ်သွင်ကိုမြင်ရ သော အခါ အသံ ကုန် ဟစ် အော်လိုက် မိ လေသည်။ ထိုအခါ တွ မ် က လေး သည်အလွန်ကြောက်လန့် တုန်လှုပ်၍ ပြတင်းပေါက်တခုမှအပြင်သို့ က ပျ ာ က ရာ ခုန် ထွ က် ပြီး နောက် ခြေဦး တည့် ရာ သို့ ဖနောင့်နှင့်တင်ပါး တသားတည်းကျအောင် တအားပြေးသွားလေတော့သည်။



အင်္ဂလိပ်စာရေးဆရာကြီး ချားကင်းစလေ

တွမ်ကလေးသည် လယ်ကွင်းပြင်များနှင့် တောအုပ်တောတန်း များ ကို ဖြတ် သန်း က ာပြေး လာခဲ့ရာ၊ နောက်ဆုံး မောလှသဖြင့်ရပ်လိုက်သောအခါ အမယ်အိုကြီးတယောက်နေသော တဲကလေးတခုသို့ရောက်နေသည်ကို တွေ့ရ၏။ တွမ်ကလေးအား အိမ်ရှင်အမယ်အိုကြီးက ကျွေးမွေးစောင့်ရှောက်ထား၏။ တွမ်သည် အိပ်ပျော်နေစဉ် အယ်လီကလေးသည်သူ့ထံသို့လာ၍ 'ရေချိုး သွားလေ' ဟုပြောလေရာ အမယ်အိုကြီးကလည်း 'ရေချိုးချင်တဲ့လူဟာ ချိုးရမှာပေါ့ကွဲ' ဟု ပြောကြောင်း အိပ်မက်မြင်မက်၏။ ထိုအခါ သူ၏ပါးစပ်မှလည်း 'အင်း ဟုတ်တယ် ငါရေချိုးမယ်' ဟု အော်လိုက်၏။ ထိုသို့အော်လိုက်လျှင်အော်လိုက်ခြင်းပင် သူသည် ချောင်းကမ်းဘေးတခုပေါ် သို့ ရောက်နေသည်ကို တွေ့ရ၏။ တွမ်သည် အဝတ်များကိုချွတ်လိုက်ပြီးလျှင် ရေထဲသို့ဆင်းသွားလေသည်။

အမယ်အိုကြီးကလည်း ချောင်းထဲသို့ဆင်းလိုက်လာ၏။ ထိုအခါ ချောင်းစောင့်နတ်သမီးများသည် အမယ်အိုကြီးကို လာရောက်ခရီးဦးကြိုပြုကြ၏။ အကြောင်းကား ထိုအမယ်အိုကြီးမှာ ချောင်း စောင့် နတ်သမီးတို့၏ဘုရင်မကြီး ဖြစ်သောကြောင့်တည်း။

အမယ်ကြီးက နတ်သမီး ကလေးများ အား တွမ်၏အကြောင်းကို ပြောပြလိုက်သောအခါ သူတို့သည် တွမ်အားခေါ် ဆောင် သွား ပြီး လျှ င် အိပ် ပျော် အောင် ပြု လု ပ် ၍ အိပ်ပျော်နေစဉ် မွေးခါစရေပျော်ကလေးအဖြစ် သို့ ဖန်ဆင်းလိုက်ကြလေသည်။

တွမ်ကလေးသည် ရေထဲ၌ သူနှင့် တူ သော ကလေးများ ကိုတွေ့ရသဖြင့် မိတ်ဖွဲ့ကစားယင်း ပျော်ပိုက်နေ၏။ အယ်လီ ကလေး ကို လည်း တွေ့ ရ ၏။ တနေ့သ၌ အယ်လီကလေး သည် တွမ်ကို လိုက် ဖမ်း စဉ် ကျောက်တုံးပေါ် မှချော်ကျ ၍ အန ာ တ ရ ဖြစ် သွား သဖြင့် နတ်သမီးများက အိမ်သို့ပြန်ပို့လိုက်၏။

တွမ်ကလေးမှာ သူများကိုကျီစားတတ် သော ဝါသနာရှိ၏။ သို့ဖြစ်၍ ဒေါ်စာနာအမည်ရှိ မိန်းမကြီးက သူ့ကို ဤသို့သူတပါးအားမကျီစား ရန် သတိ ပေး၏။ သို့သော် သူတပါး ကို ကျီစား လွန်း သဖြင့် တွမ်၏ကိုယ်တွင် ဆူးများ ပေါက်လာရာ သူ့ကို မည်သူမျှ မကိုင်ဝံ့ကြချေ။

ထိုဆူးများပျောက်သွားစေရန် အယ်လီကလေးက တွမ်အား လိမ္မာလာအောင် သင်ပြပေးရ၏။ အယ်လီသည် သူ့ကို တနင်္ဂနွေနေ့မှတပါး နေ့စဉ်သင်ပြပေး၏။ တနင်္ဂနွေ နေ့တွင်မူ အယ်လီသည် ပျောက် နေသ ဖြင့် တွမ်သည်စိတ်ညစ်ရလေသည်။

နောက်ဆုံး၌ တွမ်သည်မနေနိုင်တော့ဘဲ ဖွင့်ပြီးမေးလိုက်သောအခါ အယ်လီက မင်းငါသွားတဲ့နေရာကိုလိုက်ချင်ယင်၊ အလျှင်ဆုံး မင်းမသွားချင်တဲ့နေရာကိုသွားရမယ်၊ မလုပ်ချင်တာကိုလုပ်ရမယ်၊ ပြီးတော့ မကူညီချင်တဲ့လူကိုကူညီရမယ် ဟု ပြောလိုက်၏။

နောက်ဆုံး၌ တွမ်သည် အယ်လီ၏ပြောစကားအတိုင်း လိုက်နာပါမည်ဟု ကတိပေးပြီး နောက် ထွက် ခွာလာခဲ့ရာ၊

မီးခိုး ခေါင်း တိုင် ထဲ ၌ ဂရိုင်း ညပ် နေ သော အိမ် တအိမ်သို့ ရောက်လာခဲ့၏။ တွမ်သည် အားကုန် ငို ချလိုက် သောအခါ မျက်ရည်များသည် ခေါင်းတိုင်ထဲသို့ အရှိန်ပြင်းစွာစီးဆင်းရာမှ အင်္ဂတေများ ကွာကျပြီးလျှင် ခေါင်းတိုင်ကြီး ယိုင်လဲသွားလေသည်။ လူယုတ်မာကြီးဂရိုင်းလည်း လွတ်မြောက်ခဲ့ရလေသည်။ ထိုနောက် တွမ်ကလေး သည် ရေပျော်ကလေးများရှိရာသို့ ပြန်သွားပြီးလျှင် အယ်လီကလေးနှင့်အတူ ပျော်ရွှင်စွာနေထိုင်လေတော့သည်။

# စံပြကမ္ဘာ့သားကောင်းရတနာများ

**ယူနီဖေါင်းဝတ်စုံဆင်မြန်းသည့် ကင်းထောက်များ လိုက်နာကျင့်သုံးရသောစည်းကမ်းများကား ကျပ်တည်းလှ၏။သို့သော် လူအပေါင်း၏အကျိုးကို သည်ပိုးနိုင်ရန် ဝံပုလွေငယ်အစ၊ ရိုဗာအဆုံးရှိသောကင်းထောက်အဖွဲ့ဝင်များ အဆင့်ဆင့်လေ့ကျင့်ကြရပုံမှာ ခြီးကျူးဖွယ်ကောင်းလှပေသည်။**

**ကင်းထောက်။** ။ကင်းထောက်တို့သည် ယူနီဖေါင်းဝတ်စုံကိုဆင်ယင်ထားကြသော်လည်း ကင်းထောက်လုပ်ငန်းမှာ စစ်သဘောမပါ၊ နိုင်ငံရေးမစွက်၊ လူမှုဝန်ထမ်းသက်သက်မျှသာ ဖြစ် သည်။ ယောကျ်ားပီသ သော ဆောင် ရွက် မှု၊ ယောကျ်ားပီသ သော ပျော် ရွှင် မှုတို့ ကို ကင်း ထောက် တို့ ပြုလုပ်လေ့လာကြသည်။ ကင်းထောက်လုပ်ငန်း၏ အဓိကရည်ရွယ်ချက်မှာ တာဝန်သိသောနိုင်ငံသားကောင်းဖြစ်လာအောင် လူငယ်လူရွယ်တို့အား ပုံသွန်း ဖန်တီး ပေး ရန်ပင်ဖြစ်၏။ သို့ပုံသွန်းဖန်တီးပေးရာ၌ လူငယ်လူရွယ်တို့အား ကိုယ်ကျင့်တရားနှင့် အကျင့် စာရိတ ကောင်း များ ရ အောင် ပြုပြင်အခြေစိုက်ပေး၍ မိမိတို့ကိုယ်ကိုမိမိအားကိုးတတ်ခြင်း၊ အကြီးအကဲတို့၏အမိန့်နှင့်သွန်သင်မှုများကို ရိုသေလိုက်နာတတ်ခြင်း၊ မျက်စိရှင်စွာကြည့်တတ်ခြင်းစသည့် အလေ့အထကောင်းများကိုရအောင် လေ့ကျင့်သင်ကြားပေးရန်ဖြစ်၏။ နိုင်ငံတော် နှင့် နိုင်ငံတော် သား တို့အား ချစ်ခင် မြတ်နိုးစွာ သစ္စာ စောင့်သိ ရိုသေတတ် သည် သာမက၊ ကျင့်သားရ၍ လက်ရွေးဆန်ဘဝ သို့ ရောက် ပြီး သော ကင်း ထောက် တဦး သည် မိမိကိုယ်ကိုအားကိုးနိုင်သည်နှင့် အမျှ လူမှုကိစ္စကျွမ်းကျင်မှုတို့တွင် အတော် အတန် ခေါက် မိ အောင် လေ့လာရ၍ အခြားသူများအတွက်အသုံးကျသော နိုင်ငံသား တဦး ဖြစ်အောင် ကြိုးစားသူလည်းဖြစ်၏။ သူတပါးအားလည်းကူညီရ၏။ သဘာဝကိုလေ့လာ၍ လောကပတ်ဝန်းကျင်ကိုစူးစမ်းတတ်ရ၏ ။ ကြင်နာသော စိတ် ကို မွေး မြူကာ မြင်တွေ့သမျှသော်သူတို့အား မိတ်ဆွေသင်္ဂဟသဘောထားရ၏။

လူငယ် လူရွယ် တို့အား ထိုကဲ့သို့ ရည် မှန် မြင့် မြတ်သော အဆင့်အတန်းသို့ ပြုပြင်ပို့ဆောင် ပေး သော ကင်းထေါက်လုပ်ငန်းကို ၁၉၀၈ ခုနှစ်တွင် ဗြိတိသျှဗိုလ်ချုပ်ကြီးရောဗတ်ဗေဒင်ပိုဝယ် (နောင်တွင် လော့ ဗေဒင် ပိုဝယ် ဖြစ် လာသူ) သည် အင်္ဂလန်ပြည်၌ စတင်ဖွဲ့စည်းတည်ထောင်ခဲ့၏။ ဗိုလ်ချုပ်ကြီးဗေဒင်ပိုဝယ်သည် တောင်အာဖရိကရှိ မက်ဖကင်းမြို့ကို ရန်သူများဝန်းဝိုင်းတိုက်ခိုက်စဉ်က သူရသတ္တိပြည့်စုံစွာ တွန်းလှန်အောင်မြင်ခဲ့သော သူရဲကောင်းတဦးဖြစ်သည့်ပြင်၊ စစ်ကင်းထောက်လုပ်ငန်းကို အာဖရိကတိုက်နှင့်အိန္ဒိယနိုင်ငံတို့၌ လေ့လာကျွမ်းကျင်ထားသော ပုဂ္ဂိုလ်ကြီးလည်းဖြစ်သည်။ ကင်းထောက်လုပ်ငန်း၏အသုံးဝင်ပုံကို ကိုယ်တွေ့မျက်မြင်အကျိုး ခံစားရသည့် အတွက် တိုင်း ပြည် ရှိလူငယ်များအား ကင်းထောက်စည်းမျဉ်းအတိုင်း သွန်သင်ပြုပြင်ပေးခဲ့လျှင် တိုင်းပြည်၏သားကောင်းရတနာများ ထွန်းကားပေါ် ထွက် လာ နိုင် မည် ကို ကောင်း စွာသ ဘော ပေါက် ခဲ့




ဗြိတိသျှ ( ဝဲ ) နှင့်မြန်မာ ( ယာ ) ဝံပုလွေငယ်တံဆိပ်များ

သည်။ ထို့ကြောင့်လည်း ဗိုလ်ချုပ်ကြီးဗေဒင်ပိုဝယ်သည် ၁၉၀၇ ခုနှစ်တွင် အင်္ဂလန်ပြည် ဗုန်းမတ်မြို့အနီး ဗရောင်းဆီးကျွန်း၌ ကင်းထောက်စခန်းတခုကိုအစမ်းဖွင့်ခဲ့၏။ ထိုအစမ်းစခန်း၌ လူ့ အတန်းစားအမျိုးမျိုးမှ လူငယ် ၂၀ ကို ကင်းထောက်စည်းမျဉ်းအတိုင်း သွန်သင်ပြုပြင်ပေး၏။ စမ်းသပ်ချက် ကောင်း စွာ ထ မြောက် အောင် မြင် သည် ကို တွေ့သောအခါ 'ကင်းထောက်လမ်းညွှန်' စာအုပ်ကို ၁၉၀၈ ခုနှစ်တွင် ရေးသားထုတ်ဝေလိုက်လေသည်။ ထိုစာအုပ်ထွက်ပေါ်သည့်အတွက် ကင်းထောက်အဖွဲ့များသည် အင်္ဂလန်ပြည်တွင် တဖွဲ့ပြီး တဖွဲ့ ပေါ် ပေါက် လာခဲ့ ရုံမျှမက၊ မကြာမီကမ္ဘာအရပ်ရပ်သို့ပျံ့နှံ့သွားလေသည်။ ထိုသို့ ကင်းထောက်အဖွဲ့ တိုးတက်လာသည်ကိုတွေ့မြင်ရသောအခါ၊ ဗိုလ်ချုပ်ကြီး ဗေဒင်ပိုဝယ်သည် စစ်မှုထမ်းအဖြစ်မှ ၁၉၁၀ ပြည့်နှစ်

တွင်နုတ်ထွက်လိုက်ပြီးလျှင် တက်လူများ၏အကျိုးအတွက် ကင်းထောက်လုပ်ငန်းကို အစွမ်းကုန်ဆောင်ရွက်လေသည်။

ကင်းထောက်လုပ်ငန်း၌ စိတ်ဓါတ်တက်ကြွစွာ ပါဝင်ဆောင်ရွက်စေခြင်းငှာလည်းကောင်း၊ ကင်းထောက်အသင်းကို စံနစ်တကျရှိစေခြင်းငှာလည်းကောင်း၊ဗိုလ်ချုပ်ကြီးဗေဒင်ပိုဝယ်သည် ကင်းထောက်များအတွက် ယူနီဖေါင်း ဝတ်စုံတမျိုး ကို တီထွင်ပေးခဲ့၏။ ကင်းထောက်တို့သည် ကာကီအင်္ကျီ၊ ကာကီသို့မဟုတ် အပြာရောင်ဘောင်းဘီတို၊ အဖွဲ့လိုက် အရောင်အမျိုးမျိုးရှိသောလည်စီး၊ နယ်စောင့်တပ်သားများဆောင်းလေ့ရှိသည့် ထိပ်တွင်ချိုင့် ၄ ခုပါဦးထုပ်တို့ကို ဝတ်ဆင်၍၊ 'ဖလားဒါလီး' ခေါ် ၃ ရွက်မြှာပုံသဏ္ဌာန်ရှိသည့် ကင်းထောက်တံဆိပ်တို့ကို တပ်ဆင်ကြရသည်။ ထိုဝတ်စုံကိုဆင်မြန်းကြရသောလူငယ်တို့သည် လွန်စွာစိတ်အားတက်ကြွလာကြလျက် မြင့်မြတ်သောစိတ်ထားများကိုလည်း မွေးမြူလာကြသည်။ ကင်းထောက်လုပ်ငန်း၏ မူလအခြေခံသဘောတရားများနှင့် ညီညွတ်စေရန် သဘာဝလေ့လာခြင်း၊ တောတောင်ရေမြေတို့၏အခြေအနေစူးစမ်းခြင်း၊ တောစခန်းထွက်ခြင်း၊ ခရီးသွားလာခြင်း၊ တောတွင်းခြေရာခံလိုက်ခြင်း၊ ရှေ့ဆောင်တီထွင်လုပ်ကိုင်ခြင်းအစရှိသည့်လုပ်ငန်းများပေါ်တွင် ကင်းထောက်တို့၏လုပ်ငန်းများကို အခြေတည်ထားလေသည်။ သို့ဖြစ်၍ ကင်းထောက်တို့သည် ကင်းထောက်လုပ်ငန်းကို တောတွင်းကျွမ်းကျင်မှုကစားနည်းနှင့် ကွင်းပြင်ကစားနည်းတခုကဲ့သို့ သဘောထားကာ ပျော်ရွှင်စွာလုပ်ကိုင်ဆောင်ရွက်တတ်ပြီးလျှင် လူမှုဗဟုသုတပညာရပ်များကို မသိမသာရနေကြသူများဖြစ်ပေသည်။ ကင်းထောက်တို့၏ဆောင်ပုဒ်မှာ 'အစဉ်အသင့်' ဖြစ်သည့်အတိုင်း၊ မည်သည့်အရေးပေါ်ကိစ္စတာဝန်ကိုမဆို ဖြတ်ထိုးဉာဏ်ဖြင့် လျင်မြန်စွာဖြေရှင်းထမ်းရွက်တတ်ကြလေသည်။

### ကင်းထောက်လုပ်ငန်း၏ အဆင့်အတန်းများ

အသက်အရွယ်ကိုလိုက်၍ ကင်းထောက်လုပ်ငန်းများကို အဆင့်အတန်းအမျိုးမျိုး ခွဲခြားထားသည်။ အငယ်ဆုံးအတန်းမှာ အသက် ၈ နှစ်မှ ၁၁ နှစ်အထိ ကလေးများပါဝင်ကြ၍ သူတို့ကို 'ဝံပုလွေငယ်' ဟုခေါ်သည်။ ဝံပုလွေငယ်



'အစဉ်အသင့်' ရှိနေသော မြန်မာကင်းထောက်တဦး

များအား သူတို့ဆင်မြန်းရသည့်တံဆိပ်နှင့် ဦးထုပ်တို့ကိုကြည့်ခြင်းဖြင့် ခွဲခြားသိနိုင်၏။ တံဆိပ်မှာ အပြာရင့်ရောင် သို့မဟုတ်အစိမ်းရင့်ရောင်အောက်ခံပေါ်တွင် အနီရောင် သို့မဟုတ်ရွှေရောင်ခြည်စဖြင့်ထိုးထားသော ဝံပုလွေငယ်ဦးခေါင်းပုံဖြစ်သည်။ ဦးထုပ်မှာ အစိမ်းရင့်ရောင်သံပုရာခွံဦးထုပ်ဖြစ်၍ အပေါ်တွင် ရွှေရောင်ကြိုးများဖြင့် အကန့်ခွဲထားသည်။

ဝံပုလွေငယ်အဖွဲ့၏ အထက်အဆင့်မှာ 'ကင်းထောက်' အဖွဲ့ဖြစ်၏။ ကင်းထောက်များမှာ အသက် ၁၂ နှစ်မှ ၁၅ နှစ်အထိလူငယ်များဖြစ်သည်။ ကင်းထောက်အဖွဲ့၏ အထက်တွင် အသက် ၁၅ နှစ်မှ ၁၈ နှစ်အထိလူငယ်များပါဝင်သော 'လုလင်ကင်းထောက်' အဖွဲ့ရှိ၏။ အကြီးဆုံးအဆင့်အတန်းမှာ 'ရိုဗာကင်းထောက်' အဖွဲ့ဖြစ်၍ အသက် ၁၈ နှစ်အထက်လူငယ်များပါဝင်သည်။ ထိုအဖွဲ့၌ကား အထက်ပိုင်းအသက်အပိုင်းအခြားမရှိပေ။ တကြိမ်ကင်းထောက်ဖြစ်လျှင် တသက်လုံးကင်းထောက်ဖြစ်သည်ဟူသောဆိုရိုးလည်းရှိ၏။

ထိုအဖွဲ့များအပြင် အခြားကင်းထောက်အဖွဲ့များလည်း ရှိသေးသည်။ ယင်းတို့မှာ ရေကြောင်းကင်းထောက်အဖွဲ့၊ လေကြောင်းကင်းထောက်အဖွဲ့တို့ဖြစ်ကြသည်။ရေကြောင်းကင်းထောက်များမှာ သာမန်ကင်းထောက်လုပ်ငန်းများအပြင် မြစ်ချောင်း၊ အင်းအိုင်၊ ပင်လယ်စသောရေပြင်တို့တွင် သင်္ဘောသားအတတ်တို့ကိုပါ အထူးလေ့လာကြရ၏။ ထိုနည်းတူ လေကြောင်းကင်းထောက်များမှာလည်း သာမန်လေ့လာမှုများအပြင်လေကြောင်းဆိုင်ရာအတတ်တို့ကိုပါ သင်ယူမှတ်သားကြရသည်။

ကင်းထောက်လုပ်ငန်း၏ အဓိကရည်ရွယ်ချက်မှာ အဆင့်အတန်းအားလုံးအတွက် တသမတ်တည်းဖြစ်သော်လည်း၊ အဆင့်အတန်းကိုလိုက်၍ လုပ်ငန်းနှင့်လေ့ကျင့်မှုအခြေခံတို့မှာ တိုးတက်ပြောင်းလဲခြင်း များပြားလာပေသည်။ ဝံပုလွေငယ်တို့၏ဆောင်ပုဒ်မှာ 'အကောင်းဆုံးလုပ်မည်' ဖြစ်၍၊ ကင်းထောက်တို့၏ဆောင်ပုဒ်မှာ 'အစဉ်အသင့်' ဖြစ်သည်။ရိုဗာတို့၏ဆောင်ပုဒ်မှာကား 'ဝန်ထမ်းလုပ်ငန်း' ဖြစ်လေသည်။ ထိုဆောင်ပုဒ်တို့အလိုက် လေ့ကျင့်မှု ဆောင်ရွက်မှုတို့မှာ မသိမသာပြောင်းလဲတိုးတက်ပေသည်။ သို့ရာတွင် အဆင့်မြင့်လာသောအခါ နိမ့်စဉ်ကလိုက်နာခဲ့ရသည့် ဆောင်ပုဒ်များကိုပါတပူးတပေါင်းတည်းလိုက်နာကြရသည်။

ဝံပုလွေငယ်နှင့်ကင်းထောက်တို့အတွက် သာမန်လေ့ကျင့်မှုများအားဖြင့် မိမိတို့အဖို့ အဆင့်အတန်းတိုးတက်မှုများကိုရရှိနိုင်သည်။ ထိုအဆင့်အတန်းတို့မှာ ရိုးရိုးကင်းထောက်လုပ်ငန်းဆိုင်ရာတို့




ဗြိတိသျှ (အပေါ်) နှင့်မြန်မာ (အောက်) ကင်းထောက်တံဆိပ်များ (၁) ခြေနင်းတံဆိပ် (၂) ဒုတိယတန်းတံဆိပ် (၃) ပဌမတန်းတံဆိပ် (၄) ခြင်္သေ့ကင်းထောက်တံဆိပ်။ (နံပါတ် ၄ တွင် ဗြိတိသျှအတွက် ဘုရင်မကင်းထောက်တံဆိပ်ဖြစ်၍၊ မြန်မာအတွက် ခြင်္သေ့ကင်းထောက် တံဆိပ်ဖြစ်၏) ။

အတွက်ဖြစ်၏။ ထိုမှတပါး ဝံပုလွေငယ်အဖြစ်ဖြင့်၎င်း၊ ကင်းထောက် အဖြစ် ဖြင့် ၎င်း၊ မိမိအတွက်လက်မှုပညာ၊ လူမှုရေးရာအကျိုးရှိစေမည့် အထူးပညာရပ်များ ကို လေ့ကျင့် ကြရသေးသည်။ ထိုပညာရပ်များမှာ အခြားသူများ၏အကျိုးကို ဆောင်ရွက်ရန်အတွက်လည်း အသုံးဝင်သောပညာရပ်များ ဖြစ်သည်။ ယင်းတို့ကိုအောင်မြင်ပါက သက်ဆိုင် ရာ ကျွမ်းကျင်မှုတံဆိပ်များကိုလည်း ရရှိနိုင်၏။ ရိုဗာတို့အဖို့မှာ လူမှုဝန်ထမ်း ပရဟိတ လုပ် ငန်း သည် အဓိက ဖြစ် သည့် အတိုင်း သူတို့၏ဆောင်ပုဒ်မှာ 'ဝန်ထမ်းလုပ်ငန်း' ဖြစ်ပေသည်။

## ဖွဲ့စည်းပုံ

အထက်ဖော်ပြပါ အဆင့် အတန်းတို့ တွင် လူငယ် လူရွယ်တို့အားဖွဲ့စည်းပေးရာ၌ ဝံပုလွေငယ်များ အား 'ဝံပုလွေငယ်အုပ်'၊ ကင်းထောက်များအား 'ကင်းထောက်အဖွဲ့'၊ ရိုဗာများအား 'ရိုဗာသင်း' ဟုဖွဲ့စည်းကြ၏။ ဝံပုလွေငယ်အုပ်တွင် ဝံပုလွေ ၁၂ ယောက်မှ ၂၄ ယောက်အထိပါနိုင်၍ ၆ ဦးစီပါသောအဖွဲ့ခွဲများကို 'ခြောက်ဦးစု' ဟုဖွဲ့စည်းသည်။ ခြောက်ဦးစုတခုကို ခြောက်ဦးစီးတယောက်ခေါင်းဆောင်၍ ခြောက်ဦးစီးအားလုံးကို 'ခြောက်ဦးစီးအုပ်' တဦးကခေါင်းဆောင်ရသည်။

ဝံပုလွေငယ်အုပ်ထဲသို့ဝင်ခွင့်ရရန် ရှေးဦးစွာ လိုအပ်သော လေ့ကျင့်မှုတို့ကို ပြုလုပ်အောင်မြင်ရသည်။ ပြီးမှ လူသစ်အဖြစ်ကတိခံယူပွဲကိုကျင်းပကာ အုပ်တွင်းသို့ဝင်ခွင့်ရသည်။ ထိုလူသစ်ကို 'ဖဝါးနု' ဟုခေါ်သည်။ ဖဝါးနုအဖြစ်ဝံပုလွေငယ်လည်းစီး တံဆိပ်နှင့်ဝတ်စုံကို ဝတ်ဆင်နိုင်သော်လည်း ဝံပုလွေငယ် အစစ် မဖြစ် သေး ချေ။ ဝံပုလွေ ငယ် အစစ် ဖြစ် ရအောင် လိုအပ်သောလေ့ကျင့်မှုများကို ကစားနည်းများနှင့် ပြုလုပ်၍ ပဌမအဆင့်ဖြစ် သော ပဌမ ကြယ်ကို ရအောင် ပြုလုပ်ရပေသည်။

ဝံပုလွေငယ်တဦးသည် အသက် ၁၁ နှစ်ပြည့်မှသာ ကင်းထောက်တယောက်ဖြစ်နိုင်သည်။ ဝံပုလွေငယ် မဖြစ် ဘဲ နှင့် အသက် ၁၂ နှစ်ရှိသောအခြားလူငယ်လူရွယ်တို့သည်လည်း ကင်းထောက် အဖွဲ့သို့ တိုက်ရိုက် ဝင်ရောက်နိုင်သည်။ ကင်းထောက် ၁၀ ယောက်မှ ၃၂ ယောက်အထိပါဝင်သော အဖွဲ့များကို ဖွဲ့နိုင်သည်။ ထိုအဖွဲ့တွင် ၅ ယောက်မှ ၈ ယောက်အထိရှိသော ကင်းစိတ်များဖွဲ့ကာ ကင်းစိတ်ဦးစီးတို့ကအုပ်ချုပ်ရသည်။ အဖွဲ့တခုလုံးကိုမူ အဖွဲ့ဦးစီးက ကင်းစိတ်ဦးစီးများပါဝင်သောသမာဓိခံနှင့် အုပ်ချုပ်ရသည်။ ထိုသမာဓိခံအဖွဲ့ကို အကြံပေးလမ်းညွှန်ပြုလုပ်ကာ ကင်းထောက်အဖွဲ့တခုလုံးအား လေ့ကျင့်သင်ကြားပေးသောကင်းထောက်ဆရာ သို့မဟုတ် လက်ထောက် ကင်းထောက်ဆရာ တဦးလည်းရှိသည်။

ကင်းထောက် ဖြစ်လိုသော လူငယ်တဦးသည် ကင်းထောက်အဖွဲ့တွင်းသို့ မဝင်ရောက်မီ ခြေနုအတတ်ကို တတ်ကျွမ်းရမည်။ ထိုခြေနုအတတ်တွင် ကင်းထောက်ကတိ ၃ ပါး ကင်းထောက်ကျင့်ဝတ် ၁၀ ပါး၊ နိုင်ငံတော်အလံ၊ နိုင်ငံတော်သီချင်း၊ ကြိုးချည်နည်း၊ ရှေးဦးသူနာပြုနည်း၊ အချက်ပြနည်း၊ လေးစားနှုတ်ဆက်နည်းတို့ပါဝင်သည်။ ယင်းတို့ကို တတ်သိနားလည်ပြီး သည့်နောက် ကတိခံယူပွဲကျင်းပပေးရသည်။ ကတိခံယူပြီးနောက်မှ ကင်းထောက်အဖြစ်ဝင်ရောက်ခွင့်ရသည်။ ကင်းထောက်တို့တွင် လေ့ကျင့်မှုတိုးတက်လာသည်နှင့် အမျှ ဒုတိယတန်း၊ ပဌမတန်း၊ ခြင်္သေ့ကင်းထောက် အထိ အဆင့်ဆင့် တက်နိုင်သည်။ ထို့ပြင် လူမှုရေးရာအခြေခံပညာရပ်များ၊ လက်မှုပညာရပ်များကို လေ့ကျင့်တတ်မြောက်ပါကလည်း ကျွမ်းကျင်မှုတံဆိပ်များကိုရယူနိုင်သည်။

### ကင်းထောက်ကတိနှင့် ကျင့်ဝတ်များ

ဝံပုလွေ၊ ကင်းထောက်၊ ရိုဗာလုပ်ငန်းအားလုံးတို့၏ အခြေခံကျောရိုးမှာ သက်ဆိုင်ရာကတိနှင့် ကျင့်ဝတ်များဖြစ်သည်။

ဝံပုလွေငယ်တို့မှာ ကျွန်တော်သည်စွမ်းအားရှိသမျှ

(၁) ကျွန်တော်ကိုး ကွယ်ယုံကြည်သည့်အယူဝါဒနှင့် တိုင်းပြည်၏တာဝန်ကို ထမ်းရွက်ပါမည်။

(၂) နေ့စဉ် သူတထူးအားကူညီမှုပြု၍ ဝံပုလွေငယ်တို့၏ ကျင့်ဝတ်တို့ကို လိုက်နာပါမည်ဟု ကတိပြုပါသည်ဟု ကတိပြုပြီးလျှင်၊



ကင်းထောက်တို့သည် လက်ဝဲလက်ချင်းဆွဲ၍နှုတ်ဆက်ရ၏။

(၁) ဝံပုလွေငယ်သည် မိမိအလိုဆန္ဒအတိုင်းမလိုက်ရ။

(၂) ဝံပုလွေငယ်သည် ဝံပုလွေကြီး၏လိုအင်ဆန္ဒအတိုင်း လိုက်နာရသည်ဟူသော ကျင့်ဝတ်ဥပဒေနှစ်ပါးကို လိုက်နာကြရသည်။

ကင်းထောက်နှင့် ရိုဗာတို့ အတွက်မှာ ကတိနှင့် ကျင့်ဝတ်ထပ်တူဖြစ်သော်လည်း အသက်၊ ပညာ၊ အရည်အချင်း၊ အတွေ့အကြုံတို့ကိုလိုက်၍၊ ထိုကတိကိုထိန်းသိမ်းမှု၊ ကျင့်ဝတ်တို့ကိုလိုက်နာမှုတို့တွင် အဆင့်အတန်းတို့နှင့် သဘောပေါက်နားလည်မှုတို့မှာမတူကြပေ။

### ကင်းထောက်ကတိ ၃ ပါး

(၁) ကျွန်တော်ကိုးကွယ်ယုံကြည်သည့်အယူဝါဒနှင့် ကျွန်တော့်နိုင်ငံ၏တာဝန်ကို ထမ်းရွက်ရန်၊

(၂) သူတပါးအား အချိန်မရွေးကူညီရန်နှင့်

(၃) ကင်းထောက်ကျင့်ဝတ် ၁၀ ပါးကို အမြဲလိုက်နာထိန်းသိမ်းရန် ကျွန်တော်စွမ်းအားရှိသမျှ ဆောင်ရွက်ပါမည်ဟု ကျွန်တော်၏ဂုဏ်သိက္ခာကို ပဋ္ဌနာပြု၍ကတိပြုပါသည်။

ထိုကတိကိုပြုထားသောကင်းထောက် သို့မဟုတ် ရိုဗါတယောက်မှာ ကတိတွင်ပါသည့်အတိုင်း အောက်ပါကျင့်ဝတ် ၁၀ ပါးကိုလည်း အမြဲတစေ စွမ်းအားရှိသမျှလိုက်နာထိန်းသိမ်းရလေသည်။

### ကျင့်ဝတ် ၁၀ ပါး

(၁) ကင်းထောက်တို့၏ဂုဏ်သိက္ခာသည် ယုံကြည်ရ၏။

(၂) ကင်းထောက်သည်မိမိ၏နိုင်ငံ၊ မိဖ၊ ဆရာသမား၊ အလုပ်ရှင်လက်အောက်ငယ်သားများအပေါ် ၌သစ္စာရှိရ၏။

(၃) ကင်းထောက်၏ဝတ်တရားသည် မိမိကိုယ်ကို အသုံးကျစေ၍ သူတပါးအားကူညီရန်ဖြစ်၏။

(၄) ကင်းထောက်သည်အများ၏မိတ်ဆွေဖြစ်၍ အခြားကင်းထောက်များနှင့် လူမျိုး၊ အယူဝါဒ၊ အဆင့်အတန်း မရွေး ညီအစ်ကိုဖြစ်၏။

(၅) ကင်းထောက်သည် ယဉ်ကျေးသိမ်မွေ့၏။

(၆) ကင်းထောက်သည် တိရစ္ဆာန်တို့၏မိတ်ဆွေဖြစ်၏။

(၇) ကင်းထောက်သည် မိဖ၊ ဆရာ၊ ခေါင်းဆောင်တို့၏ အမိန့်ကို တသဝေမတိမ်းလိုက်နာ၏။

(၈) ကင်းထောက်သည်အခက်အခဲနှင့်တွေ့တိုင်း အပြုံးမပျက်ရွှင်ပျစွာဆောင်ရွက်ရ၏။

(၉) ကင်းထောက်သည် ခြိုးခြံချွေတာတတ်၏။

(၁၀) ကင်းထောက်သည် ကိုယ်၊ နှုတ်၊ နှလုံး၊ ၃ ပါးလုံး ဖြူစင်သန့်ရှင်း၏။

## နေ့စဉ်တခု ကောင်းမှုပြု

ကင်းထောက်လုပ်ငန်းတွင် သူတပါးအတွက် အကျိုးဆောင်ခြင်းမှာ အရေးကြီးလှသောအခြေခံအစိတ်အပိုင်းတရပ်ဖြစ်၏။ သို့ဖြစ်သည့်အားလျော်စွာ ကင်းထောက်တို့သည် မှန်မြတ်သောအမှုကိုနေ့စဉ်ပြုမိရန် သမ္မာဇဉ်ရှိကြရလေသည်။ ကင်းထောက်တဦး၏အရည်အခြင်းကို မှန်မြတ်သောနေ့စဉ်အမှုပြုခြင်းတည်းဟူသော မှတ်ကျောက်တွင်တင်၍ စမ်းသပ်နိုင်၏။ အမှု၏အကြီးအသေးမှာ ပမာနမဟုတ်ပေ။ ကောင်းသောအမှုကိုပြုလိုသောစိတ်စေတနာသာလျှင် အရေးကြီးလေသည်။ အမေအိုတဦးအားလမ်းတဖက်သို့ တွဲကာပို့ဆောင်ပေးခြင်း၊ လမ်းပေါ်၌ကျနေသောငှက်ပျောခွံတခုကို သူတပါးနင်းမိ၍ချော်မလဲစေရန်ရှင်းလင်းပစ်ခြင်း၊ ရေငတ်နေသောနွားတကောင်ကိုရေတိုက်ခြင်း၊ မီးလောင်ရာ၊ ရေကြီးရာတွင် ဝင်ရောက်ကူညီခြင်းစသော ကောင်းမှုကလေးများမှာ လွန်စွာအဖိုးတန်သောအပြုအမူကလေးများပင်ဖြစ်ပေသည်။

ကမ္ဘာ့အရပ်ရပ်ရှိနိုင်ငံတို့တွင် နိုင်ငံလိုက် ကင်းထောက်အဖွဲ့အစည်းများ ဖွဲ့စည်းထားကြ၏။ ထိုနိုင်ငံအလိုက်အဖွဲ့အစည်းတို့မှာ နိုင်ငံအချင်းချင်းဆက်သွယ်မှုရှိသည်ဖြစ်ရာ များစွာသောနိုင်ငံတို့ စုပေါင်းဆက်သွယ်မှုကို ဖန်တီးပေးသော အပြည်ပြည်ဆိုင်ရာကင်းထောက်ဌာနချုပ်တခုရှိလေသည်။ ထိုဌာနချုပ်မှာ ဗြိတိန်နိုင်ငံ၌တည်ရှိ၏။ မဆက်သွယ်ဘဲထားသောအဖွဲ့အသင်းများလည်း ရှိပေသည်။ ကမ္ဘာ့အရပ်ရပ်ရှိကင်းထောက်တို့သည် ၄ နှစ်တကြိမ်အစည်းအဝေးပြုလုပ်လေ့ရှိကြ၏။ ထိုသို့စည်းဝေးသောကင်းထောက်ညီလာခံများကို 'ဂျမ်ဗိုရီ' ဟုခေါ်သည်။ ၁၉၂၀ ပြည့်နှစ်နောက်တွင် ကမ္ဘာ့ဂျမ်ဗိုရီ ၆ ကြိမ်ပြုလုပ်ခဲ့သည်။ ၂ ကြိမ်မှာအင်္ဂလန်ပြည်တွင်ပြုလုပ်ခဲ့၍ ဒိန်းမတ်၊ ဟန်ဂေရီ၊ နယ်သာလန်နှင့်ပြင်သစ်နိုင်ငံတို့တွင် တကြိမ်စီမျှကျင်းပခဲ့လေသည်။ ကမ္ဘာ့ဂျမ်ဗိုရီများကျင်းပခြင်းကား လူမျိုးပေါင်းစုံစုပေါင်းပါဝင်သော ကင်းထောက်တို့သည် အချင်းချင်းနားလည်မှုရကြကာ၊ ကမ္ဘာ့ငြိမ်းချမ်းရေးအတွက်လမ်းခင်းပေးသောသဘောကို ဖန်တီးယူရန်ပင်ဖြစ်လေသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတွင် နိုင်ငံတဝှန်းလုံးရှိကင်းထောက်တို့အား ဖွဲ့စည်းစုစည်းထားသော မြန်မာနိုင်ငံကင်းထောက်အမျိုးသားကောင်စီဌာနချုပ်ရှိသည်။ ထိုဌာနချုပ်၏ကျက်သရေဆောင်ဥက္ကဋ္ဌမှာ နိုင်ငံတော်သမတကြီးဖြစ်၏။ စီမံအုပ်ချုပ်ရေးအတွက်၎င်း၊ ကင်းထောက်လုပ်ငန်းလေ့ကျင့်သင်ကြားပေးရေးနှင့် 'လုပ်ငန်းအုပ်ချုပ်မှုများ



လက်သုံးချောင်းထောင်၍ အပြန်အလှန်လေးစားနှုတ်ဆက်နေကြသော ကင်းထောက်ဆရာနှင့်ကင်းထောက်များ

အတွက်ငင်း၊ နိုင်ငံချစ်ပုဂ္ဂိုလ်များကို နှစ်စဉ်ရွေးကောက်တင်မြှောက်၍ ကင်းထောက်လုပ်ငန်းကို တနိုင်ငံလုံးအတွက် ဆောင်ရွက်လျက်ရှိသည်။ စီမံအုပ်ချုပ်မှုဖက်တွင် အမျိုးသားကောင်စီဥက္ကဋ္ဌတဦးကဦးဆောင်၍၊ ကင်းထောက်လုပ်ငန်း ဆိုင်ရာဖက်တွင် ကင်းထောက်ချုပ်တဦးက ဦးဆောင်လေသည်။ ခရိုင်များ၌လည်း အလားတူပင် ခရိုင်အသင်းများ၊ မြို့နယ်အသင်းများ ဖွဲ့စည်းထားရှိသည်။ နောက်ဆုံးရရှိသော စာရင်းများ အရ မြန်မာ နိုင်ငံ ကင်း ထောက် ဦးရေမှာ ၄၆၃၇ (၁၉၅၂ ခုနှစ်) ဖြစ်၏။ ကင်းထောက်လုပ်ငန်းမှာ ယခုအခါ၌ မြန်မာနိုင်ငံတွင်လှုပ်ရှားတိုးတက်လျက်ရှိလာပေသည်။ အပြည်ပြည်ဆိုင်ရာ ကင်းထောက်အဖွဲ့ချုပ်နှင့် လည်း မြန်မာ နိုင်ငံ ကင်း ထောက်အမျိုးသားကောင်စီသည် ဆက်သွယ်ပြီးဖြစ်၏။

မြန်မာနိုင်ငံအပြင် ကမ္ဘာပေါ်ရှိအခြားနိုင်ငံ ၅၆ နိုင်ငံတို့ကလည်း အပြည်ပြည်ဆိုင်ရာအဖွဲ့ချုပ်နှင့် ဆက်သွယ်စာရင်းသွင်းပြီးဖြစ်ကြသည်။ ၁၉၅၂ ခုနှစ်စာရင်းများအရ ဤသို့ဆက်သွယ်ထားသော ၅၇ နိုင်ငံရှိကင်းထောက်ဦးရေမှာ ၅,၅၆၁,၉၉၃ ယောက်ဖြစ်သည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဥရောပနိုင်ငံအချို့တို့တွင် ကင်းထောက်လုပ်ငန်းမှာ ဖိနှိပ်ပိတ်ပင်ခြင်း ခံရသော်လည်း ကမ္ဘာစစ်၏နောက်တွင် အနိုင်နိုင်ငံ၌တိုးတက်လျက်ရှိပေသည်။ လူမျိုးနှင့် နိုင်ငံကွဲပြားခြားနားကြလင့်ကစား၊ ကင်းထောက်များသည် ညီရင်းအစ်ကိုပမာ လွတ်လပ်စွာကူးလူးဆက်ဆံကြလျက် ကမ္ဘာ့သားကောင်းရတနာများ ပေါ်ပေါက်ဖြစ်မြောက်ရေးအတွက် ရွေးရှုကြိုးပမ်းလျက်ရှိကြပေသည်။ (ဗေဒင်ပိုဝယ်,အာ၊ ကင်းထောက်အမျိုးသမီးလည်း – ရှု) ဦးဘရှင်။

# လူမှုအကျိုးကိုသည်ပိုးသည့်အမျိုးသမီးများ

**ယောကျ်ားများနှင့် တန်းတူအခွင့်အရေးများကိုရယူသည့်အလျောက် တာဝန်ဝတ်တရားများကိုလည်းတန်းတူကူညီထမ်းရွက်ရန်လက်မနှေးသော ကင်းထောက်အမျိုးသမီးတို့၏ပြုမှုဆောင်ရွက်ပုံတို့မှာ စိတ်အားတက်ကြွဖွယ်ရာဖြစ်ပေသည်။ ကမ္ဘာအရပ်ရပ်၌ကင်းထောက်အမျိုးသမီးအဖွဲ့ဝင်ပေါင်း ၂ သန်းခွဲမျှရှိ၍၊ ဤအဖွဲ့၏တည်ဆောက်ထားပုံအကြောင်းကို အောက်တွင်ဖေါ်ပြထားသည်။**

**ကင်းထောက်အမျိုးသမီး။** ။လော့ဗေဒင်ပိုဝယ်သည် ၁၉၀၈ ခုနှစ်တွင် ယောကျ်ားကလေးများအတွက် ကင်းထောက်အသင်းကို ဖွဲ့စည်းတည်ထောင်ခဲ့ပြီးနောက်၊ များမကြာမီ အမျိုးသမီးကလေးများကလည်း သူတို့အတွက် အလားတူအသင်းမျိုး ဖွဲ့စည်းပေးပါရန် တောင်းဆိုလာသောကြောင့်၊ နှမဖြစ်သူမစ္စအဂ္ဂနက်ဗေဒင်ပိုဝယ်နှင့်တိုင်ပင်၍ကင်းထောက်အမျိုးသမီးအသင်းကို ၁၉၁၀ ပြည့်နှစ်တွင် စံနစ်တကျဖွဲ့စည်းတည်ထောင်ခဲ့လေသည်။

ကင်းထောက်အမျိုးသမီးအသင်း၏အခြေခံရည်ရွယ်ချက်များမှာ ကင်းထောက်အသင်း၏ ရည်ရွယ်ချက်များနှင့် ထပ်တူထပ်မျှပင် ဖြစ်၏။ သို့ရာတွင် အမျိုးသမီးကလေးများနှင့် ဆီလျော်စေရန် အချို့နေရာများတွင် ပြုပြင်ထားလေသည်။ လူမျိုးမရွေး၊ အယူဝါဒမရွေး၊ အမျိုးသမီးဟူသမျှကင်းထောက်အမျိုးသမီးအဖွဲ့သို့ ဝင်ရောက်နိုင်၏။ ကင်းထောက်အမျိုးသမီးအဖွဲ့တွင် နိုင်ငံရေးစွက်ဖက်မှု ရည်ရွယ်ချက်များ လုံးဝမပါရှိချေ။ လူမှုရေးရာတွင်အမျိုးသမီးများ၏အဆင့်အတန်းကိုမြှင့်တင်၍ ဝန်ထမ်းစိတ် ထက်သန်ရေးကိုသာ အဓိကထားလေသည်။

ကင်းထောက် အမျိုးသမီး အဖွဲ့သို့ ဝင်လိုသူတိုင်းသည် ပဌမဦးစွာ ခြေနစ်စစ်ဆေးပွဲကို အောင်မြင်ရန် လိုချေသည်။ တနည်းဆိုသော် ကင်းထောက်အသင်းဝင်သူတဦးသည် အဖွဲ့သို့မဝင်မီ နိုင်ငံအလံတော်အကြောင်း၊ ကြိုးချည်နည်းမျိုးစုံ၊ အချက်ပြနည်း၊ အချက်ပေးနည်းနှင့် လေးစားနှုတ်ဆက်နည်းတို့ကို တလအတွင်း နားလည်ပြီးဖြစ်ရလေသည်။ ထိုသို့ နားလည်ပြီးသည့်အခါ ကင်းထောက်အဖွဲ့ဝင်တံဆိပ်ကို ဆိုင်ရာလူကြီးများက အခမ်းအနားနှင့် ပေးအပ်ကြတော့၏။ တံဆိပ်အပ်အခမ်းအနားတွင် အဖွဲ့ဝင်သစ်သည် အောက်ပါကတိ ၃ ချက်ကို ရွတ်ဆိုကာ အလေးပြုရသည်။

ကျွန်မသည် ကျွန်မ၏ဂုဏ်သိက္ခာကို ထောက်၍ ဤကတိ ၃ ချက်ကို တတ်အားသရွေ့ လိုက်နာပါမည်ဟု သစ္စာဆိုပါသည်။

၁။ ကျွန်မကိုးကွယ်သည့် အယူဝါဒနှင့် တိုင်းပြည်၏ တာဝန်များကို ဆောင်ရွက်ပါမည်။

၂။ သူတပါးအား အမြဲကူညီပါမည်။

၃။ ကင်းထောက်အမျိုးသမီးကျင့်ဝတ်ကိုလိုက်နာပါမည်။

ထိုကတိ ၃ ချက်ကို ရွတ်ဆိုပြီးသည်တွင် အဖွဲ့ဝင်သစ်သည် အလယ်လက်ချောင်း ၃ ချောင်းသာ ထောင်ထားသော ညာလက်ကို ပခုံးနှင့်ယှဉ်လိုက်ပြီးလျှင် ကင်းထောက်အမျိုးသမီးအချက်ပြနည်းဖြင့် အလေးပြုရသည်။ ထိုအခါ အဖွဲ့ဝင်တံဆိပ်တပ်ဆင်နိုင်သော ကင်းထောက်အမျိုးသမီးဖြစ်လာလေသည်။

ကင်းထောက်အမျိုးသမီးတို့၏ကျင့်ဝတ် ၁၀ ချက်မှာ အောက်ပါတို့ဖြစ်သည်။ ကင်းထောက်အမျိုးသမီးဟူသမျှသည်

(၁) သူတပါး၏ယုံကြည်ခြင်းကို ခံထိုက်သူဖြစ်ရမည်။

(၂) သစ္စာစောင့်စည်းရမည်။

(၃) သူတပါးအားကူညီခြင်းအားဖြင့် အသုံးကျရမည်။
(၄) အမျိုး၊ အယူဝါဒ၊ အဆင့်အတန်းမရွေးဘဲမိတ်ဆွေဖွဲ့၍ ကင်းထောက်အမျိုးသမီး အချင်းချင်း ညီအစ်မရင်း သဖွယ်ချစ်ခင်ရမည်။
(၅) ယဉ်ကျေးသိမ်မွေ့ရမည်။
(၆) တိရစ္ဆာန်များအား သနားကြင်နာရမည်။
(၇) အမိန့်ကို နာခံရမည်။
(၈) အခက်အခဲကို ပြုံးရွှင်စွာရင်ဆိုင်တတ်ရမည်။
(၉) ချွေတာရမည်။
(၁၀) ပြောဆိုကြံစည်ပြုမူခြင်းများ သန့်စင်ရမည်။

ကင်းထောက်အမျိုးသမီးတို့အား အသက်အရွယ်ကို လိုက်၍ အဆင့်အတန်းခွဲခြားသတ်မှတ်ထားလေသည်။

အသက် ၇ နှစ်မှ ၁၁ နှစ်အထိမိန်းကလေးများကို ငှက်ပြာကင်းထောက်များဟုခေါ်၍ ၁၈ ယောက်မှ ၂၄ ယောက် အထိပါဝင်သော ငှက်ပြာအုပ်များဖွဲ့ထားကြသည်။ ထိုငှက်ပြာအုပ်ကို ငှက်ပြာခေါင်းဆောင်နှင့်လက်ထောက်ငှက်ပြာခေါင်းဆောင်တို့က ဦးစီးအုပ်ချုပ်ရသည်။ ငှက်ပြာအုပ်ကို တဖန် ခြောက်ဦးစု ၃ စု၊ ၄ စုခွဲကာထားရှိပြန်သည်။ ထိုအစုများကို ခြောက်ဦးစီးတို့ကအသီးသီးအုပ်ချုပ်ရလေသည်။

အသက် ၁၁ နှစ်မှ ၁၆ နှစ်အထိမိန်းကလေးများကို ကင်းထောက်အမျိုးသမီးများဟုခေါ်၍ ၁၂ ယောက်မှ ၃၆ ယောက်အထိပါဝင်သော အဖွဲ့များ ဖွဲ့ထားကြသည်။ အဖွဲ့ကိုတဖန် ၆ ယောက်မှ ၈ ယောက်အထိရှိသောကင်းစိတ်များခွဲကာကင်းစိတ်ဦးစီးများအား စီမံအုပ်ချုပ်စေ၏။

အသက် ၁၆ နှစ်ထက်ကျော်လွန်သော မိန်းကလေးများအတွက်ဖြစ်သော သက်ကြီးကင်းထောက်အမျိုးသမီး၏ လုပ်ငန်းစဉ်တွင် တောစခန်းသင်တန်းများ၊ အိမ်ထောင်ထိန်းသိမ်းမှုအတတ်၊ ပြည်သူ့နီတိပညာ၊ လက်တွေ့ဝန်ထမ်းလုပ်ငန်းများစသည်တို့ကို ထည့်သွင်းစီမံထားရှိသည်ဖြစ်ရာ၊ စွန့်စားလိုစိတ်ထက်သန်သည့် ထိုအရွယ်ရောက်ပြီးသူကလေးများအတွက် အထူးပင်သင့်လျော်လှသည်။ သက်ကြီးကင်းထောက်အမျိုးသမီးတို့သည် အထွေထွေလေ့လာမှုများကိုပြုလုပ်ကြရ၏။ ရေကြောင်းကင်းထောက်အမျိုးသမီးတို့သည် မြစ်ချောင်း၊ အင်းအိုင်၊ ပင်လယ်စသောရေပြင်တို့တွင် သင်္ဘောသားအတတ်အရပ်ရပ်ကို အထူးလေ့လာသင်ယူကြရ၏။ လေကြောင်းကင်းထောက်အမျိုးသမီးတို့သည် သာမန်လေ့လာမှုများအပြင် လေကြောင်းနှင့်သက်ဆိုင်သောအတတ်တို့ကိုပါ သင်ယူကြရလေသည်။

သာမန်ကင်းထောက်အမျိုးသမီးအဖွဲ့များအပြင် ဖြန့်ချိရေးကင်းထောက်အမျိုးသမီးအဖွဲ့များလည်း ရှိသေးသည်။ ထိုအဖွဲ့များတွင် နာမကျန်းသူများ၊ ကိုယ်လက်အင်္ဂါချို့တဲ့သူများ၊ မျက်မမြင်၊ နားထိုင်းသူများသာမက စိတ်မနှံ့သူများပင်ပါဝင်နိုင်ကြသည်။ ထိုသို့သောအဖွဲ့ဝင်များအား သူတို့၏အခြေအနေနှင့်ဆီလျော်သောလေ့လာမှုများကို သင်ယူစေသည်။ အလုပ်အကိုင်ရှိ၍ရင်း၊ ခရီးအဆက်အသွယ်မလွယ်ကူ၍ရင်း၊ သာမန်ကင်းထောက်အမျိုးသမီးအဖွဲ့များသို့ မပါဝင်နိုင်သောမိန်းကလေးများအတွက် တသီးပုဂ္ဂလကင်းထောက်အမျိုးသမီးအဖွဲ့များကို ဖွဲ့စည်းထားသေးသည်။ ထိုသို့သောအဖွဲ့ဝင်များအား လေ့လာမှုများကို စာပေးစာယူပြု၍သင်ယူစေသည်။

အသင်းဝင်စာစစ်ပွဲအောင်မြင်၍ အဖွဲ့ဝင်ဖြစ်လာသော ကင်းထောက်အမျိုးသမီးသည် အဆင့်အတန်းတိုးတက်ရန်လေ့လာမှုအမျိုးမျိုးတို့ကို သင်ယူရ၏။ ဒုတိယတန်းအောင်မြင်ရန်အတွက် ရှေးဦးသူနာပြုနည်း၊ သဘာဝလေ့လာမှုအတတ်၊ ကြိုးချည်နည်းမျိုးစုံ၊ လျှို့ဝှက်ထောက်လှမ်းနည်း၊ အချက်ပြနည်း၊ ခြေရာခံနည်း၊ ကွင်းပြင်မီးဖိုနည်း၊ ကြယ်နက္ခတ်ကြည့်ရှုနည်း၊ အိမ်သုံးလက်မှုအတတ်စသော ပညာရပ်များကို တတ်မြောက်နားလည်ပြီးဖြစ်ရလေသည်။ နောက်ဆုံးအဆင့်ကား ရုတ်ခြည်းဖြစ်ပေါ်လာသောကိစ္စအဝဝကို ဖြတ်ထိုးဉာဏ်ဖြင့် လျင်မြန်စွာဖြေရှင်းဆောင်ရွက်နိုင်စွမ်းရှိခြင်းပင်ဖြစ်၏။



မြန်မာကင်းထောက်အမျိုးသမီးတစု၏မီးပုံပွဲစတင်ချိန်

ကင်းထောက်အမျိုးသမီးအဖွဲ့၏ ဆောင်ပုဒ်သည် 'အစဉ်အသင့်' ဟူ၍ဖြစ်သည်။

ကမ္ဘာပေါ်တွင် ကင်းထောက်အမျိုးသမီး အဖွဲ့ဝင်ပေါင်း ၂ သန်းခွဲမျှရှိသည်ဖြစ်ရာ ကမ္ဘာ့ကင်းထောက်အမျိုးသမီးအဖွဲ့ချုပ်သို့ နိုင်ငံပေါင်း ၂၆ နိုင်ငံမှ ဆက်သွယ်ပြီးဖြစ်လေသည်။ လူမျိုးနှင့်နိုင်ငံပင် ကွဲပြားခြားနားနေစေကာမူ ကင်းထောက်အမျိုးသမီးများကား လွတ်လပ်စွာ ကူးလူးဆက်ဆံကြလျက် လူမှုကောင်းစားရေးကို ရှေးရှုကာ ဝန်ထမ်းကြသောအဖွဲ့အစည်းကြီးတခု စင်စစ်ဖြစ်ပေသည်။




ဗြိတိသျှကင်းထောက်အမျိုးသမီးတံဆိပ်များ။။
(၁) ခြေနတံဆိပ် (၂) ဒုတိယတန်းတံဆိပ် (၃) ပဌမတန်းတံဆိပ်
(၄) ဘုရင်မကင်းထောက်အမျိုးသမီးတံဆိပ်။

### မြန်မာနိုင်ငံကင်းထောက်အမျိုးသမီးအသင်း

မြန်မာနိုင်ငံတွင် ကင်းထောက်အမျိုးသမီးများအသင်းကို ၁၉၁၆ ခုနှစ်ကစတင်တည်ထောင်ခဲ့သည်။ ရှေးဦးစွာ ဝိုင်၊ ဒဗျူ၊ စီ၊ အေခေါ် ခရစ်ယန်မိန်းကလေးအသင်းက ကြီးမှူးရွှေဆောင်၍ အသင်းဝင်ပေါင်း ၃၀ မျှနှင့် စတင်ဖွဲ့စည်းခဲ့သည်။ ထိုနောက် ကျောင်းသူများနှင့် ဂုဏ်သရေရှိအမျိုးသမီးများပါဝင်လာခဲ့ကြသည်။ မြန်မာနိုင်ငံမှဗြိတိသျှအစိုးရများဆုတ်ခွာသွားသည်အထိ မြန်မာပြည် ဘုရင်ခံကတော်အသီးအသီးက ကင်းထောက်အမျိုးသမီးအဖွဲ့၏ ဥက္ကဋ္ဌများအဖြစ် ဆောင်ရွက်ခဲ့ကြသည်။ ကင်းထောက်အမျိုးသမီးအဖွဲ့များကို ရန်ကုန်မြို့နှင့် တကွ မော်လမြိုင်၊ ပုသိမ်၊ တောင်ငူ၊ မန္တလေး၊ မေမြို့၊ တောင်ကြီး၊ ဗန်းမော်စသောမြို့ကြီးများတွင်ဖွဲ့စည်းခဲ့ရာ၊ အသင်းဝင်စုစုပေါင်း ၈၀၀ ခန့်မျှရှိခဲ့သည်။ မြန်မာနိုင်ငံကင်းထောက်အမျိုးသမီးများအသင်းကိုလန်ဒန်မြို့ရှိ အင်ပီးရီးယဲကင်းထောက်အမျိုးသမီးများဌာနချုပ်နှင့် ဆက်သွယ်ခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အပြီး ၁၉၄၇ ခုနှစ်ဝင်ဘာလတွင် ဘုရင်ခံကတော်လေဒီရန့်က ကြီးမှူးရွှေဆောင်၍ ပြန်လည်ဖွဲ့စည်းခဲ့သည်။ မြန်မာနိုင်ငံလွတ်လပ်ရေးရရှိသည်အထိ လေဒီရန့်ကပင်ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်ခဲ့သည်။ ထိုစဉ်က အသင်းဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေတွင် မြန်မာပြည်ဘုရင်ခံကတော်ကို ဥက္ကဋ္ဌခန့်အပ်ရန်ဟုပါရှိလေသည်။

၁၉၅၀ ပြည့်နှစ်တွင် နိုင်ငံတော်ဝန်ကြီးချုပ်ကတော်အား ဥက္ကဋ္ဌအဖြစ် ခန့်အပ်ရမည်ဟု အခြေခံဥပဒေတွင် ပြင်ဆင်ခဲ့သည်။ ထို့ကြောင့် ယခုအခါအဖွဲ့ကြီး၏ဥက္ကဋ္ဌမှာ ဝန်ကြီးချုပ်ကတော်ဒေါ်မြရီဖြစ်၍ မဟာသီရိသုဓမ္မဒေါ်ခင်ကြည် (ဗိုလ်ချုပ်အောင်ဆန်း၏ဇနီး) က မင်းကြီးချုပ်အဖြစ်ဆောင်ရွက်လျက်ရှိသည်။ အဖွဲ့ကြီးကိုအုပ်ချုပ်ရန် ၂၅ ဦးပါဝင်သောကောင်စီနှင့် ၁၁ ဦးပါဝင်သောအမှုဆောင်အဖွဲ့ကို ဖွဲ့စည်းထားရှိသည်။ ထို့ပြင် နာယကလူကြီး ၅ ဦးကိုလည်းခန့်ထားသေးသည်။ မင်းကြီးချုပ်ကို ကူညီရန် လက်ထောက်မင်းကြီးချုပ်တဦးနှင့် ခရိုင်မင်းကြီး ၄ ဦး၊ အတွင်းရေးမှူး ၄ ဦး ထားရှိသည်။



မြန်မာကင်းထောက်အမျိုးသမီး
ခြေနတံဆိပ်

ယခုအခါ ရန်ကုန်မြို့ပေါ်တွင် ငှက်ပြာကင်းထောက်များနှင့် ကင်းထောက်အမျိုးသမီးပေါင်း ၁၅၀၀ ရှိ၍ လူမျိုးမရွေး၊ အယူဝါဒမရွေး၊ အဆင့်အတန်းမရွေး ပါဝင်ကြသည်။ ထိုအဖွဲ့များထဲတွင် ခိုဂျာကင်းထောက်အမျိုးသမီးအဖွဲ့များနှင့် ဒုက္ခသည်များစခန်းများမှ ကင်းထောက်အဖွဲ့များလည်းပါဝင်သည်။ အင်းစိန်၊ သာယာဝတီ၊ ပြည်၊ ပဲခူး၊ မန္တလေး၊ ကသာ၊ ဗန်းမော်၊ တောင်ကြီး၊ မကွေး၊ မင်းဘူး၊ ရေနံချောင်း၊ မြောင်းမြ၊ သံလျင်၊ ရမည်းသင်းအစရှိသောမြို့များတွင် အဖွဲ့ခွဲပေါင်း ၂၀မျှဖွဲ့စည်းပြီးဖြစ်၍ အဖွဲ့ဝင်ပေါင်း၅၀၀မျှရှိသည်။ မြောင်းမြနှင့်မန္တလေးမြို့များတွင်ခရိုင်မင်းကြီး ၁ ဦးစီရှိသည်။



ကင်းထောက်အမျိုးသမီးတို့သည် ရှေးဦးသူနာပြုနည်းကို ဤသို့လက်တွေ့လေ့ကျင့်ကြရ၏။

အောင် ပြုပြင်ထားသည်။ ဝတ်စုံ ဆင် ယင် ရန် မှာ အင်္ကျီ အဖြူ လက်တို၊ လုံခြည်အပြာ၊ ကြယ်သီးအပြာ၊ ပခုံးထောက်အပြာ၊ အနက် ရောင် ဖိနပ်များကို ဝတ်ဆင် ရန် ပြဋ္ဌာန်း ထား သည်။ တံဆိပ် များ ကို လက် မောင်း နှင့် ရင် တွင် သတ် မှတ် ထား သည့် အတိုင်း တပ် ဆင်ကြရ သည်။ မြန်မာ နိုင်ငံ ပြန် လည် ထူ ထော င် ရေး တွင် ကင်း ထောက်အမျိုးသမီးများ ကား အ ကျ င့် စာ ရိ တ ကောင်း မွန် ရေး၊ စည်း ကမ်း သေဝပ် ရေး၊ လူ အများ အား ကူညီ ဖေးမလို သော ဆန္ဒ ရှိရေး တို့ ကို လက်တွေ့ပြသနည်းပေးလျက်ရှိ၏။

မြန်မာနိုင်ငံကင်းထောက်အမျိုးသမီးအသင်းကို ၁၉၅၂ ခု ဩဂုတ်လတွင် ကမ္ဘာ့ကင်းထောက်အမျိုးသမီးအဖွဲ့ချုပ်က အသိအမှတ်ပြုခဲ့သည်။ ထိုနှစ်တွင်ပင် မြန်မာနိုင်ငံက နော်ဝေးနိုင်ငံတွင်ကျင်းပသော ကင်း ထောက် အမျိုး သမီးများ ညီလာခံသို့ ကိုယ်စားလှယ်တဦးကိုစေလွှတ်ခဲ့သည်။ ၁၉၅၃ ခုနှစ်တွင်ကျင်းပသောညီလာခံသို့လည်း ကိုယ်စားလှယ်တဦး စေလွှတ်ခဲ့သည်။

မြန် မာ နိုင်ငံ ကင်း ထောက် အမျိုးသမီးအသင်းသို့ ရန်ကုန်မြင်းပွဲအသင်းနှင့် ရိုတရီကလပ်များက ငွေကြေးအသင့်အတင့် ထောက် ပံ့ ကြ သည် ။ ရန် ပုံငွေနည်းပါးသော်လည်း မဆုတ်မနစ် သော ဇွဲ ဖြင့် ဆောင် ရွက်ကြသည့် အမျိုးသမီးများအား ချီး ကျူး စ ရာ ပင် ဖြစ် သည် ။ မြန် မာ နိုင်ငံ ကင်း ထောက် အ မျိုး သမီး အသင်း၏ အခြေခံ စည်း မျဉ်း ဥပဒေများ မှာ အ ပြည်ပြည် ဆိုင်ရာကင်းထောက် အမျိုး သမီး အသင်း များ ၏ စည်း မျဉ်း အ တိုင်း ပင် ဖြစ် သည်။ သို့သော် တံဆိပ်များ နှင့် ယူနီ ဖေါင်း ဝတ် စုံ များ မှာ မြန် မာ နိုင် ငံ နှင့် ဆီလျော်

ထိုကဲ့သို့ မြန် မာ နိုင်ငံ တွင် ကင်း ထောက် အမျိုး သမီး အဖွဲ့များ တိုးတက်ဖွံ့စည်းတည်ထောင်ခြင်းအားဖြင့် တိုင်းပြည်နှင့် အမျိုး အတွက် တာဝန်သိသော အမျိုး သမီးများ ပေါ် ထွက်လာမည့်အပြင် လူမျိုးနှင့်နိုင်ငံပင် ကွဲပြားနေလင့်ကစား ညီမရင်းချာ ပမာ ကူးလူး ဆက်ဆံ နိုင် လာ ကြ မည် ဖြစ်ပေသည်။



တောစခန်း၌ တာဝန်ကျသူကင်းထောက်အမျိုးသမီးတစုချက်ပြုတ်နေကြခြင်း

**ကင်းမဲ့,အမ်** (ခရစ် ၁၇၇၅ ဖွား)။ ။အမြန်စီးမော်တော်ကား ပြိုင်ပွဲများတွင် ဗိုလ်ဆွဲခဲ့သူ ဆာ မယ်လကမ်ကင်းမဲ့သည် အင်္ဂလန်ပြည် ကင့်နယ်သားတဦးဖြစ်သည်။ ၁၉၀၆ ခုနှစ်တွင် ပဌမဆုံးအကြိမ် မော်တော်ဆိုင်ကယ်ပြိုင်ပွဲများ၌ ဝင်ရောက်ယှဉ်ပြိုင်ခဲ့၏။ နောင်အခါတွင် မော်တော်ကားနှင့် မော်တော်ဘုတ် ပြိုင်ပွဲများ၌လည်း ဝင်ရောက်ယှဉ်ပြိုင်ကာ စံချိန်သစ်များထွင်ခဲ့သည်။

ကင်းမဲ့သည် အထူးသဖြင့် အပြိုင်မော်တော်ကားမောင်းသူအဖြစ် ထင်ရှားသည်။ ၁၉၀၉ ခုနှစ်တွင် လေယာဉ်ပျံမောင်းအတတ်ကို သင်ကြားခဲ့၍၊ ပဌမကမ္ဘာစစ်အတွင်းက ဘုရင့်လေတပ်အဖွဲ့တွင် လေသူရဲတဦးအဖြစ် စစ်မှုထမ်းခဲ့၏။

မော်တော်ကားပြိုင်ပွဲများတွင် သူ၏ ငှက်ပြာအမည်ရှိအပြိုင်မော်တော်ကားများဖြင့် အလဲအလှယ် ဝင်ရောက်ယှဉ်ပြိုင်ခဲ့၏။ မော်တော်ကားအမြန်မောင်းရာ၌ ကမ္ဘာ့စံချိန်ကို ၆ ကြိမ်မျှချိုးနိုင်ခဲ့သည်။ ၁၉၃၅ ခုနှစ်တွင် မိမိစံချိန်ပြုခဲ့သော တနာရီလျှင် ၂၇၆ မိုင်နှုန်းကို ၃၀၁ မိုင်နှုန်းရောက်အောင် တိုးမြှင့်လိုက်ခြင်းဖြင့် ကမ္ဘာ့စံချိန်သစ်ထွင်ခဲ့၏။ ၁၉၃၁ ခုနှစ်တွင် ဆာဘွဲ့ဖြင့် ချီးမြှင့်သူကောင်းပြုခြင်း ခံရလေသည်။

ကင်းမဲ့သည် မော်တော်ကားအမြန်စီးစံချိန်သစ်များကိုသာ တီထွင်ခဲ့သည်မဟုတ်၊ ရေကြောင်း၌လည်း သူ၏ 'ငှက်ပြာ' အမည်ရှိမော်တော်ဘုတ်ဖြင့် အမြန်စီးစံချိန်သစ်များကို ထွင်နိုင်ခဲ့ပေသည်။ ၁၉၃၇ ခုနှစ်တွင် ဣတလီနိုင်ငံ မတ်ဂျိုရေး ရေအိုင်တွင် သူ၏ ငှက်ပြာမော်တော်ဘုတ်ဖြင့်တနာရီ ၁၂၉.၅ မိုင်နှုန်းစံချိန်သစ်တခုကို ထွင်ခဲ့သည်။ တဖန် ၁၉၃၈ ခု စက်တင်ဘာလတွင် ဆွစ်ဇာလန်နိုင်ငံဟောလဝီးရေအိုင်၌ မော်တော်ဘုတ်အမြန်စီးစံချိန်ကိုတနာရီလျှင် ၁၃၀.၉၁ မိုင်နှုန်းအထိ တိုးမြှင့်တီထွင်လိုက်ပြန်၏။ ၁၉၃၉ ခုဩဂုတ်လတွင်၊ အင်္ဂလန်ပြည် ကော်နစ္စတန်ရေအိုင်၌ ထပ်မံ၍ မော်တော်ဘုတ်အမြန်ဆုံးစံချိန်ကို တီထွင်လိုက်ပြန်သည်။ ထိုစံချိန်သစ်မှာ တနာရီလျှင် ၁၄၁.၇၄ မိုင်နှုန်း ဖြစ်လေသည်။

**ကင်းမြီးကောက်။** ။ကင်းမြီးကောက်၏ပုံပန်းမှာ မြင်ရုံနှင့်ပင် ကြောက်စရာကောင်းသည်ဟု ဆိုရပေမည်။ အမည်နှင့်လိုက်အောင် အမြီးမှာကောက်လျက်ရှိ၏။ ဦးခေါင်းမှာ ကိုယ်နှင့်ကပ်လျက်ရှိသဖြင့် အလျင်းမရှိဟု ထင်မှတ်ရသည်။ ကြီးမားသောလက်မကြီး ၂ ခုမှာ ပခုံးဆီမှ ထွက်ပေါ်လာသည် ထင်ရသော်လည်း၊ အမှန်အားဖြင့် ပိုးမွှားတိရစ္ဆာန်ကလေးများကို ဖမ်းယူရန်အတွက် ဦးခေါင်းမှ ထူးဆန်းစွာပေါက်ပွားလာသော အင်္ဂါထူးတခုဖြစ်သည်။ သေးငယ်သောမျက်လုံးကလေးများမှာ ဦးခေါင်းထိပ်တွင်ရှိ၍၊ ကျောပေါ်၌လည်း မျက်လုံးတစုံအပိုပါတတ်သည်။

ကင်းမြီးကောက်တွင် ပင့်ကူနည်းတူခြေ ၈ ချောင်းရှိ၍ 'အာရက်နီဒါ' ခေါ် တိရစ္ဆာန်မျိုးပေါင်း၌ပါဝင်သည်။ သို့သော် လက်မ ၂ ခုမှာ ခြေထောက်များရှေ့ဖက်တွင်ရှိသောကြောင့် ဗုဇွန်တုပ်ကြီးနှင့် တနည်းတဖုံဆင်တူ၍နေသည်။ ကင်းမြီးကောက်အမြီး၏အဆုံးတွင် အလွန်မာကျောချွန်ထက်သော အဆိပ်ဆူးတခုရှိသည်။ အဆိပ်ဆူး၏



အမြီးဖျားတွင်အဆိပ်ဆူးပါသည့် ကင်းမြီးကောက်

ထိပ်ဖျားတွင် သေးငယ်လှသော အပေါက်ကလေးတပေါက်ရှိ၍၊ ထိုအပေါက်မှ အမြီး၏ နောက်ဆုံးအဆစ်ပိုင်းအတွင်း၌ သိုလှောင်ထားသောအဆိပ်ကို လွှတ်ထုတ်နိုင်သည်။ ကင်းမြီးကောက်သည် မိမိဖမ်းဆီးရမိသော သားကောင်ကို သန်မာလှသောလက်မကြီး ၂ ဖက်ဖြင့် မြဲမြံစွာညှပ်ထားပြီးသော်၊ ထိုသားကောင်၏ကိုယ်ပေါ်သို့ အမြီးကိုကွေးချလျက် အဆိပ်ဖြင့်ထိုးသတ်လေ့ရှိသည်။ ကင်းမြီးကောက်ကြီးတကောင်၏ အဆိပ်သည် ကြွက်စသော သတ္တဝါအငယ်စားကလေးများကို သေစေနိုင်လောက်အောင် ပြင်းထန်၏။ လူသည် ကင်းမြီးကောက်ထိုး၍ မသေနိုင်သည့်တိုင်အောင် ခံစားရသောဝေဒနာမှာ မသက်သာလှချေ။ ချည့်နဲ့အားနဲ့နေသူဖြစ်က သေပင်သေနိုင်သည်ဟု သိရသည်။

ကင်းမြီးကောက်တွင် အရွယ်အစားစားရှိ၏။ အချို့ကင်းမြီးကောက်အငယ်စားကလေးများမှာ တလက်မခွဲ ၂ လက်

မခန့်မျှသာ ရှိသော်လည်း၊ အာဖရိကတိုက်နှင့် အိန္ဒိယနိုင်ငံတွင်တွေ့ရသော ကင်းမြီးကောက်အကြီးစားမျိုးမှာ အလျား ၈ လက်မခန့်အထိပင် ကြီးမားကြောက်မက်ဖွယ် ကောင်းတတ်ပေသည်။ ကင်းမြီးကောက်တို့သည် အကယ်စင်စစ် အပူပိုင်းဒေသတွင် နေထိုင်ကြသော်လည်း၊ နေပူကို ကြောက်၍ နေရောင်စူးစူးကို မခံလိုကြချေ။ ထိုကြောင့် ပူပြင်းသည့် နေ့အချိန်များတွင် အရိပ်ကျရာကျောက်ကြိုကျောက်ကြား၊ သစ်ပင်ကြိုသစ်ပင်ကြားများ၌ ခိုအောင်း၍ နေလေ့ရှိသည်။ သို့သော် ညဖက်သို့ရောက်လာလျှင် လန်းဆန်းဖျတ်လတ်လာပြီးသော် ခိုလှုံနေရာအကြို အကြားမှထွက်၍ အစာရှာတော့သည်။

ကင်းမြီးကောက်ကို ကမ္ဘာအနှံ့အပြား အပူပိုင်းသစ်တော၊ သဲကန္တာရနှင့်တကွ နှင်းကျသည့်အရပ်ဒေသမှာပင် တွေ့ရသည်။ ကင်းမြီးကောက်တို့၏ အစာများမှာ သေးငယ်သောပိုးမွှား၊ ပင့်ကူ၊ ဖွတ်ပုတတ်မျိုးဝင်အကောင်ငယ်များ၊ ဖါးပြုပ်၊ ပက်ကျိ၊ ခရုပက်ကျိစသောအကောင်ကလေးများအပြင် ကြွက်စသော နို့တိုက်သတ္တဝါကလေးများ ဖြစ်ကြသည်။ ကင်းမြီးကောက်တို့သည် ယင်းတို့ကို နှောင့်ယှက်ရန်စခြင်းမပြုလျှင် ရန်မမူတတ်ပေ။ လူကိုလည်း သာမန်အားဖြင့်ရန်ပြုခဲပေသည်။

ကင်းမြီးကောက်တို့ ချစ်တင်းနှီးနှောပုံမှာ များစွာစိတ်ဝင်စားဖွယ်ကောင်း၏။ ကင်းမြီးကောက်အမသည် အဖိုထက်ကိုယ်လုံးကိုယ်ထည် ကြီးမားသည်။ မိမိထံပါးသို့ ကင်းမြီးကောက်အဖိုတကောင် လာ၍ ချစ်ရေးဆိုလျက် ရှိစဉ်၊ သဘောကောင်းချိန်ကြုံကြိုက်၍ စိတ်ကြိုက်နှင့်တွေ့ပါက၊ ကြည်သာစွာပင်လက်ခံတတ်သည်။ အခန့်မသင့်ကထိုအဖိုကို ကိုက်သတ်၍ စားပစ်တတ်၏။ နှစ်ဦးနှစ်ဝ ချစ်ရေးကြည်ဖြူခဲ့သော်၊ အဖိုသည် အမ၏လက်မ ၂ ဖက်ကို မိမိ၏လက်မများဖြင့် ညှပ်လျက် အချိန်အတော်ကြာအောင် ရှေ့တိုးနောက်ငင် စုံတွဲလျှောက်နေပြီးနောက်၊ မိမိခိုအောင်းရာသို့ ခေါ်ဆောင်သွားလေသည်။ သို့သော် ကာလအတော်ကြာမျှ အတူတကွနေထိုင်ပြီးသောအခါ၊ အမသည်အဖိုကို စားပစ်လိုက်တတ်သည်သာ များသည်။

သို့ရာတွင် ကင်းမြီးကောက်အမသည် မိမိသားငယ်များအပေါ်၌မူ များစွာခင်မင်ကြင်နာသည်ကို တွေ့ရ၏။ ကင်းမြီးကောက်တို့သည် အကောင်လိုက်ပေါက်ဖွားကြ၍၊ မိခင်ကင်းမြီးကောက်မကြီးသည် သားငယ်များကို ကျောပေါ်၌ သယ်ဆောင် သွားလာလေ့ရှိသည်။ ကင်းမြီးကောက်ပေါက်စသည် ကိုယ်လုံးကိုယ်ထည်ငယ်သည်မှအပ အမိအဖဖြစ်သော ကင်းမြီးကောက်ကြီးများနှင့် ပုံသဏ္ဌာန်ချင်းတူသည်။ ယင်းတို့သည် ကြိမ်ဖန်များစွာအရေလဲပြီးမှ တဖြည်းဖြည်း ကြီးပြင်းကြရသည်။

ကုန်းနေသတ္တဝါများတွင် ကင်းမြီးကောက်သည် အလွန်ရှေးကျသောသမယ၌ပင် ရှိခဲ့လေသည်။ ကျောက်မီးသွေးထွက်သော ဒေသများတွင် ရှေးခေတ်ကရှိခဲ့သော ကင်းမြီးကောက်တို့၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို တွေ့ရ၍၊ ယင်းတို့၏ ပုံသဏ္ဌာန်မှာ ယခုခေတ်ကင်းမြီးကောက်များနှင့် အနည်းငယ်သာကွာခြားသည်။ တဖန် ကင်းမြီးကောက်ဆိုလျှင် ကုန်းပေါ်တွင်သာရှိသည်ဟု မမှတ်သင့်ပေ။ ပင်လယ်ကင်းမြီးကောက်များလည်း ရှိခဲ့ဘူးကြောင်း သက်သေအထောက်အထားများ တွေ့ရသည်။ ပင်လယ်ကင်းမြီးကောက်တွင် ဆွေမျိုးဖြစ်သော ကုန်းနေကင်းမြီးကောက်များနည်းတူ အဆိပ်ရှိသည်ဟုထင်ရသည်။ သို့သော် ယင်းတို့ကို ကြီးကြီးမားမားမတွေ့ရ၊ အလျားတလက်မ ၂ လက်မအရွယ်များကိုသာ တွေ့ရသည်။



ကင်းမွန်

**ကင်းမွန်**။ ။ကင်းမွန်၊ ကင်းမွန်ဘဲလိပ်၊ ဘဝဲတို့သည် 'စက်ဖလိုပိုးဒါး' မျိုးပေါင်းတွင်ပါဝင်သော ရေသတ္တဝါများဖြစ်၏။ ခေါင်း၌ ဦးမှင်ဟုခေါ်သော စမ်းအင်္ဂါများပေါက်သည်။ ကင်းမွန်၊ ကင်းမွန်ဘဲလိပ်များသည် ပင်လယ်တခွင်ပြုပြစ်စင်အောင် အနှံ့အပြား ကြောက်မက်ဖွယ်ရာ အစာရှာကြသည်။ မကြာခဏ ကမ်းစပ်များတွင် သေးငယ်သော ကင်းမွန်၊ ကင်းမွန်ဘဲလိပ်အုပ်များကို တွေ့နိုင်သည်။ သူတို့ထက်ကြီးမားသော ငါးများကိုပင် ဖမ်းယူစားသောက်ကြ၏။ ကင်းမွန်ဘဲလိပ်ကြီးများမှာ သမုဒ္ဒရာနက်ရာဒေသများတွင်နေ၍ လာသမျှအကောင်ကို မရှောင်တမ်း ဖမ်းယူစားသောက်ကြသည်။

'ဆီပီယာအော့ဖီစိနဲလစ်' ခေါ် ကင်းမွန်၏ခေါင်း၌ လက် ၁၀ ဖက်ရှိသည်။ ၄ စုံသည်အရင်း၌တုတ်၍ အဖျားသို့ရှူးသွား၏။ လက်ဖျား၌ ခွက်သဏ္ဌာန်ရှိသော စုတ်အင်္ဂါများ ၄ တန်းရှိသည်။ ကျန်လက်တစုံမှာ ဦးမှင်ဟုအများအားဖြင့် အမည်တွင်၍၊ အခြားလက်များနှင့်မတူ၊ တုတ်သော

အဖျားပိုင်း၌သာ စုတ်အင်္ဂါများရှိပြီးလျှင် အခြားလက်များထက်လည်း ပို၍ရှည်သည်။ ခေါင်း၏ဘေးတဖက်စီ၌ မမှိတ်သောမျက်လုံးတလုံးစီ ရှိသည်။ နားကဲ့သို့သော အာရုံအင်္ဂါများ လည်းရှိသည်။ ကျောတလျှောက် အရေခွံအောက်၌ ကလောင်တံနှင့်တူသော အရိုးရှိသည်။ အခြားထူးဆန်းသောအင်္ဂါတခုမှာ မင်အိတ်ဖြစ်၏။ ပြင်ပသို့မင်ကို ပြွန်ချောင်းတခုအားဖြင့် ပက်ထုတ်လိုက်သောအခါ ပတ်ဝန်းကျင်ရေသည် မည်းနက်သွား၍ ရန်သူမမြင်နိုင်အောင် ဖန်တီးပေးသည်။ ကိုယ်ခန္ဓာနှင့်လည်ပင်းကြားတွင် အရေခွံအောက်မှ ပြင်ပသို့ဆက်နေသော ပြွန်ချောင်းတခုရှိသည်။ မင်အိတ်မှမင်နှင့် ကိုယ်ခန္ဓာမှဖြစ်ပေါ်သော စွန့်ပယ်ပစ္စည်းစသည်တို့သည် ထိုပြွန်ချောင်းအားဖြင့် ပြင်ပသို့ရောက်ရသည်။ ထိုပြွန်ချောင်းမှာ ရေထဲတွင် ပါရှိသော အောက်ဆီဂျင်ကို ရှူရှိုက်ခြင်း၊ သွားလာရွေ့ရှားခြင်းနှင့် ဆိုင်သော အင်္ဂါလည်းဖြစ်သည်။ ကိုယ်ခန္ဓာထဲမှရေကို အရှိန်ပြင်းစွာမှုတ်ထုတ်လိုက်ခြင်းဖြင့် ကင်းမွန်သည် နောက်ဖက်သို့လျှင်မြန်စွာ ဆုတ်ပြေးနိုင်သည်။



ကင်းမွန်ဘဲလိပ်

ကင်းမွန်၏အစာမှာ ငါး၊ ကနန်း၊ ပုဇွန်များဖြစ်သည်။ သူတို့၏ အစာကို ရှည်လျားသောလက်များဖြင့် ဖမ်းယူစားသောက်လေသည်။

ဘဝဲသည် အလွန်ကြောက်မက်ဖွယ်ကောင်းသော သတ္တဝါဖြစ်သည်။ ပင်လယ်အောက် သန္တာကျောက်တန်းများတွင် အောင်းနေ၍ စူးရှသောမျက်လုံးတို့ဖြင့် တွင်းဝမှစောင့်ကြည့်နေသည်။ သို့သော် ထိုနေရာကလေးသည် ပကတိအတိုင်း ငြိမ်သက်သာယာသကဲ့သို့ ရှိနေ၏။ ငါးကလေးများလည်း ရန်သူမရှိသကဲ့သို့ သွားမြဲတိုင်းသွားလျက်ရှိ၏။ ငါးအုပ်တခုသည် တွင်းဝကိုကျော်ဖြတ်၍ သွား၏။ အတန်ငယ်ဝေးလောက်မှ ရှည်လျားသော သဏ္ဌာန်တခု တွင်းဝမှ လျှင်မြန်စွာထွက်လာ၍ နောက်အကျဆုံးငါးကိုရစ်ပတ်ဖမ်းယူကာ တွင်းထဲသို့သွင်းလိုက်တော့သည်။ ထိုနောက် အားလုံးပကတိအတိုင်း ငြိမ်သက်သွားပြန်သည်။ ဘဝဲ၏ကိုယ်ခန္ဓာမှာ အိတ်တခုကဲ့သို့ရှိနေ၍ တုတ်တိုသောလည်ဖြင့် ကြီးမားအရုပ်ဆိုးသော ဦးခေါင်းကို ဆက်နေသည်။ လိမ်ကောက်သောလက် ၈ ဖက်မှာ ဦးခေါင်းမှ ဖြာထွက်လျက်ရှိ၏။ အလွန်သန်စွမ်းသော လက်များပေတည်း။ လက်တခုလုံးသာ ပြုတ်ထွက်ကောင်းပြုတ်ထွက်လာမည်၊ ရစ်ပတ်ခြင်းခံရသော အရာသည်ကား ထိုလက်မှ လွတ်ထွက်နိုင်ရန် ခဲယဉ်း၏။ လက်များ၏အရင်းအလယ်၌ ကြက်တူရွေးနှုတ်သီးကဲ့သို့သော နှုတ်သီးနှင့် ပါးစပ်တခုရှိသည်။ လျှာမှာ အလွန်ကြမ်းတမ်း၍ အဆိပ်အိတ်တခုရှိ၏။ ထိုအဆိပ်ဖြင့် ဖမ်းဆီးမိသောအကောင်ကို မေ့မြော့သွားစေသည်။ သို့ဖြစ်လေရာ အဘယ်မှာလျှင် အခြားသတ္တဝါများသည် ဘဝဲကို မကြောက်ဘဲ နေနိုင်အံ့နည်း။ သို့သော် ဝေလငါး၊ ငမန်းများနှင့် တွေ့သောအခါ အကြီးအကျယ် တိုက်ခိုက်သတ်ဖြတ်ကြသည်။ ဘဝဲသည် သူ၏ရှည်လျားသောလက်များဖြင့် ရန်သူကိုရစ်ပတ်ပြီးလျှင် နှုတ်သီးသို့ရောက်အောင် အတင်းဆွဲငင်၏။ ငါးကြီးများကလည်း အမြီးနှင့်ရိုက်၊ သွားနှင့်ကိုက်၊ အမျိုးမျိုးအဖုံဖုံတိုက်ခိုက်သည်။ ဘဝဲသည် မိမိမနိုင်ပုံပေါ်သောအခါ မင်ရည်များပက်ထုတ်၍ ရန်သူမမြင်မီ အခြားသို့ထွက်ပြေးသွားသည်။ ဘဝဲမသည်လည်း အလွန်ကြောက်မက်ဖွယ်ကောင်း၏။ သို့သော် သားငယ်သမီးငယ်များကို ဘေးရန်အမျိုးမျိုးမှ ကောင်းစွာ ကာကွယ်စောင့်ရှောက်သော မိခင်ဖြစ်၏။ အမေရိကန်ဘဝဲတမျိုး၏ လက်များသည် ၁၆ ပေမျှရှည်လျား၏။ ပုလဲငုပ် သမားများကို ဖမ်းယူစားသောက်တတ်သည်။

ကင်းမွန်ဘဲလိပ်ရိုးရိုးမှာ ၆ လက်မမှ ၁၈ လက်မခန့်အထိ ရှည်တတ်၍ ပင်လယ်တိုင်း၌ အမြောက်အမြားတွေ့နိုင်သည်။ ပစိဖိတ်ကမ်းခြေ၊ ဖိလစ်ပိုင်ကျွန်း၊ ဂျပန်နိုင်ငံ၊ မြေထဲပင်လယ် ကမ်းခြေများ၌ ကင်းမွန်ဘဲလိပ်တို့ကျက်စားကြ၏။ ရှည်သောကင်းမွန်ကဲ့သို့ သဏ္ဌာန်ရှိသည်။ ကိုယ်ခန္ဓာမှာလုံး၍၊ ချွန်သောကိုယ်အနောက်ပိုင်း၏ ဘေးတဖက်စီ၌ ဆူးတောင်များရှိ၏။ ကင်းမွန်ကဲ့သို့ လက် ၅ စုံ၊ မင်အိတ် ရေထုတ်ပြွန်ချောင်း၊ ကောင်းသောဦးနှောက်နှင့် နဗ်ကြောအဖွဲ့များရှိသည်။ ဒေသရာသီကိုလိုက်၍ အရောင်အမျိုးမျိုးပြောင်းလဲနိုင်၏။



ကြောက်ဖွယ်ကောင်းသည့် 'ဘဝဲ'

အမေရိကတိုက် အရှေ့မြောက်ကမ်းခြေတို့၌ တွေ့တတ်သောကင်းမွန်ဘဲလိပ်များသည် ပေ ၅၀ ခန့်မျှရှည်လျား၏။ အမှန်မှာ ထိုအရှည်၏ ၄ ပုံ ၃ ပုံသည် လက်များဖြစ်သည်။ စုတ်အင်္ဂါ၏အချင်းသည် ၂½ လက်မမျှရှိ၍၊ မျက်စိတလုံးသည် ၉ လက်မခန့်ကျယ်သည်။

ညအခါတွင်သာ သွားလာကျက်စားတတ်၍၊ ဝေလငါးမှာ ကင်းမွန်ဘဲလိပ်၏ အကြီးဆုံးသောရန်သူဖြစ်သည်။ အချို့ကကင်းမွန်ဘဲလိပ်ကို 'သူရဲငါး' ဟူ၍ပင် ခေါ်ကြ၏။

ဘဲဝဲကို အစားအစာအလို့ငှာ လူတို့နှစ်သက်ကြသည်။ ဂျပန်နိုင်ငံ၌ တံငါများသည် မြေအိုးများကို ပင်လယ်ရေပြင်အောက်သို့ချထား၍ ဘဲဝဲများဝင်ပြီးနောက် ပြန်မထွက်နိုင်မီ ဖေါ်ယူဖမ်းဆီးတတ်သည်။

ကင်းမွန်ဘဲလိပ်ကိုလည်း လူတို့စားသုံးကြရာ ယင်းအခြောက်များကို တရုပ်နိုင်ငံမှ တင်သွင်းရောင်းချသဖြင့် မြန်မာနိုင်ငံ၌ ပြည်ကြီးငါးဟုတွင်လေသည်။

# အနောက်နိုင်ငံရောက် အဦးဆုံး မြန်မာ သံအမတ်ကြီး

**မြန်မာဘုရင်တို့၏ သက်ဦးဆံပိုင်အုပ်ချုပ်သောစနစ်ကို ခေတ်အလိုက်ပြုပြင်ပြောင်းလဲကာ အနောက်တိုင်းနိုင်ငံကြီးများမှာကဲ့သို့အစိုးရဝန်ကြီးအဖွဲ့ဖြင့်အုပ်ချုပ်ရေးစနစ်သစ်ကိုလိုလားသူ တိုင်းပြည်ပြုသုခမိန် ကင်းဝန်မင်းကြီးဦးကောင်းသည် မြန်မာနိုင်ငံသမိုင်းတွင်သာမက မြန်မာစာပေသမိုင်းတွင်လည်း အထူးထင်ရှားလှသော ပညာရှိကြီးတဦးဖြစ်ပေသည်။**

•

**ကင်းဝန်မင်းကြီး** (မြန်မာ ၁၁၇၃–၁၂၇၀)။ ။နောက်ဆုံးမြန်မာမင်းများဖြစ်သော မင်းတုန်းမင်းနှင့် သီပေါမင်းတို့၏ လက်ထက်တော်တို့တွင် နိုင်ငံ၏တာဝန်ကို စွမ်းလွန်းတမံ ထမ်းရွက်ကာ ထင်ပေါ်ကျော်ကြားလှသော သတိုးမင်းကြီး မဟာမင်းလှစည်သူဘွဲ့ခံ ကင်းဝန်မင်းကြီးမှာ ဗြိတိသျှတို့ အထက်မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးစဉ်တခေတ်က လူသိအများဆုံးပုဂ္ဂိုလ်တဦးဖြစ်ခဲ့၏။ အဖြစ်အပျက်အမှန်ကိုမသိသူအချို့က 'ဦးကောင်းလိမ်ထုတ်သီပေါပြုတ်' ဟူသောစာအရ၊ ကင်းဝန်မင်းကြီးသည် အထက်မြန်မာပြည်ကို ဗြိတိသျှတို့လက်သို့ လက်သိပ်ထိုးအပ်ခဲ့သည်ဟု အယူမှားကာ သိနားလည်ခဲ့ကြသည်။

ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် ခေတ်မမှီဘဲကျန်ရစ်ခဲ့သည့်မြန်မာနိုင်ငံကို ခေတ်မှီလျက်တိုးတက်နေသော အခြားနိုင်ငံတို့နှင့်ယှဉ်ပေါင်တန်းလိုက်နိုင်အောင် စီမံအုပ်ချုပ်ရေး၊ တရားဥပဒေရေး၊နိုင်ငံခြားဆက်သွယ်ရေး၊ ပြုပြင်ပြောင်းလဲရေးတို့ကို အားသွန်ဆောင်ရွက်ခဲ့သည့် ရှေးမြန်မာခေါင်းဆောင်ကြီးတို့တွင် ကင်းဝန်မင်းကြီးသည်ထင်ရှားစွာပါဝင်ခဲ့လေသည်။

## ငယ်စဉ်ဘဝ

ယခုပုလဲနှင့် ဆားလင်းကြီးမြို့နယ်များဖြစ်သော ဗန့်ကျီတိုက်နယ်မင်းတိုင်ပင်ရွာဇာတိ၊ အဖအတွင်းခြောက်စုနတ်သျှင်ရွှေးတပ်တွင် အမှုထမ်းသော သွေးသောက်ကြီးဦးမှို၊ အမိဒေါ်နှင်းဆီတို့မှ ၁၁၇၃ ခုတပို့တွဲလဆန်း ၁၂ ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်သည်။ ငယ်မည်မှာမောင်ချင်းဖြစ်၍ ညီအစ်ကိုမောင်နှမ ၇ ယောက်အနက် ဒုတိယသားဖြစ်သည်။ အသက် ၇ နှစ်တွင် တောင်ငှက်ပျောတောကျောင်းထိုင်ပုဂ္ဂိုလ် ခင်ကြီးစံထံတွင်ပညာသင်ကြား၍ အသက် ၁၀ နှစ်တွင်ရှင်သာမဏေဖြစ်သည်။ ဗန့်ကျီဒိုင်အသည်ဖြစ်သည့်အတိုင်း မိမိဖခင်၏တပ်ရင်းတွင် စစ်မှုထမ်းရန် တာဝန်ရှိသော်လည်း သာသနာဘောင်သို့တက်ရောက်သဖြင့် စစ်မှုမထမ်းရပေ။ ရဟန်း၏ဘွဲ့မှာ ဦးအာလောကဖြစ်သည်။ ကိုရင်ဘဝနှင့်ရဟန်းဘဝတို့တွင် စာပေပရိယတ္တိ၌ လွန်စွာစိတ်အားထက်သန်လှ၍ များစွာအလားအလာရှိလေသည်။ ရဟန်းခံပြီး၍မကြာမြင့်မီအတွင်း အမရပူရမြို့ သာသနာပိုင် ဗားကရာဆရာတော်၏ ကျောင်းတိုက်တွင် သီတင်းသုံးခဲ့၏။

ပုဂံမင်းလက်ထက်လူထွက်ပြီးနောက် သက္ကရာဇ် ၁၂၁၁ ခုနှစ်၌ မင်းတုန်းမင်းသား၏အိမ်တော်တွင် စွဲမြဲခစားသည်။ အိမ်ရှေ့မင်း၏မင်္ဂလာအိမ်တော်ဘဏ္ဍာစာရေးရာထူးဖြင့် အမှုထမ်းနေစဉ် မောင်ချင်းအမည်မှ မောင်ကောင်းဟုပြောင်းလဲခေါ်ခဲ့၏။ မင်းတုန်းမင်းတရားကြီး အထွတ်အမြတ်သို့ရောက်တော်မူသောအခါ စစ်ကိုင်းမြို့နယ် ရွာသစ်ကြီးရွာကိုစားရ၍ ရွှေတိုက်စိုးအဖြစ်အမှုထမ်းရသည်။ ထိုနောက်သော် လွှတ်တော်တွင်အမှာတော်ရေးရာထူးကို ဆက်လက်ထမ်းရွက်စဉ်အတွင်း ပုဂံမင်း၏မိဖုရား (ကိုယ်လုပ်တော်) တဦးဖြစ်သော ဆင်ကြန်သခင်နှင့်လက်ဆက်ခဲ့လေသည်။

တာဝန်များကို အရည်အခြင်းရှိစွာနှင့် အထူးကျေပြွန်စွာ ထမ်းရွက်နိုင်သောကြောင့် ၁၂၂၃ ခုနှစ်တွင် အလုံဝန်အဖြစ်ခန့်အပ်ခြင်းခံရ၍ အလုံမြို့သို့ရွှေပြောင်းအမှုထမ်းရလေသည်။ အလုံနယ်မှာ မဟာဗန္ဓုလမွေးဖွားကြီးပြင်းရာဒေသဖြစ်သည်သာမက၊ ရှေးမြန်မာ တပ်မတော်အတွင်းခြောက်စုတပ်များတွင် ထင်ရှားကျော်စောသောစစ်သူရဲ

ကောင်းများပေါ် ထွက်ရာအရေးကြီးသည့် ဒေသဖြစ်သည်။ အလုံမြို့ဝန်အဖြစ်ထမ်းရွက်စဉ် စီမံအုပ်ချုပ်ခြင်း၊ တရားစီရင်ခြင်းတို့၌ အထူးအောင်မြင်သည့်အလျောက် အလုံနယ်မှာ ငြိမ်းချမ်းစည်ပင်သာယာဝပြောခဲ့ပေသည်။ အလုံဝန်အဖြစ် ဦးကောင်း၏အုပ်ချုပ်မှုနှင့် တရားစီရင်မှုအာဏာတို့ကို လွတ်တော်ကသာ ပြင်ဆင်ပယ်ဖျက်နိုင်၏။ ဤသို့ဆောင်ရွက်စဉ်အတွင်း စာပေဝါသနာပါသည့်အလျောက် ပြုစုရေးသားခဲ့သဖြင့် နေပြည်တော်၌ပင် ကျော်ကြားခဲ့သည်။ အလုံဝန်အဖြစ်နေစဉ် ဝန်ကတော်ဆင်ကြန်သခင်မှာ အလုံသို့မလိုက်ခဲ့ချေ။ ထိုအတွင်း အလုံမြို့ သူကြီး ဦးအို၊ မမကြီးတို့၏နှမ မရွှေမေနှင့်လက်ဆက်ခဲ့၏။

## ကင်းဝန်ဖြစ်လာခြင်း

၁၂၂၈ ခုနှစ်တွင် မြင်ကွန်း၊ မြင်းခုံတိုင် အရေးပေါ်ပေါက်ခဲ့၍ အိမ်ရှေ့မင်း ကနောင်မင်းသားကျဆုံးရသဖြင့်၊ မင်းတုန်းမင်းသည် အလုံဝန်ဦးကောင်းအား နေပြည်တော်သို့ ပြန်လည်ခေါ် ယူတော်မူပြီးလျှင် မင်းကြီးမဟာစည်သူဘွဲ့နှင့် ဝန်ထောက်တော်ရာထူးဖြင့် အပါးတော်၌ခစားစေသည်။ (ကနောင်မင်းသား – လည်းရှု။) အရေးတော်အေးငြိမ်းသွားသောအခါ၌ ကြည်းကင်း ရေကင်း စသည်တို့ကိုအုပ်ချုပ်ရန် ဝန်ထောက် ကင်းဝန်ရာထူးသို့ တိုးမြှင့်ခန့်ထားခဲ့လေသည်။ (ကင်း – လည်းရှု။) ထိုအချိန်မှစ၍ ကင်းဝန်မင်းကြီးဦးကောင်းဟု ကျော်ကြားလာလေသည်။

နေပြည်တော်မြို့ကြီးရွာကြီးတို့တွင် ကင်းဝန်ဟူရာ၌ အကာအကွယ် အစောင့်အရှောက်ထားသော ကင်းစစ်သည်တို့ကို အုပ်ချုပ်ခန့်ခွဲရန်သာမဟုတ်သေး၊ နယ်စပ်ဒေသတို့တွင် ကူးလူးဆက်ဆံရောင်းဝယ်နေသော ကုန်သည်ခရီးလမ်းတို့ကိုပါအုပ်ချုပ်၍ အကောက်အခွန်များစီးကြပ်ရသည့်တာဝန်လည်း ပါဝင်သည်။ ၁၂၃၂ ခုနှစ်တွင် အောက်မြစ်စဉ် မြို့ရွာများမှာ အင်္ဂလိပ်ပိုင်နယ်မြေနှင့် နီးစပ်ယှက်တင်နေ၍၊ ဆက်သွယ်မှုပြေပြစ်လျက် ရာဇဝတ်ရေး ကင်းလွတ်လုံခြုံအောင်ကင်းဝန်မင်းကြီးကို ထိုမြစ်စဉ် ရှိမြစ်စဉ်ဝန်၊ စစ်ကဲ၊ အကြီးအအုပ်စသူတို့ကို ကြီးကြပ်အုပ်ချုပ်ရန် ခန့်ထား၏။ ကင်းဝန်မင်းကြီးသည် မင်းလှမြို့မှနေ၍ ဤအရေးကြီးသော တာဝန်သစ်ကို အောင်မြင်စွာ ထမ်းရွက်ခဲ့လေသည်။

## နိုင်ငံခြားသို့ သံအဖြစ်သွားရောက်ခြင်း

ဗြိတိန်နိုင်ငံနှင့် ပိုမိုရင်းနှီးစွာတိုက်ရိုက်ဆက်ဆံနိုင်ရန်ငှင်း၊ ဥရောပတိုက်ရှိအခြားနိုင်ငံကြီးများနှင့်လည်း နိုင်ငံခြားဆက်သွယ်မှုရရှိရန်ငှင်း၊ ၁၂၃၃ ခုနှစ်တွင် မင်းတုန်းမင်း စေလွှတ်သောသံအဖွဲ့ကို ကင်းဝန်မင်းကြီး ဦးဆောင်ခဲ့၏။ ထိုသံအဖွဲ့မှာ မြန်မာနိုင်ငံမှဥရောပနိုင်ငံများသို့ ပဌမဆုံးစေလွှတ်ခဲ့သောသံအဖွဲ့ဖြစ်၏။ ဗြိတိန်နှင့် အိုင်ယာလန်၊ ပြင်သစ်၊ ဣတလီနိုင်ငံများသို့သွားရောက်က နိုင်ငံအစိုးရချင်းဆက်သွယ်ရေး၊ ကုန်သည်ကြီးများ၊ ကုမ္ပဏီကြီးများနှင့် စီးပွားရေးဆက်သွယ်မှုများကို ဆောင်ရွက်ခဲ့သည့်ပြင်၊ ထိုနိုင်ငံတို့၏ အုပ်ချုပ်ရေး၊ တရားစီရင်ရေး၊ ကာကွယ်ရေးတပ်များဖွဲ့ပုံနှင့် ကာကွယ်ရေးစီမံမှုတို့ကို လေ့လာခဲ့၏။ ပညာသင်ကြားရေး၊ ဝန်ထမ်းလုပ်ငန်း၊ ငွေနှင့်ဘဏ်စံနစ်၊ ကြေးနန်းနှင့်စာပို့တိုက်လုပ်ငန်း၊ ပြတိုက်၊ ဇာတ်သဘင်စသည်တို့ကိုလည်း ဆည်းပူးလေ့လာခဲ့သည်။ ထူးခြားသည်မှာ ပြင်သစ်အစိုးရနှင့် မဟာမိတ်စာချုပ်တခုကို ၁၂၃၄ ခုနှစ်တွင် ချုပ်ဆိုခဲ့ခြင်းဖြစ်၏။ ဤသံအဖွဲ့၏ဆောင်ရွက်မှုကြောင့် ကုန်းဘောင်ဆက်ရာဇဝင်တော်ကြီးတွင် ကောင်ဒီရော်ရှုဟုခေါ်ထားသူသည် မန္တလေးမြို့သို့ ပြင်သစ်သံအဖြစ် ရောက်လာခဲ့လေသည်။ ၁၂၃၅ ခုနှစ်တွင် ကင်းဝန်မင်းကြီးပင် ဦးဆောင်၍ပြင်သစ်နိုင်ငံသို့ မြန်မာသံအဖွဲ့တဖွဲ့ ထပ်မံသွားရောက်ခဲ့ရာ ပြင်သစ်သံ ကောင်ဒီရော်ရှုပါ


သတိုးမင်းကြီးမဟာမင်းလှစည်သူ ကင်းဝန်မင်းကြီး

လိုက်ပါသွားခဲ့လေသည်။ ဤသံအဖွဲ့သည်ပြင်သစ်–မြန်မာဆက်ဆံရေးအတွက် အကျိုးထူးဖွယ်ရာရှိသော်လည်း ပြင်သစ်–မြန်မာဆက်ဆံရေး၊ အင်္ဂလိပ်–မြန်မာဆက်ဆံရေးတို့ကို များစွာဂယက်ရိုက်ခဲ့စေသည်။

၁၂၃၆ ခုနှစ်တွင် ကင်းဝန်မင်းကြီးမှာ သေနတ်ဝန်အဖြစ် ခန့်အပ်ခြင်းခံရ၍ မြောက်ထားဝယ်၊ တောင်ထားဝယ် စသော သေနတ်အစု ၂၂ တပ်၊ စစ်သည် ၅၀,၀၀၀ ကျော်တို့ကို အုပ်ချုပ်ခန့်ခွဲရ၏။ ထိုအချိန်မှစ၍ ကင်းဝန်မင်းကြီးမှာ နိုင်ငံကာကွယ်ရေးနှင့်စစ်မှုရေးရာတို့တွင် ပိုမိုတာဝန်ယူကာဆောင်ရွက်ခဲ့ရ၏။ သေနတ်ဝန်ရာထူးမှာ ကြည်းတပ်များကိုကြီးကြပ်အုပ်ချုပ်ရသဖြင့် သြဇာအာဏာရှိသည်။

## အုပ်ချုပ်မှုပြုပြင်ပြောင်းလဲရေး

ဒီမိုကရေစီဝါဒထွန်းကားသော ဥရောပနိုင်ငံများသို့ သွားရောက်လေ့လာခဲ့သည့်အတိုင်း၊ မိမိနိုင်ငံတိုးတက်ရေးအတွက် ဗြိတိန်နိုင်ငံများကဲ့သို့ ဘုရင်၏အာဏာကိုကန့်သတ်ကာ ဝန်ကြီးအဖွဲ့နှင့် တိုင်းပြည်ရေးရာများကိုစီမံခန့်ခွဲသွားနိုင်သည့် အုပ်ချုပ်ရေးစံနစ်သစ်တခုကိုတီထွင်ရန် ကင်းဝန်မင်းကြီးကြိုးစားခဲ့၏။ (အစိုးရဝန်ကြီးအဖွဲ့–လည်းရှု။) သို့ဖြစ်၍လည်း မင်းတုန်းမင်းနတ်ရွာစံသောအခါတွင် မိမိ၏သြဇာညောင်းမည့် သီပေါမင်းသားကို ထီးနန်းဆက်ခံစေရန် သဘောတူခဲ့ခြင်းဖြစ်သည်။ ၁၂၄၀ ပြည့်နှစ်တွင် သီပေါမင်းနန်းတက်ပြီးနောက် အုပ်ချုပ်မှုပြုပြင်ပြောင်းလဲရေးလုပ်ငန်းများကို စတင်ခဲ့၏။ နိုင်ငံတော်အုပ်ချုပ်ရေးကို ၁၄ ဌာနခွဲပြီးလျှင် မိမိကမူ ကာကွယ်ရေးဌာနဟုခေါ်ရမည့် ကြည်းတပ်များကို တာဝန်ယူအုပ်ချုပ်ကာ နိုင်ငံတော်၏ ကာကွယ်ရေးကို စီစဉ်ခဲ့သည်။ တိုင်းပြည်အုပ်ချုပ်ရာ၌လည်း လွှတ်တော်တွင် အခွင့်အာဏာများပိုမိုရရှိအောင် ဆောင်ရွက်ခဲ့၏။ လွှတ်တော်အစည်းအဝေးတို့တွင် ဘုရင်ကိုယ်တိုင်သော်၎င်း၊ အိမ်ရှေ့မင်းသော်၎င်း၊ သဘာပတိအဖြစ်ဆောင်ရွက်မြဲဖြစ်သော်လည်း မြင်ကွန်း၊ မြင်းခုံတိုင်အရေး ပေါ်ပေါက်ပြီးသည့်အချိန်မှစ၍ ဤအစဉ်အလာမှာပျက်ပြားသကဲ့သို့ရှိခဲ့ရာ၊ လွှတ်တော်အစည်းအဝေးများတွင် ကင်းဝန်မင်းကြီးပင် ဦးဆောင်ခဲ့ရ၏။ အုပ်ချုပ်ရေးသစ်မှာ ဘုရင်၏အာဏာကို ကန့်သတ်ရန်ဖြစ်နေသဖြင့် ကန့်သတ်ခြင်းမခံလိုသူတို့ဖက်မှ အတိုက်အခံများပေါ်ပေါက်ခဲ့၏။ သို့ဖြစ်၍လည်း သီပေါမင်းလက်ထက်နောက်ပိုင်းတွင်ကင်းဝန်မင်းကြီးမှာတန်ခိုးမှိန်ကာ ဘုရင့်ယောက္ခမ ဆင်ဖြူမရှင်အမှူးရှိသော တိုင်တားမင်းကြီးတို့က သြဇာထက်၍ လာလေသည်။ (တိုင်တားမင်းကြီး – ရှု။) ဤသို့အားဖြင့် အုပ်ချုပ်မှုပြုပြင်ပြောင်းလဲရေးအစီအစဉ်များကို ကင်းဝန်မင်းကြီးမှာ စိတ်တိုင်းကျဆောင်ရွက်နိုင်ခြင်းမရှိခဲ့ပေ။

## နိုင်ငံခြားဆက်သွယ်ရေး

ဗြိတိသျှတို့၏နယ်ချဲ့စစ်ခြေလှမ်းကို ကောင်းစွာရိပ်စားမိသည့်အလျောက်၊ နိုင်ငံခြားဆက်သွယ်ရေးကျားကစားမှုအောင်မြင်စေရန် ကင်းဝန်မင်းကြီးသည် ပြင်သစ်အစိုးရကို ကျားကောင်တကောင်အနေဖြင့်အသုံးပြုရန် ကြိုးစားခဲ့ပေသည်။ သို့ကြိုးစားခဲ့သော်လည်း ဗြိတိသျှတို့နှင့်ပဋိပက္ခ မဖြစ်အောင် လိမ်မာပါးနပ်စွာ ဆက်ဆံရေးသိမ်မွေ့မှုများကို တဖက်မှဆောင်ရွက်ခဲ့သည်။ မင်းတုန်းမင်းလက်ထက် ဗြိတိသျှဝေလမင်းသား အိန္ဒိယနိုင်ငံသို့ရောက်လာစဉ်က မြန်မာနိုင်ငံ အစိုးရ၏ ကိုယ်စားလှယ်အဖြစ် သွားရောက်နှုတ်ဆက်ခဲ့၏။ ဗြိတိသျှ ကုမ္ပဏီကြီးများနှင့် ဆက်သွယ်မှုတို့တွင်လည်း မိမိ၏အစိုးရ ငွေရေးအပြင် ဗြိတိသျှကုမ္ပဏီတို့ကြေနပ်မှုရအောင်လည်း ဆောင်ရွက်ခဲ့၏။ သို့ပင်ဖြစ်လင့်ကစား ပြင်သစ်တို့မှာ အနည်းငယ်တန်ခိုးမှိန်နေသည့်အချိန်၊ ဗြိတိသျှတို့၏နယ်ချဲ့စီမံကိန်း အလွန်အရှိန်ကောင်းနေသောအချိန်ဖြစ်သည့်အပြင်၊ မိမိနှင့်လုပ်ဖော်လုပ်ဖက်များဖြစ်သည့် လွှတ်တော်ဝန်ကြီးတို့ကို မိမိအမြင်သို့ပါအောင် ဆွဲဆောင်နိုင်စွမ်းမရှိခဲ့သောကြောင့် ကင်းဝန်မင်းကြီး၏နိုင်ငံခြားရေးဝါဒနှင့်လုပ်ငန်းမှာ မအောင်မြင်ခဲ့ပေ။ ပြင်သစ်တို့နှင့် မဟာမိတ်အဖြစ်ဆက်သွယ်မှုများကို ဗြိတိသျှအစိုးရက ပြင်သစ်အစိုးရအားကန့်ကွက်ခဲ့၏။ ကန့်ကွက်ရုံသာမကသေး၊ ပြင်သစ်တို့အခြေမစိုက်မီ မြန်မာနိုင်ငံကိုလက်ရသိမ်းယူရန် ၁၂၄၇ ခုနှစ်တွင် အကြောင်းပြစစ်ကျေညာခဲ့လေသည်။

ကင်းဝန်မင်းကြီးသည် မိမိအရှင်အပေါ်၌သစ္စာရှိသည်။ 'ဦးကောင်းလိမ်ထုတ် သီပေါပြုတ်' ဆိုသောစကားမှာမမှန်ချေ။ အင်္ဂလိပ်တို့ချီတက်လာစဉ် သီပေါမင်းတရားလွှတ်ရာသို့ရှောင်ရှားကာ ပြန်လည်ခုခံနိုင်ဖို့ အကြံဉာဏ်ပေးခဲ့၏။ သို့ရာတွင် ယောက္ခမဆင်ဖြူမရှင် မမာမကျန်းဖြစ်ခြင်း၊ သမီးတော်များငယ်ရွယ်ခြင်း စသည့်အကြောင်းတို့ကြောင့် ဘုရင်ကိုယ်တိုင်က မထွက်ခွာလိုဟုငြင်းဆိုခဲ့သည်။ ကင်းဝန်မင်းကြီးသည် လူသတ်ဝါဒကိုလုံးဝမနှစ်မြို့၊ မင်းတုန်းမင်းနတ်ရွာစံ၍ မင်းပြောင်းမင်းလွှဲတွင် မင်းညီမင်းသားတို့အား စီရင်ရန်ကြံစည်ကြစဉ်တွင် မိမိစွမ်းအားရှိသမျှ ဟန့်တားကန့်ကွက်ခဲ့၏။

မိမိတန်ခိုးမှိန်စဉ်တွင် ဆောင်ရွက်နိုင်စွမ်းမရှိခဲ့သော်လည်း မိမိဆောင်ရွက်နိုင်သည့်အခါ၌ ဖြစ်မြောက်အောင်ဆောင်ရွက်ခဲ့သည်ကို တွေ့ရသည်။ ထို့မှတပါး ကင်းဝန်မင်းကြီးသည် ငွေဝယ်ကျွန်စံနစ်ကိုတိုက်ဖျက်ခဲ့၏။ ၁၂၄၅ ခုနှစ်တွင် သူ၏အစီအမံဖြင့် သူတပါးအိမ်တွင်ကြေးယူ၍ ကျွန်အဖြစ်အသက်မွေးနေကြရသော လူကြီး ၂၄၀၊ ကလေးသူငယ် ၁၁၅၄ ယောက်ကို ငွေအမ်းရွေးယူပြီးလျှင် သူတို့၏ဆန္ဒ



မန္တလေးနေပြည်တော်ရှိ ကင်းဝန်မင်းကြီး၏စံအိမ်တော်

အလျောက် သာသနာ့ဘောင်သို့ သွတ်သွင်းခဲ့၏။ ထိုအစီအမံတို့ကို အစိုးရအနေဖြင့်ဆောင်ရွက်ခဲ့၏။

### မတိုက်ခိုက်ရန်အမိန့်

အင်္ဂလိပ်တပ်များ ချီတက်လာစဉ်တွင် သီပေါမင်းကိုယ်တိုင်က လွှတ်ရာလွှတ်ကြောင်းမရှောင်လိုဟုဆိုသည့်အပြင်၊ ဗြိတိသျှတို့တောင်းဆိုသည်ကို ကျေအေးစွာအပြည့်အစုံပေးမည်ဖြစ်ကြောင်း၊ သတ္တဝါတို့အသက်မသေစေရန် တိုက်ခိုက်မှုမရှိစေလိုကြောင်းဖြင့် အမိန့်ပေးသောကြောင့်၊ အင်္ဂလိပ်တို့ချီတက်လာရာတွင် ဟန့်တားတိုက်ခိုက်မှုမရှိရန်နှင့် အင်္ဂလိပ်တို့ကလည်း မတိုက်ခိုက်ရန်စီစဉ်ခဲ့သည်မှာ မှန်သည်။ ဤသို့ဖြင့် အားမတန်၍ အမြုတ်အများဆုံးနှင့် မာန်လျော့ကာ အညံ့ခံခြင်းသာဖြစ်သည်။ ကင်းဝန်မင်းကြီးသည် သီပေါမင်းပါတော်မူပြီးသည့်နောက် ဗြိတိသျှတို့တောင်းပန်သည့်အတိုင်း လွှတ်တော်မှူးတော်မတ်တော်တို့နှင့် အတူ နိုင်ငံအုပ်ချုပ်ရေးကိုကူညီခဲ့၏။ ၁၂၅၉ ခုနှစ်တွင် ဒုတိယဘုရင်ခံ၏ဥပဒေပြုမင်းတိုင်ပင်အဖြစ် အမှုထမ်းခဲ့၏။ အနိစ္စမရောက်မီတွေ့ခဲ့သူတဦးက ကင်းဝန်မင်းကြီး၏တည်ငြိမ်ပုံ၊ ထက်မြက်ပုံ၊ ယဉ်ကျေးသိမ်မွေ့ပုံ၊ ဗဟုသုတများပုံတို့ကို ချီးကျူးရေးသားထားသည်။ အသက် ၈၆ နှစ်အရွယ် သက္ကရာဇ် ၁၂၇၀ ပြည့်နှစ်တွင် အနိစ္စရောက်ခဲ့လေသည်။

ဂုဏ်ထူးဘွဲ့ထူးအများ ချီးမြှင့်ခံခဲ့ရသည်ဖြစ်ရာ နိုင်ငံခြားသို့သံအဖြစ်မသွားမီ အဂ္ဂမဟာသေနာပတိဝန်ကြီး အဖြစ် ခန့်အပ်ခြင်းခံရ၏။ သီပေါမင်းတရားလက်ထက်တွင် သက်တော်ရှည်ဘွဲ့၊ သုဓမ္မဘွဲ့တို့ရရှိခဲ့၏။ နိုင်ငံခြားသို့ မြန်မာသံအဖြစ် သွားရောက်ခဲ့စဉ်က ပြင်သစ်သမတက ဂရန်နွှောပစ္စေယတံဆိပ်ဖြင့်၎င်း၊ ဣတာလျံဘုရင်က ဂရန်နွှောပစ္စေယေကုရုန္နီကာလီတံဆိပ်၊ ဂရန်ကော်ရတွန်ခေါ် ရင်သိုင်းစလွယ်နှင့်တံဆိပ်တို့ဖြင့်၎င်း၊ ဝိတိုရိယဘုရင်မက စီ၊ အက် (စ)၊ အိုင်ဘွဲ့ထူးဖြင့်၎င်း၊ ချီးမြှင့်ခြင်းခံခဲ့ရပေသည်။

ကင်းဝန်မင်းကြီးပြုစုခဲ့သောကျမ်းများမှာ မြန်မာစာပေလောကတွင် များပြားလှပေသည်။ ကဗျာဘက်တွင် ရတု၊ အိုင်၊ ရကန်၊ သဖြန်၊ တေးထပ်၊ ချေင်း၊ မော်ကွန်း၊ လူးတား၊ ပျို့စသည်ဖြင့် မျိုးစုံပြောင်မြောက်စွာရေးသားခဲ့၏။ ထင်ပေါ်သောကျမ်းများမှာ စကားပြေဖြင့် လန်ဒန်သွား၊ ပြင်သစ်သွား နေ့စဉ်မှတ်တမ်းများ၊ ဓမ္မသတ်ဖက်တွင် ဓမ္မသတ် ၁၆ စောင်ချုပ်၊ အမွေမှုဓမ္မသတ်၊ အိမ်မှုဓမ္မသတ်ကျမ်းတို့နှင့် အခြားစာပေများဖြစ်သော တိက္ကူကပျို၊ ရတနာနဒီမော်ကွန်း၊ ဓမ္မသတ်လင်္ကာများ၊ အဋ္ဌသံခေပဝဏ္ဏနာ၊ ပကိဏ္ဏကဓမ္မသတ်လင်္ကာတို့ပါဝင်သည်။ ဂီတဖက်တွင် သာချင်း၊ ယိုးဒယား၊ ပတ်ပျိုး၊ ဟန်ချင်းအများ ရေးသားခဲ့ပေသည်။

ဦးဘရှင်။

ကောင်းတုံမြို့။ ။ဗန်းမော်ခရိုင်၊ ရွှေကူမြို့နယ်တွင်ပါဝင်

သော ကောင်းတုံမြို့သည် မန္တလေးမြို့မှ ၂၆၃ မိုင်၊ ဗန်းမော်မြို့မှ ၁၂ မိုင်မျှဝေးကွာသော ဧရာဝတီမြစ်၏ လက်ဝဲဖက်ကမ်းပေါ် တွင်တည်ရှိသည်။

ယခုအခါ ကောင်းတုံမြို့သည် ထင်ပေါ်ကျော်စောသော မြို့မဟုတ်သော်လည်း ရှေးအခါက ကုန်းလမ်းကုန်စည်ကူးသန်းရောင်းဝယ်မှုတွင်ဖွံ့ ဖြိုး ခဲ့ သည်။ ဤမြို့ မှ နေ၍ ကုန်းလမ်းခရီးဖြင့်တရုပ် နိုင်ငံ သို့ ၎င်း၊ ရေလမ်းခရီးဖြင့်ရန်ကုန်မြို့သို့၎င်း၊ ကူးလူးဆက်ဆံနိုင် ခဲ့သည်။ အထူးသဖြင့် ၁၇ ရာစုနှစ်နောက်ပိုင်းတွင် ဗန်းမော်မြို့၌ ဒပ်ချလူမျိုး နှင့် အင်္ဂလိပ်လူမျိုးတို့၏ အလုပ်ရုံကြီးများ ဖွင့်လှစ်လုပ်ဆောင်သော အချိန်များတွင် ပိုမိုစည်ကားရှလာခဲ့သည်။ ရှေးမြန်မာနိုင်ငံ ရေလမ်း ကုန်စည် ရောင်း ဝယ် ဖေါက် ကားမှု နှင့် စပ်လျဉ်း၍ 'အထက်ကောင်းတုံ၊ အောက်ရန်ကုန် နှင့် စုန်ဆန်ထက်အောက်'ဟု ပြောဆိုရေးသားလေ့ရှိသည်။ ရှေးမြန်မာမင်းများလက်ထက်က ရွှေဂူမြို့ဝန်မှာ ကောင်းတုံမြို့ နှင့် စာဝတီးမြို့ ၂ မြို့ ကို အုပ် ချုပ်ရလေသည်။

ရှေးအခါက ကောင်းတုံမြို့နယ်တွင် တောလက်ကျေးရွာ ၄၀ ခန့်ပါဝင်သည်။ ထိုကျေးရွာများမှာ ဧရာဝတီမြစ်သို့ ဒုတိယမြစ်ကျဉ်းအထက် အနီးတွင် စီးဝင်သော စင်းခန်းချောင်းကမ်းပေါ် တွင် တည်ရှိကြသည်။

ဆင်ဖြူရှင်မင်းလက်ထက် ခရစ် ၁၇၆၅ ခုနှစ်မှ ၁၇၆၉ နှစ်အထိ (မြန် မ ာ သက္က ရာဇ် ၁၁၂၇ ခုနှစ်မှ ၁၁၃၀ ပြည့်နှစ်အထိ) ၄ ကြိမ်တိုင်တိုင် တရုပ်နှင့် မြန်မာတို့စစ်ဖြစ်ကြရာ ကောင်းတုံမြို့နေရာတွင် တိုက်ပွဲများ အကြိမ်ကြိမ်ဖြစ်ပွားခဲ့သည်။ နောက်ဆုံး တရုပ်မြန်မာ စစ်ပြေငြိမ်းရေး စာချုပ်ကို ကောင်းတုံမြို့မှာပင်ချုပ်ဆိုရေးထိုးခဲ့ကြသည်။ စစ်ပွဲပြီးဆုံး၍မြန်မာတပ်များထွက်ခွာခါနီးတွင် ဗိုလ်ချုပ် ဝန်ကြီးမဟာသီဟသူကြီးမှူး၍ စစ်ပြေငြိမ်း သည့် အထိမ်း အမှတ် နှင့် စေတီ တဆူ တည် ထား ခဲ့သည်။ ထိုစစ်ပွဲများပြီးဆုံးသွားပြီးနောက် တရုပ်နိုင်ငံနှင့်မြန်မာနိုင်ငံတို့ ကုန်စည်ကူးသန်းရောင်းဝယ်မှု ပိုမိုတိုးတက်လာသည်။ ကောင်းတုံမှ ရွှေလီ၊မိုင်းမော လမ်းစဉ်တို့ဖြင့် တရုပ်နိုင်ငံသို့ပေါက်ရောက်နိုင်ရကား ကောင်းတုံမှာ ဖေါက်ကားရောင်းဝယ်မှု ဗဟိုစခန်းအဖြစ်ဗန်းမော်မြို့ နှင့် ပင် အပြိုင်အဆိုင်ဖြစ်လာခဲ့ဘူးသည်။ (တရုပ်မြန်မာစစ်ပွဲ — ရှု)။

ကောင်းတုံမှာ ယခုအခါ ကချင်ပြည်နယ် တွင်ပါဝင် ၍ လူဦးရေ ၃၀၀ ခန့်မျှနေထိုင်သည့် ကျေးရွာမျှဖြစ်နေတော့သည်။ ငါးဖမ်းခြင်းနှင့်တောင်ယာလုပ်ငန်းများကို လုပ်ကိုင်စားသောက်ကြသူပေါ်များသည်။ ဆောင်းရာသီ၌ မုရင်းစပါးများကိုစိုက်ပျိုးကြသည်။ တောင်ပေါ်ကုန်နှင့်မြေလတ်ကုန်များကို လဲလှယ်ရောင်းချပေးလေ့ရှိသော ကုန်သည်များကိုလည်း တွေ့နိုင်ပေသည်။

**ကောင်းမှုတော်ဘုရား။** ။ကောင်းမှုတော်ဘုရားသည် စစ်ကိုင်း မြို့ မြောက် ဖက် ၆ မိုင် ကွာ၌ တည်ရှိ၍ ရာဇမဏိစူဠာစေတီဟုလည်း အမည်တွင်သည်။ မြန်မာသက္ကရာဇ် ၉၉၈ (ခရစ် ၁၆၃၆) ခု တော်သလင်းလဆန်း ၁၀ ရက်တနင်္လာနေ့တွင် အင်းဝဘုရင် သာလွန်မင်းတရားကြီး တည်ထားကိုးကွယ်ခဲ့သောစေတီဖြစ်သည်။



စစ်ကိုင်းမြို့ရှိ ရာဇမဏိစူဠာစေတီခေါ် ကောင်းမှုတော်ဘုရား

စေတီကို ပစ္စယံ ၃ ဆင့်ခံ၍ သပိတ်မှောက်ထားသကဲ့သို့တည်ထားသည်။ ထိုကဲ့သို့ စပါးပုံသဏ္ဌာန်စေတီတော်မျိုးကို သီဟိုဠ်ကျွန်း၌အတွေ့ရများလေသည်။ စေတီ၏ဥဒါန်တော်မှာ အတောင် ၁၀၁၊ လုံးပတ် ၅၀၂ တောင် ၂ မိုက် ၄ သစ်

နှင့် စေတီတည်ရာတွင် အုပ်ချပ်ရေပေါင်း ၁၀,၁၂၆,၅၅၂ ပါဝင်သည်ဟုဆိုသည်။ ကျောက်ဆီမီးတိုင် ၈၀၂ တိုင်တို့ဖြင့် စေတီကိုဝိုင်းရံထားလေသည်။ ထိုပြင် မြန်မာ၊ မွန်နှင့် ယွန်း (ရှမ်း) အက္ခရာတို့ဖြင့်ရေးထားသော နိပါတ်ခင်း ရုပ်စုံ၊ ဗုဒ္ဓဝင်နှင့် ၃၁ ဘုံတို့ကို နံရံ၌ရေးခြယ်ထားသည်။ တံခါး ၄ မျက်နှာ၌ အုတ်ပြာသာဒ်များဆောက်လုပ်ထားသည်။ စေတီတည်ပြီး နောက်၌ ကောင်းမှုတော်စေတီ ကျောက်စာကို ရေးထိုးထားခဲ့သည်။ ထိုကျောက်စာအရ၊ သက္ကရာဇ် ၉၉၇ ခုနှတ်တော်လပြည့်ကျော် ၁ ရက်သောကြာနေ့တွင် သာလွန်မင်းတရားကြီးအမြဲကိုးကွယ်ခဲ့သည့် စွယ်တော်၊ ဆံတော်တို့အပြင် အရပ်ရပ်မှရှိပင့်လာသော ဓါတ်တော်မွေတော်နှင့် ပတ္တမြား၊ ရွှေ၊ ငွေ၊ ပယင်း၊ မိုးကြိုးစေတီများကို ဌာပနာတော်မူကြောင်းသိရသည်။

**ကောင်းမှုပင်**။ ကောင်းမှုပင်သည် သစ်ပင်ကြီးမျိုးဖြစ်၍ ရခိုင်တိုင်းတောင်ပိုင်း၊ ပဲခူးရိုးမနှင့် တနင်္သာရီတိုင်းရှိအမြဲစိမ်းတောများ၌ ပေါက်သည်။ အမြင့်ပေ ၁၅၀ ခန့်နှင့် လုံးပတ် ၁၀ ပေမှ ၁၅ ပေခန့်အထိ ရှိတတ်သည်။ ပဲခူးရိုးမကဲ့သို့သော အချို့အရပ်ဒေသများ၌ သက်တူ (သက်န်းတူ) ပင်ကို ကောင်းမှုပင်ဟူ၍ မှားယွင်း ခေါ် လေ့ရှိကြသည်။ ထားဝယ်နယ်တွင် ကဘန်ကောင်းမှုပင်ဟုခေါ်သောကောင်းမှုပင်တမျိုး ရှိသေးသည်။

ကောင်းမှုသားသည် ပေါ့၍ခိုင်ခံ့သော်လည်းတာရှည်မခံချေ။ သို့ဖြစ်၍ လက်ဖက်ခြောက်ကဲ့သို့ စားသုံးစရာပစ္စည်းများထည့်ရန်ပေါ့ပါးသောသေတ္တာများနှင့် ရိုးရိုးအိမ်အသုံးအဆောင်များ လုပ်ရန် လောက်သာ သင့်လျော်သည်။ သို့သော် မြန်မာနိုင်ငံ၌ လှေစပ်ရန်အတွက်လည်း ကောင်းမှုသားကိုအသုံးများခဲ့ပေသည်။


ကောင်းမှုပင်၏ အရွက်နှင့်အပူးအပွင့်များ

**ကိုင်ရိုမြို့**။ ကိုင်ရိုမြို့သည် ခေတ်သစ်အီဂျစ်နိုင်ငံ၏ မြို့တော်ဖြစ်၍ အာဖရိကတိုက်တွင် လူဦးရေအထူထပ်ဆုံးမြို့ဖြစ်သည်။ နိုင်းမြစ်၏ အရှေ့ဖက်ကမ်း မြစ်ဝကျွန်းပေါ် ဒေသထိပ်ခွဆုံ၏အထက် ၈ မိုင် အကွာတွင် တည်ရှိသည်။ အယ်လက်ဇန္ဒြီးယားမြို့မှ အရှေ့တောင်ဖက်သို့မိုင် ၁၃၀ ကွာဝေး၍ ဆူးအက်မြို့မှ အနောက်ဖက်သို့မိုင် ၈၀ ခန့်ကွာဝေးသည်။ အာဖရိကတိုက်တွင်အကျယ်ပြန့်ဆုံးမြို့ဖြစ်၍ နိုင်းမြစ် အရှေ့ဖက်ကမ်းတွင် ၅ မိုင်ခန့်ရှည်လျားစွာတည်ရှိသည်။ မြို့တပိုင်း


ခေတ်သစ်အီဂျစ်နိုင်ငံ၏မြို့တော်ကိုင်ရို၏ရှုခင်းတရပ်

မှာ နိုင်းမြစ်ဝှမ်း၏ နုံးတင်မြေနုကွင်းပြင်ပေါ် တွင်ကျရောက်နေ၍၊ တပိုင်းမှာ မိုကက်တမ် ထုံးကျောက်တောင်များ၏ ဆင်ခြေလျှောပေါ် တွင် ကျရောက်နေသည်။

အလယ်ခေတ်အတွင်းက ကိုင်ရိုမြို့သည်ထင်ရှားခဲ့၏။ ၇ ရာစုနှစ်အတွင်းက အာရပ်လူမျိုးတို့ အီဂျစ်နိုင်ငံကိုတိုက်ခိုက်အောင်မြင်သောအခါ၊ မွတ်စလင်ဗိုလ်ချုပ်သည် သူ၏ခံတပ်အနီးနိုင်းမြစ် ကမ်းပါးတနေရာတွင် မြို့တမြို့တည်ဆောက်၍ အယ်–ဖေါ့စတတ် မြို့ ဟု အမည် ပေး ခဲ့၏။ ၁၀ ရာစုနှစ်သို့ရောက်သောအခါ ဖက်တီမိုက်ဘုရင်များက မြို့ကိုသိမ်းပိုက်ပြီး နောက် အရှေ့မြောက် ဖက် သို့ အနည်း ငယ်တိုး ချဲ့ပြီး လျှင် အယ်–ကဟီးရား (စစ်နိုင်မြို့)ဟူသောအမည်သစ်ဖြင့် မြို့သစ်တည်ခဲ့ပြန်၏။ ထိုနေရာမှာ ယခုခေတ်သစ်ကိုင်ရိုမြို့နေရာပင်ဖြစ်လေသည်။

ရှေးခေတ် အီဂျစ် လူမျိုး တို့၏ လက် ရာ ဖြစ် သော ရှေး



ကိုင်ရိုမြို့ရှိထင်ရှားသောမဟာမက်အလီပလီကြီး

ဟောင်း အဆောက် အအုံ များ စွာ ကို ကိုင်ရိုမြို့ တွင် တွေ့ရ သည်။ မြို့တံခါးများ၊ ပြတိုက်၊ ရဲတိုက်နှင့်မျှော်စင်ကြီးများ၊ ပလီကြီးများမှာ မြို့၏ကျက်သရေဆောင်များ ဖြစ်ကြ၏။ ထို့ပြင် အီဂျစ်ဘုရင်ဟောင်းများ၏ သင်းချိုင်းရာများဖြစ်သော ပိရမစ်အဆောက်အအုံများကို မြို့အပြင်ဖက်တွင်တွေ့ရသည်။ ကိုင်ရိုမြို့၏ထင်ရှားသော အဆောက်အအုံများတွင် အယ်အက်ဇဟာပလီနှင့် တက္ကသိုလ်လည်းပါဝင်သည်။ မြို့၏ ခေတ် မီ ရပ် ကွက် သစ် များတွင် ခေတ်သစ်အဆောက်အအုံများနှင့် လမ်းမကြီးများကိုတွေ့နိုင်သည်။ ကိုင်ရိုမြို့ကို တဖြည်းဖြည်းချဲ့ထွင်လာရာ၊ ယခုအခါ နိုင်းမြစ်လယ်ရှိဂျဇီး ရာကျွန်းနှင့် ကိုင်ရိုမြို့ဗဟိုရပ်ကွက်များကို တန်တားကြီးဖြင့် ပင်ဆက်သွယ်ထားရှိလေပြီ။ မြစ်၏အနောက်ဖက်ကမ်းတွင်ကား ပိရမစ် အဆောက် အအုံများ ရှိသော ဂီးဇာမြို့တည်ရှိလေသည်။

ကိုင်ရိုမြို့သည် ဥရောပတိုက်နှင့် အရှေ့တိုင်းပြည်များ၏ ဗဟိုတွင်တည်ရှိ၍ ကူးသန်းရောင်းဝယ်ရေးတွင် အရေးပါသောမြို့ဖြစ်သည်။ အာဖရိကတိုက်မြောက်ပိုင်းနှင့် အရှေ့အလယ်ပိုင်းဒေသအတွက်ကား ကုန်သွယ်ရေးအချက်အခြာသဖွယ်ဖြစ်လေသည်။ ဒုတိယကမ္ဘာစစ်အပြီးတွင် စက်မှုလက်မှုလုပ်ငန်းများအထူးတိုးတက်ခဲ့၏။

ထိုမြို့တွင်နေထိုင်သူများ မှာ အများ အားဖြင့် အာရပ်လူမျိုးများ သို့မဟုတ် အာရပ်တို့နှင့်သွေးစပ်သောလူမျိုးများဖြစ်၏။ အခြားလူမျိုးများမှာ ဂရိ၊ ဣတာလျံ၊ ဗြိတိသျှ၊ ပြင်သစ်၊ တူရကီနှင့် ဆီးရီးယန်းလူမျိုးများဖြစ်ကြသည်။ မြို့၏လူဦးရေမှာ ၁၉၄၇ ခုနှစ် သန်းကောင်စာရင်းအရ ၂,၁၀၀,၅၀၆ ယောက်ဖြစ်သည်။

**ကစ်ချနာ, အိပ်၊အိပ်** (ခရစ် ၁၈၅၀–၁၉၁၆)။ ။ခါတွမ်းစား လော့ကစ်ချနာဘွဲ့အမည်ရသည့်ဗြိတိသျှစစ်သူကြီးကား သေချာစွာကြိုတင်ပြင်ဆင်၍ နိုင်လောက်သည့်အခြေရောက်မှ ရန်သူကိုတိုက်လေ့ရှိသူဖြစ်၏။ ထို့ကြောင့် တိုက်ပွဲများတွင် အောင်မြင်သည်သာများခဲ့သဖြင့်၊ ဗြိတိသျှလူထုက သူ့အား 'အောင်ပွဲများစီစဉ်ပေးနိုင်သူ' ဟု ချီးကျူးကြလေသည်။

ဟိုရေးရှိုးဟားဗတ်ကစ်ချနာသည် စစ်သားမျိုးရိုးမှဆင်းသက်လာသူဖြစ်၏။ ဖခင်ဖြစ်သူမှာ ဒုဗိုလ်မှူးကြီးတဦးဖြစ်သည်။ အင်္ဂလိပ်လူမျိုးပင်ဖြစ်သော်လည်း အိုင်ယာ



ဗြိတိသျှဗိုလ်ချုပ်မှူး လော့ကစ်ချနာ

လန်ပြည်တွင် ၁၈၅၀ ပြည့်ဇွန်လ ၂၄ ရက်နေ့၌ဖွားမြင်ခဲ့၏။ ၁၈၆၈ ခုနှစ်၌ ဝူးလစ်မြို့ ဘုရင့်စစ် တက္ကသိုလ် တွင် စစ် ပညာသင်ယူခဲ့ပြီးနောက်၊ ဘုရင့်အင်ဂျင်နီယာတပ်တွင် စတင်အမှုထမ်းခဲ့သည်။ ၁၈၇၇ ခုနှစ်တွင် ဒုဗိုလ်အဖြစ်ခန့်ထားခြင်းခံရသည်။ ထိုသို့ခန့်ထားခြင်းမခံရသေးမီက ပြင်သစ်–ပရပ်ရှားစစ်ပွဲ၌ မိမိသဘောအလျောက် ပြင်သစ်တို့ဖက်မှပါဝင်ကူညီတိုက်ခိုက်ခဲ့၏။ ထို့ပြင် ဗြိတိသျှစစ်တပ်သို့ဝင်စက၊ ပါလက်စတိုင်းပြည်နှင့်စိုက်ပရပ်ကျွန်းတို့တွင် အမှုထမ်းဘူးလေသည်။

၁၈၈၂ ခုနှစ်မှ ၁၈၉၂ ခုနှစ်အထိ အီဂျစ်စစ်တပ်များကို

ပြန်လည်ဖွဲ့စည်းရေးတွင် ကူညီဆောင်ရွက်ခဲ့သည်။ ၁၈၉၂ ခုနှစ်တွင် အိင်္ဂလိပ်စစ်တပ်များ၏သေနာပတိဖြစ်လာပြီးသည့်နောက်တွင်၊ ဗိုလ်ချုပ်မှူးဂေါ် ဒွန်တို့အား ခါတွမ်း၌တပ်လုံး ပြုတ်အောင်တိုက် ခိုက် ခဲ့ သော မာဒီစော်ဘွားး၏ အဆက်အနွယ်သူပုန်များကိုနှိမ်နင်းရန် သေချာစွာ အစီ အစဉ်များ ပြုလုပ်ခဲ့လေသည်။ ၁၈၉၆ ခုနှစ်မှစ၍ ထိုသူပုန်များနှင့်တိုက်ခိုက်ခဲ့ရာ၊ အောင်ပွဲများ ဆက်ကာဆက်ကာရခဲ့၍ ၁၈၉၈ ခုစက်တင်ဘာလတွင် ခါတွမ်းမြို့ ကိုပြန် လည် သိမ်းပိုက်နိုင်ခဲ့သည်။ ထိုကြောင့်ကစ်ချနာအား ဗြိတိသျှအစိုးရကခါတွမ်း စားဘွဲ့ဖြင့် ဗဲရွန်အဆင့်အတန်းပေးအပ်ချီးမြှင့် ခဲ့ သည့် ပြင်ဆုတော်ငွေပေါင် ၃၀,၀၀၀ ကိုလည်းပေးခဲ့၏။

၁၈၉၉ ခုနှစ်တွင် ဗိုးဝါးစစ်ပွဲဖြစ်ပွားသောအခါ၊ ကစ်ချနာမှာ သေနာပတိလော့ရောဗတ်၏ ဦးစီးချုပ်အဖြစ်ဆောင်ရွက် ရန် စေလွှတ် ခြင်း ခံရပြန် သည်။ လော့ ကစ်ချနာ၏ အချက်ကျကျနှင့် စေ့စပ်ကျနမ်းကျင်စွာ ဆောင်ရွက်ပေးနိုင်မှုကြောင့်၊ ၁၉၀၀ ပြည့် နှစ် ခန့်တွင် ဗိုးဝါးလူမျိုးတို့၏ မြို့တော် ၂ မြို့လုံးကို ဗြိတိသျှတပ်များကသိမ်းပိုက်နိုင်ခဲ့သည်။ ထိုနောက်မကြာမီ လော့ရောဗတ်၏ရာထူးကိုကစ်ချနာဆက်ခံရလေသည်။ ဆိုခဲ့သည့်အတိုင်း ဗိုးဝါးတို့၏မြို့တော်များကို သိမ်းပိုက်နိုင်ခဲ့သော်လည်း ဗိုးဝါးတို့သည်ပြောက်ကျားစံနစ်ဖြင့် ဆက်လက်ခုခံနေလျက်ပင်ရှိသေး၍၊ ထိုစစ်ပွဲများကို အောင်မြင်စွာဆုံးခန်းတိုင်တိုက် ခိုက် ရန် မှာ ကစ်ချနာအဖို့ကြီးလေးသောတာဝန်ကြီးဖြစ်လေသည်။ သို့သော် ကစ်ချနာသည် အထူးကြိုးစားပြီး လျှင် အရေးပါ သော မြို့ ကြီးများ၊ ဒေသများကိုင်း၊ သယ်ယူပို့ဆောင်ရေးများကိုင်း၊ ဗိုးဝါးပြောက်ကျားတို့ထိရောက်စွာ မနှောင့်ယှက် နိုင်အောင် အမျိုးမျိုးအဖုံဖုံစီမံဆောင်ရွက်ခဲ့သည်။ ထိုကြောင့် ဗိုးဝါးတို့၏ပြောက်ကျားစံနစ်မှာ အရာမရောက်တော့ဘဲ၊ ၁၉၀၂ ခုနှစ်တွင် ဗိုးဝါးစစ်ပွဲပြီးဆုံးသွားလေသည်။ ကစ်ချနာသည် ဗိုင်းကောင့်အဆင့်အတန်းသို့ တိုးတက်ချီးမြှင့်ခြင်းခံရသည့်ပြင် ဆုတော်ငွေပေါင် ၅၀,၀၀၀ ကိုလည်း ပေးသနားခြင်းခံခဲ့ရလေသည်။

ဗိုးဝါးစစ်ပွဲပြီးဆုံးသည့် နောက် မကြာမီ ပင်၊ လော့ကစ်ချနာမှာ အိန္ဒိယပြည်စစ်တပ်များ၏ သေနာပတိ အဖြစ် ခန့်ထားခြင်းခံရ၏။ ထိုရာထူးတွင် ၁၉၀၇ ခုနှစ်တိုင်ထမ်းရွက်ခဲ့၍ အိန္ဒိယပြည်စစ်တပ်များကိုပြုပြင်ဖွဲ့စည်း ပေး ခဲ့ သည်။ ထိုနောက် ရာထူးသက်တမ်းစေ့သည့်အခါ ဩစတြေးလီးယား၊ နယူးဇီလန်စသော ဗြိတိသျှဒိုမီနီယန်နိုင်ငံများမှစစ်တပ်များကို လှည့်လည်ကြည့်ရှုခဲ့၍၊ ဒိုမီနီယန်နိုင်ငံများ၏ ကာကွယ် ရေး အစီအစဉ် များ ကို ရေးဆွဲပေးခဲ့ လေသည်။ ၁၉၁၁ ခုနှစ်မှစ၍ ကိုင်ရိုမြို့တွင် ဗြိတိသျှအစိုးရ၏ကိုယ်စားလှယ်တော်အဖြစ် ၃ နှစ်မျှဆောင်ရွက်ရပြန်သည်။

၁၉၁၄ ခုနှစ်တွင် ပဌမကမ္ဘာစစ်ဖြစ်ပွားသောအခါ၊ လော့ကစ်ချနာမှာ စစ်ဝန်ကြီးအဖြစ်ခန့်ထားခြင်းခံရ၏။ စစ်ဝန်ကြီးအဖြစ်ထမ်းဆောင်ရသည့် တာဝန် ဝတ်တရား မှာ သေးငယ်လှသည်မဟုတ်ပေ။ ထိုစဉ်ကဗြိတိသျှတို့၏စစ်အင်အားမှာ များစွာချည့်နဲ့နေသေးရာ၊ ဂျာမန်ကဲ့သို့ အင်အားကောင်း၍ စစ်မှုကျွမ်းကျင်လှသောရန်သူမျိုးနှင့် ဖက်ပြိုင်နိုင်ရန် ကစ်ချနာမှာအထူးကြိုးစားခဲ့ရ၏။ တိုင်းပြည်လူထုကလည်း ကစ်ချနာ အ ပေါ် တွင် ကြည် ညို လေး စား ကြသည့်အလျောက် တိုက်ခိုက်ရန် အသင့်ရှိသည့်စစ်သည်တော် အင်အား ၁၆၀,၀၀၀ မှ တပ်သား ၅,၀၀၀,၀၀၀ ရှိအောင် ကစ်ချနာသည် အတိုက်အခံမရှိလှဘဲ နှစ်အနည်းငယ်အတွင်း ချဲ့ထွင်နိုင်ခဲ့လေသည်။

ရုရှအစိုးရနှင့်တိုင်ပင်ဆွေးနွေးရန်အတွက် ၁၉၁၆ ခုဇွန်လ ၅ ရက်နေ့တွင် ဟမ့်ရှိုင်ယာအမည်ရှိကရူဇာစစ်သင်္ဘောဖြင့် ပက်ထရိုဂရက်မြို့သို့ထွက်ခွာခဲ့ရာ၊ ထိုနေ့ည ၈ နာရီခန့်အချိန်၌ အော့ကနီကျွန်းစုအလွန် တွင် ဂျာမန် ရေမြုပ်ဗုံး ထိ၍ သင်္ဘောနစ်မြုပ်သွားလေသည်။ သင်္ဘောပေါ် တွင်ပါသမျှ လူများထဲမှ သင်္ဘောသား ၁၂ ယောက်သာ အသက်ရှင်၍ လော့ကစ်ချနာ၏အလောင်းကိုပင် ရှာမတွေ့ရတော့ချေ။

လော့ကစ်ချနာမှာ တစုံတခုကိုမဖြစ် မနေပြုလုပ် တတ် ၍ နက်နဲစွာချင့်ချိန်စဉ်းစားတတ်သူဖြစ်၏။ ထိုပြင် အလွန်စည်းကမ်းကြီးသူဖြစ်ရာ အချို့လက်အောက်ငယ်သားများကသူ့အားသဘောမကျကြပေ။ သို့သော် ကစ်ချနာသည် ထိုစည်းစံနစ်များကို တသဝေမတိမ်းလိုက်နာခြင်းမှာ စစ်အောင်မြင်ရေးအကြောင်းတရပ်ပင် ဖြစ်သည် ဟု ယုံကြည်လေသည်။ ထိုသို့စည်းကမ်းနှင့် အညီ ပြုတတ် သ ဖြင့် လည်း သူ၏ကြီးလေးလှသောစစ်မက်ရေးရာတာဝန်များကို အောင်မြင်စွာထမ်းဆောင်နိုင်ခဲ့သည်ဟု ဆိုရပေမည်။ ကစ်ချနာသည် သူ့ အား ပေး အပ် ခဲ့ သမျှ သော တာ ဝန် ဝတ် တရားများကို ပြီးပြတ်အောင်မြင်စွာ ဆောင်ရွက်မြဲဖြစ်လေသည်။

# အင်္ဂလိပ်စာပေလောကမှ ကြယ်တပွင့်

'တောတွင်းသားမော်ဂလီ' အကြောင်းကိုဖတ်ဘူးသူတိုင်း စာရေးဆရာကိုသိလိုကြပေမည်။ ၎င်းသူမှာ အိန္ဒိယနိုင်ငံတွင်မွေးဖွားလျက် မြန်မာနိုင်ငံသို့တကြိမ် တခေါက် ရောက်ဘူးသော ကစ်ပလင်း ဆိုသူဖြစ်၏။ ထိုသူ၏စိတ်ဝင်စားဖွယ်ရာ အတ္ထုပ္ပတ္တိအကျဉ်း ချုပ်ကို အောက်တွင်ဖေါ်ပြထားပေသည်။

**ကစ်ပလင်း,အာ** (ခရစ် ၁၈၆၅–၁၉၃၆)။ ။ရတ်ဒယတ် ကစ်ပလင်းမှာ အင်္ဂလိပ်လူမျိုး ကဗျာဆရာနှင့် ဝတ္ထုရေးဆရာဖြစ်၍ အိန္ဒိယနိုင်ငံ ဘုံဘိုင်မြို့၌ ၁၈၆၅ ခုဒီဇင်ဘာလ ၃၀ ရက်နေ့တွင်ဖွားမြင်သည်။ သူ၏ဖခင်မှာ ထိုအချိန်က ဘုံဘိုင် မြို့ သုခုမ ပညာ သင် ကျောင်း တွင် ပါမောက္ခ တဦး အဖြစ်ဆောင်ရွက်နေသော ဂျွန် လော့ကဝုကစ်ပလင်း ဖြစ်သည်။ ကစ်ပလင်းသည် ၅ နှစ်သားအထိ ဘုံဘိုင်မြို့၌ပင် နေထိုင်ခဲ့ရာ ထိုအတောအတွင်း အိန္ဒိယအမျိုးသမီးနို့ထိန်းများ၏လက်ပေါ်တွင် ကြီးပြင်းခဲ့လေသည်။ သို့ဖြစ်ရကား ကစ်ပလင်းသည် ဟိန္ဒူစတန်နီဘာသာကို ငယ်ရွယ်စဉ်ကပင် နားလည်ခဲ့သဖြင့်၊ နို့ထိန်းများ ပြောပြသော အိန္ဒိယလူမျိုးများ၏ ရှေးဟောင်းပုံပြင်များမှာ သူ၏မှတ်ဉာဏ်တွင်စွဲမြဲနေခဲ့၏။

၆ နှစ်သားတွင် သူ၏မိဖများက အင်္ဂလန်ပြည်သို့စာသင်ရန်စေလွှတ်ခဲ့၏။ သို့ရာတွင် ကျန်းမာရေးချို့တဲ့သဖြင့် ၁၂ နှစ်သားရှိမှ ကျောင်းစ၍နေရသည်။ သူသည် ဒက်ဗွန်ရှိုင်ယာနယ် ဝက်စဝပ်ဟိုးမြို့ရှိ စာသင်ကျောင်းတကျောင်းတွင်ပညာသင်ကြားရ၏။ ထိုစာသင်ကျောင်းရှိ ကျောင်းသူကျောင်းသားများမှာ အများအားဖြင့် အိန္ဒိယနိုင်ငံတွင် အမှုထမ်းနေကြသော အင်္ဂလိပ်အရာရှိကြီးများ၏ သားသမီးများဖြစ်ကြသည်။ ကစ်ပလင်းသည် ထိုကျောင်းမှထုတ်ဝေသောစာစောင်၏ စာတည်းဖြစ်လေသည်။



အင်္ဂလိပ်ကဗျာနှင့်ဝတ္ထုရေးဆရာကြီး ရတ်ဒယတ်ကစ်ပလင်း

အသက် ၁၇ နှစ်တွင် ကစ်ပလင်းသည် အိန္ဒိယနိုင်ငံသို့ပြန်လည်နေထိုင်ခဲ့၏။ ထိုအချိန်၌ သူ၏ဖခင်မှာ အိန္ဒိယနိုင်ငံ ပန်ဂျပ်နယ် လာဟိုမြို့တွင် ပြတိုက်မှူးအဖြစ်လုပ်ကိုင်လျက်ရှိ၍၊ ကစ်ပလင်းသည် လာဟိုမြို့မှထုတ်ဝေသော 'မြို့ပြနှင့်စစ်ရေးပြန်တမ်း' အမည်ရှိသတင်းစာတွင် လက်ထောက်စာတည်းတဦးဖြစ်လာသည်။ ကစ်ပလင်းသည် ကျောင်းနေစဉ်ကတွေ့ကြုံခဲ့ရသော ကိုယ်တွေ့အဖြစ်အပျက်များကို 'စတော့ကီးနှင့်အဖေါ်များ' အမည်ဖြင့် စာအုပ်တအုပ်ရေးခဲ့သည်။ ထိုစာအုပ်သည်သူ၏စာဖတ်ပရိသတ်ကြိုက်စာအုပ်တို့တွင် အပါအဝင်ဖြစ်ခဲ့သည်။

ကစ်ပလင်းသည် ဂျပန်နှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံများသို့လှည့်လည်ပြီးနောက် ၁၈၈၉ ခုနှစ်တွင် အင်္ဂလန်ပြည် လန်ဒန်မြို့တွင် အတည်တကျနေထိုင်ခဲ့သည်။ ဤသို့ကမ္ဘာကိုလှည့်၍ခရီးသွားခဲ့ရာ၌ တွေ့ကြုံခဲ့ရသည်တို့ကို 'ပင်လယ်မှပင်လယ်သို့' စာအုပ်တွင် ရေးသားဖေါ်ပြထားလေသည်။ ၁၈၉၀ ခုနှစ်တွင် ကစ်ပလင်းသည် 'မထွန်းပနိုင်သောအလင်းရောင်' စာအုပ်ကိုရေးသားထုတ်ဝေခဲ့သည်။ နောက်တနှစ်တွင် ကစ်ပလင်းသည် အမေရိကန်အမျိုးသမီး ကယ်ရိုလိုင်း စတားဗာလက်စတီးယားနှင့် လက်ထပ်သည်။

ကမ္ဘာအရပ်ရပ်နိုင်ငံများသို့ လှည့်လည်၍ ခရီးသွားခဲ့ရာ၌ကစ်ပလင်းသည် မြန်မာနိုင်ငံသို့လည်းရောက်ရှိခဲ့သည်။ ၁၈၉၂ ခုနှစ်တွင် 'မန္တလေး' အမည်ရှိကဗျာကို စပ်ဆိုခဲ့၏။

ကစ်ပလင်းတို့ဇနီးမောင်နှံသည် အမေရိကန်ပြည်ထောင်စုတွင် ၄ နှစ်တိတိနေထိုင်ခဲ့ကြရာ ထိုအတောအတွင်း စာအုပ်စာတမ်းအမြောက်အမြားရေးသားခဲ့သည်။ သူ၏အရေးအသားကို အမေရိကန်လူထုက အထူးပင်နှစ်သက်ကြသဖြင့် ချက်ခြင်းပင်နာမည်ကျော်ကြားလာသည်။ သူ့အား အသည်းစွဲဖြစ်သဖြင့် အချို့သောမြို့ရွာနယ်ပယ်တို့ကို ကစ်ပလင်းနာမည်ဖြင့်ပင် မှည့်ခေါ်ကြလေသည်။

၁၈၉၆ ခုနှစ်တွင် ကစ်ပလင်းသည် အင်္ဂလန်ပြည်သို့ပြန်လာပြီးလျှင် ဝိတိုရိယဘုရင်မကြီး၏ နန်းသက်အနှစ် ၆၀

မြောက်အထိမ်းအမှတ်အဖြစ် 'ရီဆက်ရှင်းနဲ' ကဗျာကို စပ်ဆိုခဲ့သည်။ ထိုကဗျာမှာ ကစ်ပလင်းရေးခဲ့သမျှသော ကဗျာများထဲတွင် အခန့်ဆုံးကဗျာဖြစ်သည်ဟု ဆိုကြသည်။

၁၉၀၀ ပြည့်နှစ်တွင် ကစ်ပလင်းသည် အင်္ဂလိပ်သတင်းစာကြီးတစောင်အတွက် ဗိုးဝါးစစ်ပွဲသတင်းများကို ထောက်လှမ်းပေးပို့ရန် တောင်အာဖရိကသို့သွားရောက်ခဲ့၏။

ထိုနောက် ပဌမကမ္ဘာစစ်နီးကပ်လာသောအခါ နိုင်ငံရေးလောကထဲသို့ တစတစရောက်ရှိလာခဲ့လေသည်။ သို့သော်လည်း နိုင်ငံရေးသမားတဦးအနေနှင့် ကြီးပွားတိုးတက်ခြင်း မရှိခဲ့ပေ။ စာရေးဆရာတဦးအနေနှင့်ကား နာမည်ကျော်ခဲ့လေသည်။ ၁၉၀၇ ခုနှစ်တွင် စာပေဆိုင်ရာ နိုဗဲဆုဖြင့် ချီးမြှင့်ခြင်းခံရလေသည်။

ကစ်ပလင်းရေးသားခဲ့သော စာအုပ်များအနက် 'တောတွင်းပုံပြင်' စာအုပ်များမှာ အထူးပင်လူကြိုက်များခဲ့လေသည်။ ထိုစာအုပ်တွင် မော်ဂလီအမည်ရှိ တောတွင်းသားကလေးကို ဇာတ်လိုက်အဖြစ်ထား၍ တုန်လှုပ်ချောက်ချား၊ စိတ်လှုပ်ရှားဖွယ်အဖြစ်အပျက်များကို သဘာဝကျကျရေးသားထားလေသည်။

ကစ်ပလင်း၏စာအုပ်များသည် နယ်ချဲ့စံနစ်ကိုအားပေးခဲ့သည်။ သူရေးသမျှသောစာအုပ်တိုင်းမှာလိုပင် ဗြိတိသျှလူမျိုးတို့၏ တန်ခိုးအာဏာလွှမ်းမိုးမှုကို အဓိကထားကာ ရေးသားခဲ့သည်။ အင်္ဂလိပ်လူမျိုးများသည် ကမ္ဘာပေါ်တွင်အယဉ်ကျေးဆုံးလူမျိုးဖြစ်သည်။ အခြားလူမျိုးများမှာ သူတို့လောက် မယဉ်ကျေး မတိုးတက်သေး။ ထို့ကြောင့် အင်္ဂလိပ်လူမျိုးများသည် အခြားလူမျိုးများကို စိုးမိုးအုပ်ချုပ်၍ ယဉ်ကျေးလာအောင် ဆုံးမသွန်သင်ပေးရမည်။ ဤကား ကစ်ပလင်း၏အယူအဆပင်ဖြစ်၏။ ထိုမှတပါးလည်း လူဖြူများသည် လူဝါလူမဲလူညိုများထက်မြင့်မြတ်သည်။ မယဉ်ကျေး၍ကလေးဆန်သော လူဝါနှင့်လူမဲများကို ယဉ်ကျေးလာအောင်ဆုံးမရန်မှာ လူဖြူများ၏တာဝန်ဖြစ်သည်ဟုလည်း ကစ်ပလင်းကယုံကြည်လေသည်။

ကစ်ပလင်းသည် အထက်ပါအရေးအသားများဖြင့် ဗြိတိသျှတို့၏နယ်ချဲ့စံနစ်ကို မြေတောင်မြှောက်ခဲ့သူဖြစ်ရာ သူ့ကို ဗြိတိသျှလူမျိုးများက အင်ပိုင်ယာစာဆိုတော်ကြီးဟူ၍ဂုဏ်ပြုခဲ့ကြသော်လည်း၊ တဖက်အမြင်တွင်မူ နယ်ချဲ့စာရေးဆရာကြီးဟု ခေါ်ဆိုကြမည်ဖြစ်သတည်း။

# တောတွင်းသားကလေး မော်ဂလီ

အခါတပါး၌ အိန္ဒိယနိုင်ငံအရှေ့ပိုင်းဒေသရှိ တောနက်ကြီးအစပ်တွင် ဇနီးမောင်နှံ ၂ ယောက်သည် အိမ်တဆောင်ဆောက်လုပ်နေထိုင်ကြလေသည်။ သူတို့တွင် မော်ဂလီအမည်တွင်သော သားငယ်ကလေးတယောက်ရှိ၏။ တညသ၌ အဆိုပါလင်မယားသည် မတ်တတ်သွားခါစ သားကလေးနှင့်အတူ မီးဖိုကြီးဘေးတွင်ထိုင်နေကြစဉ် ကြောက်မက်ဖွယ်ကောင်းသော ကျားကြီးတကောင်သည် တောထဲမှထွက်လာ၏။ ထိုကျားကြီး၏အမည်မှာ ရှီးယားခန်ဖြစ်၏။ ကျားကြီးသည် သူတို့ကိုမြင်သောအခါ စားချင်ဇောနှင့် အနီးမှမီးဖိုကိုပင်သတိမထားမိဘဲ ခုန်အုပ်လိုက်ရာ ခြေထောက်ကိုမီးလောင်သွားလေသည်။ မီးလောင်နာများကို ရှီးယားခန်သည် လျှာဖြင့်လျက်နေခိုက် လင်မယား ၂ ယောက်သည် ကိုယ်မချိအမိသော်လည်းသားတော်ခဲ ဟူသကဲ့သို့ လူမမယ်သားကလေးကိုပင်မခေါ်နိုင်ဘဲ ကြောက်အားကြီးစွာကိုယ်လွတ်ထွက်ပြေးကြ၏။ မော်ဂလီကလေးသည် နီးရာတောစပ်ထဲသို့ လေးဖက်တွားကာဝင်ရောက်ခဲ့လေသည်။ ထိုကလေးသည် ကျောက်ဂူကြီးတခုအနီးသို့ ရောက်သွားသည်တွင်၊ ကျောက်ဂူကြီးအတွင်း၌ အိပ်နေသော ဝံပုလွေမောင်နှံသည် အပြင်မှ ချီးချီးချတ်ချတ် အသံကြားသဖြင့် ထွက်၍ကြည့်ကြသောအခါ၊ လူသားကလေးကိုတွေ့ရှိကြသဖြင့် ချစ်ခင်သောကြောင့် မွေးစားထားရန်ဆုံးဖြတ်လိုက်ကြ၏။ ကျားကြီးရှီးယားခန်လည်း လှူန့်ခံ၍လိုက်လာခဲ့ရာ ကျောက်ဂူကြီးအနီးသို့ရောက်လာလတ်သော် တံခါးဝမှနေလျက် ကလေးငယ်ကို သူ၏အစာဖြစ်သည်ဟုပြောကာတောင်း၏။ ထိုအခါ ဝံပုလွေမကြီးက ထိုလူသားငယ်မှာ မိမိတို့၏မွေးစားသားဖြစ်နေ၍မပေးနိုင်ကြောင်း၊ ထိုကလေးကို အခြားသောဝံပုလွေငယ်များနှင့် အတူ ကစားပျော်ပါးနေထိုင်စေပြီးလျှင် သားရဲတိရစ္ဆာန်များကို ဖမ်းယူစားသောက်လာတတ်အောင် သင်ကြားပေးမည်ဖြစ်ကြောင်း၊ နောင်တနေ့တွင် ရှီးယားခန်ကိုပင် သတ်ပစ်လိမ့်မည်ဖြစ်ကြောင်း ခြိမ်းခြောက်ပြောဆိုလိုက်သောအခါ၊ ကျားကြီးရှီးယားခန်သည် မကျေမချမ်းနိုင်ဘဲ ထွက်သွားရလေသည်။

သို့ဖြင့် မော်ဂလီကလေးသည် ဝံပုလွေကလေးများနှင့် နေသားတကျရှိလာသောအခါ သူ့ကိုဆက်လက်၍မွေးစားသင့် မသင့်ကို ဝံပုလွေဖိုသည် ဝံပုလွေမနှင့်တိုင်ပင်၏။ ဝံပုလွေတို့၏ထုံးစံမှာ ဝံပုလွေငယ်ကလေးများ အရွယ်ရောက်လာသည့်အချိန်၌ ဝံပုလွေအစည်းအဝေးကြီးသို့တင်ပြကာ အသိအမှတ်ပြုရန်တောင်းဆိုရ၏။ ဝံပုလွေမသည် လူသားကလေးအား သားအရင်းနှင့် မခြားချစ်ခင်ခဲ့သည့် အလျောက်ထိုအစည်းအဝေးကြီးသို့ ဝံပုလွေငယ်ကလေးများနှင့် အတူတင်ပြရန် စီစဉ်ထား၏။

တညသောအခါ ဝံပုလွေများသည် မိမိတို့စည်းဝေးရာဖြစ်သော ကျောက်ဆောင် တောင်ကမူတွင် ဝံပုလွေအစည်းအဝေးကိုကျင်းပကြလေရာ၊ ဝံပုလွေမောင်နှံလည်း သားငယ်ဝံပုလွေကလေးများနှင့်အတူ လူသားကလေး မောဂလီကိုတင်ပြကြ၏။ ဝံပုလွေတို့၏ခေါင်းဆောင်ကြီး ဖြစ်သော အာကေလာခေါ်ဝံပုလွေကြီးက ထိုလူသားကလေး မောဂလီအား ဝံပုလွေအသင်းဝင်အဖြစ်အသိအမှတ်ပြုရေး ပြဿနာကို စဉ်းစားကြရန်ပြောကြားနေစဉ်၊ ကျားကြီး ရှီးယားခန်သည် ကြောက်မက်ဖွယ်ဟိန်းလျက် မိမိ၏အစာဖြစ်သောလူသားငယ်အား ပေးအပ်ရန်တောင်းဆို၏။ ထိုအခိုက်တွင် ဝံပုလွေများထဲမှ ဝံပုလွေငယ်တကောင်သည် ထိုကျားကြီးရှီးယားခန်ကို ကြောက်ရွံ့ထိတ်လန့်သဖြင့် လူသားငယ်ကိုမည်သည့်အကြောင်းကြောင့် ဝံပုလွေအုပ်စုထဲသို့ထည့်သွင်းသင့်သနည်းဟု စောဒကတက်လေသည်။

ဝံပုလွေတို့၏ထုံးစံတရပ်မှာ အထက်ပါကိစ္စမျိုး စဉ်းစားရာ၌ သဘောကွဲလွဲမှုပေါ်ပေါက်လာခဲ့သော်၊ ထိုဝံပုလွေငယ်၏ မိဖမဟုတ်သည့် အခြား တောတွင်းတိရစ္ဆာန်နှစ်ကောင်က လက်ခံသင့်သည်ဟူသော သဘောတူထောက်ခံချက်ပေးရ၏။ ဤကိစ္စတွင် ဝံပုလွေကျောင်းဆရာကြီးဖြစ်သော ဝက်ဝံညိုကြီး ဗလူးနှင့် ကျားသစ်နက်ကြီး ဗာဂီးရားတို့က မောဂလီအားလက်ခံရန် ထောက်ခံပြောဆိုကြသည်။ ထို့ပြင် ကျားသစ်နက်ကြီး ဗာဂီးရားက ဝံပုလွေငယ်တကောင်သည် အဖိုးအခပေးခြင်းဖြင့် ဝံပုလွေအသင်းဝင်ဖြစ်နိုင်သောဥပဒေရှိကြောင်းကိုလည်း အထောက်အထားနှင့် ပြောဆိုသေး၏။ ထိုအဖိုးအခမှာ အသင်းဝင်ကြေးသဘောမျိုးဖြစ်ရာ ထိုအတွက် နွားပိုက်ကြီးတကောင်ကို မောဂလီ၏အသင်းဝင်ကြေး အဖြစ် သူက ပေးအပ်ပါကြောင်း ပြောဆိုလေသည်။ ထိုအချက်ကိုအားလုံးသဘောတူကြသဖြင့် မောဂလီကလေးအား ဝံပုလွေမိသားတဦးအဖြစ်လက်ခံရန် ဆုံးဖြတ်လိုက်ကြ၏။

မောဂလီကလေးသည် ဝံပုလွေမိသားစုတဦးဖြစ်လာသည့်နေ့မှစ၍ တောတွင်းအတတ်ပညာများကို ဝက်ဝံညိုကြီးဗလူးထံတွင် သင်ကြားလေသည်။ ကျားသစ်နက်ကြီး ဗာဂီးရားမှာ မောဂလီ၏မိတ်ဆွေရင်းချာတဦးဖြစ်လာသည်။ မောဂလီ ကြီးပြင်းလာသောအခါ အပြေးအခုန်မှစ၍ သစ်ပင်တက်၊ အမဲလိုက်၊ ရေကူး၊ သစ်သီးရှာစသည့် တောတွင်းအတတ်ပညာများကို တတ်မြောက်ကျွမ်းကျင်ခဲ့၏။ ဗာဂီးရားကမူ မောဂလီအား ကျားကြီးရှီးယားခန်၏ဘေးရန်မှ ရှောင်တိမ်းနိုင်ရန် အမြဲသတိပေးလျက်ရှိ၏။

မောဂလီအသက် ၁၂ နှစ်သို့ရောက်သော် ဗာဂီးရားက မောဂလီအား ရှီးယားခန်ကြီး၏ရန်ကို အမြဲသတိပြုသင့်ကြောင်း၊ ကျားကြီးသည် စားကြွင်းစားကျန်များကို ဝံပုလွေငယ်များအား ဝေငှပေးကမ်းကာ သူ့ဖက်သားဖြစ်အောင်အင်အားစုဆောင်းခဲ့သဖြင့် ယခုအခါ ကျားကြီးရှီးယားခန်တွင် နောက်လိုက်ဝံပုလွေငယ် အတော်အတန်များနေပြီဖြစ်ကြောင်း၊ ဝံပုလွေတို့၏ခေါင်းဆောင်ကြီး အာကေလာမှာ အိုမင်းရင့်ရော်နေပြီဖြစ်၍ သားကောင်များကိုပင် ရအောင်မဖမ်းဆီးနိုင်တော့သဖြင့် တန်ခိုးအာဏာနည်းပါးနေပြီဖြစ်ကြောင်း၊ အကယ်၍ လက်ရှိခေါင်းဆောင်ကြီးကို တစုံတယောက်က လုပ်ကြံမည်ဆိုက မောဂလီ၏နောင်ရေးမှာ စိုးရိမ်စရာကောင်းကြောင်းတို့ကို ရှင်းလင်းပြောပြ၏။

မောဂလီလည်း ဗာဂီးရားသည် မိမိအားတကယ့်စေတနာဖြင့် သတိပေးနေကြောင်းကိုယုံကြည်သဖြင့် မိမိ၏နောင်ရေးနှင့် ကျားကြီးရှီးယားခန်၏ရန်ကို တွေးတောစပြုလာ၏။ သို့ရာတွင် ဗာဂီးရားကပင်ဆက်လက်၍ အားပေးစကားပြောယင်း အကယ်၍အနီးရှိရွာတရွာမှ ပန်းနီနီတပွင့်ကိုယူဆောင်လာနိုင်ပါက မောဂလီကိုယ်တိုင်ပင်လျှင် တောတွင်းဗိုလ်ကြီးတဦးဖြစ်နိုင်ကြောင်း ညွှန်ပြခဲ့၏။ ဗာဂီးရားဆိုလိုသောပန်းနီနီကား လူတို့အသုံးပြုသောမီးပင်ဖြစ်၍ ထိုမီးတောက်မီးလျှံကို တိရစ္ဆာန်တို့မြင်က အသံတုန်အောင်ကြောက်ရွံ့ကြသောကြောင့် ထိုမီးတောက်ကိုကိုင်ဆောင်နိုင်လျှင် တောတွင်းဗိုလ်ကြီးရာထူးကိုဆွတ်ခူးနိုင်မည်မှာမလွဲချေ။

တညသ၌ တောတွင်းတိရစ္ဆာန်အပေါင်းသည် တောင်ကမူစွန်း၌စုရုံးစည်းဝေးနေကြစဉ်၊ မောဂလီသည် နီးရာရွာတရွာသို့ပြေးသွားကာ မီးခဲများကိုယူဆောင်လာခဲ့သည်။ အစည်းအဝေးတွင် ဝံပုလွေများက လက်ရှိခေါင်းဆောင်ကြီး အာကေလာမှာ သားကောင်ကို မဖမ်းနိုင်လောက်အောင် အိုမင်းမစွမ်းရှိပြီဖြစ်သောကြောင့် ခေါင်းဆောင်ကြီးရာထူး၌မထားနိုင်တော့ကြောင်း ပြောဆိုကြ၏။ မောဂလီလည်း မီးခဲများကိုထည့်၍ယူဆောင်လာသောမီးခဲအိုးကို ဒူး ၂ ဖက်အကြားတွင်ထားကာ ဝံပုလွေများနှင့်အတူရောနှော လျက်ထိုင်လေသည်။ ကျားကြီးရှီးယားခန်လည်း မောဂလီကိုမြင်လျှင်မြင်ခြင်း မိမိ၏အစာလူသားမောဂလီအား ပေးအပ်ရန် တောင်းဆိုပြန်၏။ ရှီးယားခန်သိမ်းသွင်းထားသော နောက်လိုက်ဝံပုလွေငယ်များကလည်း သူတို့၏သခင်ကြီး ရှီးယားခန်လေသံအတိုင်း လိုက်၍ ဟစ်အော်ပြောဆိုကြပြီးသော် မောဂလီအား ရှီးယားခန်၏လက်ထဲသို့ အရောက်အပ်နှံရန် ကြိုးစားကြသည်။ ဤတွင်မှ ဗာဂီးရားသည် မောဂလီအား အစွမ်းပြရန်ချိန်တန်ပြီဟု သတိပေးလိုက်လေသည်။ မောဂလီလည်း အလျှံတပြောင်ပြောင်တောက်လောင်လျက်ရှိသော မီးကျီးမီးတောက်များထည့်ထားသည့် မီးခဲအိုးကို လက်မှကိုင်ကာ ရုတ်တရက်မတ်



'မင်းတို့အားလုံးဒီမှာကြည့်စမ်း - - - - - - - - - ငါ့လက်ထဲမှာ မင်းတို့ကြောက်လှတဲ့ပန်းနီနီကြီးပါလာတာ မြင်ကြပြီမဟုတ်လား'

တတ်ရပ်လိုက်ပြီးလျှင် ဝံပုလွေထုကြီးတရပ်လုံးအား ဤသို့ဆို၏။ ဝံပုလွေများ က မိမိ အား အမြဲသဖြင့် လူသား တယောက် အနေဖြင့် ဆက်ဆံနေကြသော်လည်း မိမိအဖို့မူ မခွဲခြားကြောင်း။ အချို့ဝံပုလွေများသည် မိမိအပေါ် သစ္စာမတည်၊ ရှိုးယားခန် နောက် လိုက် များ ဖြစ် နေ ကြ ချေပြီ။ ထို့ကြောင့် မိမိ၏အစွမ်းကိုပြရတော့မည်ဖြစ်ကြောင်း။ ဝံပုလွေတို့ကြောက်ရွံ့လှသောပန်းနီနီကြီး မိမိ၌ရှိနေပေပြီ။ ဝံပုလွေများ သည် ခေါင်း ဆောင်ကြီး အာကေလာအား ရန်သတ္တရုမပြုဘဲ သူ့ အလိုအလျောက် အေးချမ်းစွာနေထိုင်ခွင့်ကိုပေးကြရမည်ဖြစ်ကြောင်း။ မိမိသည် လူသားများ နေထိုင်ရာရွာသို့ ခေတ္တပြန်သွားမည်ဖြစ်ကြောင်း။ နောက်တကြိမ် စည်းဝေးပွဲတွင် ရန်သူကြီး ရှိုးယားခန်၏သားရေကို ခြုံကာ တက်ရောက် ပြမည်ဖြစ်ကြောင်း ပြောကြား လေသည်။ ထိုနောက် မော်ဂလီသည် သူ့ အားမွေးစားစောင့်ရှောက်ခဲ့သော ဝံပုလွေမကြီးနှင့်တကွ နို့စို့ဖက်ဝံပုလွေငယ်များကိုနှုတ်ဆက်ကာ ထွက်ခွာလာခဲ့၏။ ထိုကဲ့သို့ ခွဲခွာလာခဲ့ရာတွင် မော်ဂလီမှာဝမ်းနည်းလှသဖြင့် မျက်ရည်များပင်ကျဆင်းလေသည်။ တခါမျှမျက်ရည်မကျခဲ့ဘူးသော မော်ဂလီအတွက် အထူးအဆန်းဖြစ်ကာ ထိုသို့မျက်ရည်ကျဆင်းခြင်းမှာ မိမိအတွက် အတိတ်ဆိုး၊ နိမိတ်ဆိုးပေလောဟု တွေးတောပူပန်မိလေသည်။

မော်ဂလီသည် လူတို့နေထိုင်ရာရွာသို့ရောက်သောအခါ များ စွာဆာလောင်မွတ်သိပ်လှပြီ ဖြစ်သဖြင့် လက်ဟန်ခြေဟန်ပြကာ အစားအစာကိုတောင်းလေသည်။ ရွာရှိဘုန်းတော်ကြီး ကလည်း ရွာသား အပေါင်း တို့အား လူရိုင်းကလေးကိုပြုစုစောင့်ရှောက်ကြရန် တိုက်တွန်း၏။ ထိုအခါ ကြင်နာတတ်သော မိန်းမကြီး တဦးက မော်ဂလီအား မွေးစားရန် ခေါ်ဆောင်သွားရာ၊ အိမ်နှင့်ယာနှင့်မနေဘူးသော လူရိုင်း ကလေး မော်ဂလီအဖို့ ထောင် ချောက် ထဲ၌ နေရသကဲ့သို့ စိတ်ကျဉ်းမြောင်းသဖြင့် မပျော်ပိုက်နိုင်ဖြစ်ရရှာလေသည်။ မိန်းမကြီးသည် မော်ဂလီအား အခြားရွာသားကလေးများနည်းတူ ကျွဲကျောင်းခိုင်း၏။ မော်ဂလီမှာ တောတွင်း၌သာနေထိုင်ခဲ့သူဖြစ်သည့်အလျောက် ထိုရွာ၌နေထိုင်ရသည်ကို မပျော်ပိုက်နိုင်ဘဲရှိနေတော့သည်။

တနေ့တွင် မော်ဂလီသည် ကျွဲအုပ်ကြီးကိုထိန်းကျောင်းယင်း တောတွင်း၌ငေးမှိုင်နေစဉ် မိမိနှင့်နို့စို့ဖက် ဝံပုလွေငယ်တကောင်ရောက်လာပြီးလျှင်၊ ရန်သူကျားကြီးရှိုးယားခန်သည် ယနေ့ညနေ ကျွဲများရွာသို့ပြန်သွင်းချိန်တွင် ရွာ

တံခါးဝမှစောင့်ဆိုင်းနေမည်ဖြစ်ကြောင်း၊ သို့သော်လည်းရှီးယားခန်မှာ အစာတွေ့ကိုအမြောက်အမြားစားထားသည့်အတွက် လေးလံထိုင်းမှိုင်းလျက်ရှိမည်ဖြစ်ကြောင်း သတိပေးစကားပြောကြားသွားလေသည်။

မော်ဂလီသည် ရန်သူကျားကြီးရှီးယားခန်အား နှိမ်နင်းသတ်ဖြတ်ရန်ဆုံးဖြတ်လိုက်ပြီးလျှင် ထိုဝံပုလွေငယ်နှင့်ခေါင်းဆောင်ဟောင်းကြီး အာကေလာတို့၏အကူအညီကိုယူ၍ ကျွဲအုပ်ကြီးအား ၂ စုခွဲလိုက်ပြီးသော် တစုကို ရှီးယားခန်အဆီးယစ်ကာ အိပ်ပျော်နေသော လျှိုငယ်အောက်ပိုင်းသို့ရှင်း၊ ကျန်တစုကို အထက်ပိုင်းသို့ရှင်း၊ မောင်းနှင်လိုက်လေသည်။ ဤနည်းဖြင့် ကျားကြီးရှီးယားခန်ကို ဝဲယာ ၂ ဖက်မှညှပ်ကာတိုက်ခိုက်လေသည်။ ရှီးယားခန်သေပြီးသောအခါ မော်ဂလီသည် ကျားရေကိုခွာယူ၍ ဝံပုလွေများ၏အကူအညီဖြင့် ကျွဲအုပ်ကို ရွာဖက်သို့မောင်းနှင်ခဲ့၏။

မော်ဂလီနှင့်အတူ ကျွဲကျောင်းထွက်ကြသောအဖေါ်များက မော်ဂလီသည် ကျားကြီးကို မည်ကဲ့သို့ရဲဝံ့စွာသတ်ခဲ့ပုံ၊ ဝံပုလွေများကလည်း မည်ကဲ့သို့ရှိသေကြပုံတို့ကို ရွာသားတို့အားပြန်ပြောပြကြသည်တွင်မော်ဂလီအားကြောက်လန့်ကြသဖြင့် ရွာမှနှင်ထုတ်လိုက်ကြ၏။ မော်ဂလီလည်းဝံပုလွေများထံသို့ပြန်လာခဲ့၍ ကျားရေကြီးကို စည်းဝေးရာကျောက်ဆောင်ပေါ်၌ခင်းပြီးလျှင် ဝံပုလွေများအား စည်းဝေးစုရုံးစေ၏။ ဝံပုလွေအပေါင်းတို့လည်း မော်ဂလီအားချီးကျူးကာ ခေါင်းဆောင်တင်မြှောက်ကြသည်။ သို့သော်မော်ဂလီသည် လူသားဖြစ်သည့်အလျောက် စဉ်းစားမြော်မြင်တတ်သည့်အတိုင်း မိမိအား ခေါင်းဆောင်တင်မြှောက်ကြသော်လည်း လက်မခံလိုကြောင်း၊ အဘယ်ကြောင့်ဆိုသော် ဝံပုလွေများမှာ ယခုအခါ အစားအစာတော်မှတ်နေ၍သာ မိမိအား ခေါင်းဆောင်တင်မြှောက်ခြင်းဖြစ်သည်ဟုယူဆကြောင်း၊ အစားအစာဝလင်စွာရရှိကြလျှင် မိမိအားပင် ရန်မူကြမည်ဖြစ်ကြောင်း ပြောဆိုငြင်းပယ်လိုက်၏။ သို့ရာတွင် တောတွင်း၌ကြီးပြင်းလာသူ နို့စို့ဖက်ဝံပုလွေ ၄ ကောင်နှင့်အတူ တောထဲ၌ပျော်ပိုက်စွာ အသက်ထက်ဆုံးနေထိုင်လေသတည်း။

**ကစ်ရှမြို့**။ ။အီရက်နိုင်ငံ၏မြို့တော်ဖြစ်သော ဗဂ္ဂဒက်မြို့၏တောင်ဖက် မိုင် ၁၀၀ ခန့်အကွာ၊ ယူဖရေးတီးနှင့် တိုင်းဂရစ်မြစ်များအကြားတွင် မြို့ပျက်နေရာတခုတည်ရှိ၏။ ယင်းမှာ ရှေးနှစ်ပေါင်း ၅,၀၀၀ ခန့်က လူနေအိမ်ခြေစည်ကားလျက်ခမ်းနားကြီးကျယ်သော ကစ်ရှမြို့တည်ရာအရပ် ဖြစ်သည်။

ထိုကစ်ရှမြို့မှာ ကမ္ဘာကိုရေလွှမ်းပြီးနောက် ရှေးဦးစွာတည်ဆောက်ခဲ့သောမြို့ဖြစ်ကြောင်းနှင့် ထိုမြို့ပျက်နေရာအတွင်းမှတူးဖေါ်ရရှိသော ကျောက်စာများတွင်ဖေါ်ပြပါရှိသည်။ ထို့ပြင် ဆူမီးယားရီးယန်းလူမျိုးတို့ကောင်းစားစဉ်က မြို့တော်ဟောင်းကြီးဖြစ်ကြောင်းနှင့် ကမ္ဘာအရှေ့အနီးပိုင်းတွင် ယဉ်ကျေးမှုစတင်ထွန်းကားရာအရပ်ဖြစ်ခဲ့သည်ဟုလည်း ဆိုကြသည်။

မြို့ပျက်အတွင်းရှိတောင်ပို့ကြီးတခုကို အမြင့်ဆုံးနေရာမှအောက်ပေ ၆၀ ခန့်နက်အောင် တူးဖေါ်ကြည့်ရာတွင်၊ ကျောက်လက်နက်များကိုအသုံးပြုသောကျောက်ခေတ်မှ ခရစ်တော်ပေါ်ထွန်းသည့်ခေတ်အထိ ထိုကာလအပိုင်းအခြားအတွင်းအသုံးပြုခဲ့သော ရှေးဟောင်းယဉ်ကျေးမှုဆိုင်ရာဝတ္ထုပစ္စည်းများကို တွေ့ရှိခဲ့၏။ ထို့ပြင် မြေအောက်ပေ ၄၀ အနက်တွင် နုံးမြေဆီလွှာကိုတွေ့ရခြင်းကြောင့် ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၃,၀၀၀ ကျော်လောက်ကပင် ထိုမြို့ကိုရေလွှမ်းမိုးသွားခဲ့ဘူးသည်ဟု ယူဆကြ၏။ အချို့ကလည်း ထိုနုံးမြေဆီလွှာသည် သမ္မာကျမ်းစာတွင်ဖေါ်ပြပါရှိသော ရေလွှမ်းမိုးမှုကြီး၏ အထောက်အထားဖြစ်သည်ဟုယုံကြည်ကြသည်။

**ကတ္တရာ**။ ။ကတ္တရာကို ဟိုက်ဒရိုကာဗွန်ဒြပ်ပေါင်းအမျိုးမျိုး ပါဝင်သည့် ဗစ်တျူမင် ကတ္တရာခေါ် ပစ္စည်းတမျိုးမှ ရရှိ၏။ ကတ္တရာအရောင်မှာ အညို သို့မဟုတ် အမည်းဖြစ်၏။



ထရင်းနီဒက်ကျွန်းတွင်ကတ္တရာများကိုတူးဆွသယ်ယူနေကြစဉ်

အချို့ကတ္တရာသည်မည်း၍ အရောင်လက်၏။ အချို့မှာတွင်းထွက်ကျောက်မီးသွေးများမှ ရသောကတ္တရာစေးကဲ့သို့ ကပ်စေးစေးရှိ၏။ ကတ္တရာကို တခုခုတွင်ထည့်၍မီးတိုက်ပေးသောအခါ အပူချိန်ဖာရင်ဟိုက်ဒီဂရီ ၁၀၀ တွင် အလွယ်

တကူအရည်ပျော်၍ ထူထပ်သောမီးခိုးလုံးများထွက်လာ၏။

ကတ္တရာကို တောင်အမေရိကတိုက် အော်ရင်နိုးကိုးမြစ်ဝ အလွန်တွင်တည်ရှိသော ထရင်းနီဒက်ကျွန်းမှ အမြောက်အမြားရရှိသည်။ ထိုကျွန်းရှိကတ္တရာကျင်းများမှာ ရေကန်ကြီးသဖွယ်ဖြစ်၍ အကျယ်မှာတမိုင်ခန့်ပင်ရှိ၏။ ထိုကတ္တရာကျင်းတည်နေရာသည် ရှေးမီးတောင်သေ၏ထိပ်ဝဖြစ်ဟန်တူသည်။ ထူးခြားသောအချက်တရပ်မှာ ကျင်းတကျင်းမှ ကတ္တရာကို အမြောက်အမြားတူးဖေါ်ထုတ်ယူသော်လည်း ကတ္တရာများ ပြန်၍ပြည့်လာသောအချက်ပင်ဖြစ်၏။ ယင်းသို့ပြန်ပြည့်လာခြင်းအကြောင်းမှာ ကတ္တရာကျင်းရှိရာမြေအောက်မှ ကတ္တရာများသည် အပေါ်သို့ အစဉ်မပြတ်တက်လာနေသောကြောင့်ပင်ဖြစ်သည်။ ကတ္တရာကို တောင်အမေရိကတိုက် ဗင်နီးဇွဲလားနိုင်ငံမှရင်း၊ ကျူးဗားကျွန်းမှရင်း၊ အများအပြားတူးဖေါ်ရရှိကြ၏။ အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ်မှထွက်သောကတ္တရာသည် အလွန်ကောင်းသောကြောင့် မည်သို့မျှပြုပြင်မပေးရဘဲ လမ်းခင်းရန်အတွက်အသုံးပြုနိုင်ပေသည်။ ကတ္တရာကို အခြားအမေရိကန်ပြည်ထောင်စုပြည်နယ်များ၊ ကနေဒါပြည်နှင့် ဥရောပတိုင်းပြည်များမှလည်း ရနိုင်သည်။

ရှေးနှစ်ပေါင်းများစွာက ပင်လယ်အောက်တွင် နစ်မြုပ်လျက်ရှိသော အပင်နှင့်တိရစ္ဆာန်တို့၏ အကြွင်းအကျန်တို့သည်သဘာဝအလျောက် တဖြည်းဖြည်းရေနံဘဝသို့ပြောင်းသွား၍၊ ထိုရေနံဘဝမှတဖန် နှစ်လရှည်ကြာလတ်သော် ကတ္တရာဖြစ်လာသည်ဟု ဘူမိဗေဒပညာရှင်အားလုံးလောက်တို့က တညီတညွတ်တည်းယူကြ၏။ ယင်းသို့ဖြစ်လာပုံမှာ မြေအောက်တွင် ကတ္တရာအဖြစ်မရောက်မီ ရေနံဘဝနှင့်ရှိနေစဉ်၊ ရေနံမှပေါ့ပါးသောဆီတို့သည် မြေကြီးပေါက်ကြောင်းအက်ကြားများမှ သဘာဝအလျောက် အငွေ့ပျံ၍တက်သွားကြ၏။ ယင်းသို့ အငွေ့ပျံတက်သွားရာမှ ကျန်ရှိနေသောရေနံသည် အောက်ဆီဂျင်နှင့်ပေါင်း စပ်ပြီး လျှင် ကတ္တရာဖြစ်သွား၏။ ကတ္တရာရိုင်းကိုကျို၍ ဖစ်တျူမင်ခေါ်တွင်းထွက်ကတ္တရာစေး ကဲ့သို့သောပစ္စည်းများ၊ သံများ၊ ကယ်လဆီယမ်ကာဗွန်နိတ်များနှင့်ရောစပ်၍ အင်္ဂတေပြုလုပ်ကြသည်။

အနက်ရောင်အရောင်တင်ဆီများ၊ အိမ်မိုးရန်တရပတ်များနှင့် ရေခံစက္ကူများကို ကတ္တရာဖြင့်ပြုလုပ်စီမံကြ၏။ ထို့ပြင် တန်တားများနှင့် အဆောက်အအုံအုတ်မြစ်များတွင်လည်း ရေမဝင်စေရန် ရေခံပစ္စည်းအဖြစ်ဖြင့်အသုံးပြုကြသေး၏။ ရှေးအခါကပင် ကတ္တရာကိုလမ်းခင်းရာ၌အသုံးပြုခဲ့ကြရာ ယခုအခါ၌ကား လမ်းများပိုမိုခိုင်ခံ့၍တာရှည်ခံနိုင်စေရန် ကတ္တရာကို သံများ၊ ကျောက်အကြေများနှင့်ရောစပ်၍သုံးစွဲကြသည်။

ကတ္တရာစေး။ ။ကျောက်မီးသွေး၊ သစ်သား၊ အရိုးများနှင့် အခြားအလားတူသြဂဲနစ်ပစ္စည်းများကို လေအလုံပိတ်ပြီးနောက် မီးပြင်းတိုက်ပေးသောအခါ ထိုပစ္စည်းများမှ အခိုးများထွက်လာသည်။ ထိုအခိုးများကို ပေါင်းခံနည်းဖြင့် အအေးခံယူရာတွင် ပျစ်၍မည်းနေသော ဆီကဲ့သို့သော အရည်ကိုရရှိ၏။ ထိုအရည်မှာ ကတ္တရာစေးပင်ဖြစ်သည်။ အများအားဖြင့် ကတ္တရာစေးကို သစ်သားနှင့် ကျောက်မီးသွေးတို့မှထုတ်ယူလေ့ရှိကြ၍၊ ထိုကတ္တရာတို့ကို သစ်သားကတ္တရာနှင့်ကျောက်မီးသွေးကတ္တရာဟူ၍ ခွဲခြားခေါ်ဝေါ်ကြလေသည်။

သစ်သားကတ္တရာကို များသောအားဖြင့် ထင်းရှူးမျိုးဝင်သစ်သားတို့မှထုတ်ယူရရှိရာ ဥရောပတိုက်မြောက်ပိုင်းရှိ ထင်းရှူးတောများမှရင်း၊ အမေရိကန်ပြည်ထောင်စု မြောက်ကယ်ရိုလီးနားပြည်နယ်ရှိ ထင်းရှူးတောများမှရင်း၊ အမြောက်အမြားရရှိသည်။ ဆွီဒင်နိုင်ငံ ထင်းရှူးပင်များမှရသောကတ္တရာစေးများမှာ အလွန်ကောင်းသဖြင့် အထူးပင်နာမည်ရသည်။ ထိုကတ္တရာစေးတွင် ကရီအိုဆုတ်အအမြောက်အမြားပါဝင်သောကြောင့် သစ်သားများ၊ ကြိုးများနှင့် ကြိုတ်သက္ကလတ်များကို ပိုးမစား၊ ပိုးမတောက်ဘဲ တာရှည်ခံအောင် သုတ်လိမ်းပေးရန်အတွက် များစွာအသုံးပြုကြ၏။ ထို့ပြင် ဆေးဝါးဖေါ်စပ်ရာနှင့် အန်တီဆက်ပတစ်ဆေး ဆပ်ပြာများလုပ်ကိုင်ရာတို့တွင်လည်း အသုံးပြုကြသေး၏။

ကျောက်မီးသွေးကတ္တရာများသည် ဆိုးဆေးအမျိုးမျိုးကို စီမံဖေါ်စပ်ရာ၌ရင်း၊ ဆေးဆပ်ပြာများနှင့် အခြားထင်ရှားသောစက်မှုလုပ်ငန်းများတွင်ရင်း များစွာအသုံးဝင်သည်။ (ကျောက်မီးသွေးကတ္တရာ — ရှု)။

ရှေးခေတ်မှစ၍ ယခုခေတ်တိုင်အောင် လှေစပ်ကြောင်းများမှရေမဝင်နိုင်စေရန် ထိုစပ်ကြောင်းများထဲသို့ ပိတ်စကြိုးစများကိုရိုက်သွင်းပြီးလျှင် ပစ်ချကတ္တရာဖြင့်ဆို့ပိတ်ပါထေးခဲ့ကြသည်။ ယင်းသို့ပြုလုပ်ရာတွင် အသုံးပြုသောပစ်ချကတ္တရာမှာထင်းရှူးကတ္တရာသို့မဟုတ်ကျောက်မီးသွေးကတ္တရာကိုမီးတိုက်ပြီးနောက်ရရှိသည့် သစ်စေးကဲ့သို့သောပစ္စည်းအမည်းဖြစ်၏။ ပစ်ချကတ္တရာကို ရေနံစိမ်း၊ အရိုးများမှရသောကတ္တရာစေးနှင့် အမဲဆီ၊ သစ်အဆီများမှ အဆီထုတ်ပြီးနောက် ကျန်ကြွင်းနေသောပစ္စည်းတို့မှလည်း ထုတ်ယူနိုင်၏။ အရိုးကတ္တရာနှင့် အမဲဆီ၊ သစ်အဆီများမှရသော ပစ်ချကတ္တရာများမှာ အရောင်တင်ဆီများ ပြုလုပ်ရာတွင် များစွာအသုံးဝင်သည်။ သစ်သားကတ္တရာမှရသောပစ်ချကတ္တရာကို သစ်သားများပိုးမစား၊ ခြမစားရန်နှင့် မိုးခံလေခံရန် သုတ်လိမ်းပေးရာတွင် အမြောက်အမြားအသုံးပြုကြ၏။ ကျောက်မီးသွေးကတ္တရာမှရသော ပစ်ချကတ္တရာ

ကိုမူ အရောင်တင်ဆီအနက် ဖေါ်စပ်ရာတွင်၎င်း၊ သံချောင်း သံပြားများ သံချေးမတက်စေရန်သုတ်လိမ်းပေးရာတွင်၎င်း၊ ဆီမှိုင်း များ ဖေါ်စပ်ရာတွင် ၎င်း အမြောက်အမြား အသုံးပြုကြ၏။ ဥရောပမြောက်ပိုင်း ဖင်လန်နိုင်ငံမှထွက်သော ဗာဂန်ဒီ ပစ်ချကတ္တရာသည် ဆေးဝင်ပစ္စည်းဖြစ်၍ ဆေးဝါး ဖေါ်စပ်ရာတွင်များစွာအသုံးဝင်သည်။

**ကတ္တရိုက်, အီ** (ခရစ် ၁၇၄၃–၁၈၂၃)။ ။၁၈ ရာစုနှစ် အလယ်ပိုင်းအလွန်လောက်တွင် ခြည်ငင်စက်များပေါ်ထွက်လာပြီဖြစ်သော်လည်း၊ အထည်ရက်လုပ်ရေးတွင်ကား ရှေးဟောင်းလက်ရက်ကန်းစင်များဖြင့်သာ ရက်လုပ်နေကြသေးသဖြင့် ခရီးရောက်သင့်သလောက်မရောက်သေးပေ။ ခြည်ငင်စက်များမှ ခြည်မျှင် အထွက်များ သလောက် လက်ရက်ကန်းသမားများက နိုင်အောင်မရက်လုပ်နိုင်သောကြောင့် လက်ရက်ကန်းများကို စက်ရက်ကန်းများ အဖြစ်ပြုပြင်ပြောင်းလဲပေးရန် အချိန်ကျရောက်လာသည့်အား လျော်စွာ၊ လက်ရက်ကန်းလုပ်ငန်းကို တမျိုးတဖုံပြောင်းလဲစေမည့် ပုဂ္ဂိုလ်ကြီးတယောက်သည် အင်္ဂလန်ပြည်တွင် အချိန်မှီပေါ်ပေါက်လာခဲ့လေသည်။

ထိုပုဂ္ဂိုလ်ကား အက်ဒမန်ကတ္တရိုက်ဖြစ်သည်။ ကတ္တရိုက်ကို ၁၇၄၃ ခုဧပြီလ ၂၄ ရက်နေ့တွင် နော့တင်ဂမ်ရှိုင်ယာနယ် မန်းဟမ်းရွာတွင်ဖွားမြင်သည်။ အစဉ်အလာကြွယ်ဝချမ်းသာသောမျိုးရိုးမှ ဆင်းသက်လာသူဖြစ်သဖြင့် စာပေကို ကောင်းမွန်စွာ သင်ကြား လေ့လာ နိုင်ခဲ့ပေသည်။ နောက်ဆုံးတွင် အောက်စဖို့တက္ကသိုလ်မှ ပညာနို့ရည်သောက်စို့ခဲ့ပြီးနောက် စာပေနှင့်အယူဝါဒရေးကို အထူးလေ့လာ အားထုတ် လာခဲ့လေသည်။ ထို့ကြောင့်လည်း ရေဖျန်းဂိုဏ်းဝင်ဘုန်းတော်ကြီးဖြစ်လာခဲ့၏။

၁၇၈၄ ခုနှစ် သာယာသောနွေတနေ့တွင် မန်ချက်စတာအထည်သည်အချို့ စကားလက်ဆုံကျနေခိုက် ခြည်ငင်စက်တွင်သူ အတ်ကရိုက်အကြောင်းကို ရောက်သွားရာ၊ ကတ္တရိုက်သည် ရက်ကန်းလုပ်ငန်းတွင် အတော်ပင်စိတ်ဝင်စားမိလေသည်။ ရှေးရှေးက စာပေနှင့် အယူဝါဒရေးတွင်သာ ပျော်မွေ့လာခဲ့သော်လည်း၊ ခြည်ငင်စက်သာမက လက်ရက်ကန်းမှ စက်ရက်ကန်းဖြစ်အောင် ကြံဆောင်လုပ်ကိုင်သင့်သည်ဟု အဆိုပါမိတ်ဆွေများအား ကတ္တရိုက်က ပြန်ပြောလိုက်မိပေသေးသည်။

အတ်ကရိုက် ခြည်ငင်စက်အကြောင်းကို ကြားရသည့်နေ့မှစ၍ စက်ရက်ကန်းတီထွင်ရန် ကတ္တရိုက်စိတ်ကူးခဲ့သည်။ ရှေးက ရက်ကန်းစက်ကိုမပြောထားဘိဦး၊ ခြည်ငင်စက်ကိုပင်မတွေ့မြင်ဘူးသောကတ္တရိုက်သည် ထိုမိတ်ဆွေများနှင့်တွေ့သည့်နေ့မှစ၍ အယူဝါဒရေးနှင့်စာပေကို လုံးဝစွန့်လွှတ်ပြီးလျှင် စက်ရက်ကန်းကိုစတင်လုပ်ကိုင်ရာ၊ တနှစ်အတွင်း ထမြောက်အောင်မြင်၍ ၁၇၈၅ ခုနှစ်တွင် မူပိုင်ခွင့်မှတ်ပုံတင်ခဲ့လေသည်။



စက်ရက်ကန်းကိုစတင်တီထွင်သူ အက်ဒမန်ကတ္တရိုက်

လက်ရက်ကန်းတွင် အတိုင်နှင့်အဖေါက်ဟူ၍ ခြည်နှစ်မျိုးထားသည်။ တိုင်ခြည်ကို အလျားလိုက်ထားပြီးလျှင် ဖေါက်ခြည်က ထိုတိုင်ခြည်ကို ကန့်လန့်ဖြတ်ပြီး ရက်ရသည်။ ထိုဖေါက်ခြည်ကို လွန်းတွင်ထည့်ကာ တိုင်ခြည်များကြားမှ ရှေ့နောက်အပြန်အလှန် လက်ဖြင့်ထိုးသွင်းပေးရသည်။ ကတ္တရိုက်၏စက်ရက်ကန်းသည် လက်ရက်ကန်းနှင့်အလားတူစီမံထားသော်လည်း၊ လွန်းကို ရေအားဖြင့်လည်စေသောစက်ဖြင့် အလိုအလျောက် ရှေ့နောက်အပြန်အလှန်သွားအောင် စီမံထားလေသည်။ ၁၇၈၆ နှင့် ၁၇၈၇ ခုနှစ်များတွင်မူကား သူ၏စက်ရက်ကန်းတွင် လိုအပ်သောအချက်များကို ထပ်လောင်းဖြည့်စွက်လိုက်သဖြင့် လွန်းသာလျှင် အလိုအလျောက် အပြန်အလှန် သွားနိုင်သည်မဟုတ်သေး၊ တိုင်ခြည်များကိုလည်း လွန်းဖေါက်သည့်အခါ အသင့်ဖြစ်စေရန် အထက်အောက်လမ်းခွဲ၍ပေးထားနိုင်အောင် စီမံထားလေသည်။ နောက်ဆုံး ချွတ်ယွင်းချက်ကလေးများကို ထပ်လောင်းဖြည့်စွက်လိုက်သောအခါ ယခုခေတ်သုံးစက်ရက်ကန်းမျိုး ဖြစ်လာလေသည်။ စက်ရက်ကန်းပေါ်ထွက်လာရခြင်းမှာ ကတ္တရိုက်၏ကြိုးစားမှုကြောင့်ဖြစ်သည်။

သို့သော် ကတ္တရိုက်၏စက်ရက်ကန်းများပေါ်ထွက်လာသည်နှင့် တပြိုင်နက်၊ လက်ရက်ကန်းသမားများသည်

သူတို့၏ စားလမ်းပိတ်ပြီဟုယူဆသဖြင့် သူ့အား ရန်သူကြီး ပမာသဘောထားကြလျက်၊ ၁၇၉၁ ခုတွင် မန်ချက်စတာ မြို့ရှိသူ၏စက်ရုံကို မီးတင်ရှို့လိုက်ရာ စက်ရက်ကန်းပေါင်း များစွာ မီးလောင်ကျွမ်းသွားလေသည်။ သို့သော် ကတ္တရိုက် သည် စိတ်ပျက်ခြင်းအလျင်းမရှိပေ။ ၁၇၇၉ ခုနှစ်တွင် သိုး မွေးခြည်ဖြီးစက်တခုကို အသစ်ထွင်ပြုလုပ်လိုက်ပေသေး၏။ ထိုစက်ကို မူပိုင်ခွင့်မှတ်ပုံတင်ရန် အစိုးရသို့လျှောက်ထားရာ အမှုအခင်း ဖြစ်သဖြင့် ငွေအမြောက်အမြား ကုန်ဆုံး သွား ရရှာသည်။ ကတ္တရိုက်ထွင်သောအခြားစက်များမှာ ကြိုး ကျစ်စက်နှင့် လယ်ယာစိုက်ပျိုးရာတွင်အသုံးပြုသော စက် ကရိယာအမျိုးမျိုးတို့ဖြစ်ပေသည်။

ကတ္တရိုက်၏တီထွင်မှုများမှာ အဖိုးမဖြတ်နိုင်လောက် အောင်ပင် လူ့လောကကြီးအတွက်အသုံးဝင်သော်လည်း၊



ဒေါသထွက်၍အမောက်ထောင်ကြွနေသောကတ္တဝါ

လူမသမာတို့၏လက်ချက်ဖြင့် ပျက်စီးဆုံးရှုံးရသော သူ၏ စက်ရုံများ၏တန်ဖိုးကို မကာမိနိုင်အောင်ပင်ရှိနေသဖြင့် အခက်ကြုံတွေ့နေရစဉ်၊ ၁၈၀၉ ခုနှစ်တွင် သူ၏ထွင်မှုများကို အားပေးသောအားဖြင့် ဗြိတိသျှပါလီမန်က ပေါင် ၁၀,၀၀၀ ဆုငွေချီးမြှင့်လိုက်လေသည်။ ထိုရရှိသောငွေဖြင့်ပင် ကင့် နယ်တွင် မြေယာတခုဝယ်ယူပြီးနောက်၊ သိပ္ပံပညာဆိုင်ရာ ထွင်မှုနှင့် လက်တွေ့စမ်းသပ်မှုများကိုသာ ကြံစည်လုပ်ကိုင် ခြင်းဖြင့် အချိန်ကိုကုန်လွန်စေခဲ့၏။ ၁၈၂၃ ခုအောက်တို ဘာလ ၃၀ ရက်နေ့တွင် ဟေးစတင်းမြို့၌ သိပ္ပံပညာရှင် ကတ္တရိုက်သည် ကွယ်လွန်အနိစ္စရောက်လေသည်။ (အတ် ကရိုက်, အာ၊ ကရွမ်တန်, အက် (စ)၊ ဟားဂရီး, ဂျေ၊ ရက် ကန်းပညာ–လည်းရှု)။

**ကတ္တဝါ**။ ။ကတ္တဝါသည် ကြက်တူရွေးကဲ့သို့ လိမ်မာရေး ခြားခြင်းမရှိလှသော်လည်း ကြက်တူရွေးကဲ့သို့ပင် စကား ပြောနိုင်သည်။ သို့သော် ကြက်တူရွေးလောက်အမှတ်သ ညာမရှိဘဲ စကားတခွန်းကိုသာ အထပ်ထပ်အခါခါ ပြန် လည်ရွတ်ဆိုတတ်သည်။ ကတ္တဝါအစစ်ကို ကက်ကတ္တူဝါ ဟုခေါ်သည်။ ဩစတြေးလီးယားတိုက်နှင့် အရှေ့အိန္ဒိယ ကျွန်းစုတို့တွင်တွေ့ရ၏။ အသွေးအရောင်မှာ အများအား ဖြင့် အဖြူသာလျှင်ဖြစ်သော်လည်း အနီပြောက်ထိုးလျက် သော်၎င်း၊ လိမ်မော်ရောင်နှင့် အခြားအရောင်များရောနှော လျက်သော်၎င်း၊ တွေ့ရတတ်သည်။ ကတ္တဝါ၌ ကြီးမားသော ဦးခေါင်းရှိ၍ ထိုဦးခေါင်းပေါ်တွင် အဝါရောင်အမောက်ရှိ သည်။ အဆိုပါအမောက်မှာ ယပ်တောင်သဖွယ်ဖြစ်လျက် စိတ်ဆန္ဒအလျောက် ထောင်ကြွလာစေနိုင်၏။ အမွေး အတောင် အရောင်အသွေး လှပရာ၌ လက်ဗီတားကတ္တဝါ မျိုးမှာ ပြိုင်ဖက်ကင်းပေသည်။



အမွေးနုများဖုံးအုပ်နေသည့် ကတ္တီပါသီးနှင့်အရွက်များ

**ကတ္တီပါပင်**။ ။ကတ္တီပါပင်သည် အပင်ငယ်မျိုးဖြစ်သည်။ အသီးကိုစားရ၍၊ အသီးခွံတွင် ကတ္တီပါကဲ့သို့အမွေးနုများ ဖုံးအုပ်နေသဖြင့် ကတ္တီပါသီးဟုတွင်သည်။

အကိုင်းအခက်များခိုင်မာ၍ အဝါရောင်အမွေးများရှိသည်။ အရွက်များတွင် အပေါ်ဖက်၌ချောမွတ်၍ အောက်ဖက်၌ အဖြူရောင်အမွေးနုများရှိသည်။

ကတ္တီပါပင်၏မူရင်းဒေသမှာ ပသျှူးကျွန်းစုဖြစ်သည်။ မြန်မာနိုင်ငံ၌ ကတ္တီပါပင်ကို အနှံ့အပြား မစိုက်ပျိုးကြသော်လည်း ဥယျာဉ်များတွင် တခါတရံတွေ့မြင်နိုင်သည်။ မျိုးပွားရာတွင် အစေ့မှဖြစ်စေ၊ အကိုင်းဆက်နည်းနှင့်ဖြစ်စေ၊ ပြုလုပ်ယူကြသည်။ မိုးဦးကျအချိန်တွင် အသီးများမှည့်ကြသည်။ အသီးသည် ခပ်လုံးလုံးဖြစ်၍ အချင်း ၂ လက်မခန့်ရှိသည်။ အသီး၏အရောင်မှာညိုရင့်ဖြစ်၍ အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း အမွေးများပါရှိသည်။ ထိုအမွေးများသည် နူးညံ့သော်လည်း ယားယံစေတတ်သဖြင့် အသီးကိုမစားမီ အမွေးများကိုစင်အောင်ပွတ်ပစ်ရသည်။ အသီး၏အရသာမှာ ချိုအေးသော်လည်း အချဉ်ဓါတ်အနည်းငယ်ပါ၍၊ အနံ့မှာဒူးရင်းသီးနံ့နှင့်တူသည်။

**ကဿပထေရ်။** ။သျှင်မဟာကဿပသည် ဂေါတမမြတ်စွာဘုရား၏ကိုယ်တော်နှင့်အမျှထား၍ ခြီးမြှောက်ခြင်းခံရသော သာဝကတပါးဖြစ်သည်။ ဓူတင်တေရသကိုဆောင်နိုင်စွမ်းသောကြောင့် ဓူတင်္ဂဓရတေဒဂ်အရာ၌ ခြီးမြှောက်ခြင်းခံရသည်။ သာဝကများအနက် တတိယ မဟာသာဝကဖြစ်သည်။

သျှင်မဟာကဿပမှာ မဂဓရာဇ်တိုင်း မဟာတိတ္ထပုဏ္ဏားရွာနေ ကဿပအနွယ်ဝင် ကဗိလမင်းပုဏ္ဏားတို့မှဖွားမြင်သူဖြစ်၍ ငယ်စဉ်က ပိပ္ပလိအမည်တွင်သည်။ အရွယ်ရောက်သောအခါ ဘဒ္ဒကာပိလာနီ သတို့သမီးနှင့်လက်ထပ်သော်လည်း အိမ်ထောင်မှုကိုစက်ဆုပ်သဖြင့် ၂ ဦးသဘောတူတောထွက်ကြသည်။ ဂေါတမမြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌စံမြန်းတော်မူစဉ် ပိပ္ပလိလုလင်ရောက်ရှိ၍ ရဟန်းပြုသည်။ အနွယ်ကိုစွဲ၍ သျှင်ကဿပဟုတွင်သည်။

သျှင်မဟာကဿပအလောင်းသည် ကမ္ဘာတသိန်းထက်၌ ပွင့်တော်မူသော ပဒုမုတ္တရဘုရားရှင်လက်ထက်တော်၌ ဟံသာဝတီမြို့ ဝေဒေဟသူကြွယ်အဖြစ်ဖြင့် သာဝကဆုပန်ခဲ့သည်။

ရာဟုလာ၏ဩဝါဒဆရာလည်းဖြစ်၍ မြတ်စွာဘုရားသနားပေးစွန့်တော်မူသော ဒုကုဋ်ကို ခံယူနိုင်ခွင့်ရသည်။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံပြီးနောက် မဟာသက္ကရာဇ် ၁၄၈ ခု ဝါခေါင်လပြည့်ကျော်တရက်နေ့တွင် အဇာတသတ်မင်းကိုမှီ၍ ကြီးမှူးရွှေဆောင်ကာ ရဟန်းသံဃာများနှင့်အတူ ပထမသင်္ဂါယနာတင်တော်မူသည်။ (သင်္ဂါယနာ — ရှု)။

**ကဿပမြတ်စွာဘုရား။** ။ကဿပမြတ်စွာဘုရားသည် ဤဘဒ္ဒကမ္ဘာအတွင်း ပွင့်တော်မူခဲ့ပြီးဘုရား ၄ ဆူအနက် တတိယမြောက်ပွင့်တော်မူသော ဘုရားရှင်ဖြစ်သည်။

ဗာရာဏသီပြည်မှ ဗြဟ္မဒတ္တမင်းနှင့် မိဖုရားဓနဝတီပုဏ္ဏေးမတို့၏ သားတော်ဖြစ်၏။ အရွယ်ရောက်သော် သင့်မြတ်သောသတို့သမီးနှင့် လက်ထပ်ထိမ်းမြား၏။ သားတော်ဇိဝိတသေန တပါးကိုဖွားမြင်ပြီးနောက် လောကီစည်းစိမ်ကိုစွန့်ပယ်ကာ တောထွက်တော်မူသည်။ ၇ ရက်ကြာမျှ ဒုက္ကရစရိယာကျင့်တော်မူပြီးနောက် ပညောင်ဗောဓိပင်ရင်းဝယ် သဗ္ဗညုတဉာဏ်တော်ကိုရ၍ ဘုရားဖြစ်တော်မူသည်။ ထိုမြတ်စွာဘုရား၏အဂ္ဂသာဝက ၂ ပါးကား အရှင်တိဿနှင့် အရှင်ဘာရဒွါဇဖြစ်သည်။ အဂ္ဂသာဝိကာမ ၂ ပါးကား အနုလာနှင့် ဥရုဝေလဖြစ်သည်။

ထိုမြတ်စွာဘုရား၏ဉာဏ်တော်အမြင့်သည် အတောင် ၂၀ ဖြစ်၏။ သက်တော် အနှစ် ၂၀,၀၀၀ ရှည်တော်မူ၍၊ သေတဗျအရာမ်၌ ပရိနိဗ္ဗာန်ပြုတော်မူရာ၊ ကြွင်းသောဓါတ်တော်အစုကိုဌပနာ၍ တယူဇနာအမြင့်ရှိသော ဇိနစေတီတည်ထားကိုးကွယ်ကြ၏။

**ကိတ်မုံ့။** ။ကိတ်မုံ့ဟုဆိုလိုက်လျှင် အညိုရင့်ရောင် အကာခံ့နှင့် အတွင်းမှအဝါနုရောင်မုံ့သားများပါရှိ၍၊ အလွန်နူးညံ့ပြီးလျှင် အရသာရှိလှသော အနောက်နိုင်ငံသားများ၏ ပလိန်းကိတ်ခေါ် ကိတ်မုံ့မျိုးကို ပြေး၍မြင်ယောင်မိသူများကြပေမည်။

ပလိန်းကိတ်ခေါ် ရိုးရိုးကိတ်မုံ့အပြင် ကိတ်မုံ့စုံများလည်း ရှိပေသေးသည်။ ကိတ်မုံ့စုံမှာ အဝိုင်း၊ လေးထောင့်စသည်ဖြင့် ပုံသဏ္ဍာန်အမျိုးမျိုးရှိ၍ အလွန်လှပအောင် မွမ်းမံခြယ်လှယ်ထားသော မုံ့များဖြစ်သည်။ ထိုပြင် စပျစ်သီးခြောက်၊ သစ်သီးဆန်းစသော အပိုအဆာများထည့်၍ အနံ့အရသာထူးအောင်ပြုလုပ်ထားသောကိတ်မုံ့များလည်း ရှိပေသေးသည်။

ကိတ်မုံ့များသည် အနောက်နိုင်ငံများတွင် လူတို့နေ့စဉ်နေ့တိုင်းစားသုံးသောအစာအာဟာရဖြစ်သော်လည်း အချို့ကိတ်မုံ့မျိုးကို သက်ဆိုင်ရာအခမ်းအနားပွဲများ၌သာ အသုံးပြုကြ၏။ လက်ထပ်မင်္ဂလာပွဲများ၊ မွေးနေ့များတွင် အထူးတလည် အဆန်းတကြယ်စီမံပြုလုပ်ထားသော မင်္ဂလာဆောင်ကိတ်မုံ့၊ မွေးနေ့ကိတ်မုံ့များဖြင့် ဧည့်ခံကြသည်။

များသောအားဖြင့် ကိတ်မုံ့များမှာ ဂျုံမှုန့်၊ သကြား၊ ထောပတ်၊ ကြက်ဥစသည်တို့ဖြင့်ပြုလုပ်ထား၍ လူတိုင်းကြိုက်နှစ်သက်သော အမွှန်အမြတ်စားစရာဖြစ်လေသည်။

**ကုက္ကလံ။** ။ရှေးအထက်ကျော်ကာရီက မြန်မာနိုင်ငံ

အတွင်း ဧရာဝတီမြစ်ရိုးတလျှောက် လှေတက်အများသွား လာ စုန်ဆန် လျက် ကူးသန်းရောင်းဝယ် ကြသည်။ ထိုစဉ် အခါက မီးသင်္ဘောဟူ၍မရှိသေး၊ အညာလှေကြီးများဖြင့် ကုန်စည်များကိုတင်ဆောင်ကာ မြစ်စဉ်မြို့ရွာများသို့ ဝင် ထွက်ဆိုက်ကပ်ကြရသည်။ ထိုသို့ကုန်စည်များကို သယ်ယူ ပို့ဆောင်ရာ၌ ရေစုန် မျှောချရ သည် မှာ မပင်ပန်း လှသော် လည်း အညာဒေသသို့ဆန်တက်ရသည်မှာမလွယ်ကူလှချေ။ လှေတက်များမှာ လူအင်အားအပြင် လေ၏အကူအညီကို လည်းစောင့်မြှော်ရယူကြရသည်။

မိုးဦးကျစ၌ မြန်မာနိုင်ငံတွင် ရာသီလေခေါ် မုတ်သုန်လေ သည် အနောက် တောင် ထောင့် မှ တိုက် ခတ် သည် ဖြစ် ရာ၊ အညာလှေကြီးတို့သည် ကုန်စည်အပြည့်ဖြင့် မိမိတို့ရပ်ရွာ ဒေသသို့ပြန်မြဲဖြစ်၏။ ထိုသို့သောအချိန်မျိုး၌ လေကြောင်း



ပဒိုင်းပွင့်သဏ္ဌာန်ရှိ ကုက္ကားခေါ် တံခွန်ကလေးများ

ကို သိရှိရန် အညာ လှေကြီး များ၏ ရွက်တိုင်ထိပ်တွင်၎င်း၊ ပဲ့စင်တွင်၎င်း၊ အလံနှင့်တူသောကုက္ကလံကို တပ်ဆင်ထား လေသည်။ ကုက္ကလံသည် မြန်မာများအတွက် လေကြောင်း ပြကရိယာတမျိုးပင်ဖြစ်လေသည်။ အောက်ရပ်ကျေးရွာသို့ ရောက် နေ ကြ သော လှေ သမား တို့ သည် မိမိ တို့ ရပ် ရွာ ဒေသသို့ လွမ်း ဆွတ် တမ်း တ သည့် အခါ၊ ကုက္ကလံ သည် မြောက် အရပ် သို့ ညွှန် ပြနေသောအခါမှ ပြန် လာမည်ဖြစ် ကြောင်းကို 'ကုက္ကလံမြောက်ကိုလှည့်ခါမှ ပြန်ခဲ့မယ်ရွှေ ညာမယ်ရဲ့၊ ခင်ရှာသူကလေး' ဟူသော တေးသွားမျိုးကို ညည်းညူကြသည်။

ကုက္ကလံကို မြစ်တွင်းခရီးသွားလှေကြီးများ၌သာမက ပင်လယ်ကူးရွက်လှေများ၌လည်း စိုက်ထူထားလေသည်။ ကုက္ကလံကို ဖျင်ဖြင့်သော်၎င်း၊ သစ်သားဖြင့်သော်၎င်း၊ ဝါးကပ် ဖြင့်သော်၎င်း၊ ပြုလုပ်ထားလေသည်။ ကုက္ကလံပုံအမျိုးမျိုး ရှိသည့် အနက် ကြက် လျှာသဏ္ဌာန်၊ တံခွန်ပြား သဏ္ဌာန် တို့ကို အတွေ့ရများလေသည်။

**ကုက္ကား။** ။ဗုဒ္ဓဘာသာမြန်မာလူမျိုးတို့သည် ဘုရား ပုထိုး များ သို့ သွား ရောက် ဖူး မျှော် ကြ ရာ၌ ပန်း နံ့သာ၊ ဆီမီး ဖယောင်းတိုင်တို့အပြင်၊ ထီး၊ တံခွန်၊ ကုက္ကား၊ မုလေးပွား စသည်တို့ကို လှူဖွယ်တန်းဖွယ်အဖြစ် ယူဆောင်သွားကြ သည်။ ထိုလှူဖွယ်ဝတ္ထုများတွင်အပါအဝင်ဖြစ်သောကုက္ကား သည် ပန်းတိုင်းပွင့် (ပဒိုင်းပွင့်) သဏ္ဌာန်ရှိသော တံခွန် တမျိုးပင်ဖြစ်လေသည်။

အများ အားဖြင့် ကုက္ကား ကို စက္ကူ ဖြင့် ပြုလုပ် လေ့ရှိ သည်။ စက္ကူကိုအထပ်ထပ်ခေါက်၍၊ ပြတ်မသွား စေဘဲ တွဲစပ်၍နေအောင် ကတ်ကျေးဖြင့်ညှပ်ရသည်။ ထိုနောက် ညှပ်ပြီးစက္ကူကို ပြောင်းပြန် ဖြန့်ယူ၍ ဝါး တံ ကောက် တွင် တွဲရရွဲ နေ အောင် ချိတ် ဆွဲ ထား လေ သည်။ ကုက္ကား သည် တံခွန်သဖွယ် လေယူရာတိမ်း၍ ယိမ်းကနေသကဲ့သို့ထင်မှတ် ရသဖြင့်၊ ကြည့်ရှု၍တင့်တယ်လှပေသည်။ ကုက္ကားကို ဘုရား ကိုးဆူကပ်ရာအခမ်းအနားတို့၌လည်း အသုံးပြုကြလေသည်။

**ကုက္ကိုပင်။** ။ကုက္ကိုပင်သည် ဗုဒ္ဓဘာသာ ကျမ်းဂန်များ အရ၊ ကမ္ဘာတည်သစ်ပင်ကြီး ၇ ပင်တွင်ပါဝင်သည်။ ကမ္ဘာ တည်သစ်ပင်ကြီး ၇ ပင်မှာ အရှေ့ကျွန်း၌ကုက္ကိုပင်၊ တောင်



(က) သင်္ဘောကုက္ကိုနှင့် (ခ) မြန်မာကုက္ကိုအသီးအရွက်များ

ကျွန်း၌သပြေပင်၊ အနောက်ကျွန်း၌ထိမ်ပင်၊ မြောက်ကျွန်း၌ပဒေသာပင်၊ တာဝတိံသာနတ်ပြည်၌ပင်လယ်ကသစ်ပင်၊ အသူရာပြည်၌သခွတ်ပင်၊ ဂဠုန်ပြည်၌လက်ပံပင်တို့ဖြစ်ကြ၏။ ကကုသန်မြတ်စွာဘုရားသည် ကုက္ကိုပင်၌ပွင့်တော်မူသည်ဟု ဗုဒ္ဓဝင်တွင်ဆိုသည်။

ကုက္ကိုပင်သည် ထနောင်းမျိုးတွင်ပါဝင်လျက် မြန်မာကုက္ကိုနှင့်၊ သဘော်ကုက္ကိုဟူ၍ ၂ မျိုးရှိသည်။ ကုက္ကို ၂ မျိုးလုံးပင် အကိုင်းအခက်ဝေဝေဆာဆာဖြင့် အရိပ်ကောင်းသောသစ်ပင်ကြီးများဖြစ်ကြ၍၊ ယင်းတို့ကို မြန်မာနိုင်ငံအရပ်ရပ်မှာပင် တွေ့နိုင်သည်။ အထူးသဖြင့် ခရီးသည် များအရိပ်ရစေရန် သဘော်ကုက္ကိုများကို အမြို့မြို့အရွာရွာရှိလမ်းဘေးတလျှောက်တွင် အစီအရီ စိုက်လေ့ရှိကြသည်။ ကုက္ကိုပင်ကို အစေ့မှဖြစ်စေ၊ အရွယ်တော်အကိုင်းပြတ်ကိုဖြစ်စေ၊ စိုက်ပျိုးနိုင်၍၊ တပင်နှင့်တပင်ကို ပေသုံးလေးဆယ်ခန့်ခွာကာ စိုက်ပျိုးသင့်သည်။ အကိုင်းအခက်များ မြေသို့ညွတ်ကျနေတတ်သဖြင့် အသက်နုစဉ်ကပင် အကိုင်းအခက်များကိုချိုင်ပေးရသည်။

ကုက္ကိုပင်တို့သည် နွေရာသီတွင်အရွက်များချသောအပင်မျိုးဖြစ်သည်။ အရွက်များသည် နေ့အခါ၌ အစွမ်းကုန်ကားပြန့်နေကြသော်လည်း ညအခါ၌ဖြစ်စေ၊ မိုးရွာသောအခါ၌ဖြစ်စေ၊ ထူးဆန်းစွာ ခေါက်၍အိပ်တတ်ကြသည်။ ပိုးပန်းပွားကဲ့သို့ အမွေးစုတ်ဖွားရှိသောအပွင့်ကလေးများမှာ အလွန်သေးငယ်၍အဆုပ်လိုက်ပွင့်ကြသည်။ အသီးများမှာ ပဲသီးတောင့်သဏ္ဍာန် ရှည်လျားလျားအသီးတောင့်များဖြစ်ကြ၏။ သို့သော် မြန်မာကုက္ကိုသီးများမှာပြား၍ဝါပြီးလျှင်၊ သဘော်ကုက္ကိုသီးမှာ လုံးယောင်ယောင်ဖြစ်၍ အညိုရင့်ရောင်ရှိသည်။ တဖန် သဘော်ကုက္ကိုသီးမှာအသားပြည့်ကာ မှည့်လျှင်ချို၍၊ ယင်းတို့ကို ကျွဲနွားများနှစ်သက်ကြသည်။

မြန်မာကုက္ကိုနှင့် သဘော်ကုက္ကိုတို့၏ကွဲလွဲချက်ကား မြန်မာကုက္ကိုက သဘော်ကုက္ကိုထက် ပိုမိုအသုံးဝင်ခြင်းပင်ဖြစ်၏။ မြန်မာကုက္ကိုသည် ဆေးဖက်ဝင်၍၊ အရွက်နှင့်အစေ့ကို မျက်စိနာအတွက်ငှင်း၊ အခေါက်ကို သွေးစုနာအတွက်ငှင်း၊ အသုံးချနိုင်သည်။ အရွက်နုများကို တခါတရံသုပ်စားကြ၍၊ အခေါက်ကို ပိုက်ကွန်များဆိုးရန်အတွက်လည်း အသုံးပြုကြသည်။ မြန်မာကုက္ကို၏အကာသားမှာဖြူ၍ကြမ်းသော်လည်း၊ အညိုရင့်ရောင်ရှိသောအနှစ်သားမှာ အသားညက်ကာလှပခိုင်ခံ့သဖြင့် အိမ်ဆောက်ရန်၊ အိမ်ထောင်ပရိဘောဂနှင့်တကွ၊ လှေ၊ လှည်း၊ ထယ်၊ ထွန်များလုပ်ရန်အပြင်၊ အိုးစည်ထွင်းရန်အသုံးကျသည်။ ထိုအသားသည် မြန်မာဘုရင်များလက်ထက်က မည်မျှအဖိုးတန်သနည်းဟူမူ မြန်မာကုက္ကိုပင်များကိုလှဲလိုသော် ကျွန်းနှင့်အခြားသစ်ပင်တို့ထက် အခွန်တော်ပို၍ဆောင်ရသေးကြောင်း၊ နန်းတော်ပလ္လင်ပြုလုပ်သည့် သစ်သားများတွင်မြန်မာကုက္ကိုသားလည်းပါဝင်ကြောင်း သိရသည်။

သဘော်ကုက္ကိုမှာမူ အရိပ်ကောင်းခြင်း၊ အသီးများကို



နွေရာသီတွင်အရိပ်အာဝါသအတွက် အားထားရသောသဘော်ကုက္ကိုပင်



အမေရိကန်ပြည်ထောင်စုအယ်လဗားမားပြည်နယ်၊ ဗာမင်ဂမ်မြို့အနီးရှိ ကုတ်မီးသွေးထုတ်ယူသည့်စက်ရုံကြီး

ကျွဲနွားကျွေးရခြင်းမှလွဲလျှင် အသားမှာပွသဖြင့် ထင်းဆိုက်ရန်နှင့် မီးသွေးဖုတ်ရန်မှတပါး အသုံးမကျချေ။

**ကုတ်မီးသွေး။** ။ကျောက်မီးသွေးမှ ကျောက်မီးသွေးကတ္တရာ၊ ကျောက်မီးသွေးဓါတ်ငွေ့၊ အမ်မိုးနီးယားဓါတ်ငွေ့စသော ပစ္စည်းများကိုထုတ်ယူရာ၌ ကျောက်မီးသွေးကိုရီတောဲ့ပေါင်းအိုး ကဲ့သို့သော ပေါင်းအိုးကြီးထဲတွင် ထည့်ပြီးလျှင် မီးတိုက်ပေးရ၏။ ဤသို့မီးတိုက်ပေး၍ ကျောက်မီးသွေးမှ ထိုပစ္စည်းများထွက်လာသောအခါ ပေါင်းခံနည်းဖြင့်စုယူရသည်။ ထို အဖိုးတန် ပစ္စည်း များ ထုတ် ယူပြီး နောက်ကျန်နေသောကျောက်မီးသွေးကို ကုတ်မီးသွေး သို့မဟုတ် အဆီထုတ်ပြီးသောကျောက်မီးသွေးဟုခေါ် ၏။

ကျောက်မီးသွေးကိုမီးဖုတ်ရာ၌ အသုံးပြုသော ဖို ၂ မျိုးရှိသည်။ ပဌမဖိုတမျိုးမှာ အဖိုးတန်ပစ္စည်းများကိုအဓိကထား၍ထုတ်ယူယင်း ကုတ်မီးသွေး ကို ဘေးထွက် ပစ္စည်းအနေနှင့် ထုတ်ယူသော ဖိုဖြစ် ၏။ ထိုဖိုဖြင့် ရသော ကုတ်မီးသွေးသည် အချည်းနှီးဖြစ်မသွားသောကြောင့် ရရှိသောရာခိုင်နှုန်းမှာများ၏။ အခြားဖိုတမျိုးမှာကား ပျားအုံနှင့်တူသောကုတ်မီးသွေးဖိုကြီးဖြစ်သည်။ ထိုဖိုတွင် ကုတ်မီးသွေးကို ရရန် အဓိကထား ၍ ဖုတ် သဖြင့်၊ ထွက် လာ သော ဓါတ်ငွေ့များနှင့်အခြားအငွေ့တို့သည် ဖိုထိပ်ဝတွင် အချည်းနှီးမီးလောင်ကုန်ကြ၏။ ထို့ကြောင့် ရရှိသောကုတ်မီးသွေးရာခိုင်နှုန်းမှာ နည်းသည်။

ကုတ်မီးသွေးသည် မာ၍ဆတ်ပြီးလျှင် အပေါက်ငယ်ကလေးများရှိ၏။ ကာဗွန်အများဆုံးပါ၍ အရောင်မှာ သံမဏိကဲ့သို့ ညိုပြာပြာဖြစ်၏။ တီးခတ်ကြည့်လျှင် သတ္တုကဲ့သို့အသံသာသည်။ ကုတ်မီးသွေးသည် မီးလောင်သောအခါမီးခိုး မထွက် သည့် ပြင် မီး အရှိန် လည်း အလွန် ပြင်း သောကြောင့် အိမ်သုံးထင်းမီးအတွက်သော်၎င်း၊ သံရည်ကျိုရန်အတွက်သော်၎င်း၊ အသုံးပြုကြသည်။ ဓါတ် ဆီ သန့် သန့်ချက်ယူရာမှ ဘေးထွက်ပစ္စည်းအဖြစ်ရရှိသောကုတ်မီးသွေးသည် အကောင်းဆုံး အစစ်ဆုံးသော ကာဗွန်ဖြစ်၍၊ ထင်းမီး အတွက် သော် ၎င်း၊ လျှပ် စစ် ဓါတ် မီး ကာဗွန် ချောင်းအတွက် သော် ၎င်း၊ ဖိုကြီးများ တွင် ဓါတ် သတ္တုများ ချေးချွတ်ရန်အသုံးပြုသော အီလက်ထရုတ် (ဓါတ်ခေါင်း) များအတွက်သော်၎င်း၊ အမျိုးမျိုးအသုံးပြုကြ၏။ ခဲနှင့်သွပ်

တို့ကို အရည်ကျိုရန် နှင့် ခြယ်ဆေးများ ပြုလုပ်ရန် အတွက် လည်း ကုတ်မီးသွေးကိုအသုံးပြုကြသည်။ (ကျောက်မီးသွေး၊ ကျောက်မီးသွေးကတ္တရာ — လည်းရှု)။

**ကန့်**။ ။ကန့်ကိုလူတို့သည် အလွန်ရှေးကျသောခေတ်ကပင်သိရှိခဲ့ကြ၏။ အာရပ်လူမျိုး အဂ္ဂိယတ်ဆရာတို့သည် ကန့်၏မီးလောင်လွယ်သောဂုဏ်အင်္ဂါကိုအစွဲပြုပြီးလျှင်၊ မီးလောင်ရာ၌လိုအပ်သောအခြေခံပစ္စည်းဟူ၍ သတ်မှတ်ခဲ့ကြသည်။ ကန့်ကိုသဘာဝတွင် အနှံ့အပြား တွေ့ရသည်။ အချို့ကိုသန့်သန့်တွေ့ရ၍၊ အချို့ကိုမူ ပြဒါးနှင့်ပေါင်းစပ်ကာ ဟင်းသပြဒါးရိုင်းအဖြစ်ဖြင့်၎င်း၊ သံနှင့်ပေါင်းစပ်ကာ ဗဟန်းကျောက်အဖြစ်ဖြင့်၎င်း၊ ခဲနှင့်ပေါင်းစပ်ကာ ဂလီနာအဖြစ်ဖြင့်၎င်း၊ တွေ့ကြရသည်။ ဗဟန်းကျောက်တွင် ကန့်ကြွယ်ဝသဖြင့် တခါတရံ ကန့် သို့မဟုတ် ဆာလဖါဒိုင်အောက်ဆိုက် ထုတ်ယူရန် အသုံးပြုသည်။ မီးတောင်ရှိသော အရပ်ဒေသများတွင် ကန့်သန့်သန့်ကိုအများအားဖြင့် တွေ့ရှိရလေရာ၊ ထိုသို့တွေ့ရခြင်းမှာ ဟိုက်ဒရိုဂျင်ဆာလဖိုက် (ဒ) နှင့် ဆာလဖါဒိုင်အောက်ဆိုက် တခုနှင့်တခုတွေ့ဆုံကြပြီးလျှင် ဓါတ်ပြောင်းလဲမှုဖြစ်ပွားခြင်းကြောင့်ဖြစ်သည်ဟု ထင်မှတ်ရသည်။ ရှေးအခါက ကမ္ဘာ့ပေါ်တွင် ရောင်းဝယ်ဖေါက်ကားရာ၌ အသုံးပြုခဲ့သည့် ကန့်အားလုံးကို စစ္စလီကျွန်းမှရရှိခဲ့သည်။ သို့သော် ယခုအခါ ဣတလီ၊ အမေရိကန်၊ ဂျပန်၊ ချီလီနှင့်ပီးရူးနိုင်ငံတို့မှလည်း တူးဖေါ်ရရှိကြသည်။

ကန့်တွင်မြေစေး၊ ထုံးကျောက်နှင့် ဂျစ်ပဆမ်ကဲ့သို့ အညစ်အကြေးများပါရှိတတ်သဖြင့်၊ အခြားနိုင်ငံများသို့ တင်ပို့မရောင်းချမီ ဤအညစ်အကြေးများကို ဖယ်ရှားပစ်ရသည်။ ရှေးအခါက အသုံးပြုသည့်နည်းတွင် ကန့်ကိုစုပုံ၍ အရည်ပျော်သွားစေရန်မီးဖြင့်တိုက်ရိုက်ရှို့ပေးသည်။ ဤသို့တိုက်ရိုက်မီးရှို့ယူနည်းမှာ ကန့်ကိုအလဟဿဖြုန်းတီးရာရောက်သဖြင့်၊ ယခုအခါ မီးဖြင့် အပူတိုက်ပေးရုံသာ တိုက်ပေးပြီးလျှင် ကန့်အရည်ကို စိုနေသောသစ်သားသွန်းပုံများတွင် အတုံးပြုလုပ်ယူသည်။ သို့သော် ဤကန့်တွင်အညစ်အကြေးများ မစင်သေးသဖြင့် သံအိုးများတွင်ထည့်၍ ထပ်မံပေါင်းတင်ပေးသည်။ သံအိုးမှထွက်လာသော ကန့်အငွေ့ကို ကျောက်ဖြင့်ပြုလုပ်ထားသည့် အခန်းများတွင် အအေးခံယူသောအခါ (ဖလားဝါး–အော့–ဆာလဖါ) ခေါ် ပုံဆောင်ခဲဖြစ်သောကန့်အမှုန့်များကိုရသည်။ တခါတရံကန့်ကိုတိုက်ရိုက်အခဲမပြုလုပ်ဘဲ အရည်အဖြစ်ဖြင့်ထုတ်ယူ၍ အရည်မှတဖန်အတောင့်သို့ပြောင်းလဲယူသည်။ အမေရိကန်ပြည်ထောင်စု လူဝီးဇီယန္နားနှင့်တက်ဆက်ပြည်နယ်များ၌တွေ့ရှိရသောကန့်များမှာ သဲရှင်နှင့်ရောနေသည့်အတွက် ရိုးရိုးနည်းဖြင့်တူးဖေါ်၍မရချေ။ ထိုအရပ်ဒေသများ၌ ယခုအခါ အသုံးပြုလျက်ရှိသောနည်းတနည်းမှာ ပြွန်တလုံးတွင်တလုံးသွင်းထားသောပြွန် ၄ ခုကို မြေထဲ ကန့်ရှိရာနေရာသို့ရောက်အောင်ချပေးသည်။ ပြွန်တို့၏အချင်းမှာ ၁၀ လက်မ၊ ၆ လက်မ၊ ၃ လက်မနှင့် ၁ လက်မအသီးသီးရှိကြ၏။ ၃ လက်မရှိသောပြွန်မှ အပူကဲရေနွေးငွေ့ကိုသွင်း၍ အလယ်ပြွန်မှ ဖိသိပ်လေ မှုတ်သွင်းပေးသောအခါ၊ အခြားပြွန်များမှ အရည်ပျော်နေသောကန့်ထွက်လာသည်။

စျေးမှဝယ်ယူရရှိသောကန့်ကို လျှင်မြန်စွာ မီးတိုက်ပေးသောအခါ၊ စင်တီဂရိတ် ၁၁၃° တွင်အရည်ပျော်၍ ၄၄၄·၅၃° တွင်ဆူပြီးလျှင် လိမ်မော်ဝါရောင်အငွေ့သို့ကူးပြောင်းသွားသည်။ ဤအငွေ့သည် အပူချိန်တက်လာလေလေ ရင့်လာလေလေဖြစ်၍ ၅၀၀° သို့ရောက်ရှိသောအခါ၌ အနီရင့်ရောင်ဖြစ်လာသည်။ တဖန် အပူချိန် ၅၀၀° ထက်ကျော်လွန်သောအခါ အရောင်မှာတဖြည်းဖြည်းဖျော့သွား၍၊ ၆၅၀° တွင် ကောက်ရိုးအရောင်သို့ ကူးပြောင်းသွားသည်။ ကန့်ကိုမီးရှို့ပေးသောအခါ အလွန်စူးရှပြင်းထန်သော ဆာလဖါဒိုင်အောက်ဆိုက်ခေါ် ဓါတ်ငွေ့တမျိုးကိုရသည်။ ဆာလဖါဒိုင်အောက်ဆိုက်ကို အောက်ဆီဂျင်ကဲပေးလျှင် ဆာလဖါထရိုင်အောက်ဆိုက်ကိုရ၍၊ ဆာလဖါထရိုင်အောက်ဆိုက်ကို



ကန့်များကိုပစ္စည်းသယ်ပတ်ကြိုးဖြင့် သယ်ယူနေစဉ်

ရေတွင်ပျော်ဝင်စေသောအခါ စက်မှုလက်မှုလုပ်ငန်းတွင် အလွန်အသုံးဝင်သည့် ဆာလဖျူရစ်အက်ဆစ်ကိုရသည်။

သတ္တုဝါများနှင့် အပင်များ၏ခန္ဓာကိုယ်တွင်ပါရှိသော ပရိုတင်းများမှာ အများအားဖြင့် အလွန်ရှုပ်ထွေးသော ကန့်ဒြပ်ပေါင်းများဖြစ်ကြသည်။ ဆံပင်တွင် ကန့် ၅ ရာခိုင်နှုန်းအထိပါသည်။ လူတို့တွင်ကန့်၏အသုံးဝင်ပုံမှာ အလွန်များပြောင်ပေသည်။ အသီးခြောက်များတာရှည်ခံအောင်ပြုလုပ်ရာ၌ ကန့်ကိုအသုံးပြုလေ့ရှိသည်။ ဆာလဖါနီလာမိုက်၊ ဆာလဖါဂွာနဒင်း၊ ဆာလဖါသိုင်ယာဇိုး စသောဆာလဖါဆေးများမှာ ကန့်ဝင်ဆေးများဖြစ်၍ ရောဂါအမျိုးမျိုးအတွက်အလွန်အသုံးဝင်သည်။ ဝဲခြောက်နာနှင့်ပွေးတို့ကဲ့သို့ အရေပြားတွင်ဖြစ်သောအနာများကို အကြောတွင်ကန့်ကော်လိုက်ထိုးပေး၍ကုသကြရသည်။ ဆာလဖါဒိုင်အောက်ဆိုက်ကို တံမြက်စည်း၊ ကောက်ရိုးဖြင့်ပြုလုပ်ထားသော အသုံးအဆောင်များ စသည်တို့ကိုအရောင်ချွတ်ရာ၌သုံးသည်။ ကန့်ဒြပ်ပေါင်းဖြစ်သောကျောက်ချဉ်ကို သားရေနယ်ရာ၌ဖြစ်စေ၊ ဆေးဆိုးရာ၌ဖြစ်စေ၊ စက္ကူပြုလုပ်ရာ၌ဖြစ်စေ အသုံးပြုသည်။ ဓါတ်ပုံရိုက်ရာ၌အသုံးပြုသောဟိုက်ပိုမှာ ဆိုဒီယမ်သိုင်အိုဆာလဖိတ်ဖြစ်သည်။ ကော့ပါးဆာလဖိတ်နှင့်ကာဗွန်ဒိုင်ဆာလဖိုက် (ဒ) မှာ ပိုးနှိမ်ဆေးအဖြစ်ဖြင့်၎င်း၊ ဖဲရပ်ဆာလဖိတ်မှာမင်ပြုလုပ်ရာ၌၎င်း၊ အသီးသီးအသုံးဝင်သည်။ (ဆာလဖါဆေးများ — ရှု)။

ကုန်စည်ကူးသန်းရောင်းဝယ်ရာ၌ ကန့်ကိုအသွင်အမျိုးမျိုးတွေ့ကြရသည်။ ကန့် (ဆာလဖါ) ဟူ၍ရိုးရိုးခေါ်သောအမျိုးအစားမှာ အနံ့နှင့်အရသာကင်းသောအဝါရောင်အမှုန့်ဖြစ်၏။ မစ်–အော့–ဆာလဖါသည် ဖြူယော်ယော်အရောင်ရှိသောအမှုန့်ဖြစ်သည်။ ကန့်ရိုးရိုးကိုထုံးရည်ဖြင့်ကျိုချက်၍ ဟိုက်ဒရိုကလောရစ်အက်ဆစ်အပျော့ရည်ထည့်ပေးသောအခါ ကန့်မှုန့်များအနည်ထိုင်လာသည်။ အနည်ကိုစစ်၍ဆေးကြောပြီးအခြောက်ခံယူလျှင် မစ်–အော့–ဆာလဖါကိုရသည်။ ကူးသန်းရောင်းဝယ်ရာ၌အသုံးပြုသော အခြားကန့် ၂ မျိုးမှာ ကန့်အတောင့်နှင့်ဖလားဝါး–အော့–ဆာလဖါခေါ် ကန့်အမှုန့်များဖြစ်ကြသည်။

**ကန့်,အိုင်** (ခရစ် ၁၇၂၄–၁၈၀၄)။ ။နာမည်ကျော် ဂျာမန်လူမျိုးယထာဘူတကဝိကြီး အီမန်းနျူအယ်ကန့်သည် ၁၇၂၄ ခုဧပြီလ ၂၂ ရက်နေ့၌ အရှေ့ပရပ်ရှားပြည်၊ ကေးနစ့်ဗတ်မြို့တွင်ဖွားမြင်သည်။ အဖိုးဖြစ်သူမှာ စကော့တလန်ပြည်မှပြောင်းရွှေ့လာခဲ့သူဖြစ်၍၊ ဖခင်မှာကား ထိုမြို့တွင်မြင်းကုန်းနှီးကကြိုးတန်ဆာများလုပ်ကိုင်ရောင်းချသူဖြစ်၏။ ကန့်အားအသက် ၁၀ နှစ်သားလောက်တွင် သီယိုလိုဂျီခေါ်ဗြဟာဒေဝဗေဒကို လေ့လာရန်အတွက် ကျောင်းသို့ပို့ခဲ့



ဂျာမန်လူမျိုး ယထာဘူတကဝိကြီး အီမန်းနျူအယ် ကန့်

၏။ သို့သော်ထိုစဉ်က သူသည် ဂရိနှင့်လက်တင်စာပေတို့ကို အထူးလေ့လာခဲ့ရာ အလားအလာများစွာရှိသူတယောက်အဖြစ် အသိအမှတ်ပြုခြင်းခံခဲ့ရသည်။ ၁၇၄၀ ပြည့်နှစ်၌ တက္ကသိုလ်တွင် ပညာဆက်လက် ဆည်းပူးသည့်အခါတွင်လည်း ကန့်သည် သင်္ချာဘာသာနှင့်ရူပဗေဒဘာသာရပ်များ၌ပိုမိုစိတ်ဝင်စားခဲ့သည်။ ယင်းသို့ ပညာကိုရှာမှီးနေဆဲတွင် သူ၏ဖခင်သည် ၁၇၄၆ ခုနှစ်၌ကွယ်လွန်သွားသဖြင့်၊ ကန့်သည်ဆရာတလှည့်၊ ကျောင်းသားတလှည့်ဖြင့် ပညာကိုဆက်လက်သင်ကြားခဲ့ရသည်။ တက္ကသိုလ်မှ ပါရဂူဘွဲ့ကိုဆွတ်ခူးပြီးနောက် ၁၅ နှစ်မျှ အလွတ်ပြဆရာအဖြစ်အသက်မွေးခဲ့သည်။ ထိုအတောအတွင်းသူ၏နာမည်မှာ စာရေးဆရာအဖြစ်ဖြင့်၎င်း၊ ကထိကအဖြစ်ဖြင့်၎င်း၊ တဖြည်းဖြည်းထင်ရှားလာခဲ့၏။ ကေးနစ့်ဗတ်တက္ကသိုလ်တွင် ပါမောက္ခရာထူးရရှိရန် ၂ ကြိမ်မျှကြိုးစားခဲ့ရာ မအောင်မြင်ခဲ့ချေ။ သို့သော်၊ အခြားတက္ကသိုလ်များက သူ့အားပါမောက္ခရာထူး၌ခန့်အပ်ရန်စကားကမ်းလှမ်းကြသည်ကိုလည်း ကန့်သည်လက်မခံခဲ့ပေ။ ၁၇၇၀ ပြည့်နှစ်တွင် ကေးနစ့်ဗတ်တက္ကသိုလ်၌ တက္ကဗေဒနှင့် အနုမာနယထာဘူတပညာရပ်ဆိုင်ရာ ပါမောက္ခရာထူးကိုရရှိလေသည်။ ထိုရာထူးတွင် ၂၇ နှစ်မျှအမှုထမ်းခဲ့၏။

ထိုသို့မိမိစိတ်ကြိုက်ရာထူးကိုရခဲ့ပြီးနောက်၊ ကန့်သည် တပည့်တို့အား တက္ကဗေဒနှင့် အနုမာနယထာဘူတပညာတို့ကိုသင်ကြားပို့ချရာ၌ သူ၏အယူအဆ၊ သဘောထား

များကို ထည့်သွင်းသင်ကြားပို့ချပေးခဲ့သည်။ ထို့ပြင် ထို ပညာရပ်များဆိုင်ရာ စာအုပ်စာတမ်းများကို ရေးသားခဲ့ရာ တွင်လည်း၊ သူ၏အယူအဆ သဘောတရားများကို ထည့် သွင်းဖော်ပြခဲ့၏။ ကန့်ရေးသားခဲ့သောစာအုပ်များမှာ အလွန်ခက်ခဲနက်နဲလှသဖြင့် သာမန်လူများ သဘောပေါက် နားလည်နိုင်မည်မဟုတ်ချေ။ သို့သော် ကန့်၏စာအုပ်များ မှာ ကမ္ဘာကျော်စာအုပ်များဖြစ်ပေသည်။

၁၇၈၁ ခုနှစ်တွင် သူ၏ အကောင်းဆုံးလက်ရာဖြစ်သော 'ကရစ်တစ်–အော့–ပျူးဝါး–ရီးဇင်း' ခေါ် စာအုပ်ကို ရေး သားထုတ်ဝေခဲ့၏။ ထိုစာအုပ်မှာ သူ၏စာအုပ်များအနက် အခက်ဆုံးနှင့် ကမ္ဘာပေါ်တွင် အကျော်ကြားဆုံးစာအုပ် ဖြစ်သည်။ လွန်ခဲ့သော အနှစ် ၂၀၀ အတွင်းထုတ်ဝေခဲ့ သော ယထာဘူတ ပညာရပ်ဆိုင်ရာကျမ်းများတွင် ထိပ် တန်းမှနေသောကျမ်းဖြစ်၍၊ ယင်းကို ယနေ့တိုင်လူအများ ဖတ်ရှုလေ့လာနေကြဆဲဖြစ်၏။ ထိုစာအုပ်တွင် အခြား သော ယထာဘူတ ကဝိများက စဉ်းစားဆင်ခြင် တိုင်းထွာ ခြင်းဖြင့် မည်မျှ ရှေ့ မည်မျှ သိရှိနိုင်သည်ဆိုသောအချက်ကို ဝေဖန်ပြခဲ့လေသည်။ သူ၏သဘောအရ ထာဝရဘုရားရှိ သည်ဆိုသော အချက်ကဲ့သို့သော အချက်မျိုးများကို မည် သည့်အခါမျှ သက်သေထုတ်၍ မပြနိုင်၊ စဉ်းစားဆင်ခြင်ရန် လည်းဉာဏ်မမှီနိုင်မည်မဟုတ်ဟုဆို၏။ သို့သော် ယင်းတို့ကို မဟုတ်ဟုလည်း မဆိုနိုင်ဟု ဆိုထားပြန်၏။ သူ့သဘော အရဆိုသော် ထိုကဲ့သို့သောအချက်များကို စဉ်းစားဆင် ခြင်ခြင်းမပြုဘဲ ယုံကြည်ချက်ဖြင့်သာ သိထားရာသည်ဟု ဆိုလေသည်။ ကန့်၏ယထာဘူတပညာကို လေ့လာလိုက် စားလိုသူများသည် တက္ကဗေဒနှင့် အနုမာန ယထာဘူတ ပညာရပ်တို့ကို အတန်ပင်ခေါက်မိထားရပေမည်။ ထို့ပြင် ကန့်၏ နက်နဲသောအယူအဆများကို သဘောပေါက်နိုင် ရန် မူလဂျာမန်စာကိုယ်ကို ဖတ်ရှုသင့်သည်ဟုဆိုလေသည်။

ကန့်နှင့်စပ်လျဉ်းသည့်ထူးခြားချက်တရပ်မှာ ကန့်သည် နေရင်းအရပ်မှ တခါမျှခွာ၍ ခရီးဝေးမထွက်ခဲ့ဘူးခြင်းပင် ဖြစ်သည်။ ကန့်သည် နေ့စဉ်ဆောင်ရွက်ရမည့် လုပ်ငန်း များကို စက်ကဲ့သို့ မှန်မှန်ဆောင်ရွက်ခဲ့သူဖြစ်၍ ထိုမြို့ရှိ ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးမှ နာရီသည် သူ့လောက် အချိန်မှန်မည်မဟုတ်ဟုဆိုကြ၏။ နေ့စဉ် နံနက် ၅ နာရီ တွင် သူ၏အစေခံကလာရောက်နှိုးသည်။ အနှစ် ၃၀ အတွင်း ထိုသို့လာနှိုးသည့်အခါတိုင်း တခါမျှမထဘဲမနေခဲ့ချေ။ ၂ နာရီစာဖတ်၍ ၂ နာရီစာပို့ချ၏။ ထို့နောက် ၁ နာရီ ခန့်စာဖတ်ကာ ရေးစရာရှိသည်တို့ကိုရေးလျက် ဟိုတယ် တခုခုတွင်ညနေစာစားသည်။ ညနေစာစားယင်း မိတ်ဆွေ များနှင့် တွေ့ဆုံစကားပြောသည်။ ကန့်မှာစကားပြော ကောင်းသူဖြစ်၍ မကြာခဏ လူစုလူဝေးကောင်းလာသဖြင့် ဟိုတယ်မကြာခဏပြောင်းကာ ညနေစာစားသောက်ရ သည်။ ညနေ ၄ နာရီခွဲတွင် လမ်းလျှောက်ထွက်သည်။ သူသည် ညနေစာစားပြီးတိုင်း နေပူ မိုးရွာမရှောင် နေ့စဉ် အချိန်မှန်လမ်းလျှောက်ထွက်လေ့ရှိသည်။ မည်မျှအချိန်မှန် သနည်းဆိုသော် သူလမ်းလျှောက်ထွက်လာသည်ကို တွေ့ သောအခါ ကေးနစ္စဗတ်မြို့သူမြို့သားများသည် သူတို့၏ နာရီများကိုအချိန်တိုက်လေ့ရှိသည်ဟုပင်ဆိုကြသည်။ ကန့် သည် အသက်ထက်ဆုံး အိမ်ထောင်မပြုဘဲနေခဲ့လေသည်။

**ကန့်ကူ**။ ။ကန့်ကူ (တာလက)သည် အပျော့ပျောင်းဆုံး သောတွင်းထွက်ပစ္စည်းများအနက် တခုအပါအဝင်ဖြစ်၍ ရေပါသောမက်ဂနီဇီယမ်ဆီလီကိတ်ဖြစ်သည်။ ကန့်ကူဆံမှာ ကန့်ကူအညွှန့်စားပင်ဖြစ်၏။ (ကန့်ကူဆံ — ရှု)။

ကန့်ကူသည် အလွန်ပြင်းသောအပူဒဏ်ကိုခံနိုင်သည့်ပြင် ကြာရှည်စွာလည်း ထိန်းထားနိုင်၏။ လေသလပ်ခံထား သောအခါပို၍မာလာတတ်သည်။ ကန့်ကူကို ပါးလွှာသော အဖတ်ကလေးများအဖြစ် ခွဲထုတ်နိုင်၍၊ ထိုအဖတ်ကလေး များသည် ငွေရောင် သို့မဟုတ် ငှက်ပျောညွန့်ရောင်ရှိပြီးလျှင် ပုလဲအသွေးကဲ့သို့တောက်ပြောင်၏။

ကန့်ကူသည်အလွန်ပျော့သဖြင့် အခြားတွင်းထွက်ပစ္စည်း များ၏ အပျော့အမာကိုနှိုင်းရှည့်စမ်းသပ်ရန် စံအဖြစ်သုံး သည်။ မည်မျှပျော့ပျောင်း၍ညက်ညောသနည်းဟူမူ လက် သည်းဖြင့်ထိရုံမျှနှင့် ခြစ်ရာထင်စေနိုင်ကြောင်းကိုတွေ့ရ၏။ ပြင်သစ်မြေဖြူဆိုသည်မှာလည်း ညက်ညောသောကန့်ကူ မှုန့်ပင်ဖြစ်၏။ ကန့်ကူကို ကိုယ်လိမ်းပေါင်ဒါ၊ ကျောက်တံ၊ စက္ကူနှင့်ချောဆီစသည်တို့ပြုလုပ်ရာတွင် ထည့်သွင်းအသုံးပြု လေ့ရှိကြသည်။

မြောက်အမေရိကတိုက်တွင် ကန့်ကူကိုအနှံ့အပြားတွေ့ ရ၍ ကနေဒါ၊ ဗြိတိန်၊ ဆွစ်ဇာလန်၊ ဩစတြီးယားနိုင်ငံတို့မှ လည်း တူးဖော်ရရှိသည်။

**ကန့်ကူဆံ**။ ။ကန့်ကူဆံမှာ ရှေးအခါကစာရေးကရိယာ ကျောက်တံတမျိုးပင်ဖြစ်သည်။ ရှေးအခါက မြန်မာများ သည် ပုရပိုက်နက်ဟုခေါ်သော အနက်ရောင်စက္ကူရွက်ချပ် အလွှာခေါက်များပေါ်တွင် ကန့်ကူဆံဖြင့်စာရေးကြရသည်။ စာပေစတင်သင်ကြားသောအခါ ကန့်ကူဆံကိုကိုင်တွယ်ပုံက အစ သင်ကြားရသဖြင့် ဆရာဦးများကို 'ကန့်ကူလက်လှည့် ဆရာ' ဟူ၍လည်းခေါ်တွင်ကြသည်။

ကန့်ကူဆံသည် ကန့်ကူခေါ် တွင်းထွက်ပစ္စည်းတမျိုး မှရရှိသောကျောက်နုဖြစ်၍ အတုံးအခဲအစကလေးများ ဖြစ်သည်။ ထိုအစများကို တုတ်ချောင်းငယ်သဏ္ဍာန် အဖျားချွန်၍ဖြစ်စေ၊ ကြေးပြွန်တံငယ်၏ထိပ်တွင်တပ်၍

ဖြစ်စေ ရေးသားကြရလေသည်။ (ကန့်ကူ — ရှု)။

ကန့်ကူဆံသည် အစိမ်းနုရောင်သန်း၍ ဆွတ်ဆွတ်ဖြူလည်း ရှိသည်။ ကန့်ကူအနက်ဟူ၍လည်းရှိသည်။

ရှေးအခါက ကန့်ကူဆံများကို ဘုရင့် ဘဏ္ဍာတိုက်သို့ ပို့အပ်ရ၍ ဘုရင်ကဆိုင်ရာစုရေး၊ စုကိုင်၊ စာချီများသို့၎င်း၊ ရဟန်းသံဃာများသို့၎င်း၊ ထုတ်ပေးလှူဒါန်းသည်။ မြန်မာရာဇဝင်တွင် ဆရာတော်ဦးကျည်ပွေ့သည် အသက်ကြီးရင့်မှ စာသင်လိုသဖြင့် နန်းတော်သို့ကန့်ကူဆံ အလှူခံသွားရာ ဘုရင်က 'ရှတ်ကျည်ပွေ့အတက်ပေါက်ဦးအံ့လော' ဟု ပြောဆိုကြောင်းနှင့် စကားစဉ်ရှိသည်။

**ကန့်ပလာပင်**။ ။မြန်မာနိုင်ငံ၌ ဧရာဝတီမြစ်ဝကျွန်းပေါ် ဒေသနှင့် ပင်လယ်ကမ်းတလျှောက်ရှိ လမုတော၊ လမဲ့တောတို့တွင် ကန့်ပလာပင်များကိုတွေ့ရသည်။ ကန့်ပလာ



ကန့်ပလာပင်၏ အသီးနှင့်အရွက်များ

ပင်သည် ပေ ၈၀ ကျော်အထိမြင့်တတ်သဖြင့် အဆိုပါလမုတော၊ လမဲ့တောများတွင် အမြင့်မားဆုံးဖြစ်၏။ ကန့်ပလာပင်သည် ယုကလစ်တပ်ပင်နှင့်ခပ်ဆင်ဆင်တူ၍ အကိုင်းဖျားများ အောက်ဖက်သို့ညွတ်ကျလျက်ရှိတတ်သည်။

ကန့်ပလာသား၏အရောင်မှာ နီညိုရောင်ဖြစ်၍ အသားအတော်အသင့်မာသည်။ ခြအဖျက်လွယ်သော်လည်းအသင့်အတင့်တာရှည်ခံသဖြင့်၊ အိမ်ဆောက်ရန် အပြင် သေတ္တာ၊ အိမ်သုံးပစ္စည်းနှင့် လှေများလုပ်ရာ၌ အသုံးဝင်သည်။

**ကန့်ဘလူမြို့**။ ။ကန့်ဘလူမြို့သည် ရွှေဘိုခရိုင်ကန့်ဘလူနယ်၏ရုံးစိုက်ရာမြို့ဖြစ်၍၊ ရွှေဘိုမြို့၏မြောက်ဖက် ၄၆ မိုင်ကွာ စစ်ကိုင်း–မြစ်ကြီးနား မီးရထားလမ်း ပေါ် တွင်တည်ရှိသည်။ တောင် ဖက် တွင် ခင်ဦး မြို့နယ် နှင့် ဆီဆုံကြီး ရွာ၊ မြောက်ဖက်တွင်ဒေါင်းယူးချောင်း၊ အရှေ့ဖက်တွင် ဧရာဝတီမြစ်၊ အနောက်ဖက်တွင် ကျွန်းလှမြို့နယ် နှင့် အထက်ချင်းတွင်းနယ်စပ်တို့တည်ရှိသည်။ မီးရထားဌာနတွင် အရေးပါသောဘူတာရုံတခု ဖြစ် ၍၊ မီးရထားဖက် ဆိုင်ရာအရာရှိကြီးယ်နှင့် အမှုထမ်း များစွာနေထိုင်ပြီးလျှင် စက်ခေါင်းရုံကြီးများလည်းရှိသည်။ ထို့ပြင်မီးရထားရဲဌာနဘ၁နှင့် မီးရထားဌာနဆေးရုံများလည်းရှိသည်။ နယ်အုပ်ချုပ်ရေး ဆိုင် ရာ တွင်လည်း နယ်ပိုင်ဝန်ထောက်ရုံး၊ မြို့ပိုင်ရုံး၊ ရဲဌာန၊ စာပို့တိုက်၊ ဆေးရုံ၊ နိုင်ငံတော်မူလတန်းကျောင်း၊ ဈေးနှင့် နယ်စီးတောအုပ်ရုံးများရှိသည်။ မြို့မှာသစ်တောအတွင်း၌တည်ရှိ၍ ကျောထောက်နောက်ခံနယ်တွင် သီးနှံစိုက်ပျိုးလုပ်ကိုင်မှုများစွာမရှိချေ။ သစ်လုပ်ငန်း (မီးရထားလမ်းဇလီဖါးတုံးလုပ်ငန်း) သာလျှင် တွင်ကျယ်လေသည်။

ကန့်ဘလူနယ်တွင် ကန့်ဘလူမြို့နယ်နှင့် ကျွန်းလှမြို့နယ်များပါဝင်၏။ ကန့်ဘလူမြို့နယ်မှာ စတုရန်းမိုင် ၁၅၃၆ ကျယ်ဝန်း၏။ မြို့နယ်၏လူဦးရေမှာ ၇၃,၅၂၁ ခန့်ရှိ၍ ၁၃,၅၈၅ ခန့်မှာ မြန်မာမွတ်စလင်များဖြစ်ကြသည်။ ကန့်ဘလူမြို့ပေါ်တွင် အိမ်ခြေ ၆၀၀ ခန့်ရှိ၍ လူဦးရေ ၃,၀၀၀ ခန့်နေထိုင်သည်။ မြေဒူး၊ ဆားကုန်း၊ ဆားကိုင်း၊ ထူးကြီး၊ ဝက်တိုး၊ ခြင်မြစ်ကျင်း၊ ကျီစုနှင့်ငါးရာနဲ၊ သဗ္ဗတ်ကုန်း၊ ကျောက်တိုင်ရွာများတွင် မြန်မာမွတ်စလင်အများနေထိုင်ကြသည်။ မြေဒူးမြို့တွင်ထင်ရှားသောရွှေဂူကြီးစေတီတော်ရှိ၍ထိုဘုရားပွဲတော်ကို နှစ်စဉ်တပေါင်းလပြည့်နေ့တွင်ကျင်းပလေ့ရှိ၏။

စိုက်ပျိုးလုပ်ကိုင်ကြသောသီးနှံများမှာ စပါး၊ ပဲ၊ ပြောင်း၊ နှမ်း၊ မြေပဲ၊ လူး၊ ဆပ်၊ ခရမ်းချဉ်၊ ခရမ်းချို၊ အုန်း၊ ထန်းတို့ဖြစ်၏။ သစ်လုပ်ငန်းမှာအတွင်ကျယ်ဆုံးဖြစ်လေသည်။

ကန့်ဘလူမြို့နယ်အတွင်းပဥ္စလ ၅ မြို့မှ ရှေးကကျောက်မီးသွေးထွက်သည်ဟုအဆိုရှိ၏။ သို့ရာတွင်တတ်ကျွမ်းသူများကမူ ကျောက်မီးသွေးနုလွန်းသေးသဖြင့် အသုံးပြုရန်မသင့်သေးဟုဆိုသည်။

ရွှေဘိုတခရိုင်လုံး၏ အသက် သွေး ကြောတရပ် ဖြစ် သော ကဘိုရေလွှဲဆည်မှာလည်း ကန့်ဘလူနယ်အတွင်း၌ တည်ရှိသည်။ ထိုဆည်ကိုအမှီပြု၍ ဆန် စပါး စိုက် ပျိုး ကြ သည်။ (ကဘိုရေလွှဲဆည် — ရှု)။

**ကန်စွန်းပင်**။ ။ကန်စွန်းပင်ကို ရုက္ခဗေဒအလိုအားဖြင့် အစ်ပိုမီးယားဟုခေါ်သည်။ ကွန်ဗေါ်ဗျူလေစီအီးမျိုးရင်း

ဝင်ဖြစ်၍ မျိုးစိတ်ပေါင်း ၄၀၀ မျှရှိသည်။ ကန်စွန်းပင်မျိုးအားလုံးသည် နွယ်ပင်မျိုးသာဖြစ်သည်။

အချို့အပင်မျိုးများကို ပန်းပွင့်လှပသဖြင့် ဥယျာဉ်များတွင်စိုက်ပျိုးလေ့ရှိကြသည်။ စိုက်ပျိုးသူများက ထိုအပင်များကိုကွန်ဗော်ဗျူးလပ်အဖြစ်သိကြသည်။

မြန်မာနိုင်ငံ၌ထင်ရှားသောကန်စွန်းပင်မျိုးများမှာ ကန်စွန်းဥပင်၊ ကန်စွန်းကလေးပင်နှင့် ကန်စွန်းကြီးပင်များဖြစ်သည်။ ထိုအပင်မျိုးများကို ရုက္ခဗေဒအလိုအားဖြင့် အစ်ပိုမီးယား–ဗတေးတား၊ အစ်ပိုမီးယား–အက်ကွာ တီးကားနှင့် အာဂျီးရီးယား–စပီစီအိုးဆားဟု အသီးသီးခေါ်သည်။

ကန်စွန်းဥပင်သည်တနှစ်ခံနွယ်ပင်ဖြစ်၏။ အစွန်း ၃ ခုရှိပြီး သံလျက်ပုံရှိသည့်အရွက်များ ရွက်လွှဲထွက်ကြသည်။ ကတော့ပုံအပွင့်များ ပွင့်သည်။ အပွင့်များ၏ အတွင်းဖက်တွင် ၃ ပုံ ၂ ပုံခန့်နီလျက်အဝါဖြူသည်။ ပန်းပွင့်၏အရွယ်မှာ လက်ညှိုးရွယ်ခန့်ရှိပြီး အဝတလက်မခွဲခန့်ရှိသည်။

မိုးကျလျှင် ကုန်းတွင်နွယ်ကိုစိုက်ယူရသည်။ မိုးအကုန်တွင် မြေနိမ့်ရာနေရိပ်၌ရေလောင်းပြီး ပျိုးထားသောနွယ်သာကျန်၍ အခြားနွယ်များသေကုန်လေသည်။

နွယ်၏အရှည်မှာ တလံနှစ်လံခန့်ရှိပြီး အရွက်စိမ်းများရှိသည်။ ကန်စွန်းဥတွင် အဖြူရောင်၊ ရွှေရောင်ဥများရှိရာ အစိမ်းလိုက်ဖြစ်စေ၊ ပြုတ်၍ဖြစ်စေ၊ စားကြသည်။

ကန်စွန်းကလေးပင်သည် နှစ်ကြာခံနွယ်ပင်မျိုးဖြစ်ပြီး ရေသေတွင်အလေ့ကျပေါက်လေ့ရှိသည်။ လက် ၃ သစ်ခန့်ရှိ သံလျက်ပုံအရွက်များ ရွက်လွှဲပေါက်ကြသည်။ ကန်စွန်းရွက်နှင့်အညွန့်များကို ချက်ပြုတ်စားသောက်ရသည်။

ကန်စွန်းကြီးပင်မှာ ကန်စွန်းဥပင်နှင့်ခပ်ဆင်ဆင်တူသော တနှစ်ခံနွယ်ပင်ဖြစ်သည်။ အရွက်များကို ချက်ပြုတ်စားသောက်ရသည်။

**ကန်တာဗာရီမြို့**။ ။အင်္ဂလိပ်စာပေလောကတွင်ပုံပြင်ဝတ္ထုများကိုလင်္ကာဖြင့်ရေးဦးစွာရေးသားခဲ့သူ စာရေးဆရာကြီး ဂျက်ဖရီချော့စားသည် ကန်တာဗာရီသွား ဘုရားဖူးများ လမ်းခရီးတွင်အပျင်းပြေပြောကြဟန်ဖြင့် 'ကန်တာဗာရီပုံပြင်များ' ကို ရေးသားခဲ့လေသည်။ ကန်တာဗာရီမြို့သည် ရှေးအခါမှစ၍ ခရစ်ယန်တို့၏ အယူဝါဒရေးဆိုင်ရာ အထွတ်အမြတ်နေရာဖြစ်ခဲ့၏။ ဗြိတိန်ကျွန်းသို့ ဘီစီ ၅၅ ခုနှစ်တွင် ဂျူးလယပ်ဆီဇာချီတက်တိုက်ခိုက်စဉ်ကပင် ကန်တာဗာရီမြို့မှာအတော်အတန် ထင်ရှားစည်ကားနေလေပြီ။ စိန့်အော်ဂပ်စတင်းလက်ထက် အေဒီ ၅၉၇ ခုနှစ်မှစ၍ ကန်တာဗာရီမြို့သည် ရေဖျန်းဂိုဏ်း၏ အချုပ်အချာဗဟိုဌာနဖြစ်ခဲ့လေသည်။ အင်္ဂလန်ပြည်လုံးဆိုင်ရာ အယူဝါဒရေးကိစ္စများကို ကန်တာဗာရီမြို့ရှိကန်တာဗာရီဂိုဏ်းချုပ်ကြီးက ကြီးကြပ်အုပ်ချုပ်ရလေသည်။

ကန်တာဗာရီမြို့သည် ကင့်နယ်၏ခရိုင်မဲဆန္ဒမြို့ဖြစ်လျက်၊ လန်ဒန်မြို့၏အရှေ့တောင်ယွန်းယွန်း ၆၂ မိုင်ကွာတွင် စတောင်ဝါမြစ်ကမ်းပေါ်၌တည်ရှိသည်။ ယခုခေတ်တွင် ကန်တာဗာရီအနီး စတောင်ဝါမြစ်ကမ်းတလျှောက်၌ ဂျုံစက်များ၊ သားရေနယ်စက်များနှင့် ဖြစ်ရည်ချက်ရုံများ ထွန်းကားနေသည့်ပြင်၊ မြို့ပေါ်၌လည်း သိုးမွေး၊ နွား၊ မြင်း၊ ပြောင်းဖူးနှင့် ဟော့ခေါ်ဖြစ်ရည်ခတ်အသီးများကို အကြီး



(ဝဲ) ကန်စွန်းကြီး၊ (လယ်) ကန်စွန်းကလေး နှင့် (ယာ) ကန်စွန်းဥပင်

အကျယ်ရောင်း ဝယ်နေကြသည်။ ကန်တာဗာရီမြို့ကျက်သရေဆောင်ဖြစ်သော ကန်တာဗာရီ ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးမှာ ထင်ရှားကျော်စောသောအဆောက်အအုံကြီး တခုဖြစ်သည်။ ဝီလျံ–သ–ကွန်ကာရာ လက်ထက် ၁၀၇၀ ပြည့်နှစ်တွင် ထိုဘုရားရှိခိုးကျောင်းကြီးကို နော်မန်ဗိသုကာ ဆရာများ ကစတင်တည်ဆောက်ခဲ့၍ အနှစ် ၄၀၀ ခန့်ကြာမှ အပြီးသတ်ခဲ့လေသည်။ ထိုဘုရားရှိခိုးကျောင်းကြီး၏ အစဖြစ်သော မူလဘုရားရှိခိုးကျောင်းဟောင်းကိုကန်တာဗာရီဂိုဏ်းချုပ်ကြီးအော်ဂပ်



ကန်တာဗာရီမြို့၏ ကျက်သရေဆောင် ကန်တာဗာရီဘုရားရှိခိုးကျောင်းကြီး၏ ပလ္လင်ခန်းမ

စတင်းကတည်ဆောက်ခဲ့သည်။ သို့ရာတွင် ထိုဘုရားရှိခိုးကျောင်းဟောင်းမှာ ၉ ရာစုနှင့် ၁၁ ရာစုနှစ်အတွင်းတွင် ဒိန်းလူမျိုးများကြောင့် အတန်ပင်ပျက်စီးခဲ့ရသည့်ပြင်၊ နောက်ဆုံး ၁၀၆၇ ခုနှစ်တွင် မီးသင့်ခဲ့လေသည်။ ဝီလျံဘုရင်လက်ထက်၌ပြန်လည်တည်ဆောက်ခဲ့သော ဘုရားရှိခိုးကျောင်းကြီးမှာလည်း အကြိမ်ကြိမ်မီးသင့်ခဲ့ဘူး၏။ သို့ရာတွင် ပျက်စီးပြီး၍ ပြန်လည်တည်ဆောက်တိုင်းတိုးချဲ့မွမ်းမံခဲ့သဖြင့်၊ တချိန်ထက်တချိန်ပို၍ကြီးကျယ်ခန့်ညားလာခဲ့သည်။ ဤသို့ဖြင့်မျက်မှောက်ခေတ်တွင် ထိုဘုရားရှိခိုးကျောင်းကြီးမှာ ကန်တာဗာရီမြို့ပေါ်ရှိအခြားအဆောက်အအုံများကိုမိုး၍ မားမားမတ်မတ်တည်လျက်ရှိနေလေသည်။

ကျောက်ဖြင့်ပြီး၍ စိမ်းလန်းသောမြက်ခင်းများအလယ်တွင်ခန့်ညားစွာတည်ရှိသောထိုအဆောက်အအုံကြီးမှာ နှစ်ပရိစ္ဆေဒရှည်ကြာစွာ ရာသီဥတုဒဏ်ကို ခံခဲ့ရသဖြင့် အတန်ငယ်ကြမ်းတမ်းရင့်ရော်နေသော်လည်း တင့်တယ်သောကျက်သရေကိုဆောင်လျက်ပင်ရှိသေး၏။ အနောက်ဖက်မျက်နှာစာတွင် လုပသောမျှော်စင်ကြီး ၂ ခုရှိ၏။ သို့ရာတွင် အလယ်ဗဟိုရှိမြင့်မားသောကောင်းကင်တမန်မျှော်စင်ကြီးမှာ အချက်အခြာဖြစ်လျက်၊ ခုံးချွန်ပြတင်းများ၊ အမိုးချွန်ပြသာဒ်များ၊ နုနယ်စွာထွင်းထုထားသည့်ပန်းနွယ်ပန်းပြောက်များဖြင့် မွမ်းမံထားသည့်အတွက် တင့်တယ်ပေ၏။

ထိုဘုရားရှိခိုးကျောင်းကြီးအတွင်းတွင် အယူဝါဒရေးအာဇာနည်ဗိမာန်ရှိ၍ အရပ်ရပ်မှလာရောက်ဖူးမျှော်ကြသည်။ ၁၂ ရာစုနှစ်အတွင်းကအသတ်ခံခဲ့ရသော ကန်တာဗာရီဂိုဏ်းချုပ်ကြီး သောမတ်ဗက်ကက်၏ရုပ်ကလပ်ကို ဘုရားရှိခိုးကျောင်းအတွင်း ပလ္လင်၏နောက်၌မြုပ်နှံသင်္ဂြိုဟ်ထားခဲ့၏။ နောက်တွင်သောမတ်ဗက်ကက်အား စိန်သူတော်စင်စာရင်းသို့သွတ်သွင်းလိုက်ရာ၊ သူ၏သင်းချိုင်းရှိသောထိုဘုရားရှိခိုးကျောင်းကြီးသို့ အရပ်ရပ်မှအဖူးအမျှော်လာရောက်ကြလေသည်။ ဖူးမျှော်သူများ များပြားလွန်းသဖြင့် ဗိမာန်သို့ယင်းတို့ဒူးထောက်၍တက်သော ကျောက်လှေကားထစ်များမှာ အတန်နက်စွာခွက်နေသည်ကိုတွေ့ရလေသည်။

ကန်တာဗာရီဘုရားရှိခိုးကျောင်းကြီးမှတပါး အခြားရှေးဟောင်းအဆောက်အအုံများလည်းရှိသေး၏။ ယင်းတို့မှာ ဆက္ကဆွန်ခေတ်မတိုင်မီက ဆောက်လုပ်ခဲ့သော စိန်မာတင်ဘုရားရှိခိုးကျောင်း၊ ၁၅၄၁ ခုနှစ်တွင် အဋ္ဌမဟင်နရီဘုရင်တည်ထောင်ခဲ့သော ဘုရင့်စာသင်ကျောင်း၊ အလယ်ခေတ်ကဆောက်လုပ်ခဲ့ဟန်တူသော ၂ မိုင်ခန့်ရှည်လျားသည့်မြို့ရိုးဟောင်းကြီးစသည်တို့ပင်ဖြစ်ကြသည်။

ဒုတိယကမ္ဘာစစ်အတွင်း၌ကန်တာဗာရီမြို့သည် ဂျာမန်တို့၏ဗုံးဒဏ်ကိုအထူးခံခဲ့ရသည်။ ဂျာမန်ဗုံးကြဲလေယာဉ်ပျံများနှင့်ဗုံးပျံများကြောင့် များစွာပျက်စီးခဲ့ရ၏။ ကန်တာဗာရီ ကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးမှာ အနည်းငယ်မျှသာထိခိုက်ခဲ့သော်လည်း၊ အဖိုးတန်ပိဋကတ်တိုက်ကြီးမှာမူလုံးဝပျက်စီးသွားလေသည်။ ကဗျာကျော်ခရစ္စတိုဖါမားလိုး



ဆဟာရာသဲကန္တာရအတွင်း ခရီးသွားရာ၌ သဲခုံများကိုဤသို့ဖြတ်ကျော်ရလေ့ရှိသည်။

၏နေအိမ်ဟောင်းနှင့် စိန်အော်ဂပ်စတင်းကျောင်းတို့မှာလည်း အကြီးအကျယ်ထိခိုက်ခဲ့ကြ၏။ ကန်တာဗာရီမြို့၏ လူဦးရေမှာ ၂၅,၉၅၀ ခန့် (၁၉၅၁ ခုနှစ်) ရှိသည်။

**ကန်တာဗာရီလွင်ပြင်။** ။ကန်တာဗာရီလွင်ပြင်သည် နယူးဇီလန်တောင်ကျွန်းရှိ ကန်တာဗာရီနယ်ကြီး၏ အစိတ်အပိုင်းတခုဖြစ်သည်။ ထိုလွင်ပြင်ကြီးသည် အဲ့လပတောင်ခြေမှအရှေ့ဖက်ပစိဖိတ်ကမ်းခြေအထိမိုင် ၄၀ မျှကျယ်ပြန့်၍ အကျယ်အဝန်းမှာ စတုရန်းမိုင် ၄,၀၀၀ ခန့်ရှိသည်။ မြေဩဇာကောင်းမွန်ထက်သန်၍ မြက်ပေါသော စားကျက်ကြီးဖြစ်သည့်အလျောက် ထိုလွင်ပြင်ကြီးတွင် သိုးများကို အကြီးအကျယ်မွေးမြူကြသည်။ နယူးဇီလန်ကျွန်းရှိ ၃၄ သန်းမျှသောသိုးတို့အနက်၊ အားလုံးလိုလိုကိုပင် ထိုလွင်ပြင်ကြီး၌ ထိန်းကျောင်းမွေးမြူကြသည်။ သိုးမွေးနှင့်သိုးသားများကို နိုင်ငံခြားသို့ အထူးသဖြင့် အင်္ဂလန်ပြည်သို့ တင်ပို့ရောင်းချကြသည်။

'ကန်တာဗာရီသိုးပျိုသား' မှာ အလွန်အရသာနှင့်ပြည့်စုံသဖြင့် အင်္ဂလိပ်လူမျိုးများအထူးနှစ်သက်ကြ၍ ပွဲသဘင်အခမ်းအနားများတွင် အမြတ်တနိုးအသုံးပြုကြသည်။

**ကန္တာရများ။** ။ကမ္ဘာပေါ်ရှိအချို့ဒေသများတွင် သဲအတိပြီးသောကန္တာရများရှိလေသည်။ သဲကန္တာရများမှာ ရှည်လျားကျယ်ပြန့်သောသဲမြေပြင်ကြီးများဖြစ်၍ သစ်ပင်များပေါက်ရောက်ခြင်းမရှိ၊ တိရစ္ဆာန်များလည်းခိုအောင်းကျက်စားခြင်းမရှိချေ။ သို့သော် ကန္တာရကိုညီညာပြန့်ပြူးသည့်မြေပြင်အဖြစ်တွေ့ရခဲသည်။ သဲကန္တာရအများ၌ပင် တောင်၊ တောင်ကုန်းနှင့်ကမူများကိုတွေ့မြင်နိုင်သည်။ ကန္တာရအတွင်းခရီးသွားရသည်မှာ လွန်စွာဘေးအန္တရာယ်ပေါ်များလှ၏။ ပင်လယ်ထဲ၌ခုတ်မောင်းလျက်ရှိသော သင်္ဘောတစင်းမှလူတယောက်သည် မိမိပတ်ဝန်းကျင်၌ ရေပြင်မှတပါးအခြားအရာဝတ္ထုများကိုမမြင်ရသည့်နည်းတူ၊ ကန္တာရကြီးများအတွင်း၌ခရီးသွားရသူများသည်လည်း ပတ်ဝန်းကျင်တွင်သဲပြင်ကြီးမှတပါးအခြားအရာများကိုမမြင်ရချေ။ ထိုကန္တာရကြီးများ၌ခရီးသွားသူများသည် ကုလားအုပ်များဖြင့်တနေရာမှ တနေရာသွားလာကြရ၏။ (ကုလားအုပ်–လည်းရှု။) ထိုသို့သွားလာရာ၌ ညအခါတွင် ကောင်းကင်မှနက္ခတ်တာရာများကိုကြည့်၍သွားကြရသည်။

ကန္တာရများအတွင်း၌ လေသည်အတားအဆီးမရှိသည့်အလျောက် တခါတရံအလွန်ပြင်းထန်စွာတိုက်ခတ်၍ သဲမုန်

တိုင်းများကျရောက်တတ်သည်။ ထိုအခါမျိုး၌ခရီးသည်များသည် သဲပြင်ပေါ်တွင်ပြားပြားဝပ်လျက်နေကြရ၏။ တခါတရံ အချို့ခရီးသည်နှင့်ကုလားအုပ်များကို သဲများဖုံးလွှမ်းသွားတတ်လေသည်။

ဤသို့ပြင်းထန်သော သဲမုန်တိုင်းများကျရောက်သောအခါ ပင်လယ်ထဲ၌လေတိုက်ခတ်သဖြင့် လှိုင်းများပေါ်လာသကဲ့သို့၊ သဲကန္တာရများအတွင်း၌လည်း သဲလှိုင်းများဖြစ်ပေါ်တတ်၏။ လေယူဆောင်သွားသောသဲများသည် တနေရာ၌ကျရောက်စုပုံမိသောအခါ ရိုးကလေးများ၊ တောင်တန်းကလေးများသဖွယ် သဲခုံများဖြစ်ပေါ်လာလေသည်။

ကန္တာရများအတွင်း၌ စိမ့်စမ်းများ၊ ရေတွင်းများ၊ မြက်ပင်များ၊ စွန်ပလွံပင်များဖြင့် တန်ဆာဆင်အပ်သော နေရာကလေးများရှိ၏။ ထိုနေရာမျိုးကိုအိုအေးဆစ်ဟုခေါ်သည်။ ရေမွတ်သိပ်လျက် ပင်ပန်းနွမ်းနယ်လာသော ကန္တာရခရီးသည်များသည် ထိုအိုအေးဆစ်ခေါ် ကန္တာရရိပ်သာများ၌ ခေတ္တဝင်နားကြရ၏။ အချို့အိုအေးဆစ်များမှာ ခရီးသည်များအပန်းဖြေရန်စခန်းငယ်မျှသာဖြစ်သော်လည်း၊ အချို့မှာမူလူနေအိမ်ခြေစည်ကားသောရွာကြီးများဖြစ်ကြသည်။

ကန္တာရများသည် ယေဘုယျအားဖြင့် လူတို့အတွက် ကောင်းကျိုးချမ်းသာတစုံတရာမပေးဟုဆိုရငြားသော်လည်း၊ အာဖရိကတိုက်ရှိ ဆဟာရားသဲကန္တာရကြီးကိုဖြတ်သန်းတိုက်ခတ်သောလေပူတို့သည် ဥရောပတိုက်၏အေးမြလှသောရာသီဥတုကိုမျှတညီညွတ်စေလေသည်။

ကန္တာရများအတွင်း သက်ရှိသတ္တဝါဟူ၍ မရှိသလောက်ရှားပါး၏။ သစ်ပင်ဆိုကလည်း အချို့နေရာများ၌သာ ရှားစောင်းပင်များကိုတွေ့ရ၏။ လူများသည်လည်း အိုအေးဆစ်ခေါ် ကန္တာရရိပ်သာတို့နှင့် သဲကန္တာရအစွန်အဖျားအရပ်များ၌သာ အိုးအိမ်အတည်တကျနှင့်နေထိုင်ကြသည်။ မြက်အနည်းငယ်ပေါက်ရောက်သောနေရာများ၌ သိုးဆိတ်များကိုထိန်းကျောင်း၍ တနေရာမှ တနေရာသို့ လှည့်လည်သွားလာနေထိုင်ကြသည်။ ကန္တာရအတွင်း၌ အာရပ်လူမျိုးအများဆုံးနေထိုင်ကြ၏။ ကမ္ဘာ့သမိုင်းကိုပြန်ကြည့်လျှင်၊ ကန္တာရအတွင်း၌နေထိုင်ခဲ့သော အာရပ်လူမျိုးတို့သည် တခါက အခြားတိုင်းပြည်များစွာကိုစိုးမိုးအုပ်ချုပ်၍ ဥရောပတိုက်တောင်ပိုင်းစပိန်နိုင်ငံအထိ အာဏာစက်ဖြန့်ချီခဲ့ဘူးကြောင်းတွေ့ရသည်။

ကန္တာရများဖြစ်ပေါ်ရခြင်း၏ ယေဘုယျအကြောင်းရင်းမှာ မိုးနည်းပါးခြင်းကြောင့်ပင်ဖြစ်၏။ ကန္တာရများ၌မိုးမရွာခြင်းမှာ ကန္တာရနှင့်သမုဒ္ဒရာအကြား၌တည်ရှိသော တောင်များ ကာဆီးနေသောကြောင့်ဖြစ်၏။ သမုဒ္ဒရာမှ မိုးရေယူဆောင်လာသောလေသည် တောင်များကိုဖြတ်ကျော်သောအခါ မိုးကိုရွာချခဲ့သဖြင့်၊ ကန္တာရအတွင်းသို့ရောက်သောအခါ မိုးရေမပါတော့ချေ။ တနည်းအားဖြင့်ဆိုသော် ပူပြင်းခြောက်သွေ့သောလေသာလျှင် ကန္တာရကိုဖြတ်ကျော်တိုက်ခတ်လျက်ရှိလေသည်။

ကန္တာရအတွင်း၌ မိုးရေမရသည့်အတွက် သစ်ပင်များမပေါက်နိုင်ချေ။ စိုက်ပျိုးရေးလည်း မထွန်းကားနိုင်ချေ။ သို့ရာတွင် ယခုအခါ ခေတ်မီသည့်ဆည်မြောင်းများကိုဖေါက်လုပ်ပေးသဖြင့် ကန္တာရမြေပြင်အချို့တွင် အသီးအနှံစိုက်ပျိုးနိုင်ပေပြီ။ ကန္တာရအတွင်းသို့ရေလုံလောက်စွာပေး



သဲကန္တာရအတွင်း အိုအေးဆစ်ကိုမှီ၍ အခြေတည်စည်ကားနေသော အာရပ်ရွာ

သွင်းနိုင်လျှင် သီးနှံပင်များကို အောင်မြင်စွာစိုက်ပျိုးနိုင်ကြပေမည်။

ကမ္ဘာပေါ်ရှိအကြီးဆုံးကန္တာရမှာ အာဖရိကတိုက်မြောက်ပိုင်းရှိ ဆဟာရာသဲကန္တာရဖြစ်၏။ အခြားကန္တာရများမှာ အာရေဗျကျွန်းဆွယ်၌ အာရေဗျသဲကန္တာရ၊ မြောက်အမေရိကတိုက်၌ ကော်လိုရာဒိုးနှင့်မက္ကဆီကို သဲကန္တာရ၊ တောင်အမေရိကတိုက်၌ အာတကားမားသဲကန္တာရ၊ အာဖရိကတောင်ပိုင်း၌ကာလာဟာရီသဲကန္တာရ၊ ဩစတြေးလီးယားတိုက်၌ ဩစတြေးလီးယားသဲကန္တာရ၊ အာရှတိုက်၌ ဂိုဗီသဲကန္တာရများဖြစ်ကြ၏။ အခြားမထင်ရှားသောကန္တာရငယ်များလည်း ရှိပေသေးသည်။

**ကန္တာရဝတီနယ်။** ။ကန္တာရဝတီနယ်မှာ ကယားပြည်နယ်၏အရှေ့ဖက်ပိုင်းဒေသဖြစ်သည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၃,၀၁၅ ခန့်ရှိ၏။ မြောက်ဖက်တွင် ရှမ်းပြည်တောင်ပိုင်း ဆီဆိုင်မောက်မယ်နယ်များ၊ အရှေ့ဖက်တွင်ယိုးဒယားနယ်စပ်၊ တောင်ဖက်တွင် ဖါပွန်နယ်နှင့် တောင်ငူနယ်၊ အနောက်ဖက်တွင် ကယားပြည်နယ်၏ အနောက်ပိုင်းဒေသဖြစ်သော ဘောလခဲနယ်၊ ကြယ်ဖိုးကြီးနယ်နှင့် မိုးဗြဲနယ်တို့ဖြစ်ကြသည်။

ကန္တာရဝတီနယ်မှာ မြေပြန့်ကွင်းပြင်အလွန်နည်းပါး၍ တောင်ကုန်းထူထပ်များပြားသောဒေသဖြစ်သည်။ ပထဝီအနေအထားကိုလိုက်၍ ကန္တာရဝတီနယ်ကို အရှေ့ပိုင်း၊ အနောက်ပိုင်းဟု ၂ ပိုင်းခွဲခြားနိုင်သည်။ အရှေ့ပိုင်းမှာ သံလွင်မြစ်မနှင့် ထိုမြစ်အတွင်းသို့စီးဝင်သောလက်တက်များဖြတ်စီးရာ ကုန်းမြင့်ဒေသများနှင့်၊ သံလွင်မြစ်၏လက်တက်ကြီးဖြစ်သော ပွန်ချောင်းဖြတ်သန်းစီးဆင်းရာ ကုန်းမြင့်ဒေသတို့ပါဝင်သည်။ သံလွင်မြစ်တလျှောက်ရှိ ရှားတော၊ ရှာသစ်၊ ပိုင်းချောင်းတလျှောက်ရှိစောလုံနှင့် မယ်စဲ့ချောင်းပေါ်ရှိ မယ်စဲ့မြို့များတည်ရာဒေသများလောက်သာ မြေပြန့်ကွင်းပြင်များဖြစ်သည်။

ရှမ်းပြည်တွင်မြစ်ဖျားခံသော ဘီလူးချောင်းသည် မိုးဗြဲနယ်နှင့်လွယ်ကော်မြို့ကိုဖြတ်သန်း၍ ပွန်ချောင်းအတွင်းသို့စီးဝင်သည်။ ဘီလူးချောင်း၏တောင်ဖက်ပိုင်း မြေပြန့်တွင် ငွေတောင်ကျေးရွာအုပ်စုနှင့် လွယ်ကော်ကျေးရွာအုပ်စုတို့ရှိသည်။

၁၉၄၃ ခုနှစ်သန်ကောင်စာရင်းအရ ကန္တာရဝတီနယ်တွင် တိုက်နယ် ၁၀၊ ကျေးရွာ ၂၇၇၊ အိမ်ခြေ ၅,၆၅၇၊ လူဦးရေ ၃၇,၀၀၃ ရှိကြောင်းသိရ၏။ ကန္တာရဝတီနယ်တွင်နေထိုင်ကြသောတိုင်းရင်းသားများမှာ ကယား၊ ဂဲခို၊ ဂဲပါး၊ ယင်းဘော်၊ ယင်းတလဲ၊ မနုမနော၊လူမျိုးများဖြစ်ကြသည်။ ထိုပြင်ရှမ်း၊ အင်းသား၊ မြန်မာ၊ တရုပ်၊ ကုလားများလည်း မှီတင်းနေထိုင်ကြသည်။ ကန္တာရဝတီနယ်၏လူဦးရေတဝက်ကျော်ကျော်မှာ ဗုဒ္ဓအယူဝါဒီများဖြစ်၍၊ ကျန်လူများမှာ ခရစ်ယန်အယူဝါဒီနှင့်နတ်ကိုးကွယ်သူများဖြစ်ကြသည်။

လူဦးရေအကျယ်အဝန်းနှင့် ကယားပြည်နယ်သမိုင်းကို ထောက်ထားခြင်းအားဖြင့် ကန္တာရဝတီနယ်မှာ ကယားပြည်နယ်တွင်အကြီးဆုံးနှင့် အရေးအပါဆုံးဒေသဖြစ်သည်ဟုဆိုရပေမည်။ ဤဒေသတွင် လွယ်ကော်၊ စောလုံ၊ ရှားတော၊ မယ်စဲ့နှင့်ငွေတောင်မြို့များသည် ထင်ရှားသောမြို့များဖြစ်သည်။ စောလုံမြို့မှာ ကန္တာရဝတီနယ်၏အုပ်ချုပ်ရေးရုံးစိုက်ရာမြို့ဖြစ်ခဲ့သည်။

အစပဌမ၌ဘောလခဲနယ်မှာ ကယားပြည်နယ်သမိုင်းတွင် အချက်အခြာဒေသဖြစ်ခဲ့၏။ ဘောလခဲနယ်ကိုအုပ်စိုးသောအကြီးအကဲတို့၏ ပဌမအကြီးအကဲဖြစ်သော ဖိုးဖြူလှလက်ထက်တွင် မောင်မောင်ဖုန်းဆိုသူမွန်အမျိုးသားတဦး ဘောလခဲနယ်သို့ရောက်လာ၏။ ထိုသူ၏အင်အားအာဏာမှာ တဖြည်းဖြည်းတိုးတက်ကြီးမားလာရကား၊ ဒေသတခုတည်း၌ အုပ်စိုးသူ ၂ ဦးမရှိစကောင်းဟု ဖိုးဖြူလှကသဘောထားကြီးစွာနှင့် မောင်မောင်ဖုန်းအား ပွန်ချောင်း၏အရှေ့ဖက်ဒေသများသို့ သွားရောက်အုပ်ချုပ်စေခဲ့၏။ မောင်မောင်ဖုန်းသည်လည်းဖဖေါကြီးဘွဲ့ကိုခံယူကာ စောလုံမြို့တွင် ဟော်နန်းစိုက်ထူလျက် ကန္တာရဝတီနယ်ကိုစတင်တည်ထောင်ခဲ့သည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော် လွတ်လပ်ရေးရရှိပြီးနောက် ကယားပြည်နယ်တည်ထောင်ရာတွင်ပါဝင်သော ကန္တာရဝတီနယ်ကို အုပ်ချုပ်ရသည့်နယ်စားမှာ စပ်ဖျာစပ်လဝီဖြစ်လေသည်။ (ကယားပြည်နယ် — ရှု)။

**ကန္တာရဝတီမြို့။** ။လွယ်ကော်မြို့ — ရှု။

**ကန်တော်ကြီး။** ။ရန်ကုန်မြို့ — ရှု။

**ကန်တော်မင်းကျောင်း ဆရာတော်။** ။ကန်တော်မင်းကျောင်းဆရာတော်မှာ မြန်မာဂန္ထဝင်တွင် ထင်ရှားသော ကန်တော်မင်းကျောင်းမေတ္တာစာနှင့် လောကသာရပျို့များကို ရေးစီရင်ခဲ့သောဆရာတော်ဖြစ်သည်။

အမှတ်အသားတွေ့ရသမျှ ဆရာတော်၏အတ္ထုပ္ပတ္တိမှာ ဤသို့ဖြစ်သည်။သက္ကရာဇ် ၈၄၂ ခုနှစ် အင်းဝရွှေနန်းကို သိမ်းမြန်းစိုးစံသော ဒုတိယမင်းခေါင်၏အရီးတော်ဖြစ်သည့် စစ်ကိုင်းမြို့စားမင်းလှထွတ်၏ဆရာဖြစ်၍၊ ထိုမင်းလှထွတ်၏ တူမလည်းဖြစ်၊ ချွေးမလည်းဖြစ်သော၊ ၈၆၃ ခုနှစ်တွင်နန်းတက်သည့် ရွှေနန်းကြော့ရှင်၏အရီးတော်လည်းဖြစ်သူ ဘိုးတော်ဖွားရှင်၏ဆရာလည်းဖြစ်သည်။ မင်းလှထွတ်လက်ထက်မှဘိုးတော်ဖွားရှင်လက်ထက်တိုင် ဆက်လက်ကိုးကွယ်ခြင်းခံရသည်။

စစ်ကိုင်းမြို့စီရင်စု မြင်းမူမြို့မှ ၂ တိုင်ကွာဝေးသောထီးဆောင်းရွာမြောက်ဖက်ရှိ ကန်တော်ရွာတွင် ဖွားမြင်သည်။ ထိုရွာ၌ပင်သာမဏေတတ်ပြီးနောက် ရဟန်းဘဝသို့တက်ရောက်သည်။ ဒုတိယမင်းခေါင်လက်ထက်နှင့် သားတော်ရွှေနန်းကြော့ရှင်လက်ထက်များတွင် ထင်ရှားကျော်ကြားသည်။ ဒုတိယမင်းခေါင်ဆောက်လုပ်လှူဒါန်းသော ကန်တော်ရွာကျောင်းတွင် သီတင်းသုံးသဖြင့် ကန်တော်မင်းကျောင်းဆရာတော်ဟုတွင်သည်။



'ရေပေါ်အိမ်' များဖြင့် ပြည့်နှက်လျက်ရှိသောကန်တုန်မြို့ကမ်းနား၏ရှုခင်းတရပ်

'ကန်တော်မင်းကျောင်း၊ မေတ္တာလောင်းသား' အစချီ မေတ္တာစာကိုရေးသား၍ ရွှေနန်းကြော့ရှင်လက်ထက်တွင် သွင်းသည်။

**ကန်တုန်မြို့။** ။ကန်တုန်မြို့သည် ကွမ်းတုန်ပြည်နယ်၏ မြို့တော်ဖြစ်၍ တရုပ်နိုင်ငံတွင် စတုတ္ထအကြီးဆုံးသောမြို့ ဖြစ်သည်။ ချူးကျန်မြစ်ခေါ် ပုလဲမြစ်၏အရှေ့ဖက်ကမ်း ပေါ်တွင်တည်ရှိ၍ ပင်လယ်မှမိုင် ၈၀ ခန့်ကွာဝေးသည်။ ရှေးအခါက တရုပ်နိုင်ငံ၏ အချက်အခြာဆိပ်ကမ်းမြို့ကြီး ဖြစ်ခဲ့ပြီးလျှင်၊ ယခုခေတ်တွင်လည်း တောင်ပိုင်းတရုပ်နိုင်ငံ၏ ကုန်သွယ်မှုဗဟိုဌာနကြီး ဖြစ်သဖြင့် အထူးပင်စည်ကားလှ လေသည်။ အနောက်တိုင်းကုန်သည်များနှင့် ပဌမဆုံးဆက် သွယ်ခဲ့ရသော တရုပ်မြို့ကြီးဖြစ်သည်နှင့်အညီ၊ ပေါ်တူဂီ၊ ဒပ်ချ၊ အင်္ဂလိပ်၊ ပြင်သစ်လူမျိုးအသီးသီးတို့၏ ယဉ်ကျေး မှုများသည် ထိုမြို့မှတဆင့် တရုပ်နိုင်ငံအလုံးသို့ ပျံ့နှံ့ခဲ့ရ သည်ဖြစ်ရာ၊ တရုပ်နိုင်ငံတွင် 'အသစ်အဆန်းဟူသမျှကန် တုန်ကစသည်' ဟူ၍ပင် တရုပ်လူမျိုးတို့ပြောစမှတ်မူကြ သည်။ နိုင်ငံခြားသို့သွားရောက်နေထိုင်ကြသော တရုပ် များစွာတို့မှာလည်း ကန်တုန်မြို့သူမြို့သားများ ဖြစ်ရကား၊ နိုင်ငံခြားသားတို့သည် ယင်းတို့နှင့်အဆက်ဆံများသော ကန်တုန်တရုပ်တို့၏ဓလေ့ဝါဒတို့ကိုပင် တရုပ်တို့၏ယဉ်ကျေး မှုဟူ၍မှတ်ယူနေကြသည်။

တရုပ်လူမျိုးတို့က ကန်တုန်မြို့ကို ကွမ်ချောင်မြို့ဟုခေါ် ကြ၏။ အဓိပ္ပါယ်မှာ သိုးရုပ်မြို့ ဖြစ်သည်။ ထိုသို့ခေါ်တွင် ခြင်းမှာ ဒဏ္ဍာရီပုံပြင်တခုအရဖြစ်သည်ဟုဆိုလေသည်။ ခရစ်မပေါ်မီ နှစ် ၁၀၀ ခန့်က မြောက်ပိုင်းမြစ်ဝါဖက်မှ ပြောင်းရွှေ့လာသောခရီးသည်များသည် ယခုကန်တုန်မြို့ရှိ ရာအရပ်တွင်မြို့တည်၍ နေထိုင်ရန်စိတ်ကူးနေကြ၏။ ထိုစဉ် တွင်မြောက်အရပ်ဆီမှပင်၊ နတ်သား ၅ ဦးသည် သိုးများကို စီးကာ ကောက်ပင်အရိုးများကို ကိုင်ဆောင်လျက် ထိုလူ များထံရောက်လာကြပြီးလျှင် အေးချမ်းသာယာစွာနေထိုင် ကြရန်ညွှန်ကြားကြလေသည်။ ထိုနောက် နတ်သားများ ပျောက်ကွယ်သွား၍၊ ယင်းတို့စီးလာသော သိုးများသည် ကျောက်ရုပ်ဖြစ်၍ကျန်ခဲ့ကြ၏။ ထိုသိုးကျောက်ရုပ်များကို ယနေ့တိုင်သိုးငါးကောင်ဗိမာန်တွင်တွေ့ရှိနိုင်ပေသည်။

ပင်လယ်ရပ်ခြားတိုင်းတပါးတို့၌ စီးပွားစုမိ၍ပြန်လာကြ သော ကန်တုန်မြို့သားဇာတိများနှင့် နိုင်ငံခြားတက္ကသိုလ် များ၌ ပညာဆည်းပူး၍ပြန်လာကြသော တရုပ်အမျိုးသား ပညာတတ်များသည် ကန်တုန်မြို့ကြီး အားခေတ်မီလာ အောင် အထူးစွမ်းဆောင်ခဲ့ကြ၏။

ပင်လယ်မှ ပုလဲမြစ်ကြောင်းအတိုင်း ကန်တုန်မြို့အရောက် ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ထွက်သွားလာနိုင်စေရန် မြစ်ကြောင်းနက်အောင် ပြုပြင်ထားသဖြင့်၊ ကန်တုန်မြို့ သည် ယခင်ကထက်ပိုမိုကောင်းမွန်သော သင်္ဘောဆိပ် မြို့ကြီးဖြစ်လာတော့သည်။ ထိုပြင် မျူနီစီပယ်အုပ်ချုပ်ရေး ဖွဲ့စည်းလျက် ရေမြောင်းများဖေါက်လုပ်ခြင်း၊ ရဲအဖွဲ့ကြီးကို တိုးတက်အောင်ပြုပြင်ခြင်း၊ ရှေးဟောင်းမြို့ရိုးကြီးများကို ဖျက်လျက် ရိပ်သာလမ်းမကျယ်ကြီးများဖေါက်လုပ်ခြင်း၊ မြို့သူမြို့သားများ လေ့ညှင်းခံရန် ဥယျာဉ်ကြီးများ ပြုလုပ်



ကန်တုန်မြို့ လမ်းမကြီးတခုရှိ ရှေးဟောင်း တရုပ်လက်ရာဖြင့် မွမ်းမံထားသည့် မုတ်ပေါက်များ

ခြင်းစသည့် ခေတ်မှီသောအစီအမံများကြောင့် ကန်တုန်မြို့သည် ယခုအခါ သာယာတိုးတက်နေလေသည်။ သို့ရာတွင် အချို့အပိုင်းတို့ကား လုံးဝခေတ်မမှီသေးချေ။ ခေါင်မိုးနိမ့်နိမ့်နှင့် တထပ်အိမ်နိမ့်ကလေးများစီတန်းနေသည့် လမ်းများစွာတို့မှာ အလွန်ပင်ကျဉ်းလှသဖြင့် လူ ၂ ယောက်ရှောင်သာရုံမျှသာကျယ်လေသည်။ နှစ်ပေါင်းများစွာက ဖေါက်လုပ်ထားသော လမ်းများဖြစ်ကြသည့်အလျောက် ပေါက်ပြကာ ချိုင့်ခွက်ကြီးများဖြင့် မညီမညာဖြစ်နေလေသည်။

ကန်တုန်မြစ်ဆိပ် လှေသမ္ဗန်များပေါ်၌ လူဦးရေ ၅ သောင်းခန့်တို့ အိုးခြေအိမ်ခြေစိုက်ကာနေထိုင်ကြ၏။ များစွာသော ကန်တုန်မြို့သူမြို့သားတို့သည် ထို 'ရေပေါ် အိမ်များ' တွင်မွေး၍၊ ထိုအိမ်များ၌ကြီးပြင်းကာ၊ ထိုအိမ်များတွင်ပင်သေကြလေသည်။ ထိုသို့ လှေသမ္ဗန်များပေါ်၌ နေထိုင်ကြသောလူအားလုံးသည် ကူးတို့ပို့သူများချည်း မဟုတ်ကြချေ။ ကုန်သည်ပွဲစား၊ အလုပ်ကြမ်းသမား၊ ကျောင်းဆရာ၊ ဘုန်းကြီးစသည်ဖြင့်၊ ပါဝင်ကြသည်။

ကန်တုန်တရုပ်တို့သည် အခြားဒေသရှိတရုပ်များထက် ထကြွလှုံ့လဝီရိယရှိသူများဖြစ်ကြသည့်ပြင်၊ လက်မှုပညာတွင်လည်းအထူးသေသပ်ကောင်းမွန်ကြသည်။ ဆင်စွယ်ပန်းပု၊ ကျောက်စိမ်းပန်းပု၊ ကနုကမာထည်၊ ကြေးဝါထည်၊ ငွေထည်၊ ယပ်တောင်၊ ဇာထည်၊ ပန်းထိုးပန်းချုပ်၊ လက်ရေးကြွေထည် စသောလုပ်ငန်းများမှာ ရှေးအထက်ကျော်ကပင် ကန်တုန်မြို့က နာမည်ရခဲ့သောလုပ်ငန်းများဖြစ်ကြသည်။ အခြားထွက်ကုန်များမှာ ဆန်စပါး၊ လက်ဖက်ခြောက်၊ ပိုးနှင့် ဖျာများဖြစ်၏။

ကန်တုန်မြို့သည် ဘုရားကျောင်းကန်အဆောက်အအုံပေါများသဖြင့် ကျော်ကြားသည်။ ဘုရားကျောင်းအဆောက်အအုံပေါင်း ၅၀၀ ထက်မနည်းရှိ၏။ ထင်ရှားသောကျောင်းတန်ဆောင်းများမှာ ဟိုနန်ကျွန်းပေါ်ရှိ ဗုဒ္ဓဘုရားကျောင်း၊ ဆင်းတုငါးရာဘုရားကျောင်းနှင့် သက်ရှည်ဘုရားကျောင်းကြီးတို့ပင်ဖြစ်သည်။ အခြားအမိကရအဆောက်အအုံတို့မှာ ကွမ်ယင်တောင်ကုန်း၏ တောင်ဖက်စောင်းတွင် စိုက်ထူထားသောဆွန်ယက်ဆင်အထိမ်းအမှတ်ကျောက်တိုင်၊ ဆွန်ယက်ဆင်တက္ကသိုလ်၊ ပြင်သစ်ကသီဒရယ်ဘုရားရှိခိုးကျောင်းနှင့် ဒင်္ဂါးစက်ရုံကြီးတို့ဖြစ်၏။

ကန်တုန်မြို့၏သမိုင်းမှာ အတန်ပင်ရှေးကျလေသည်။ ဘီစီ ၂ ရာစုနှစ်မတိုင်မီက ကန်တုန်မြို့သည် တားတားဘုရင်တို့၏မြို့တော်ဖြစ်ခဲ့၏။ ထိုနောက် တရုပ်တို့၏လက်သို့ပြန်လည်ရောက်ရှိလာပြီးလျှင် နိုင်ငံခြားနှင့် ကုန်သွယ်ရာဌာနဖြစ်လာလေသည်။ ၇၀၀ ပြည့်နှစ်ခန့်တွင် အာရပ်လူမျိုးတို့သည် ရောင်းဝယ်ဖေါက်ကားရေးအတွက် ကန်တုန်မြို့သို့လာရောက်နေထိုင်ခဲ့ဘူးကြ၏။ ထိုနောက် ၁၅၁၆ ခုနှစ်တွင် ပေါ်တူဂီလူမျိုးများရောက်လာ၍ နိုင်ငံခြားကုန်သွယ်မှုကို တဦးတည်းလုပ်ကိုင်ခဲ့ကြသည်။ ၁၇၀၀ ပြည့်နှစ်လောက်တွင် ဒပ်ချ၊ ပြင်သစ်နှင့် အင်္ဂလိပ်ကုန်သည်များစုရုံးရောက်ရှိလာကြပြီးလျှင်၊ လက်ဖက်ခြောက်၊ ပိုးစသောကုန်စည်များကိုဝယ်ယူဖေါက်ကားကြလေသည်။

ထိုသို့ နိုင်ငံခြားသားများနှင့်အဆက်အသွယ်ရှိခဲ့သဖြင့်၊ ကန်တုန်မြို့သူမြို့သားများသည် ထိုစဉ်ကပင် တိုးတက်သော အသိဉာဏ်များနှင့်ပြည့်စုံကာ လွတ်လပ်သောတွေးတောမြော်ခေါ်မှုများတွင် စိတ်ဝင်စားခဲ့ကြသည်။ ထို့ပြင် မိုင် ၄၀၀ ခန့်ရှည်လျားသော တောင်တန်းတောင်ကုန်းများက ကန်တုန်မြို့ကိုဝန်းရံကာ တရုပ်ပြည်မကြီးနှင့်အဆက်ဖြတ်ထားဘိသကဲ့သို့ရှိသဖြင့်လည်း ကန်တုန်ယဉ်ကျေးမှုအရပ်

ရပ်မှာ သီးခြားကွဲပြားလျက်ရှိခဲ့သည်။ ဤသို့ဖြင့် ကန်တုန်တရုပ်စကားမှာ အခြားတရုပ်စကားတို့နှင့်မတူဘဲ တမျိုးတဘာသာဖြစ်ပြီးလျှင်၊ လူပေါင်း ၂၅ သန်းခန့်တို့၏ နေ့စဉ်ပြောဆိုသုံးစွဲသော ဘာသာတူအသံကွဲစကားဖြစ်နေလေသည်။ လွတ်လပ်သောတွေးခေါ်မှုများထွန်းကားရာ မြို့ဖြစ်ခဲ့သည်နှင့်အညီ၊ ကန်တုန်မြို့သည် တရုပ်နိုင်ငံအား အမျိုးသားသမတနိုင်ငံအဖြစ်သို့ဖန်တီးပေးသည့် တော်လှန်ရေးကြီးထွန်းပေါ်ရာ ဘူမိနက်သန်ဖြစ်ခဲ့၏။ အမျိုးသားရေးကိုလှုံ့ဆော်စည်းရုံးပေးသည့် ကိုမင်တန်အဖွဲ့သည် ကန်တုန်မြို့တွင်စတင်အမြစ်တွယ်ခဲ့၏။ လွတ်လပ်သောတရုပ်နိုင်ငံသစ်ကိုဖန်တီးပြုစုခဲ့သော ဆွန်ယက်ဆင်သည် ကန်တုန်မြို့၌ပင်အခြေစိုက်ခဲ့၏။ (ဆွန်ယက်ဆင်–လည်းရှု)။

၁၉၃၈ ခုနှစ်တွင် ဂျပန်တို့သည် ကန်တုန်မြို့ကိုသိမ်းယူလိုက်ကြသည်။ ဒုတိယကမ္ဘာစစ်အတွင်း၌ လေကြောင်းမှဗုံးများဒလကြမ်းအကြဲခံရသဖြင့်၊ ကန်တုန်မြို့မှာအထူးပျက်စီးနစ်နာခဲ့လေသည်။ ကန်တုန်မြို့၏ လူဦးရေမှာ ၁,၅၀၀,၀၀၀ မျှဖြစ်၏။

**ကန်ဒီတပ်ပင်။** ။ဆန်ကွဲပန်းပင် — ရှု။



ဗုဒ္ဓ စွယ်တော်ဓါတ်မြတ် ကိန်းဝပ်ရာ ဒါလဒမာလိဂဝ ကျောင်းတော်

**ကန္ဒီမြို့။** ။ကန္ဒီမြို့သည် သီဟိုဠ်ကျွန်း၏ရှေးဟောင်းမြို့တော်ဖြစ်သည်။ ဂေါတမမြတ်စွာဘုရား၏ စွယ်တော်တိုက်ရှိသဖြင့်၎င်း၊ ရှေးသီဟိုဠ်ဘုရင်များ၏အရိုးဂူသင်းချိုင်းများရှိသဖြင့်၎င်း၊ အလွန်လှပသောပန်းဥယျာဉ်များ၊ ဘုရားပုထိုးတန်ဆောင်းများရှိသဖြင့်၎င်း၊ ထင်ရှားကျော်ကြားသောမြို့တမြို့ဖြစ်၍ နှစ်စဉ် ခရီးသည်ပေါင်းများစွာလာရောက်လေ့ရှိသည်။

ကန္ဒီမြို့မှာ သီဟိုဠ်ကျွန်း ဗဟိုပြည်နယ်၏ မြို့တော်ဖြစ်၍၊ ပင်လယ်ပြင်မှပေပေါင်း ၁,၆၀၂ ပေမြင့်သော ကုန်းပြင်၌တည်ရှိသည်။ မြို့အနီးတွင် ၁၈၀၆ ခုနှစ်က နောက်ဆုံးကန္ဒီဘုရင်တူးဖေါ်ထားခဲ့သော လှပသည့်ရေကန်ကြီးရှိသည်။ ကိုလံဗိုမြို့မှ အရှေ့မြောက်ဖက် ၇၅ မိုင်ကွာဝေးသည်။

ကမ္ဘာ့ဗုဒ္ဓဘာသာဝင်တို့ အထွတ်အမြတ်ပြုရာ စွယ်တော်တိုက်မှာ ဒါလဒမာလိဂဝကျောင်းတော်ကြီးတွင်တည်ရှိ၍နှစ်စဉ် ကမ္ဘာအရပ်ရပ်မှလာရောက်ဖူးမျှော်ကြသည်။ ကမ္ဘာအရပ်ရပ်မှ ပါဠိနှင့်သက္ကဋဘာသာလာရောက်သင်ကြားသူများလည်း အလွန်ပေါများသည်။



ကန္ဒီမြို့ရှိ နာရီမျှော်စင်ကြီး

မြို့နှင့် ၃ မိုင်ကွာပါရဒနိယအရပ်တွင် လှပသောကမ္ဘာကျော်ပန်းခြံကြီးတည်ရှိသည်။

၁၆ ရာစုနှစ်က ပေါ်တူဂီလူမျိုးများသိမ်းပိုက်ခဲ့၍ ၁၈ ရာစုနှစ်အတွင်း ဒပ်ချလူမျိုးများသိမ်းပိုက်ခဲ့ဘူးသော်လည်း ၁၈၁၅ ခုနှစ်တွင် ဗြိတိသျှတို့ကသိမ်းယူသည်။

၁၉၄၁ ခုနှစ်သန်ကောင်စာရင်းအရ ကန္ဒီမြို့၏လူဦးရေမှာ ၃၆,၅၄၁ ယောက်ဖြစ်သည်။ ကန္ဒီမြို့သို့ ကိုလံဗိုမြို့မှမီးရထားဖြင့်သွားရောက်နိုင်သည်။ မြန်မာ့လွတ်လပ်ရေးသမိုင်းတွင် ဒုတိယကမ္ဘာစစ်ပြီးသည့်နောက် မြန်မာတပ်မတော်တည်မြဲရေးအတွက် အင်္ဂလိပ်ဖက်မှ လော့မောင့်ဗက်တန်အဖွဲ့နှင့်မြန်မာဖက်မှ ဗိုလ်ချုပ်အောင်ဆန်းခေါင်းဆောင်သောအဖွဲ့တို့ ထိုမြို့တွင်တွေ့ဆုံဆွေးနွေးရာမှ ကန္ဒီစာချုပ်ပေါ်ပေါက်ခဲ့သည်။ ကန္ဒီမြို့မှာ လက်ဖက်ခြောက်၊ လက်ဖက်စိုများတင်ပို့ရာ အချက်အခြာမြို့တမြို့ဖြစ်၍ ကူးသန်းရောင်းဝယ်ရေးလုပ်ငန်း ဖွံ့ဖြိုးသည်။

**ကန္နီမြို့။** ။ကန္နီမြို့သည် အောက်ချင်းတွင်းခရိုင်ယင်းမာပင်နယ်တွင် ပါဝင်၍ ကန္နီမြို့နယ် မြို့ပိုင် ရုံးစိုက် ရာမြို့ဖြစ် သည်။ ချင်းတွင်းမြစ်၏လက်ျာဖက်ကမ်းပေါ် တွင်တည်ရှိ၍ ပခုက္ကူမြို့မှ ၁၀၄ မိုင်ခန့်ဝေးကွာသည်။ မြောက်ဖက်တွင်မင်းကင်းမြို့နယ်၊ အရှေ့ဖက် တွင် ဘုတလင်း မြို့နယ် များ ရှိပြီး လျှင်အနောက် ဖက်၌ပုံတောင် တောင်တန်းကြီး ရှိသည်။ မြို့နယ်အတွင်းသို့ချောင်းငယ်မြောင်းငယ်များ အများအပြားပင်ဖြတ်သန်းစီးဆင်းလျက်ရှိသည်။

ကန္နီ မြို့ နယ် ၏ အကျယ် အဝန်း မှာ စတုရန်း မိုင် ပေါင်း ၁,၇၃၆ ခန့်ရှိသော်လည်း၊ ရှေးမြန်မာမင်းများလက်ထက်က ကန္နီမြို့နယ်လောက်မကျယ်ဝန်း လှချေ။ မြို့ ၏ မြောက်ဖက်တွင် ပေ ၂၀၀ ခန့်မြင့်သောရွှေမြင်းဖြူတောင်ကုန်းရှိသည်။ ထိုကုန်း မှာ ရှေး က မြို့ တော် ဟောင်း နေရာ ဖြစ် သည့်အလျောက် ကျုံးနေရာနှင့်မြို့ရိုးဟောင်းများကို ယခုတိုင်တွေ့မြင်နိုင်သေး သည်။ ပုဂံပြည်နေ်ာရထာမင်း လက် ထက်တွင် ကန္နီမြို့၌ မြို့စားထားရှိ၍ ကန္နီနေ်ာရထာဘွဲ့နှင့်အုပ်ချုပ်စေခဲ့သည်။ တရံရောအခါ၊ ကန္နီနေ်ာရထာပုန်ကန်သောကြောင့် ဘုရင့်တပ်သားများကလိုက်လံတိုက်ခိုက်ရာ၊ ကန္နီနေ်ာရထာသည် ကုန်းမြင့်ပေါ် မှမြင်းဖြူကိုကဆုံချစီးပြီး လျှင် မြစ်တွင်းသို့ဆင်းကာမိမိကိုယ်ကိုအဆုံးစီရင်လိုက်လေသည်။ မြန်မာနိုင်ငံတွင် ယခုအခါကျော်ကြားလျက်ရှိသော ၃၇ မင်းအဝင် အပါမြင်းဖြူရှင် နတ်မှာ ကန္နီနေ်ာရထာ နတ်ဖြစ်သည်ဟုဆိုကြသည်။ သီပေါမင်းတရား လက်ထက်က ကန္နီမြို့စားမှာ ဒိုင်းခင်ခင်၏ဖခင်ဒိုင်းဝန်မင်းပင်ဖြစ်သည်။

၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ ကန္နီမြို့၏လူဦးရေမှာ ၂,၆၀၀ မျှဖြစ်သည်။ ကန္နီမြို့သို့ရထားလမ်းမပေါက်သော်လည်း မြစ်တွင်းသင်္ဘောများ သွားလာဆိုက်ကပ်လျက်ရှိ၏။

မြို့နယ်အတွင်း မှီတင်းနေထိုင်ကြသူလူများစုမှာ လယ်ယာကိုင်းကျွန်းများကိုလုပ်ကိုင်ကြပြီးလျှင်၊ ဆန်စပါး၊ ပဲ၊ နှမ်း နှင့် ပြောင်း အမျိုး မျိုး တို့ ကို စိုက် ပျိုး ကြ သည်။ မြို့မြောက်ဖက်ရှိပုံတောင် တောင်တန်းတွင် ကျွန်း၊ ပိတောက်၊ ပျဉ်းကတိုးစသော သစ်မာများနှင့် ဝါးအမျိုးမျိုးတို့ထွက်သဖြင့် အစိုးရသစ်တောကြိုးဝိုင်းများလည်းရှိသည်။ ထိုသစ်တောကြီးများကိုအမှီပြုလျက် သစ်တောထွက်ပစ္စည်းများနှင့်သက်မွေးဝမ်းကျောင်းပြုသူများလည်းရှိကြသည်။

**ကန်ပက်လက်မြို့။** ။ချင်းဝိသေသတိုင်းကို စီမံခန့် ခွဲအုပ်ချုပ် ရာ ၌ မြောက် ပိုင်း ချင်း တောင်ခရိုင်၊ တောင်ပိုင်း ချင်းတောင်ခရိုင်ဟု ခရိုင် ၂ ခုခွဲထားသည်တွင်၊ တောင်ပိုင်းချင်းတောင် ခရိုင်ဝန်ရုံးစိုက်ရာမြို့မှာ ကန်ပက်လက်မြို့ဖြစ်သည်။ ချင်း ဝိသေသ တိုင်း တည် ရာ မြန်မာ နိုင်ငံ အနောက် ပိုင်း ရှိ အ နောက် ရိုး မ တောင် မြင့် တန်း ကြီး တွင် မြင့် မား သော တောင် ထွတ် တောင် ထိပ် အများ ရှိ သည့် အနက်၊ ဝိတိုရိယတောင်ထိပ်ဟု ဗြိတိသျှတို့ကခေါ် ဝေါ်၍ ခေါ်နုမထုန်း (နတ်မိမယ်) တောင်ဟု ချင်းတို့ကခေါ် သော ပေ ၁၀,၀၁၀ မြင့်သောတောင်ထွတ်ကြီး၏အရှေ့ဖက် ၁၂ မိုင်ကွာပေ ၆,၂၇၄ မြင့်သောတောင်ရိုးပေါ် တွင် တည်နေပေသည်။ ထိုတည်နေရာမှ အရှေ့လောင်ဂျီတွဒ် ၉၄·၄ နှင့် မြောက်လတ္တီတွဒ် ၂၁·၁၂ လောက်တွင်ရှိသည်။ (ချင်းဝိသေသတိုင်း — ရှု)။

ပင်လယ်ရေပြင်ထက်ပေ ၆,၀၀၀ ကျော်မြင့်သော ကုန်းမြင့်ပေါ် တွင်တည်နေရကား ကန်ပက် လက်မြို့၏ ရာသီဥတုမှာ အေးချမ်းသာယာ၍ များသောအားဖြင့် နှင်းမှုန်များဆိုင်း လျက် ရှိ သည်။ ဆောင်း ရာသီတွင် အအေး ကဲသောကြောင့် ၂ ရက် ၃ ရက်မျှပင်ရေခဲတတ်သည်။ ဗင်လား



တောင်ပိုင်းချင်းတောင်ခရိုင်၊ ခရိုင်ဝန်ရုံးစိုက်ရာ ကန်ပက်လက်မြို့တစိတ်တဒေသကို တွေ့မြင်ရပုံ

အော်ကိုမိုး၍ကြည့်နေဘိသကဲ့သို့ မြင့်မားစွာတည်နေသောကြောင့် အနောက်တောင်ရာသီလေကို ကောင်းစွာရရှိနေသည့်အားလျော်စွာ မိုးရာသီ၌အဆက်မပြတ်လိုပင် မိုးရွာသွန်းသည်။

ဗြိတိသျှတို့ကြီးစိုးစဉ်အခါက မြန်မာနိုင်ငံအလယ်ပိုင်း ရေနံချောင်း၊ ချောက်စသည်တို့တွင် ရေနံလုပ်ငန်း၊ စီးပွားရေးလုပ်ငန်း၊ အုပ်ချုပ်မှုလုပ်ငန်း လုပ်ကြကုန်သောဥရောပတိုက်သားတို့သည် ကန်ပက်လက်မြို့ကို နွေရာသီစခန်းအဖြစ်အသုံးပြုခဲ့ကြ၏။ ဝိတိုရိယတောင်ရိပ်အောက်တွင် အာကာပြင်သို့မတ်မတ်မားမားထိုးဝင်နေဘိသကဲ့သို့ အပြိုင်အဆိုင်ပေါက်ရောက်နေသည့် ထင်းရှူးတောများ၊ ရာသီလိုက်လှပတင့်တယ်စွာပွင့်သော ချယ်ရီတောများမှာ ကန်ပက်လက်မြို့၏ပက်ဝန်းကျင်ရှုမျှော်ခင်းများပင်ဖြစ်ကြ၏။

ထိုဒေသတဝိုက်၌ သဘာဝ၏လှပဆန်းကြယ်မှုတို့ဖြင့်ပြည့်စုံသည်တွင် အရောင်အသွေးအမျိုးမျိုးရှိသောသစ်ခွပန်းမျိုးစုံတို့ ဖြစ်ထွန်းရာဒေသလည်းဖြစ်ပေသည်။ ဗြိတိသျှတို့အုပ်စိုးစဉ်အခါက ကန်ပက်လက်မြို့မှာ ပခုက္ကူတောင်တန်းနယ်တွင်အပါအဝင်ဖြစ်၍ ပခုက္ကူအရေးပိုင်လက်အောက် နယ်ပိုင်ဝန်ထောက်တဦးက ဆပ်ဒီဗီဇံနယ်အဖြစ် စီမံအုပ်ချုပ်ခဲ့သည်။ လွတ်လပ်ရေး ရပြီးသည်၏နောက် အထက်တွင်ဆိုခဲ့သည့်အတိုင်း ချင်းဝိသေသတိုင်းတွင် အပါအဝင် ဖြစ်လာ၍ တောင်ပိုင်းချင်းတောင် ခရိုင်၏ အချက်အခြာနေရာဖြစ်လာသည်။ ယခင်က ရခိုင်တိုင်း စစ်တွေခရိုင်တွင်အပါအဝင်ဖြစ်သော ပလက်ဝနယ်၊ အရိုင်းနယ်ဟုခေါ်ခဲ့သောမတူပီနယ်နှင့် မင်းတပ်နယ်တို့မှာ ကန်ပက်လက်မြို့မှစီမံအုပ်ချုပ်ရသော အဆိုပါတောင်ပိုင်းချင်းတောင်ခရိုင်အပါအဝင်ဖြစ်သည်။

ကန်ပက်လက်မြို့တဝိုက် မြင့်မားမတ်စောက်ကြမ်းတမ်းသော တောင်ထွတ်တောင်ရိုးတို့မှာ ကန်ပက်လက်ချင်းတို့၏ မူရင်းဒေသဖြစ်၏။ ထိုဒေသတဝိုက်တွင် ပယင်းချောင်းနှင့် ဆောချောင်းတို့မြစ်ဖျားခံ၍ ထိုချောင်းရိုးတို့တွင် ယင်းဒူးချင်းများနေထိုင်ကြသည်။

ကန်ပက်လက်မြို့မှာ စီမံအုပ်ချုပ်ရေးအတွက် သီးသန့်ဆောက်လုပ်ထားသော အစိုးရအရာရှိများ၊ ကာကွယ်ရေးတပ်များရုံးစိုက်ရာ အစိုးရမြို့သက်သက်ဖြစ်သည်။ တောင်ရိုးတွင်တည်ထားသည့်အတိုင်း မြို့ပြင်မှာမကျယ်ဝန်းလှချေ။ ဒုတိယကမ္ဘာစစ်အတွင်းက အပျက်အစီးများပြားသဖြင့် ယခုအခါတွင် မဆိုသလောက်သော အဆောက်အအုံများသာရှိသည်။ သာမန်အရပ်သားများနေထိုင်သောအိုးအိမ်မှာ ၁၀ အိမ်မျှပင်ရှိမည်မဟုတ်ချေ။

ယခုအခါတွင် ပြည်တွင်းလေကြောင်း သယ်ယူပို့ဆောင်ရေးရှိနေသဖြင့် ကန်ပက်လက်သို့သွားရန်မခဲယဉ်းလှချေ။ ကျောက်တူလေယာဉ်ပျံကွင်းမှ ၂ မိုင်မျှဝေးသော ယောမြို့၊ ထိုမှတဆင့် ၁၅ မိုင်မျှကွာလှမ်းသောဆောမြို့၊ ဆောမြို့မှသည် ကန်ပက်လက်အထိ တောင်ရိုးတောင်တန်းတို့ကို ကျွေကောက်တက်ရသည်။ ကုန်းလမ်းခရီးအားဖြင့်ဆိုသော် ပခုက္ကူ သို့မဟုတ် ချောက်မြို့၏တဖက်ကမ်းဖြစ်သော ဆိပ်ဖြူမြို့မှ မော်တော်ယာဉ်ဖြင့် သွားရောက်နိုင်သည်။ ပခုက္ကူမှသော် ကုန်းလမ်းဖြင့် ၉၃ မိုင်ခရီးမျှသာရှိ၏။ ကန်ပက်လက်မြို့မှမြောက်ဖက် မင်းတပ်မြို့၊ ချင်းတောင်မြောက်ပိုင်း၊ ခရိုင်ဝန်ရုံးစိုက်ရာ ဖလမ်မြို့တို့သို့သွားရန် တောင်ပေါ်လမ်းခရီးရှိသော်လည်း၊ ခြေလျင် သို့မဟုတ် ဝန်တင်လားများကိုသာအသုံးပြုလျက် သွားလာကြသည်။

မြို့နေလူတို့စားသောက်ဖွယ်ရာနှင့် လူသုံးကုန်ပစ္စည်းများအတွက် ဆောမြို့ကိုအမှီသဟဲပြုရသည်။ အမဲလိုက်ဝါသနာပါသူတို့အဖို့မှာမူ ကန်ပက်လက်မြို့တဝိုက်မှာ အမဲပစ်ရန်အလွန်ကောင်းသောစခန်းတခုဖြစ်ပေသည်။ မြို့တည်ရာနေရာတွင် တောင်ရိုးပေါ်၌အထီးတည်းတည်လျက်ရှိသော ကန်ကလေးကိုအကြောင်းပြု၍ ကန်ပက်လက်ဟု အမည်တွင်ကြောင်း သမိုင်းကျောက်စာများကဆိုသည်။ ဦးဘရှင်။

**ကန်းဆပ်ပြည်နယ်**။ ။အမေရိကန်ပြည်ထောင်စုအလယ်ပိုင်းရှိ၊ ကန်းဆပ်နှင့် အာကင်ဆောမြစ်ဝှမ်းများတွင်တည်ရှိသော ကန်းဆပ်ပြည်နယ်သည် ကျယ်ဝန်းသောမြေပြန့်လွင်ပြင်ကြီးဖြစ်၍ တခါတရံ ပြင်းထန်သောဖုံမှုန်တိုင်းများ၊ လေဆင်နှာမောင်းများကျရောက်တတ်သည်မှတပါး၊ ရာသီဥတုကောင်းမွန်ညီမျှလေသည်။ အရှေ့တောင်ပိုင်းတွင်မိုးများ၍ အနောက်ပိုင်းတွင်မိုးပါးလှသည်။ ထို့ပြင် တခါတရံမိုးခေါင်တတ်၏။ သို့သော် ရေသွင်းစိုက်ပျိုးသဖြင့် ဂျုံအထွက်မှာ အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် စတုတ္ထတွင်လေသည်။ အခြားအရေးပါသော ကောက်သီးကောက်နှံများမှာ ပြောင်းဖူး၊ မုယော၊ ရိုင်းစပါး၊ ဘီသွာလျှော်၊ သကြားမုန်လာနှင့် သစ်သီးများဖြစ်၏။ မိုးပါးသောအနောက်ပိုင်းတွင်စားကျက်ကောင်းများရှိလေရာ နွားများ၊ ဝက်များအကြီးအကျယ်မွေးမြူသည်။ အမဲလုပ်ငန်းမှာ ကြီးကျယ်သောလုပ်ငန်းတရပ်ဖြစ်သည်။

ထိုနယ်၏အရှေ့ပိုင်းတွင်ဝက်သစ်ချပင်နှင့် အခြားသစ်ပင်ကြီးများပေါက်ရောက်လေသည်။

ထိုနယ်တွင်ရေနံ၊ ကျောက်မီးသွေး၊ မြေဓါတ်ငွေ့နှင့် အခြားသတ္တုများကိုလည်း တူးဖေါ်ရရှိလေသည်။

တိုပီးကမြို့မှာ မြို့တော်ဖြစ်၍၊ ကန်းဆပ်မြို့မှာထိုနယ်တွင် အထင်ရှားဆုံးနှင့် အကြီးဆုံးသောမြို့ဖြစ်သည်။ အမဲသားထုတ်လုပ်ရောင်းချရေးလုပ်ငန်းအပြင်၊ အခြားအဓိကလုပ်ငန်းကြီးများမှာ သံမဏိလုပ်ငန်း၊ လေယာဉ်ပျံလုပ်ငန်း၊ မော်တော်ကားလုပ်ငန်း၊ စိုက်ပျိုးရေးဆိုင်ရာကရိယာများ



ကန်းဆပ်ပြည်နယ်၊ တိုပီးကမြို့ရှိ ပြည်နယ်လွှတ်တော်

လုပ်ငန်းနှင့် ဗိလတ်မြေလုပ်ငန်းတို့ ဖြစ်လေသည်။ ကန်းဆပ်ပြည်နယ်သည် စတုရန်းမိုင် ၈၂,၀၀၀ ကျော်ကျယ်ဝန်းပြီးလျှင်၊ လူဦးရေ ၁,၉၀၀,၀၀၀ ခန့်ရှိလေသည်။

**ကန်းဗရားမြို့**။ ။ကန်းဗရားမြို့မှာ ဩစတြေးလီးယား ဓနသဟာယပြည်ထောင်စု၏မြို့တော်ဖြစ်၍၊ စတုရန်းမိုင် ၉၀၀ ကျော် ကျယ် ဝန်း သော ပြည် ထောင် စု သီးသန့် နယ် မြေ အတွင်း၌တည်ထား ပြီးလျှင်၊ စိမ်းလန်း သည့် တောင်ကုန်းများပေါ် တွင် လှပသောအဆောက်အအုံများဖြင့် တန်ဆာဆင်လျက်ရှိသောကြောင့် ကြည့်ရှု၍မငြီးနိုင်သော ရှုမျှော်ခင်းများရှိသည့်မြို့ဖြစ်၏။

၁၉၀၀ ပြည့်နှစ်က ဩစတြေးလီးယားဓနသဟာယပြည်ထောင်စုဖွဲ့စည်း အုပ် ချုပ် ပုံ အခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်း ခဲ့ရာ၊ ထိုဥပဒေအရ၊ အစိုးရတည်ရှိရမည့်မြို့တော်ကိုသီးခြား ဖြစ်စိမ့်သောငှာ၊ ဩစတြေးလီးယားတိုက်အရှေ့တောင်ထောင့်ရှိနယူးဆောက်သဝေးပြည်နယ်တွင် အထက်ပါအကွက်အကွင်းကျသော စတုရန်းမိုင် ၉၀၀ ကျော်ရှိ မြေလပ်ကို ပြည်ထောင်စုသီးသန့်နယ်မြေအဖြစ်ရွေးချယ်၍ ကန်းဗရားမြို့ကို ၁၉၁၃ ခုနှစ်တွင်တည်ခဲ့လေသည်။ ကန်းဗရားမြို့မှာ စတုရန်း ၁၂ မိုင်ကျယ်ဝန်း၍ မြို့ပုံစံကိုအမေရိကန်အင်ဂျင်နီယာ ဝေါ်လတာဗာလီဂရစ်ဖင်က ရေးဆွဲခဲ့၏။ မဲလဗုန်းမြို့၊ ဆစ်ဒနီမြို့များနှင့် မီးရထားလမ်းဖြင့်ဆက်သွယ်ထားရာ မဲလဗုန်းမှ ၄၂၈ မိုင်ကွာဝေး၍ ဆစ်ဒနီမှ ၂၀၄ မိုင်ကွာဝေးလေသည်။

အင်္ဂလန်ပြည့်ရှင်ဆဋ္ဌမဂျော့ဘုရင်မင်းမြတ်သည် ယော့မြို့စားမင်းသားအဖြစ်နှင့်ရှိနေစဉ်၊ ၁၉၂၇ ခုနှစ်တွင် ဩစတြေးလီးယားပြည်ထောင်စုပါလီမန် အဆောက်အအုံကြီး ဖွင့်လှစ်သည့်အခမ်းအနားသို့ ခမည်းတော်ပဉ္စမဂျော့ဘုရင်ကြီးကိုယ်စား သွားရောက်ဖွင့်လှစ်ခဲ့ဘူးလေသည်။ မြို့နယ်တဝိုက်တွင် လူဦးရေ ၁၄,၀၀၀ ကျော်နေထိုင်ကြ၏။

လှပသော တောင်ရိုးတခု၏ထိပ်ပေါ်တွင် အစိုးရအိမ်တော်တည်ရှိ၍ တောင်ဆွယ်ငယ် တခုထိပ် တွင် ပါလီမန် အဆောက် အအုံကြီး တည် ရှိ၏ ။ ရေစီး နှေး သော မြစ် တသွယ် ကိုကန်ငယ် တခု ဖြစ်စေရန် ဆည်ယူဖန်တီးလျက် ထိုကန်ပေါင်တလျှောက်နှင့် နောက်ဖက်ပတ်ဝန်း ကျင်တွင်စီမံစိုက်ပျိုးထားသည့်ဥယျာဉ်များမှာ ကမ္ဘာပေါ် တွင်ပြိုင်ဖက်ရှားလေသည်။

အစိုးရ အိမ်တော် တောင် ဖက်ရှိ တောင် ကုန်း များ ပေါ်တွင် လူနေအိမ်ခြေတို့ဖြင့်စည်ကားပြည့်နှက်လျက်၊ လကျ်ာဖက်နှင့် ရှေ့မျက်နှာစာတွင် အစိုးရရုံးအဆောက်အအုံများရှိ၏။ လက်ဝဲဖက်တွင် အစိုးရ ရာထမ်းမှုထမ်းများ၏နေအိမ်များရှိလေသည်။

အထက် ပိုင်း ကျသောနေရာတွင် စက်မှု လက်မှု ဆိုင်ရာ အလုပ်ရုံကြီးများရှိသည်။

**ကိန္နရာ**။ ။ကိန္နရာသည် မြန်မာ ကျမ်းဂန်များ၌ ဖော်ပြသော လူတပိုင်း ငှက်တပိုင်းသတ္တဝါမျိုးဖြစ်သည်။ စန္ဒကိန္နရီဇာတ်၊ တက္ကာရိယဇာတ်၊ အဋ္ဌသဒ္ဒဇာတ်၊ ဘလ္လာတိယဇာတ်များအရ၊ မဇ္ဈိမဒေသမြောက်ပိုင်း ဟိမဝန္တာတောင်တွင် ရှေးအခါက ရှိခဲ့သည်ဟုသိရသည်။



ကန်းဗရားမြို့ရှိ ဩစတြေးလီးယားဓနသဟာယပြည်ထောင်စုပါလီမန်

မြတ်စွာဘုရားအလောင်းသည် ကိန္နရာဘဝ၌ဖြစ်ခဲ့ဘူးကြောင်းကိုလည်း ဇာတ်တော်၌ဆိုသည်။ ကိန္နရာ၏အသွင်အပြင်မှာ မြင်း၏မျက်နှာနှင့်တူသောမျက်ခွက်ရှိ၍ လူနှင့်တူသော ကိုယ်အင်္ဂါရှိကြောင်းအဘိဓါန်ဋီကာ၌ဖွင့်ဆိုသည်။ ရွှေရောင်အဆင်းရှိ၍ အတီးအမှုတ်၊ အကအခုန်အတတ်ကိုလည်း တတ်မြောက်ကြသည်ဟုဆိုသည်။ မင်းလှရာဇကျော်ထင်ရေး စန္ဒကိန္နရီပျို့တွင် အကျယ်ဖွဲ့နွဲ့စပ်ဆိုထားသည်။ ကိန္နရာအမျိုးမျိုးများစွာရှိသည်ကို အဿီတိနိပါတ် မဟာကုဏာလဇာတ်တွင်ပါသည့်အတိုင်း မဃဒေဝလင်္ကာသစ်တွင် 'ဟေမာလယ၊ တောမြိုင်မက၊ ဒေဝစန္ဒ၊ သကုဏနှင့်၊ ဒုမကောန္တ၊ ဒဏ္ဍမာဏဝီ၊ ထိုပြီအပ၊ ကဏ္ဍပါဝု၊ အစပြုသား၊ လူ့ကိုယ်လူ့လက်၊ လူ့မျက်ခွက်နှင့်၊ တချက်ရုပ်ဆောင်း၊ မြင်းခေါင်းတူလှည့်၊ ငှက်၏ကိုယ်မှာ၊ လူ့မျက်နှာက၊ လူဝါလူသွင်၊ ဆံပင်နောက်လန်၊ ယမ်ငယ်သွေး၊ ငှက်မွေးတောင်ပေါက်၊ ရှယ်မဖေါက်ဘဲ' ဟူ၍ ကိန္နရာများအကြောင်းစပ်ဆိုထားသည်။ ကိန္နရာအမကို ကိန္နရီ၊ ကိန္နရီမဟုခေါ်သည်။

ကိန္နရာရှိခဲ့ဘူးကြောင်းကို အာဋာနာဋိယသုတ်တွင် မြင့်မိုတောင်၏မြောက်မျက်နှာ၊ စတုမဟာရာဇ်နတ်မင်းကြီး ၄ ပါးအပါအဝင်ဖြစ်သည့် ဝေဿဝဏ္ဏ၊ ကုဝေရနတ်မင်းကြီးများစံရာနေရာ အာဋ္ဌကမန္ဒာဝီသာဏမြို့၊ ဓရဏီရေကန်တွင် လှံတံတောင်ဝှေးစွဲကိုင်သော ဒဏ္ဍမဏဝိက ကိန္နရာမျိုးရှိကြောင်းနှင့်ဆိုသည်။

မြန်မာပဗေဒင်နက္ခတ်ကျမ်းများ၌ ၁၂ ရာသီအိမ်တွင်၊ မေထုန်ရာသီအိမ်၌ ကိန္နရာဖိုမအရုပ်ဖြင့် အမှတ်အသားပြု၍ရေးသားဖေါ်ပြကြသည်။

သာရတ္ထသင်္ဂဟအဖွင့်တွင် ပါဋလိပုတ်ပြည်သားမုဆိုးတဦးသည် ကုန္နငှက်ကိန္နရီမနှင့်သင့်မြတ်၍ တိဿနှင့် သုမိတ္တာသား ၂ ပါးကိုဖွားမြင်ကြောင်း၊ ထိုသား ၂ ပါးသည် ဝရုဏရဟန္တာထံ၌တပည့်ခံ၍ရဟန်းပြုကြရာ ရဟန္တာဖြစ်ကြောင်းနှင့်ဖေါ်ပြသည်။ မဟာဝင်တွင်ထိုတိဿရဟန္တာ (ကောန္တပုတ္တတိဿထေရ်) သည် သီရိဓမ္မာသောကမင်းကြီးနန်းသက် ၈ နှစ်ရောက်သောအခါတွင် ပရိနိဗ္ဗာန်ပြုသည်ဟုဖေါ်ပြသည်။ ထိုသို့ပရိနိဗ္ဗာန်ပြုသောအခါလောင်တိုက်၊ တလားစသောအဆောက်အအုံများ၌ဝိယာညှပ်လျက် ကိန္နရီမသဏ္ဌာန်အရုပ်တွင် လက်တဖက်ကားဝမ်းကိုမလျက် ယမံဆံဖါးလျားချကာမဟာလ္လတာတန်ဆာ၊ ချပ်ဒုယင်၊ ဖေါက်ချိပ်စသည်တို့ကို ဆင်ယင်ထားရှိသည်။ ထိုမှစ၍ ဘုန်းကြီးပျံတလား၊ စင်ရှင်၊ လောင်တိုက်တို့တွင် ဝိယာ ၄ ထောင့်၌ ကောန္တကိန္နရီရုပ်များထုလုပ်ခဲ့ကြသည်။

မြန်မာဘုရင်များ၏ရာဇပလ္လင်ဥကင်လက်ဝဲလက်ျာတို့၌လည်း ကိန္နရာကဟန်ထုလုပ်ထားလေ့ရှိသည်။ ယင်းမှာ ကိန္နရာတို့သည် နူးညံ့သောအမူအရာရှိခြင်း၊ ပန်းဝတ်ဆံတို့ကို သာသုံးဆောင်စားသောက်လေ့ရှိခြင်း၊ ၅ ပါးသောအဆင်းအင်္ဂါတို့နှင့်ပြည့်စုံခြင်း၊ ဘုရားပွင့်တော်မူသောနေ့၌ဝမ်းမြောက်စွာကခုန်မြူးထူးလေ့ရှိခြင်းစသော မင်္ဂလာတို့ကြောင့်ဖြစ်သည်။

မြန်မာရာဇဝင်တွင် ငါးထပ်ကြီးဒါယကာမင်းလက်ထက် အနောက်သလ္လာဝတီမြစ်တွင်မျောလာ၍ ဆယ်ယူရရှိသောကိန္နရာကောင်ကို ဆက်ရောက်လာဘူးကြောင်းနှင့် ဟံသာဝတီရောက်မင်းတရားစာတမ်းတွင်ဆိုသည်။ ထိုကြောင့်ဝိနိစ္ဆယပကာသနီဓမ္မသတ်လင်္ကာနိဂုံး၌ 'နတ်ကိန္နရာ၊ ဟေဝန္တာက၊ ချိန်ခါရေဦး၊ မျောလာဘူးဟု၊ ခြီးကျူးကျေညာ၊ထင်ရှားစွာသား၊ သလ္လာဝတီ၊ ရေသီတာလျှမ်း၊ ထိုမြစ်ကမ်းမှ' ဟူ၍စပ်ဆိုသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ပြည်နယ်တခုဖြစ်သောကယားပြည်နယ်၏အလံတော်အလယ်ဗဟိုတွင် ကိန္နရာရုပ်ကိုထည့်သွင်းထားသည်မှာ၊ ကယားလူမျိုးတို့သည် ကိန္နရာ၊ ကိန္နရီတို့မှ ဆင်းသက်ပေါက်ဖွားလာသောလူမျိုးများဟုယုံကြည်ဂုဏ်ယူကြသောကြောင့်ဖြစ်သည်။ ကယားလူမျိုးတို့၏ရှေးဟောင်းသီချင်းကဗျာနှင့် အယူအဆများတွင် ကိန္နရာ၊ ကိန္နရီတို့သည် ကယားပြည်နယ်ငွေတောင်တောင်ပေါ်၌ ပျော်မြူးနေထိုင်ကြသည်ဟုတွေ့ရသည်။

**ကုဏ္ဍလကေသာထေရီ။** ။ကုဏ္ဍလကေသာမှာ ဂေါတမမြတ်စွာဘုရားလက်ထက်တော်တွင် တရားထူးကိုလျင်မြန်စွာရသောကြောင့်၊ ခိပ္ပါဘိညာနံတဒဂ်ဘွဲ့ဖြင့် မြတ်စွာဘုရားခြီးမြှောက်တော်မူခြင်းခံရသော ထေရီမတပါးဖြစ်သည်။

ရာဇဂြိုဟ်ပြည်မှသဌေးသမီးတဦးဖြစ်၍ ဘဒ္ဒါအမည်တွင်သည်။ အရွယ်ရောက်သော် ဗိမ္ဗိသာရမင်းကြီး၏ပုရောဟိတ်ပုဏ္ဏားကြီးတွင်ဖွားမြင်သော သတ္တုက ခိုးသားကြီးကိုနှစ်သက်သဖြင့်၊ အပြစ်ဒဏ်စီရင်ခံရမည့်ဆဲဆဲ ခိုးသားကြီးကိုအာဏာသားတို့လက်မှ တန်ဆိုးပေးကမ်းကယ်ယူ၍ လက်ထပ်သည်။

ထိုနောက်သတ္တုကက သူ့အားသတ်ရန်ကြံစည်သဖြင့် သူ့လက်မဦးမီတောင်ပေါ်မှတွန်းချပြီးနောက်၊ တရားသံဝေဂရကာ ရှေးဦးစွာ နာဋ္ဌပုတ္တာကြီးမှူးသောနိဂဏ္ဍတက္ကတွန်းတို့ထံရောက်ရှိသွားသည်။ တိတ္ထိတို့က ရဟန်းပြုပေးရာ ဆံပင်များကိုဓါးဖြင့်မရိတ်ဘဲ နုတ်ခြင်းခံရသဖြင့်၊ အသစ်ပေါက်သောဆံပင်များတွန့်ခွေနေသည်ကိုအစွဲပြု၍ကုဏ္ဍလကေသာ (နားဒွေါင်းလိပ်သဏ္ဌာန်ဆံပင်ရှိသူ) ဟုခေါ်တွင်သည်။

သာဝတ္ထိပြည်သို့အရောက်တွင် သျှင်သာရိပုတ္တရာနှင့်တွေ့၍ ဂေါတမမြတ်စွာဘုရားထံသို့ရောက်ရာ၊ ဘုရား၏တရားတော်ကိုနာကြားရသဖြင့် ရဟန်းပြုသည်။ ထိုနောက် တနေ့

သောအခါတွင် ခြေဖမိုးပေါ်မှရေများမြေသို့စိမ့်ဝင်သည်ကို မြင်ရာမှ အနိစ္စဝိပဿနာဉာဏ်ဖြစ်ပေါ်ပြီးလျှင်၊ မြတ်စွာဘုရား၏တရားတော်ကို နာကြားရသောအခါ ရဟန္တာအဖြစ်သို့ရောက်သည်။

**ကုန်သင်္ဘောစု။** ။နိုင်ငံချင်းချင်းကူးသန်းရောင်းဝယ်ရာတွင်၊ ပင်လယ်သမုဒ္ဒရာတို့နှင့် ကုန်သင်္ဘောများသည် အထူးပင်အရေးပါခဲ့ကြသည်။ ကုန်သွယ်မှုဖြင့်အသက်မွေးဝမ်းကျောင်းပြု၍၊ ပင်လယ်သို့စတင်ကျက်စားသူများမှာ ဖီနီရှန်လူမျိုးများဖြစ်၏။ ဘီစီ ၁,၀၀၀ ကျော်ခန့်ကပင် ဖီနီရှန်တို့သည် မြေထဲပင်လယ်တွင်း၌ရှိသောဆိပ်ကမ်းမြို့ကြီးများသို့ ကြီးမားခိုင်ခံ့သောလှေကြီးများဖြင့် ဝင်ထွက်သွားလာလျက် ကုန်ရောင်းကုန်ဝယ်ပြုလုပ်ခဲ့ကြလေသည်။ ထိုမျှသာမက၊ ဂျီဗြောတားရေလက်ကြားကိုဖြတ်၍ ဗြိတိသျှကျွန်းစုရှိကွန်းဝေါနယ်မှသံဖြူများကိုပင် သွားရောက်ဝယ်ယူခဲ့ကြသည်ဟုဆိုသည်။ (ဖီနီရှန်လူမျိုးများ — ရှု)။

ဖီနီရှန်ခေတ်မှစ၍ နိုင်ငံအသီးသီးတို့သည် ကုန်သွယ်မှုအတွက် လှေသင်္ဘောများ အကြီးအကျယ် ဆောက်လုပ်ခဲ့ကြ၏။ ကုန်သင်္ဘောများ ပြားတောင့်တင်းသောနိုင်ငံသည် အထူးပင်ကြွယ်ဝလာသည့်ပြင်၊ နိုင်ငံရေးအားဖြင့်လည်း တန်ခိုးတက်လာလေသည်။ ရှေးခေတ်နိုင်ငံသမိုင်းတွင် ကုန်သင်္ဘောအင်အားတောင့်တင်းသောနိုင်ငံများမှာ ဂရိ၊ ရောမ၊ ကားသေ့နှင့် ဗင်းနစ်တို့ဖြစ်ကြ၏။

မျက်မှောက်ခေတ်တွင် ကုန်သင်္ဘော အင်အား ကောင်းသောနိုင်ငံမှာ ဗြိတိန်နိုင်ငံဖြစ်သည်။ ကုန်သွယ်မှုအတွက် ကုန်သင်္ဘောများတိုးချဲ့တည်ဆောက်သည့်လုပ်ငန်းမှာ ၁၉ ရာစုနှစ်အတွင်း အယ်လစ်ဇဗက် ဘုရင်မကြီးလက်ထက်၌ စတင်ပေါ် ပေါက်ခဲ့သည်။ ပဌမကမ္ဘာစစ်ကြီး ဖြစ်စအချိန်တွင်အင်္ဂလန်ပြည်သည်သင်္ဘောတန်ချိန်ပေါင်း၁၉,၂၅၀,၀၀၀ မျှပိုင်ဆိုင်ခဲ့၏။ ယင်းမှာ ကမ္ဘာ့အရပ်ရပ်တွင်နိုင်ငံအသီးသီးမှ ပိုင်ဆိုင်သွားလာလျက်ရှိသော ကုန်သင်္ဘောတန်ချိန်စုစုပေါင်း၏ ၃ ပုံ ၁ ပုံ ကျော်ကျော်ခန့်ဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကြီးဖြစ်စအချိန်တွင် အင်္ဂလိပ်ပိုင်သင်္ဘောတန်ချိန်မှာ ၂၁,၀၀၀,၀၀၀ မျှရှိ၍ ကမ္ဘာတွင်ပဌမစွဲခဲ့သည်။ သို့ရာတွင် စစ်ကြီးအတွင်း၌ ရန်သူရေငုပ်သင်္ဘော၊ လေယာဉ်ပျံစသည်တို့၏လက်ချက်ဖြင့် အထူးထိခိုက်နစ်မြုပ်ခဲ့ရာ၊ စစ်ပြီးသည့်နောက် ၁၉၄၇ ခုနှစ်တွင် သင်္ဘောတန်ချိန် ၁၅ သန်းကျော်ကျော်မျှသာကျန်ရှိလေတော့သည်။ အမေရိကန်ပြည်ထောင်စုသည် ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ကုန်သင်္ဘောများတိုးတက်တည်ဆောက်ခဲ့ရာ၊ ၁၉၄၇ ခုနှစ်တွင် သင်္ဘောတန်ချိန် ၃၃ သန်းကျော်မျှပိုင်ဆိုင်လာခဲ့သဖြင့်၊ ကမ္ဘာတွင်ပဌမစွဲသွားလေသည်။

အင်္ဂလန်နိုင်ငံသည် ကုန်သင်္ဘောအင်အားတောင့်တင်းခဲ့သဖြင့် ကိုလိုနီတိုင်းပြည်အများအပြားပိုင်ခဲ့သည့်ပြင် စီးပွားရေး၌လည်း ပြည့်စုံဖူလုံခဲ့၏။ ကမ္ဘာ့အရပ်ရပ်တွင် ဗြိတိသျှကုန်သင်္ဘောများ လူးလားတုံ့ခပ် သွားလာနေကြခြင်းအားဖြင့် အင်္ဂလန်၏စီးပွားရေးမှာ တိုးတက်ခဲ့လေသည်။ ဘောဂဗေဒအခေါ် အရ 'မမြင်နိုင်ထုတ်ကုန်' များအတွက် အင်္ဂလန်ပြည်သည် အကျိုးဖြစ်ထွန်းခဲ့လေသည်။ ဆိုလိုသည်မှာ ဗြိတိသျှကုန်သင်္ဘောများကိုအသုံးပြုသောနိုင်ငံ အသီးသီးမှ ကုန်တင်ခအတွက်ငွေ၊ သို့မဟုတ် ကုန်ပစ္စည်းအမြောက်အမြား အင်္ဂလန်ပြည်သို့ ဝင်လာကြလေသည်။ ပုံစံတခုပြပါအံ့။ မြန်မာနိုင်ငံသည် အင်္ဂလန်ပြည်မှစက်ပစ္စည်း၊ အထည်အလိပ်၊ စည်သွတ်ကုန်စသောပစ္စည်းများကို အလိုရှိသဖြင့် မှာယူသောအခါ ရန်ကုန်မြို့သို့ဗြိတိသျှကုန်သင်္ဘောဖြင့်တင်ပို့လိုက်၏။ ထိုသင်္ဘောသည် ရန်ကုန်မြို့မှတဖန်ပြန်ထွက်သောအခါ မြန်မာနိုင်ငံမှဆန်၊ သစ်စသည်တို့ကိုသယ်ဆောင်သွားပြန်၏။ ဤသို့လျှင် ဗြိတိသျှကုန်သင်္ဘောများမှာ ကုန်များကိုအစုန်အဆန် သယ်ယူပို့ဆောင်ကြရသဖြင့် နှစ်စဉ်နှစ်တိုင်း ကုဋေကုဋာများစွာသောဝင်ငွေများကိုရရှိကြ၍ ဗြိတိသျှသင်္ဘောသားအမြောက်အမြားမှာလည်း အလုပ်အကိုင်ရကြလေသည်။

ကုန်စည်များကို ကမ္ဘာပေါ်ရှိနိုင်ငံအသီးသီးသို့ စံနစ်တကျ သယ်ယူပို့ဆောင်နိုင်ရန်မှာ သင်္ဘောများ တည်ဆောက်ရုံမျှဖြင့်မပြီး မြောက်နိုင်ချေ။ တည်ဆောက်ပြီးသောသင်္ဘောကြီးများကိုနိုင်နင်းစွာအုပ်ချုပ်နိုင်မှု၊ ဘေးအန္တရာယ်ကင်းရှင်းစွာ မောင်းနှင်နိုင်မှုတို့လည်းလိုပေသေးသည်။ ထို့ကြောင့် သင်္ဘောအုပ်ချုပ်ခြင်းအတတ်၊ လမ်းပြအတတ်၊ ဝိုင်ယာလက်အတတ်၊ ရေကြောင်းကျင်လျှင်မှုအတတ်၊ စက်ကရိယာအတတ်စသည်တို့ကို ခွဲဝေပိုင်းခြားလျက် လူငယ်လူရွယ်ကလေးများအား ရှေးဦးစွာကျောင်းများတွင်သင်ကြားပေးပြီးလျှင် သင်္ဘောများပေါ်၌ လပေါင်းများစွာလက်တွေ့လုပ်ကိုင်စေပြီးသည့်နောက်မှသာ သင်္ဘောများတွင်အမှုထမ်းခွင့်ပြုကြလေသည်။

# လူတို့၏နေ့စဉ်လိုအင်ဖူလုံပြည့်စုံရေး

**လူတို့စားသောက်ဝတ်ဆင်သုံးစွဲသမျှကုန်ပစ္စည်းတို့ကို တနိုင်ငံနှင့်တနိုင်ငံကုန်းကြောင်းဖြင့်တတန်၊ လေယာဉ်ပျံဖြင့်တသွယ်၊ ပင်လယ်ကြောင်းဖြင့်တနည်း၊ ခရီးအဆင့်ဆင့်ကျော်ဖြတ်လျက် ရောင်းဝယ်ဖေါက်ကားခြင်းအားဖြင့်၊ နိုင်ငံအပေါင်းတို့သည် ကုန်သွယ်နှောင်ကြိုးများဖြင့်ရစ်ပတ်ဆက်သွယ်လျက်ရှိကြသည်။**

**ကုန်သွယ်ရေး။** ။ရှေးပဝေဏီအခါက လူတို့သည်ယဉ်ကျေးမှုအဆင့် နိမ့်ကျသည်နှင့် အမျှ ကိုယ်ရေး ဖူလုံမှုရှိကြ၏။ တဦးနှင့်တဦးပေါင်းသင်းဆက်သွယ်မှုနည်း သလောက်လည်းရှိသမျှ၊ ရတတ်သမျှတို့ဖြင့်ရောင့်ရဲကြ၏။ မိမိတို့နေရပ်ပတ်ဝန်းကျင်မှထွက်သော မိမိတို့အိမ်သားများ လုပ်ကိုင် ရှာဖွေနိုင်သောပစ္စည်းတို့ဖြင့်သာ တင်းတိမ်ခဲ့ကြ၏။ မိမိတို့သုံးစားရန်ထက် ပိုလျှံ၍ရလာသော ပစ္စည်းများကိုလည်းစွန့်ကြဲပေးကမ်းတတ်ကြ၏။ နှောင်းခေတ်သို့ရောက်လာသောအခါ လူတို့၏လိုအင်ဆန္ဒသည် ကြွယ်ဝထူပြော၍လာလေသည်။ ထိုအခါ ပစ္စည်းများကို ယခင်ကကဲ့သို့အလဟဿပေးကမ်းခြင်းမှရပ်စဲကြလျက် မိမိတို့တွင်ပိုသောပစ္စည်းများနှင့် မိမိတို့တွင်လိုသောပစ္စည်းများကို ဖလှယ်ယူကြလေသည်။ ဤသို့လျှင် ‘ဆန်ပေး မှဆေးရ’ ဟူသကဲ့သို့ ပစ္စည်းချင်း ကုန်ချင်းထပ်သောခေတ်သည်ပေါ်ပေါက်လာခဲ့၏။ လူတို့၏လိုအင် ဆန္ဒသည် ရပ် တန့်၍ မနေ၊ အမြဲတစေ တိုးတက် ပွားများနေသည့်အလျောက် ကုန်ချင်းထပ်သောစံနစ်မှာကြာရှည်မတည်တံ့နိုင်ခဲ့ချေ။ မူလ၌စားကုန်သောက်ကုန်စသောမရှိမဖြစ်ပစ္စည်း များ ကိုသာ ဖလှယ်ခြင်း ပြုကြသော် လည်း၊ နောက်တွင်အလှကုန်များ၊ ပကာသနကုန်များကိုတပ်မက်လာကြသည်နှင့် အမြတ်အစွန်းယူကာဖလှယ်သောအဆင့်သို့တက် လာကြသည်။ အမြတ် အစွန်း ယူလာကြသောအခါ အတုအပြိုင် လည်း ပေါ် ပေါက် လာသည်။ ဤ သို့ဖြင့် ကုန်များကိုမွမ်းမံခြယ်လယ်ပြုပြင်လာကြသည်။ အသစ်အဆန်းထွင်လာကြသည်။ အချိန်နည်း နည်း၊ စရိတ်ကျဉ်းကျဉ်းနှင့် ကုန်များများထွက်နိုင်အောင်ကြံဆောင်လာကြသည်။ လမ်းပန်းအဆက် အသွယ်တိုးတက်ကောင်းမွန် လျင်မြန် လာအောင်ကြံဆလုပ်ကိုင်လာကြသည်။ ထိုမှတစထက် တစရပ်ဝေးရပ်နီး ကူး လူး ရောင်း ဝယ် သောခေတ် သို့ရောက် လာပြန်သည်။ ထိုမှတဖန်ကုန်အမျိုးမျိုးကို ပိုက်ဆံကြေးငွေတို့ဖြင့်ဝယ်ယူနိုင်ရန်စီမံလာသဖြင့်၊ ကုန်ချင်းဖလှယ်သောခေတ်မှပိုက် ဆံကြေး ငွေဖြ င့် ဝယ်ယူနိုင် သော အဆင့် သို့ရောက် လာလေတော့သည်။ ပိုက်ဆံကြေးငွေဖြင့်မည်သည့်ကုန်ကိုမဆိုဝယ်ယူနိုင်၏။ ကုန်အနည်းအများကိုပိုက်ဆံရှိက ဝယ်ယူနိုင်သဖြင့် ကူး သန်း ရောင်း ဝယ်ရေး တိုး တက် လာလေသည်။ ထိုနောက် တနိုင်ငံမှထွက်သောကုန်များကို အခြားတနိုင်ငံမှအားထားရသောခေတ်သို့ ရောက်လာသည်။ နောက်ဆုံးတွင်ကမ္ဘာတဝှန်းလုံးရှိ မြို့ရွာ၊ ပြည်နယ်၊ နိုင်ငံ ဟူသမျှတို့သည် ကမ္ဘာ့ဈေး ကြီး အတွင်း ဝယ် မိမိတို့ အသီးသီးမှ ထွက်



ကုန်သွယ်ရေးကြောင့် အင်္ဂလန်ပြည်လန်ဒန်မြို့ဆိပ်ကမ်း၌ ဤသို့ ကုန်တင်သင်္ဘောကြီးများဖြင့် စည်ကားလျက်နေလေသည်။

သောကုန်ရိုင်း ကုန်ချောအမျိုးမျိုးတို့ကို လဲလှယ်ရောင်းဝယ်ဖေါက်ကားနေကြသောအခြေသို့ ဆိုက်ရောက်လာသည်။

'အမျိုးသားကိုယ်ရေး ဖူလုံမှု'၊ 'စီးပွား ရေး ဝံသာနုစိတ်ဓါတ်' စသောကြွေး ကြော် သံများ ကို ညံ ညံ မစဲအမြဲလိုပင်ကြားနေရသော ယခုခေတ်အခါ၌ပင်လျှင် အသေအချာစီစစ်ကြည့်ပါမူ၊ မည်သည့်နိုင်ငံမျှနိုင်ငံတကာနှင့်ကုန်သွယ်ရေးရာ၌ စင်းလုံးချောကင်းရှင်းကာကိုယ်ရေးဖူလုံမှုရရှိနေသည်ကိုတွေ့ရမည်မဟုတ်ပေ။ နိုင်ငံတိုင်း၊ လူမျိုးတိုင်း၊ တခုနှင့်တခု၊ တဦးနှင့်တဦးတနည်းနည်းအားဖြင့် ကုန်သွယ်ရေးနှောင်ကြိုးများဖြင့်တည်း ကာ၊ တုပ်ကာ ရင်း နှီး စွာရှိကြသည်မှာ အထူးပင်ထင်ရှား၍နေပေသည်။

သမိုင်းတလျှောက်ကိုလှောက်လှော၍ကြည့်ခဲ့လျှင် ကုန်သွယ် ရေး ကြောင့် ပေါ် ပေါက် ဖြစ် ထွန်း လာသော ထူး ကဲ သည့်အခြင်းအရာများကိုတွေ့ရပေမည်။ ကုန်သွယ်ရေးဖက်တွင် အားကျမခံ ထူးချွန်လိုသောစိတ် ဓါတ်၏ လှုံ့ ဆော်မှုကြောင့် ကိုလံဗပ်သည် မိမိ၏လုပ်ဖေါ် ကိုင်ဖက်များနှင့်အတူ ကမ်းမမြင်လမ်းမမြင်၊ အထင်နှင့်သာရွက်ဖွင့်ကာလွှင့်ရသော အပြောကျယ်လှသည့် သမုဒ္ဒရာအတွင်းသို့ ကြောက်ရွံ့စိုးရိမ် ခြင်း ဟူသမျှတို့ကိုပယ် လျက် ခရီး ထွက် ခဲ့သည် မှ အစ အမေရိကတိုက်ကိုနောက်ဆုံးတွေ့ရှိခဲ့လေသည်။ ထိုနည်းတူ အရှေ့နိုင်ငံများမှ ပိုးထည်ပိုးလိပ်နှင့်ဟင်းခတ်အမွှေးအကြိုင်များရရှိနိုင်ရန် ကုန်သွယ်ရေး လမ်းကြောင်း သစ် ဖွင့်လှစ်လိုသောဇောစိတ်ကြီးမားပြင်းပြလှသည့်အတွက်၊ ဗက်စကိုဒါဂါးမားသည် အာဖရိကတိုက်တောင်ဖက်စွန်းကိုပတ်၍သွားသော ပင်လယ် ခရီးလမ်း သစ် ကိုတွေ့ရှိခဲ့ရလေသည်။ ထို အသစ် တွေ့ရှိခြင်း များ ၏ တိုက် ရိုက် အကျိုး သက် ရောက် မှု ကား ဗရစ္စတို၊ လစ္စဗွန်း၊ အန့်တွပ်၊ အမ္မစတာဒမ်စသောမြို့ကြီးများ ပေါ် ပေါက်စည်ကားလာကြခြင်း ပင် ဖြစ် သည်။ အဘယ်ကြောင့် ဆိုသော် ယခင်က အရှေ့ဖက် ရှိ မြေထဲပင်လယ်ကိုသာ အားကိုးအားထားပြုခဲ့ရသော ကုန်သွယ်ရေးလမ်းကြောင်းများသည်၊ အဆိုပါလမ်း သစ် များ တွေ့ရှိလာသည်မှစ၍ အနောက်၌ရှိသောအတ္တလန္တိတ်သမုဒ္ဒရာဖက်သို့ ဦးလှည့်သွားကြသည့်အတွက်၊ မြေထဲပင်လယ်ဖက်ရှိမြို့ကြီးပြကြီးများသည် ရောင်းရေးဝယ်တာညှိုးဖျင်းတိမ်ကောသွားကြပြီးလျှင် အတ္တလန္တိတ်သမုဒ္ဒရာမျက်နှာစာဖက်၌ကုန်သွယ်ရေး အတွက် အကွက် အကွင်း ကောင်း မွန် လာ ခြင်း ကြောင့် ပင် ဖြစ် သည်။ လူသူလေး ပါး ရောက် ပေါက် ခြင်း ငှာ ခဲယဉ်းလှသည့် ဒေါရိုင်းအစိုင်းတို့၏ မင်းမူရာ ကြီးစိုးရာ ဖြစ် သော အာ ဖ ရိ က တိုက် အ တွင်း ကျ သည့် ဒေ သ ပိုင်း တို့ သို့ လူဖြူ များ သည် ကုန်သွယ် ရေး ကြောင့် ရောက် ရှိ သွား ကြ သည်သာမက၊ ထိုဒေသတို့၏တိုးတက်ရာတိုးတက်ကြောင်းတို့ကိုပင် ဆောင်ရွက်နိုင် ခဲ့ ကြ လေ သည်။ အရှေ့ဖျား ရှိ အိန္ဒိယ၊ တရုပ်၊ ဂျပန်စသောနိုင်ငံအသီးသီးတို့တွင် အနောက် တိုင်း ယဉ် ကျေး မှု များ ပြန့် ပွား ထွန်း ကား လာ ကြခြင်းတို့မှာလည်း၊ သာသနာပြုဆရာများနှင့်တကွ ကုန်သွယ်ရေးတို့၏ကျေးဇူးတရားတို့နှင့် မကင်းကြချေ။

တဖက် တွင် ကုန် သွယ် ရေး၏ အကျိုး တရားများ ထင်ရှားလျက်ရှိသည် နှင့် အညီ တစပ်တည်းဖြစ် သော အခြားတဖက်၌လည်း ကုန်သွယ်ရေး၏အပြစ်များမှာတဖွားဖွားပေါ်ပေါက် လျက် ရှိ လေ သည်။ ရောမနှင့်ကားသေ့ဂ်တို့စစ်ပြိုင်ခဲ့သောရှေးခေတ်အခါမှ ယဉ်ကျေးမှု အလင်းရောင် တောက်ပြောင်ဆုံးဟုဆိုရသောမျက်မှောက်ခေတ်အထိ၊ ရှည်လျားလှသောကာလအပိုင်းအခြားတွင် မရေတွက်နိုင်သောစစ်ပွဲများနှင့် နိုင်ငံချင်းချင်းမျက်မာန်တင်းကာ နှစ်မြှိုဖွယ်ရာမရှိ သော ဖက် ပြိုင် အံတုမှုများ သည် ကုန် သွယ် ရေး ကို အ ကြောင်း ရင်း ခံ ၍ သာ လျှင် ဖြစ် ပွား ပေါ် ပေါက် လာ ကြ သည်ဟုဆိုနိုင်ပေသည်။ တိုင်းပြည် နှင့် လူမျိုးတို့၏ အသက်သွေးခဲဖြစ်သော ကုန်သွယ်ရေးကိုပိတ်ပင်ဖြတ်တောက်လျက် စစ် အောင် နိုင် မှု ရ ရှိ စေရန် တကြိုး တစား ပြုလုပ် ခဲ့ကြသည့် သာဓကများကိုလည်း အနှံ့အပြားတွေ့ ရှိ နိုင် ပေသေး၏။ ပြင်သစ်နိုင်ငံ၏စစ်နိုင်မှုအတွက် နပိုလီယန်ဘုရင်သည် နိုင်ငံခြား ကုန် သွယ် ရေး တွင် ဖွံ့ ဖြိုး နေ သော အင်္ဂလန် ပြည် ကို 'ဥရောပတိုက်ကုန်သွယ်ရေးတားမြစ်စံနစ်' ဖြင့် ညှင်းဆဲနှိပ်ကွပ် ရန် အား ထုတ် ခဲ့ ဘူး လေ သည်။ ပဌမကမ္ဘာ စစ် ကြီး အတွင်း၌ ဂျာမနီနိုင်ငံသည်ရေငုပ်သင်္ဘောများကို စည်းလွတ်မျဉ်းလွတ် အသုံးပြုကာ အင်္ဂလန် နှင့် မဟာမိတ် များ ၏ ကုန် သွယ် ရေး သွေး ကြောကို ဖြတ် တောက် ရန်ကြိုးပမ်းခဲ့သည့် နည်း တူ၊ မဟာမိတ်နိုင်ငံ များကလည်း 'ဗဟိုနိုင်ငံများ' ဟုခေါ် သော ဂျာမနီ၊ ဩစတြီးယားနှင့်ဖက်တော်သားနိုင်ငံများကို စီးပွားရေးပိတ်ဆို့မှုဖြင့် မရှုမလှဖြစ်အောင်ကြံဆောင်အားထုတ်ခဲ့ကြလေသည်။

ကိုယ်တွေ့မျက်မြင်ဖြစ်သော မျက်မှောက်ခေတ်နေမှုစားမှုတို့၏ အခြေ အနေ များ သည် ကုန် သွယ် ရေးသာမရှိပါက စဉ်းစား၍ မရနိုင်လောက်အောင်ပင် တမျိုးတဖုံဖြစ်သွားဖွယ်ရာရှိပေသည်။ ကုန်သွယ်ရေးလုပ်ငန်း၏အရေးကြီးပုံကိုအောက်ပါသာဓကများဖြင့်ထင်ရှားသိသာနိုင်၏။

အင်္ဂလန်ပြည်သည် နေထိုင်စားသောက်ရေးဖက်တွင်ကိုယ်ရေးဖူလုံမှုမရှိသည့် အ လျောက် များ စွာ သော ကုန် ပစ္စည်းများအတွက် အခြားနိုင်ငံများကိုသာ မှီခို အားထား၍ နေရ လေ သည်။ အင်္ဂလန် တိုင်း သူ ပြည် သား တို့၏ နေ့ စဉ် စား သောက်သုံးစွဲကြသော စားဖွယ်ခဲဖွယ်များထဲ၌ပင် နိုင်ငံခြားတို့မှလာသောပစ္စည်းအများပါရှိနေချေသည်။ ကနေဒါသို့မဟုတ် အမေရိကန် ပြည် ထောင် စုမှလာသောဂျုံ၊ နယူးဇီလန်မှလာသောထောပတ်၊ ဒိန်းမတ်မှလာသော ဝက်သား



ပင်လယ်ရပ်ခြားကုန်သွယ်ရေးကိုဖွံ့ဖြိုးတိုးတက်စေသော ခေတ်သစ်ပင်လယ်ကူးကုန်တင်သင်္ဘောကြီး

ကျပ်တင် နှင့် ဘဲဥကြက်ဥ၊ တောင် အမေရိကတိုက် မှ လာသောကာဖီ၊ အနောက်အိန္ဒိယကျွန်းစုမှလာသောကိုကိုးနှင့် ကျွဲကောကလေး၊ အိန္ဒိယနှင့်တရုပ်နိုင်ငံတို့မှလာသောလက်ဖက်ခြောက်စသည်တို့သည် အင်္ဂလိပ်လူမျိုးများအရေးထား၍စားသုံးကြသော နံနက်စာဖြစ် လာကြ လေ သည်။ ထိုမျှသာမကသေး၊ နေ့စဉ်စားသုံးသောကုန်ပစ္စည်းမြောက်မြားစွာတို့အတွက်လည်း အင်္ဂလန်ပြည်သည် နိုင်ငံခြားတို့ကိုသာ အားထား၍နေရ၏။ သို့အားဖြင့် ဟင်းခတ်အမွှေးအကြိုင်များအတွက် အရှေ့အိန္ဒိယကျွန်းစုကိုရင်း၊ သိုး၊ ဆိတ်၊ နွားတို့၏အသား (အမဲသား) အတွက် တောင်အမေရိကတိုက်နှင့်ဩစတြေးလီးယားတိုက် များ ကို ရင်း၊ သိုးမွေးအတွက် ဩစတြေးလီးယားနှင့် နယူးဇီလန် နိုင်ငံ များ ကို ရင်း၊ စက်လုပ် ထည် ကုန် ချော အရပ် ရပ် တို့ အတွက် ဥရောပတိုက် ရှိ နိုင်ငံအသီးသီးတို့ကိုရင်း၊ စိန်ရွှေရတနာတို့အတွက် တောင်အာဖရိကကို ရင်း၊ ကျွန်းသစ်အတွက် ပြည်ထောင်စုမြန်မာနိုင်ငံကိုရင်း၊ သက်ဆိုင်ရာအားကိုးအားထားပြုနေရပြီးလျှင် ထိုနိုင်ငံ ထိုဒေသတို့မှ အဆိုပါကုန်ပစ္စည်းများကိုတင်ဆောင်ယူလာကြသော သင်္ဘောကြီး ငယ် တို့ သည် အင်္ဂလန် ပြည်သို့ဝင်လှာမစဲ တသဲသဲသာလျှင် ဆိုက်ကပ်နေကြသည်။

မြန်မာ နိုင်ငံ သည် အင်္ဂလန်ကဲ့သို့မဟုတ်ဘဲ လယ်ယာလုပ်ငန်းထွန်းကားသောနိုင်ငံဖြစ် သည့် အလျောက်၊ နေ့စဉ် နှင့် အမျှစားသုံးကြသော ပဓါနအစာတို့အတွက် တပါးတနိုင်ငံသို့အားကိုးအားထားပြုရန်မလို သည် မှာ ကံကောင်း လှပေသည်။ သို့ပင်ဖြစ်စေကာ များစွာသော ကုန် ပစ္စည်း များအတွက် နိုင်ငံခြားတို့အား မှီခိုအားထားရခြင်းမှ လွတ်ကင်းနိုင်သည်မဟုတ်သေး ပေ။ ဥဒါဟရဏ် အား ဖြင့် အထည်အလိပ် စသော လူ့ အသုံး အဆောင် ပစ္စည်း များ၊ စက် ကရိယာများ၊ ဆေးဝါးများစသည်တို့ကို ပြည်ပတို့မှ မှာယူတင်သွင်းနေရသည်သာဖြစ်ပေသည်။ ရန်ကုန်၌ ရောင်းချသော ရှူးဖိနပ်တရံကိုကြည့် သော် ထိုဖိနပ် အတွက် လိုသောသားရေမှာ အာဂျင်တီးနား၌မွေးမြူသော ကျွဲနွားတို့မှဖြစ်စေ၊ အာဖရိက၌မွေးမြူသော ဆိတ်တို့မှဖြစ်စေ၊ ဖြစ်ရပေမည်။ ထိုသားရေတို့ကိုအင်္ဂလန်ပြည်သို့ယူဆောင်ကာနေ့ာသမ္ပတန်မြို့၌ ဖိနပ် အဖြစ်သို့ ပြောင်း လဲလိုက် ပေမည်။ ထိုမှတဖန်သင်္ဘောဖြင့်တင်ဆောင် လျက် မြန် မာနိုင်ငံသို့တင်သွင်း၍ ရန်ကုန် မြို့စျေး တခု၌ ရောင်းချခြင်း ဖြစ် ပေမည်။ ထိုနည်းတူစွာ အနွေး ထည် ဖြစ်သော သက္ကလတ် အင်္ကျီတထည် ကိုကြည့်လျှင်လည်း ထိုပစ္စည်း၏ပင်ရင်းနေရာသည် ဩစတြေးလီး ယား နိုင်ငံ ဖြစ် သည် ကိုတွေ့ကောင်းတွေ့ရပေမည်။ ဩစတြေး လီး ယား မှ သိုးမွေး နှင့် ဂျာမနီမှ ဆိုးဆေးတို့သည် အင်္ဂလန်ပြည် လိမြို့၌ဖြစ်စေ၊ ဗရက်ဒဖို့မြို့၌ဖြစ်စေ တွေ့ဆုံပေါင်းစည်းမိကြကာ သိုးမွေးထည်ဖြစ်လာပေမည်။ တဖန်ထိုသိုးမွေး ထည် သည် မြန်မာနိုင်ငံသို့သင်္ဘောခရီး ဖြင့် လိုက်ပါလာပြီးလျှင်၊ ရန်ကုန် မြို့ရှိအပ်ချုပ်ဆိုင် တဆိုင် သို့ရောက်

သည့်အခါ အဝတ်ဘဝသို့ ကူးပြောင်းသွားခဲ့ခြင်းဖြစ်ပေမည်။ ထိုနည်းတူ ပြတင်းပေါက်များ၌အသုံးပြုကြသော ခန်းဆီးကလေးများသည် ဆွစ်ဇာလန်ပြည်သူတို့၏လက်ရာများဖြစ်ပေမည်။ စားပွဲခင်းနှင့် လက်သုတ်ပုဝါများသည် ဇာထိုးပန်းထိုးကျင်လျင်လက်မြောက်ကြသည့် တရုပ်ပြည်ကြီးသူတို့၏လက်ရာများဖြစ်ပေမည်။ ဆေးဝါးများကိုကြည့်ပြန်လျှင် ကွီနိုင်ဆေးကို တောင်အမေရိကတိုက် ပီးရူးနိုင်ငံ၌ဖြစ်စေ၊ အိန္ဒိယတောင်ဖက်ရှိ သီဟိုဠ်ကျွန်း၌ဖြစ်စေ၊ ပေါက်ရောက်သော စင်ကိုးနားခေါ် အဖျားဖြတ်ဆေးပင်မှရရှိကြလေသည်။ထိုအတူ အခြားဆေးဖက် ဝါးဖက်ဝင်သော ဆေးပင်ဆေးမြစ်များကိုလည်း ကမ္ဘာ့အရပ်ရပ်တွင် ရှာဖွေတွေ့ရှိပြီးနောက်၊ မြန်မာနိုင်ငံသို့ယူဆောင်လာကြခြင်းပင်ဖြစ်၏။

ထိုမျှထွေပြားစုံလင်သောပစ္စည်းအရပ်ရပ်တို့သည် စားသုံးသူတို့၏လက်သို့ ရောက်ရှိလာကြသည်မှာ တဦးချင်း၊ တယောက်ချင်းသယ်ပိုးယူဆောင်လာကြ၍ ရောက်လာကြသည်မဟုတ်ပေ။ တနေရာတွင်အသုံးမှ ပိုလျှံနေသောကုန်ပစ္စည်းများကို ယင်းတို့အား အသုံးပြုရန်လိုနေသည့်အခြားနေရာတို့သို့ ပို့ဆောင်ရေးနည်းအမျိုးမျိုးကိုအသုံးပြုလျက် သယ်ယူဖြန့်ဖြူးပေးကြသည့် ကုန်သည်ကြီးငယ်ပေါင်းမှာ ထောင်သောင်းမကများပြားလှပေသည်။ သို့အားဖြင့် အင်္ဂလန်ပြည်တွင်အလုပ်သမားဦးရေ၏ ၆ ပုံ ၁ ပုံ ခန့်သည်၎င်း၊ မြန်မာနိုင်ငံတွင်အလုပ်သမားဦးရေ၏ ၁၀ ပုံ ၁ ပုံခန့်သည်၎င်း၊ ကုန်သွယ်ရေးဖြင့်အသက်မွေးမြူနေကြပေသည်။

သွင်းကုန် အမြောက်အများတို့ကို မေတ္တာလက်ဆောင်အဖြစ်ဖြင့် ရရှိကြသည်မဟုတ်ပေ။ ယင်းတို့အတွက်ငွေပေးငွေချေရဦးပေမည်။ အင်္ဂလန်ပြည်သည်၎င်း၊ မြန်မာနိုင်ငံသည်၎င်း၊ မည်ကဲ့သို့ပေးချေကြလေသနည်း။ အင်္ဂလန်ပြည်သည် ပင်လယ်ရပ်ခြားတိုင်းတပါးတို့၌ မိမိမြှုပ်နှံထားသောငွေပင်ငွေရင်းတို့မှရသည့် အတိုးအညွန့်များနှင့်တကွ နိုင်ငံထွက်ကျောက်မီးသွေး၊ သံထည်၊ သံမဏိထည်၊ ဝါထည်၊ ခြည်ထည်၊ သိုးမွေးထည်၊ ဆေးဝါးစသောကုန်စည်များကို သွင်းကုန်ပစ္စည်းအရပ်ရပ်ထောက်ပံ့ကြသော နိုင်ငံအသီးသီးတို့သို့တင်ပို့ခြင်းအားဖြင့်ပေးချေလေသည်။ မြန်မာနိုင်ငံကမူ သွင်းကုန်များထောက်ပံ့သောတိုင်းပြည်တို့သို့ ဆန်စပါး၊ ကျွန်း၊ ရေနံနှင့်ရေနံထွက်ပစ္စည်းများ၊ ဘော်၊ ခဲ၊ သံဖြူ၊ တန်စတင် (ခဲမသေ) စသောတွင်းထွက်ပစ္စည်းများ၊ ကြက်ပေါင်စေး၊သားရေစိမ်း စသည့်ကုန်ကြမ်းများကို တင်ပို့ခြင်းအားဖြင့် ပေးချေလေသည်။

ဤသို့ဖြင့် ကမ္ဘာ့နိုင်ငံအသီးသီးတို့သည်မိမိတို့၏လူမျိုး၊ သဘာဝပစ္စည်းအား၊ ရာသီဥတုအစရှိသောအချက်အလက်တို့နှင့် အကွက်အကွင်းအလျဉ်းသင့်သည့်ထုတ်ကုန်ပစ္စည်းများကို ပြုလုပ်ကြလျက် ပြည်တွင်းသုံးမှပိုလျှံသောကုန်ပစ္စည်းဟူသမျှကို တပါးတနိုင်ငံဖြစ်သောအခြားဒေသတို့မှ မိမိတို့လိုသည့်ကုန်ပစ္စည်းများဖြင့်ဖလှယ်ယူကြယင်း၊ ကမ္ဘာ၏ကုန်သွယ်ရေးယန္တရားကြီးကို လည်နေစေတော့သည်။

ကုန်သွယ်ရေးသည်အဓိက အရေးကြီးသည့်အားလျော်စွာ ယခုခေတ်အခါတွင် အစိုးရတို့သည် နိုင်ငံ၏ရောင်းဝယ်ဖေါက်ကားမှုတို့ကို ကိုယ်တိုင်ကိုယ်ကြပ်အကူအညီပေးကာ အားပေးအားမြှောက်ပြုလုပ်ကြလေသည် (ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန–ရှု)။ ယခုအခါ နိုင်ငံကြီးတိုင်းလိုပင် နိုင်ငံခြားရှိမြို့ကြီးပြကြီးများ၌ ကူးသန်းရောင်းဝယ်ရေးကိုယ်စားလှယ်များဖြစ်သော ကောင်စစ်ဝန်များကိုထားရှိပြီးလျှင် ကုန်သွယ်ရေးဆက်ဆံမှုကို တိုးတက်ကောင်းမွန်စေရန် စီမံဆောင်ရွက်လေ့ရှိကြသည်။ ကောင်စစ်ဝန်တို့၏ဝတ်တရားကား မိမိတို့နိုင်ငံမှ ထွက်သောကုန်စည်များနှင့်စပ်လျဉ်း၍ မည်သည့်နိုင်ငံက မည်ရွေ့မည်မျှအလိုရှိသည်ဟူသောအချက်အလက်တို့ကို ထောက်လှမ်းစုံစမ်းပြီးနောက်၊ မိမိတို့ဆိုင်ရာ အစိုးရထံသို့ပြန်၍ အစီရင်ခံရခြင်းပင်ဖြစ်၏။ အချို့သောအစိုးရတို့သည် မိမိတို့နိုင်ငံမှထုတ်ကုန်ပိုမိုထွက်ရှိရန်ရည်သန်လျက် ကုန်ထုတ်လုပ်ငန်းရှင်များအား ကုန်ထုတ်လုပ်ရေးနှင့်စပ်လျဉ်း၍၊ ကုန်ထုတ်ဆုတော်ငွေများကို ချီးမြှင့်ခြင်းဖြင့် အားပေးလေ့ရှိကြသည်။

ကုန်သွယ်ရေးဖြင့်ဖက်စပ်စုစည်းနေကြသော ကမ္ဘာ့နိုင်ငံအသီးသီးတို့သည် အချင်းချင်း ကူညီယိုင်းပင်းနေကြသည့်အလျောက် တပြည်ပြည်၌ထိခိုက်လှုပ်ရှားမှုပေါ်ပေါက်ခဲ့လျှင် အခြားပြည်များသို့လည်းဂယက်ရိုက်သွားလေ့ရှိလေသည်။ အမေရိကန်ပြည်တွင်းစစ်ကြောင့် အင်္ဂလန်ပြည်တွင် အခက်အခဲတွေ့ကာ ခြည်စက်ရုံအလုပ်သမားများ ထောင်ပေါင်းများစွာ အလုပ်လက်မဲ့ဖြစ်ခဲ့ရရှာလေသည်။ အကြောင်းမှာ အမေရိကန်မှ ဝါများသည် အင်္ဂလန်သို့အလာ ရပ်စဲသွားခြင်းကြောင့်ပင်ဖြစ်၏။ ထိုအတူ ဥရောပ၌ စစ်မီးတောက်သဖြင့် မြန်မာနိုင်ငံတွင်အထည်အလိပ်၊ ဆေးဝါးစသည့် နိုင်ငံခြားဖြစ်ကုန်ဟူသမျှ ရှားပါး၊ ဈေးတက်သွားခဲ့ရလေသည်။ ကျူးဗားကျွန်းတွင် လေဆင်နှာမောင်းကျရောက်သည့်အတွက်၊ အင်္ဂလန်၌သကြားဈေးတက်သွားရ၏။ ဗရာဇီးနိုင်ငံတွင် အခွန်အတုတ်နှင့်စပ်လျဉ်းသော ဥပဒေတရပ်ထုတ်ပြန်သည့်အတွက်လည်း အင်္ဂလန်၌ကာဖီမှုန့်ရှားပါးရလေသည်။

ပင်လယ်ရပ်ခြားဒေသများအတွက် ကုန်သွယ်ရေးနှင့်စပ်လျဉ်း၍ အသုံးပြုကြသောပင်လယ်ကူးသင်္ဘောများမှာ ၂ မျိုး ၂ စားရှိသည်။ ယင်းတို့မှာ ခရီးစဉ်သွားမြဲသင်္ဘောများနှင့် ကြားဖေါက်ကုန်သင်္ဘောများဖြစ်ကြ၏။ ခရီးစဉ်သွားမြဲသင်္ဘောများကား များသောအားဖြင့် ခရီးသည်များ၊ စာများနှင့် ဝန်ကျဉ်း၍တန်ဖိုးထိုက်သောကုန်ချော

များကိုသာ သယ်ယူပို့ဆောင်ကြသည်။ သင်္ဘောခ၊ ကုန်ခနှုန်းထားများမှာ မီးရထားများကဲ့သို့ပင် ပုံသေကားကျပြုလုပ်ထားသောနှုန်းမှန်များဖြစ်ကြသည်။ ထိုသင်္ဘောများသည်အချိန်ဇယားထားရှိ၍ ထွက်ခွာသွားလာကြသည်။ ခုတ်မောင်းရာလမ်းကြောင်း အတိအကျသတ်မှတ်ထားရှိသည့်ပြင်၊ ကမ္ဘာ့အရပ်ရပ်ရှိ သင်္ဘောဆိပ်မြို့ကြီးဟူသမျှကိုလည်း တခုမကျန်ဆက်သွယ်ဝင်ရောက်ဆိုက်ကပ်ကြသည်။

ကြားဖေါက်ကုန်သင်္ဘောများကား ဇယားသတ်မှတ်ချက်မထားဘဲ သင်္ဘောကုန်ရှိရ မရဟူသောအချက်ကိုသာ မူတည်၍ သွားလာခုတ်မောင်းကြသည်။ ခုတ်မောင်းသွားလာရာလမ်းကြောင်းနှင့် ဆိုက်ကပ်ရာ ဆိပ်ကမ်းမြို့များမှာလည်း အလျဉ်းသင့်သလိုပင်ဖြစ်ကြသည်။ ကုန်ပါလျှင် အလွန်ချောင်ကျ၍ ဝေးလံသော သင်္ဘောဆိပ်သို့ပင် သွားလာခုတ်မောင်းမည်ဖြစ်သည်။ ကုန်မပါခဲ့သော် ဆိပ်ကမ်းမြို့များကိုပင် ရှောင်ကွင်းသွားမည်ဖြစ်သည်။ ထိုကြားဖေါက်ကုန်သင်္ဘောများ တင်ဆောင်သယ်ယူသော ကုန်စည်တို့မှာ များသောအားဖြင့် ပုပ်သိုးပျက်စီးခြင်းမရှိသည့် ဝန်ကျယ်သောကုန်ကြမ်းများဖြစ်သည်။ သစ်၊ ဂျုံ၊ ကျောက်မီးသွေး၊ လင်းနို့ချေး၊ သံရိုင်း၊ သံမဏိရထားလမ်း၊ သကြားစသောကုန်စည်များမှာ ကြားဖေါက်ကုန်သင်္ဘောများ အထူးသဖြင့်သယ်ယူပို့ဆောင်သည့် ကုန်များဖြစ်ကြသည်။ သင်္ဘောကုန်ခနှုန်းထားတို့မှာ တထစ်ချသတ်မှတ်ထားခြင်းမရှိချေ။ ကုန်စည်တို့၏အမျိုးအစားအနေအထားကို၎င်း၊ ပြိုင်ဆိုင်မှုရှိ မရှိစသောအခြေအနေတို့ကို၎င်း၊ ချင့်တွက်ထောက်ရှု၍ ကုန်ခနှုန်းထားကို သတ်မှတ်တောင်းခံလေ့ရှိကြသည်။ (ကုန်သင်္ဘောစု — ရှု)။

**ကုန်သွယ်ရေးဘုတ်အဖွဲ့**။ ။ကုန်သွယ်ရေးဘုတ်အဖွဲ့သည် ယူနိုက်တက်ကင်းဒမ်းနိုင်ငံတွင် အစိုးရဌာနတခုဖြစ်လျက်၊ နိုင်ငံ၏စက်မှုလက်မှုလုပ်ငန်းနှင့် ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းတို့ကို တာဝန်ယူ၍ကြီးကြပ်ဆောင်ရွက်ရလေသည်။ ထိုအဖွဲ့၏ဌာနချုပ်တည်ရာဒေသမှာ လန်ဒန်မြို့ (အနောက်တောင်ပိုင်း-၁)မီးလဗန့်၌ဖြစ်သည်။

ထိုအဖွဲ့၏ဦးစီးဦးကိုင်ဖြစ်သောဥက္ကဋ္ဌကြီးမှာ အစိုးရအဖွဲ့ဝင်ဝန်ကြီးတဦးဖြစ်လျက်၊ တနှစ်လျှင်ပေါင်ပေါင်း ၅၀၀၀ မျှသော ရိက္ခာတော်လစာငွေများကိုရရှိလေသည်။ အဖွဲ့၏လုပ်ငန်းတာဝန်များကို ထမ်းရွက်လုပ်ကိုင်ကြရန်၊ ထိုဥက္ကဋ္ဌကြီး၏လက်အောက်တွင် ပါလီမန်အတွင်းဝန်တဦးနှင့် အခြားအတွင်းဝန်များ အပြင်၊ နိုင်ငံဝန်ထမ်းဖြစ်သော အမှုထမ်းများစွာလည်းရှိသည်။ ထိုအမှုထမ်းများထဲတွင် စစ်ဆေးရေးမှူး (အင်စပိတ်တော်) အများအပြားပါဝင်၏။ ထိုသူတို့၏တာဝန်ဝတ်တရားများမှာ ကျောက်မီးသွေးတွင်းများနှင့် သင်္ဘောကြီးများတွင် စည်းမျဉ်းသတ်မှတ်ထားသောအလုပ်များနှင့်စပ်လျဉ်းသည့်တရားဥပဒေများကို တိကျစွာလိုက်နာဆောင်ရွက်ကြခြင်းရှိ မရှိ လိုက်လံကြည့်ရှုစစ်ဆေးရခြင်းပင်ဖြစ်သည်။

လက်ရှိအသွင်အပြင်အခြေကိုဆောင်ယူသော ကုန်သွယ်ရေးဘုတ်အဖွဲ့ကို ၁၇၈၆ ခုနှစ်ကပင် ဖွဲ့စည်းတည်ထောင်ခဲ့၏။ ထိုအဖွဲ့ကြီးသည် ၁၆၆၀ ပြည့်နှစ်တွင်ဒုတိယချားဘုရင် တည်ထောင်ပေးခဲ့သော ကုန်သွယ်ရေးနှင့် စိုက်ပျိုးရေးကောင်စီအဖွဲ့မှ ပေါက်ဖွားလာသည်ဟုဆိုနိုင်ပေသည်။

ဗြိတိသျှအစိုးရတို့ အဖို့အရေးကြီးပြီးလျှင် အကျိုးသက်ရောက်မှုလည်းရှိသော လုပ်ငန်းဟူသမျှတို့ကို ထိုအဖွဲ့ကကြပ်မကြည့်ရှုရသည်ဖြစ်ရာ ကျောက်မီးသွေးတွင်းလုပ်ငန်း၊ ကျောက်တူးလုပ်ငန်း၊ အစုစပ်ကုမ္ပဏီလုပ်ငန်း၊ ရုပ်ရှင်လုပ်ငန်း၊ သင်္ဘောကုန်တင်ကုန်ချလုပ်ငန်း၊ ဓါတ်ငွေ့လုပ်ငန်း၊ လူမွဲစာခံခြင်း၊ ကုန်တံဆိပ်များ၊ အလေးတင်းတောင်းများ၊ မူပိုင်ခွင့်မှတ်ပုံတင်ခြင်းများ၊ ကုန်ပုံစံများ၊ ကုန်မှတ်တံဆိပ်များ၊ စာမူပိုင်ပြုလုပ်ခြင်းများ၊ ကုမ္ပဏီဥပဒေများ စသည်တို့နှင့်စပ်လျဉ်းသော ကိစ္စအားလုံးတို့သည် ထိုအဖွဲ့၏စီမံခန့်ခွဲမှုကိုခံယူကြရသည်။

၁၉၁၇ ခုနှစ်တွင် အလုပ်လက်မဲ့များ၊ အလုပ်ဆက်သွယ်ရေးရုံးများနှင့် လုပ်ငန်းဆိုင်ရာအဖွဲ့များအား စစ်ဆေးကြည့်ရှုရသောအလုပ်ဝတ်တရားများကို အလုပ်သမားဝန်ကြီးဌာနသို့၎င်း၊ နောက်တွင်လည်း မီးရထားလမ်းများနှင့်ကုန်းလမ်းများကိုကြည့်ရှုရသော အလုပ်ဝတ်တရားများကိုသယ်ယူပို့ဆောင်ရေးဝန်ကြီးဌာနသို့၎င်း၊ အသီးသီးလွှဲပြောင်းပေးခဲ့လေသည်။

အစိုးရပြန်တမ်းတခုဖြစ်သော 'ကုန်သွယ်ရေးဘုတ်အဖွဲ့' ဂျာနယ်ကို ထိုအဖွဲ့မှပင်ထုတ်ဝေခဲ့၏။ ထိုစာစောင်တွင် ကမ္ဘာ့အရပ်ရပ်ရှိနိုင်ငံအသီးသီးတို့မှ ရရှိသော စီးပွားကုန်သွယ်ရေး၊ ပင်လယ်ရပ်ခြားသွားလာပို့ဆောင်ရေး၊ စက်မှုလက်မှုလုပ်ငန်းစသည်တို့နှင့်စပ်လျဉ်းသည့် စာရင်းစုများကို ထည့်သွင်းဖေါ်ပြထားရှိပေသည်။

ဒုတိယကမ္ဘာစစ်ကြီး (၁၉၃၉-၄၅) အတွင်း၌ထိုအဖွဲ့၏ လုပ်ငန်းတာဝန်နှင့်အခွင့်အာဏာများသည် ပို၍ကျယ်ပြန့်လာခဲ့လေသည်။ ကုန်ကြမ်းကုန်ချောထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရေးကိစ္စတို့ကိုတိုက်ရိုက်အုပ်ထိန်းခဲ့ရ၏။ အစိုးရက ကြီးကြပ်ကန့်သတ်ထားသော ကုန်ချောများ ဝယ်ခြမ်းရေးနှင့် ပြည်ပသို့ထုတ်ရောင်းရေးတို့ကိုလည်း လိုင်စင်ထုတ်ပေးခဲ့ရ၏။ နိုင်ငံတွင်း၌လိုသောအဝတ်အထည်များနှင့် အိမ်သုံးပရိဘောဂများကိုလည်း ရာရှင်စံနစ်ဖြင့်ဖြန့်ဖြူးဝေငှပေးခဲ့ရလေသည်။ စစ်ပြီးခေတ်တွင် ပြည်တွင်းပြည်ပရောင်းဝယ်ရေးအတွက် အခြေမှန်ကုန်ထုတ်စံချိန်အရ ကုန်ထုတ်လုပ်

နိုင်ကြစေရန်ဗြိတိသျှစက်မှုလက်မှု လုပ်ငန်း အားလုံးကိုကြီး ကြပ်ပေးရလေသည်။

**ကုန်းတိရစ္ဆာန်များ။ မြန်မာနိုင်ငံ။** ။မြန်မာနိုင်ငံကုန်း တိရစ္ဆာန်များ — ရှု။



# မြန်မာတို့၏နောက်ဆုံးမင်းဆက်

**မြန်မာနိုင်ငံကြီးကို တတိယအကြိမ်မည်းရုံးခဲ့သောဦးအောင်ဇေယျမှသည် သီပေါမင်းအထိ မင်း ၁၁ ပါးတို့လက်ထက် မြန်မာတို့၏ ဂုဏ်ရောင် မည်မျှ ထွန်းပြောင် ခဲ့ ၍ မည်ကဲ့သို့မှေးမှိန် ပျက်ပြုန်းမင်းဆက်ပါသုဉ်းရပုံတို့ကိုအကျဉ်းချုံးဖေါ် ပြထားသည်။ ခေတ်မှီအောင်ပြုပြင်ပြောင်းလဲနေဆဲမြန်မာတို့ ကျွန်ဘဝရောက်ရသည်မှာဝမ်းနည်းဖွယ်ပင်။**

**ကုန်းဘောင် မင်းဆက်။** ။မြန် မာ နိုင်ငံ သမိုင်း တွင် ကုန်းဘောင်မင်းဆက်မှာသက္ကရာဇ် ၁၁၁၄ ခုမှ ၁၂၄၇ ခုနှစ် အထိနှစ်ပေါင်း ၁၃၃ နှစ်ရှည်ခဲ့သည်။ ဤမင်းဆက်ကို မုဆိုးဘို၊ ရန်ကြီးအောင်၊ ကုန်းဘောင်၊ ရတနာသိင်္ဃ၊ ရွှေဘိုဟုနာမည်အမျိုးမျိုးမှည့်ခေါ် သောကုန်းဘောင်မြို့မှအလောင်းဘုရားကြီးဦးအောင်ဇေယျ စတင်တည်ထောင်ခဲ့သဖြင့် ကုန်းဘောင်မင်းဆက်ဟုခေါ် တွင်သည်။ ထိုမင်းဆက်တွင် ဦးအောင်ဇေယျမှသည် မြန်မာနိုင်ငံ နောက်ဆုံး မင်း ဖြစ် သော သီပေါမင်းအထိ မင်း ၁၁ ပါးပါဝင်သည်။ ထိုမင်းတို့မှာ၊ အလောင်းဘုရား၊ နောင်တော်ကြီး၊ ဆင်ဖြူရှင်၊ စဉ့်ကူးမင်း၊ ဖေါင်းကားစား မောင်မောင်၊ ဘိုးတော်ဘုရား၊ ဘကြီးတော်၊ သာယာဝတီမင်း၊ ပုဂံမင်း၊ မင်းတုန်းမင်းနှင့် သီပေါမင်းတို့ဖြစ်ကြသည်။ ထိုမင်းများတွင် စွမ်းရည်သတ္တိ၊ ဉာဏ်အမြော်အမြင်နှင့်ပြည့်စုံသော မင်းကောင်း မင်းမြတ် များလည်းပါဝင်၍၊ မင်းသာမန်များလည်းပါဝင်သည်။

သက္ကရာဇ် ၁၁၁၃ ခုနှစ်တွင် ဟံသာဝတီမွန်တို့သည် အင်းဝပြည်ကြီးသို့ချီတက်လာကြပြီးနောက်၊ မင်းနှင့်တကွတိုင်းပြည်အလုံးကိုတိုက်ခိုက်သိမ်းယူသွားသဖြင့်၊ ဒုတိယမြန်မာနိုင်ငံကြီးပျက်စီးရလေသည်။ ဦးအောင်ဇေယျသည် မုဆိုးဘိုရွာမှ ထန်းလုံးတပ်ဆောက် လုပ် ကာ လက် ရွေး ဆန် သူ ရဲကောင်း ခြောက် ကျိပ် ရှစ် ယောက် တို့ နှင့် မြန်မာ့ဦးစွန်းထူထောင်ခဲ့သည်။ ဦးအောင်ဇေယျသည် မြောက်ဖက်မှ ကွေ့ရှမ်းများနှင့် တောင်ဖက်မှမွန်တို့ကိုနှိမ်နင်းပြီးလျှင်၊ မြန်မာနိုင်ငံကြီးကိုတပေါင်းတစည်း တည်းဖြစ် အောင် စည်းရုံးထူထောင်ခဲ့သည်။ ရခိုင်ပြည်ကိုချန်လှပ်၍ မြန်မာနိုင်ငံတဝှန်းလုံးကိုသိမ်းကျုံးအုပ်စိုးတော်မူသည်။ ၁၁၂၀ ပြည့်နှစ်တွင် မဏိပူရ ကသည်းပြည်ကို အောင်မြင်တော်မူသည်။ ၁၁၂၁ ခုနှစ်တွင် ယိုးဒယားနိုင်ငံသို့ ချီတက် တိုက် ခိုက် သော် လည်း မအောင်မြင်ဘဲပြန် ခဲ့ ရာ တွင် လမ်းခရီး၌ နတ် ရွာစံတော်မူသည်။ (အလောင်းဘုရား။ အလောင်းမင်းတရားအရေးတော်ပုံ — ရှု)။

အလောင်းဘုရားလက်ထက်အင်္ဂလိပ်များ၊ ပြင်သစ်များတို့နှင့် ဆက်ဆံမှုများ ရရှိခဲ့ သည်။ သံလျှင်တွင် ဗရွှန်အမျိုးရှိသော ပြင်သစ်တစုတို့နေထိုင်ကြ၍ ပုသိမ်အနီးဟိုင်းကြီးကျွန်းတွင် ဗရွှတ်အမျိုးရှိသော အင်္ဂလိပ်တို့နေထိုင်ကြသည်။ ၁၁၁၈ ခုနှစ်ချုပ်ဆိုသောစာချုပ်အရ ပုသိမ်မြို့နှင့် ဟိုင်းကြီးကျွန်းတွင် ကုန်တိုက်များဖွင့်လှစ်ရန်၊ အရှေ့အိန္ဒိယကုမ္ပဏီအားမြေကွက်များပေးသည်။ နိုင်ငံတော်အတွင်းလွတ်လပ်စွာကုန်သွယ်မှုကိုလည်းခွင့်ပြုလေသည်။ အင်္ဂလိပ်တို့က နှစ်စဉ်မြန်မာမင်းအား ခဲယမ်းမီးကျောက်များ ရောင်း ချရန် နှင့် မြန် မာ့ ရန်သူ များ ကို ကူညီ အား ပေး ခြင်း မပြု ရန် ဖြစ်လေသည်။ သို့ရာတွင် မြန်မာနိုင်ငံ၌နေထိုင်ကြသောအင်္ဂလိပ်နှင့်ပြင်သစ်နှစ်ဦးလုံးတို့ပင် သစ္စာမတည်ကြချေ။ မွန်နှင့်မြန်မာတို့အရေးတွင် သာသည့်ဖက်မှ ပါဝင် လေ့ ရှိ သည်။ အလောင်းဘုရားလက်ထက် အာမီးနီးယန်းလူမျိုး အန်တိုနီယိုဆိုသူမှာ မင်းရဲကောင်းပုံဘွဲ့နှင့် အမှုတော်ထမ်းရွက်သည်။

အလောင်း ဘုရား နတ် ရွာ စံ သော် သား တော် ကြီးဖြစ်သော အိမ်ရှေ့မင်းထီးနန်းဆက်ခံလေသည်။ ငယ်မည်မှာ မောင်လောက်ဖြစ်သည်။ သို့သော် ညီတော်များကခေါ် ဝေါ် သည့်အတိုင်း ရာဇဝင်တွင်နောင်တော်ကြီးမင်းဟုတွင်ရစ်သည်။ ၁၁၂၅ ခုနှစ်တွင် နောင်တော်ကြီးမင်းကွယ်လွန်သဖြင့်၊ ညီတော်မြေဒူးမင်းနန်းတက်သည်။ နောင်သော်ဆင်ဖြူရရှိသဖြင့် ဆင်ဖြူရှင်ဘွဲ့ကိုခံယူလေသည်။ ဆင်ဖြူရှင်မင်းတရားသည် ရွှေဘိုမြို့၌ ၂ နှစ်မျှနန်းစံပြီးလျှင် မြို့တော်ကိုအင်းဝမြို့သို့ရွှေ့ပြောင်းစံနေတော်မူသည်။

ဤမင်းလက်ထက် ဇင်းမယ်၊ မဏိပူရ၊ ယိုးဒယား နိုင်ငံတို့ကိုအောင်မြင်တော်မူသည်။ ယိုးဒယားကိုတိုက်ခိုက်ပုံမှာ စိတ်ဝင်စားဖွယ်ကောင်းလှသည်။ အယုဒ္ဓယမြို့တော်ကိုမြန်မာတို့က တနှစ်နှင့် လေးလတိုင်တိုင် ဝန်းရံထားသော်လည်း မြို့တွင်းမှမပြတ်မလပ်ခုခံနေလေရာ နောက်ဆုံးတွင်မြန်မာတို့က ယိုးဒယားမြို့ရိုးအောက်သို့ ဥမင်ကြီးများဖေါက် လုပ်ဝင်သောအခါမှ အယုဒ္ဓယမြို့ကျ ဆုံး လေ့ သည်။ (ဆင်ဖြူရှင်အရေးတော်ပုံ — ရှု)။

၁၁၂၇ ခုနှစ်မှ ၁၁၃၀ ပြည့်နှစ်အတွင်း တရုပ်တို့နှင့်စစ် ၄ ကြိမ်တိုင်တိုင်ဖြစ်ခဲ့သည်။ ကောင်းတုံ၊ ဗန်းမော်၊ ကျိုင်းတုံမြို့များကား စစ်မြေပြင်အရပ်များဖြစ်သည်။ နောက်ဆုံး၌ တရုပ်မြန်မာစစ်ပြေငြိမ်းစာချုပ်ကို မြန်မာတို့ဖက်မှ ဝန်ကြီး မဟာသီဟသူရက တာဝန် ယူ ၍ ကောင်း တုံမြို့တွင် ချုပ်ဆိုခဲ့သည်။ ထိုစစ်ပွဲကြီးများအပြီးတွင် တရုပ်မြန်မာကုန်သန်းရောင်းဝယ်မှုများ တိုးတက်ကောင်းမွန်လာခဲ့သည် (တရုပ်မြန်မာစစ် — ရှု)။ ထိုမှစ၍ တရုပ်နှင့်မြန်မာနိုင်ငံတို့ ၁၀ နှစ်တကြိမ် သံတမန်အဆက် အသွယ် ထား ရှိ လေသည်။ ဆင်ဖြူရှင်မင်းသည် ၁၁၃၆ ခုနှစ်တွင် ရွှေတိဂုံစေတီတော်မြတ်ကြီးကို အမြင့် ၃၂၆ ပေအထိ မြင့်တင်ဆောက်လုပ်တော်

မူသည့်အပြင် ထီးတော်အသစ်ကိုလည်း တင်တော်မူသည်။

ဆင်ဖြူရှင်မင်းလွန်ပြီးနောက် သားတော်စဉ့်ကူးမင်းသား ၅ နှစ်၊ နောင်တော်ကြီး၏သား ဖေါင်းကားစားမောင်မောင် ၇ ရက် အသီးအသီး ဆက်လက်နန်းစံခဲ့သည်။ ထို နောက် အလောင်းဘုရား ၏ စတုတ္ထ သား တော် ဖြစ် သော ဘိုးတော်ဘုရားနန်းတက်သည်။

ဘိုးတော်ဘုရားမှာ သာသနာရေး၊ ပညာရေးနှင့်တိုင်းပြည်ဝပြောသာယာရေးတို့ကို အားပေးတော်မူသောဘုရင်ဖြစ်သည်။ ဘိုးတော်ဘုရားသည် အောင်ပင်လယ်ကန်၊ နန္ဒာကန်တို့ကို ထပ်မံပြုပြင် တော်မူ သည့် အပြင် မိတ္ထီလာကန်တော်ကြီးကိုလည်း အသစ်ဆည်ဖို့တော်မူသည်။ ၁၁၄၅ ခုနှစ်တွင် နိုင်ငံတော်စစ်တမ်းများကို စီစဉ်ရေးသားစေသည်။ ဤစစ်တမ်းများမှာ ယခုခေတ် သန်ကောင်စာရင်းကောက်ယူပုံနှင့်တူလှသည်။ မြန်မာနိုင်ငံရှိလူနေအိမ်ခြေ၊ မြေယာအကျယ်အဝန်း၊ အသီးအနှံအထွက်၊ အခွန်အကောက် စသည်တို့ကို စစ်ဆေးမေးမြန်းပြီးလျှင် စာရင်းတင်ထားခြင်းဖြစ်သည်။ ထိုစစ်တမ်းသည် ဘိုးတော်ဘုရားစစ်တမ်းဟုထင်ရှားသည်။ ထိုနှစ်မှာပင် အမရပူရမြို့သစ်တည်၍ ပြောင်းရွှေ့စံနေတော်မူသည်။

သာသနာရေးနှင့်စပ်လျဉ်း၍ အောင်မြေလောကစေတီ၊ မင်းကွန်းစေတီ၊ မင်းကွန်းခေါင်းလောင်းကြီး တို့ကိုပြုလုပ်လှူဒါန်းတော်မူသည်။ ထိုမှတပါး မြို့ပေါင်း ၆၅ မြို့သို့ ပိဋကတ်တော်အစုံနှင့် တမြို့လျှင်သင်္ဃာ ၅ ပါးစီ သာသနာပြုစေလွှတ်တော်မူသည်။ မင်းကြီးသည် မှုးမတ်ပညာရှိများကိုအိန္ဒိယပြည်သို့စေလွှတ်၍ ဆေးကျမ်း၊ ဓါတ်ကျမ်း၊ ဗေဒင်ကျမ်း အစရှိသော ကျမ်းပေါင်း ၁၀၀ ကျော်တို့ကို ဆောင်ယူလာစေပြီးလျှင်မြန်မာဘာသာသို့ပြန်ဆိုစေသည်။

၁၁၄၆ ခုနှစ်တွင် ရခိုင်ပြည်ကိုအောင်မြင်တော်မူ၍ မဟာမုနိ ရုပ်ပွား တော်ကြီး ကို မန္တလေးမြို့သို့ပင့်ဆောင်ခဲ့သည်။ ရခိုင်ပြည်ကိုသိမ်းယူပြီးနောက် စစ်တကောင်းနှင့်ရခိုင်နယ်ခြားအရေးနှင့် စပ်လျဉ်း၍ မြန်မာနှင့် အင်္ဂလိပ်တို့ မသင့်မတင့်ဖြစ်ကြသည်။ ဘိုးတော်ဘုရားလက်ထက် ၁၁၇၄ ခုနှစ်တွင် အမေရိကန်သာသနာပြုဆရာ ယုဒသန်နှင့်ဇနီးတို့ ခရစ်ယန်အယူဝါဒပြန့်ပွားစေရန် ရောက်ရှိလာသည် (ယုဒသန်–ရှု)။ မြန်မာငွေဒင်္ဂါးများကို ဘိုးတော်ဘုရား လက်ထက်တွင်စတင်သွန်းလုပ်သည်။

ဘိုးတော်လွန်ပြီးနောက်၊ မြေးတော်ကုန်းဘောင်ခြောက်ဆက်မြောက်၊ ဘကြီးတော်ဘုရားနန်းတက်သည်။ ဘကြီးတော်သည် ၁၁၈၅ ခုနှစ်၌ ထီးနန်းကို အမရပူရမှအင်းဝမြို့သို့ပြန်လည်ပြောင်းရွှေ့သည်။

ဤမင်းလက်ထက် ၁၁၈၅ ခုနှစ်တွင် အင်္ဂလိပ်နှင့်မြန်မာတို့ ပဌမစစ်ဖြစ်ပွားသည်။ စစ်ဖြစ်ရခြင်းအကြောင်းမှာ မြန်မာပိုင်ဖြစ်သော အာသံနှင့် မဏိပူရနယ်မှစော်ဘွားများ ထောင်ထားခြားနားသည့်အခါ၊ အင်္ဂလိပ်တို့က မိမိတို့ပိုင်နက်အတွင်းကလက်ခံ၍ အားပေးအားမြှောက်ပြုလေသည်။ မြန်မာတို့က လိုက်လံဖမ်းဆီးရာတွင် မသင့်မတင့်ဖြစ်ကြသည်။ ၁၁၅၈ ခုနှစ်တွင် ငတ်မြစ်ဝရှိ ရှင်မဖြူကျွန်း (ရှပူရီကျွန်း) ပေါ်၌ အင်္ဂလိပ်တို့က စစ်တပ်တည်ဆောက်သည်မှစ၍ ထိုကျွန်းကို သူပိုင်သင့်သည် ငါပိုင်သင့်သည်ဟု ငြင်းခုံယင်း စစ်စတင်ဖြစ်ပွားလေသည်။ ဤစစ်ပွဲတွင် မြန်မာတို့အရေးနိမ့်သဖြင့် ရန္တပိုစာချုပ်အရ၊ ရခိုင်နှင့်တနင်္သာရီနယ်များကို အင်္ဂလိပ်သို့ပေးလိုက်ရ၏ (ရန္တပိုစာချုပ်–ရှု)။ အာသံ၊ မဏိပူရနှင့်ကချာနယ်တို့ကို မနှောင့်ယှက်ပါဟုမြန်မာတို့က ကတိပြုရ၏။ ထိုစစ်ပွဲများတွင် ရဲစွမ်းသတ္တိနှင့်ပြည့်စုံသော မြန်မာစစ်ဗိုလ်ချုပ်ကြီး မဟာဗန္ဓုလကို နိုင်ငံခြားသားအများပင် ချီးကျူးကြသည် (ဗန္ဓုလ–ရှု)။ ဘကြီးတော်ဘုရားလက်ထက် ၁၁၉၁ ခုနှစ်တွင် မှန်နန်းရာဇဝင်ကို မှန်နန်းဆောင်တွင်ရေးစေသည် (မှန်နန်းရာဇဝင်–ရှု)။

ပုဂံမင်းလက်ထက် ၁၂၁၃ ခုနှစ်တွင် ရန်ကုန်ဟံသာဝတီဝန်ကြီး ဦးအုပ်က အင်္ဂလိပ်သင်္ဘောကက်ပတိန်လူဝစ်နှင့်ရှက်ပဒ်တို့ကို ညှင်းပန်းနှိပ်စက်ပါသည်ဟုအကြောင်းပြအရေးဆိုသည်မှအစပြု၍၊ အင်္ဂလိပ်မြန်မာဒုတိယစစ်ပွဲဖြစ်ရပြန်သည်။ ရန်ကုန်၊ ပဲခူး၊ ပြည် အရပ်များတွင် တိုက်ပွဲများဖြစ်ပွားခဲ့သည်။ မြန်မာတို့အရေးနိမ့်သဖြင့်မြေထဲမြို့မှစ၍ အောက်မြန်မာနိုင်ငံတခုလုံးကို ၁၂၁၄ ခုနှစ် နတ်တော်လတွင် အင်္ဂလိပ်တို့သိမ်းယူလေသည်။ ဗိုလ်မှူးအာလံက နယ်နိမိတ်သတ်မှတ်စိုက်ထူသည်ကိုအကြောင်းပြု၍ နယ်ခြားအရပ်ဒေသတွင် အာလံမြို့ပေါ်ပေါက်လာသည်။ မြန်မာအင်္ဂလိပ်ဒုတိယစစ်ပွဲကို 'အောက်ကအောင်လံ၊ စိုက်ထူပြန်၊ အမှန်ဒုတိယ' ဟုဆောင်ပုဒ်ဖြင့်မှတ်သားကြသည်။

၁၂၁၄ ခုနှစ်နန်းတက်တော်မူသော မင်းတုန်းမင်းမှာကုန်းဘောင်မင်းဆက်တွင် တော်ဖြောင့်၍သီလ၊ သမာဓိ၊ ပညာ၊ အမြော်အမြင် နှင့် ပြည့်စုံသော မင်းကောင်း မင်းမြတ်တပါးဖြစ်သည်။ ၁၂၁၈ ခုနှစ်တွင် မန္တလေးမြို့ကို စတင်တည်ထောင်ပြီးလျှင် ၁၂၁၉ ခုနှစ်တွင် ပြောင်းရွှေ့စံနေတော်မူသည်။ မင်းတုန်းမင်းသည် သာသနာရေး၊ ပညာရေးတို့ကို အထူးအားပေးချီးမြှင့်တော်မူသည်။ လောကမာရဇိန်၊ ကျောက်တော်ကြီး စသော စေတီရုပ်ပွားတော်များစွာတို့ကိုတည်သည်။ ရွှေတိဂုံစေတီတော်တွင် ထီးသစ်တင်တော်မူသည်။ ပိဋကတ်သုံးပုံပါဠိတော်မြတ်ကိုပဥ္စမသင်္ဂါယနာနှင့် ကျောက်ထက်အက္ခရာတင်၍ ကုသိုလ်တော်လောကမာရဇိန် စေတီပရိဝုဏ်အတွင်း စိုက်ထားတော်မူသည်။ ထိုကိုအကြောင်းပြု၍ ပဥ္စမသင်္ဂါယနာတင်မင်းတရားဟု ထင်ရှားသည် (သင်္ဂါယနာ–ရှု)။ မြန်မာနိုင်ငံအတွင်း ပဌမ







## မြန်မာတို့ဂုဏ်ရောင်ထွန်းပြောင်စဉ်က

အပေါ်လက်ဝဲပုံမှာ၊ စစ်သူကြီးဝတ်စုံကို ဆင်ယင်ထားသော ကုန်းဘောင်ဆက် နောက်ဆုံးဘုရင် သီပေါမင်း၏ပုံဖြစ်၍ အပေါ်လကျ်ာပုံများမှာ မင်းတုန်းမင်းလက်ထက် နိုင်ငံတော်သုံး ဒေါင်းဒင်္ဂါးများဖြစ်သည်။ အောက်လကျ်ာဖက်ပုံမှာ အလောင်းဘုရား၏ စတုတ္ထသားတော် ဘိုးတော် ဘုရားလက်ထက်တွင် သွန်းလုပ်လှူဒါန်းခဲ့သော၊ ယခုတိုင် ကမ္ဘာတွင်ထင်ရှားလျက်ရှိသည့် မင်းကွန်း ခေါင်းလောင်းကြီးဖြစ်၍၊ လက်ဝဲပုံမှာ အင်္ဂလိပ်မြန်မာ ဆက်ဆံရေးပြေပြစ်မှုအတွက် နောက်ဆုံးကြိုးပမ်းကြသော မြန်မာသံအဖွဲ့ဝင်တို့ဖြစ်သည်။





ပြန်စာမေးပွဲများကိုလည်း ပြုလုပ်ပေးလေသည်။ ပညာရေးနှင့်စပ်လျဉ်း၍တိုင်းရင်းစာပေများကိုသာမက နိုင်ငံခြားစာပေတို့ကိုပါ အားပေးလိုရကား ခရစ်ယန်ဘုန်းကြီးဆရာမှတ်ကြီးကို မြေရာနှင့်တကွ အင်္ဂလိပ်စာသင်ကျောင်းဆောက်ပေးပြီးလျှင် သားတော်များကို သင်စေသည်။ ပြင်သစ်ဗရင်ဂျီဂိုဏ်းအုပ် ဘီဂန္ဒတ်ကိုလည်း ခြီးမြှောက်လေသည်။

မင်းတုန်းမင်းသည် အင်္ဂလိပ်များနှင့် အသင့်အတင့်ဆက်ဆံတော်မူသည်။ အင်္ဂလိပ်တို့နှင့်ကူးသန်းရောင်းဝယ်ရေးစာချုပ် ၂ ကြိမ်တိုင်ချုပ်ဆိုခဲ့သည်။ သို့ရာတွင် ကျွန်းသစ်၊ ရေနံ၊ ကျောက်နီ စသော ကုန်များကို မိမိတဦးတည်းပိုင်ပြုလုပ်၍တူးဖေါ် ထုတ်လုပ်ရောင်းချသည်။

၁၂၂၃ ခုနှစ်တွင် သဿမေဓအခွန် တောင်းခံပြီးလျှင် အမှုထမ်းအရာထမ်းတို့ကို ရွာစား မြို့စား မပေးတော့ဘဲ လစာရိက္ခာများခြီးမြှင့်တော်မူသည်။ ကင်းဝန်မင်းကြီးကိုသံကြီးအဖြစ်ခန့်၍အင်္ဂလန်ပြည်၊ ပြင်သစ်ပြည်၊ ဣတလီပြည် များသို့စေလွှတ်ခဲ့သည် (ကင်းဝန်မင်းကြီး–ရှု)။ လူငယ်လူရွယ်ကလေးများစွာတို့ကို နိုင်ငံခြားသို့ပညာတော်သင်များအဖြစ်ဖြင့်လည်းစေလွှတ်ခဲ့သည်။

မင်းတုန်းမင်း၏ညီတော် ကနောင်မင်းသား အိမ်ရှေ့စံမှာ အုပ်ချုပ်စီမံရေး၊ ပြည်တွင်းလုံခြုံရေး၊ စစ်တပ်များခေတ်မီလက်နက်တပ်ဆင်ရေး၊ နိုင်ငံတော်အတွင်း စက်မှုလက်မှုထွန်းကားရေး တို့ကိုအမြဲတစေဂရုစိုက်ကာ မင်းတုန်းမင်းအားအကူအညီပေးခဲ့သည်။ အိမ်ရှေ့မင်းသားမှာ မြင်ကွန်းနှင့်မြင်းခုန်တိုင်မင်းသားတို့လုပ်ကြံခြင်းခံရသဖြင့် ရည်ရွယ်ချက်အထမမြောက်လေ (ကနောင်မင်းသား–ရှု)။ ၁၂၄၀ ပြည့်နှစ်တွင် မင်းတုန်းမင်းနတ်ရွာစံတော်မူသည်။

မြန်မာနိုင်ငံတွင် နောက်ဆုံးစိုးစံတော်မူသော သီပေါမင်းမှာ၊ မင်းတုန်းမင်း၏သားတော်တပါးဖြစ်သည်။ ၁၂၄၀ပြည့်နှစ် သီပေါမင်းနန်းတက်သောအခါ၊ မင်းသားမင်းသမီး ၄၀ ကျော်တို့ အသတ်အဖြတ်ခံရသည်။ သို့ရာတွင် ဤကိစ္စမှာ သီပေါမင်းနှင့်မိဖုရားခေါင်ကြီး တို့မသိရှိရဘဲ မင်းတုန်းမင်း၏မိဖုရားခေါင်ကြီးဖြစ်သော ဆင်ဖြူမရှင်မိဖုရားကြီးနှင့် အလိုတူသော မှူးမတ်များ ဆန္ဒအရ ကွပ်မျက်ပစ်သည်ဟု နိုင်ငံသမိုင်းများတွင်ဆိုသည်။ သီပေါမင်းလက်ထက် အင်္ဂလိပ်တို့နှင့်တတိယအကြိမ်စစ်ဖြစ်ရသည်။ ဤတတိယစစ်ပွဲဖြစ်ပွားရသည့်အကြောင်းများ အနက် ဘုံဘေဘားမားသစ်မှုမှာတခုအပါအဝင်ဖြစ်သည်။ တောင်ငူနယ်တွင် သစ်လုပ်သောဘုံဘေဘားမား ရောင်းဝယ်ရေးအဖွဲ့က သစ်လုံးရေ ၈ သောင်းကိုထုတ်ယူလျက်နှင့် ၃ သောင်းသာစာရင်းပြသလေသည်။ မြန်မာအစိုးရတို့က စစ်ဆေးသိရှိသဖြင့် ကုမ္ပဏီ



ကုန်းဘောင်ခေတ်တိုင်းပြည်သာယာဝပြောစေရန် လယ်ထွန်မင်္ဂလာပွဲတော်ကျင်းပနေပုံ



ကုန်းဘောင်မင်းများလက်ထက်မှူးမတ်စုံညီစွာဖြင့် ညီလာခံသဘင်ဆင်ယင်ကျင်းပနေစဉ်

အား ၂၃ သိန်းဒဏ်ရိုက်လေသည်။ ကုမ္ပဏီက မကျေနပ်သဖြင့် အင်္ဂလိပ်အစိုးရကို တိုင်ကြားရာ အိန္ဒိယဘုရင်ခံချုပ်လော့ဒပ်ဖရင်ကနောက်ဆုံးရာဇသံပေးပို့သည်။ မြန်မာတို့ကကျေနပ်လောက် အောင်ပြန်ကြားသော်လည်း လက်မခံဘဲအထက်မြန်မာနိုင်ငံသို့ ချီတက်လာပြီးလျှင် ၁၂၄၇ ခုနှစ်တန်ဆောင်မုန်းလဆုတ် ၈ ရက်နေ့တွင် မင်းနှင့်တကွတိုင်းပြည်ကိုသိမ်းပိုက်လိုက်သည်။

ကုန်းဘောင်ခေတ်တခုလုံးကို ခြုံ၍ ကြည့်လိုက် လျှင် ဝမ်းသာစရာ၊ အားရစရာ အချက်များလည်းပါဝင်သည်၊ ဝမ်းနည်းစရာအကြောင်းများလည်း ပါဝင်သည်။ အလောင်းဘုရားကြီး၊ ဆင်ဖြူရှင်၊ ဘိုးတော်ဘုရားနှင့် မင်းတုန်းမင်းတို့မှာ မြန်မာတို့ဂုဏ်ယူပြောပလောက်သောမင်းများ ဖြစ်ကြသည်။

ကုန်းဘောင်ခေတ်တွင် မြန်မာနိုင်ငံကိုအကျယ်ဆုံးအထိ တိုးချဲ့စည်းရုံး နိုင် သည်။ သာသနာရေးကို အထူးဂရုစိုက်၍ပြုစုခဲ့ကြသည်။ ကုသိုလ်ကောင်းမှုများ ပြုလုပ်ခဲ့ကြသည့်အပြင်၊ သားကြီးငါးကြီး စားသောက်မှု၊ အရက်သေစာသောက်စားမှု တို့ကိုတားမြစ်ခဲ့သည်။ ဤခေတ်တွင် ရဟန်းပညာရှိ လူပညာရှိနှင့် စာဆိုတော်များ အများအပြားပေါ်ထွန်းခဲ့ သည်။ မဇ္ဈိမဒေသမှ ယူဆောင် လာသော ဆေးကျမ်း၊ ဓါတ်ကျမ်းများကို မြန်မာဘာသာသို့ပြန်ဆိုခဲ့သည်။ ကျုံးဝန်ဘုမ္မဇေယျ၊ လက်ဝဲဝိဘိနန္ဒသူ၊ ကင်း ဝန် မင်း ကြီး၊ ယောအတွင်းဝန်အစရှိသော ဓမ္မသတ်ဆရာကြီးများ၊ ကျမ်းပြုပုဂ္ဂိုလ်ကြီးများ ပေါ် ထွန်းခဲ့သည်။ ဦးတိုး၊ မြဝတီမင်းကြီးဦးစ၊ ကျည်းကန်ရှင်ကြီး၊ ဝက်မစွတ်နဝဒေး၊ မင်းကြီးကတော်ခင်ဆုံ၊ စာဆိုဦးမင်း၊ ဖိုးသူတော်ဦးမင်း၊ အနောက်နန်းမတော်မမြလေး၊ လှိုင်ထိပ်ခေါင်တင် အစရှိသော စာဆိုတော်များ၊ ဦးကြင်ဥ၊ ဦးပုညအစရှိသောပြဇာတ်ရေးဆရာများ ပေါ် ထွက်ခဲ့သည်။ ကုန်းဘောင်ခေတ်တွင် တေးထပ်၊ လေးဆစ်သဖြန်၊ ဘောလယ်၊ ယိုးဒယားသီချင်းကြီးများစသည်တို့ မြန်မာစာပေတွင်သစ်ဆန်းပေါ် ထွက်လာခဲ့သည်။

ပညာရေးနှင့်စပ်လျဉ်း၍ မြန်မာစာပေသာမက ပြင်သစ်စာပေ အင်္ဂလိပ်စာပေများကိုလည်း လေ့လာလိုက်စားလာကြသည်။ မန္တလေးမြို့တွင် အင်္ဂလိပ်စာသင်ကျောင်းပင်ပေါ် ပေါက်ခဲ့သည်။ ထိုမှတပါး ကုန်းဘောင်ခေတ်တွင် စစ်မှုထမ်းများကို ဗောင်းဗီများဝတ်ဆင်စေ၍ ဣတလီလူမျိုး၊ ပြင်သစ်လူမျိုးဆရာများနှင့် ကြပ်မတ်သင်ကြားစေသည်။ ရှေးအခါက မင်းမှုကိစ္စအတွက် ခြေလျင်တော် လှေလျှင်တော် များကိုသာအသုံးပြုသော်လည်း ၁၂၃၅ ခုနှစ်ကစ၍ကြေးနန်းရုံတော်များ ပေါ် လာ သည်။ မင်းတုန်းမင်း လက်



**ပညာအမြော်အမြင်နှင့်ပြည့်စုံလှသောမင်းတုန်းမင်း**

ထက်၌ စက်မှုလက်မှုလုပ်ငန်းများကိုသင်ကြားရန် နိုင်ငံခြားသို့ပညာတော်သင်များ စေလွှတ်သည်။ နေပြည်တော်တွင် ရက်ကန်းရုံတော်ကြီး၊ ဆန်ကြိတ်ရုံများ၊ လက်နက်လုပ်စက်ရုံ၊ လွှစက်ရုံ၊ သကြားချက်ရုံ၊ ဖန်ချက်ရုံစသည်ဖြင့် စက်မှုလက်မှုရုံပေါင်း ၅၀ ကျော်တို့ကို စတင်လုပ်ကိုင်နေလေပြီ။ ထိုမှတပါး မန္တလေး မြို့နန်းတော် အတွင်း ရှိ စာပုံနှိပ် စက်မှ ရိုက်နှိပ်ထုတ်ဝေသော ‘ရတနာပုံနေပြည်တော်သတင်းစာ’ အမည်ဖြင့် သတင်းစာပင်ပေါ် နေလေပြီ။

ဤအကြောင်းအရာများကား မြန်မာတို့ ခေတ်ကိုအမှီလိုက်လာပုံ၊ တိုးတက်လာပုံကိုပြသ သဖြင့် ဂုဏ်ယူဖွယ်ရာများဖြစ်တော့သည်။ ကုန်းဘောင်ခေတ်တွင် ဝမ်းနည်းစရာအဖြစ်အပျက်များကား နောင်တော်ကို ညီတော်များက ပုန်ကန်ခြင်း၊ ခမည်းတော်၊ ဘထွေးတော်များ ကို သားတော်တူတော်များက ပုန်ကန်ခြင်းများနှင့် နန်းတော်ထဲတွင်သူ့ဖက် ငါ့ဖက်ဟူ၍ အကွဲကွဲ အပြားပြား ဖြစ် နေကြခြင်း များဖြစ်သည်။ ကုန်းဘောင်မင်းများ သည် မြို့တော်များ မကြာခဏရွှေ့ပြောင်းခဲ့သည်။ သို့ရာတွင် ရန်ကုန်မြို့ကဲ့သို့ ပင်လယ်ဆိပ် ကမ်း တွင် မြို့ တော်မပြု လုပ် ခဲ့ သ ဖြင့် အနောက် နိုင်ငံများ တွင် ထွန်း ကား နေ သော စ က် မှု လ က် မှု တိုး တက် မှု များနှင့် အဆက်အသွယ်မရရှိခဲ့လေ။ ထိုသို့မရရှိခဲ့ခြင်းပင်လျှင် မြန်မာ နိုင်ငံ ဆုံး ရှုံးရခြင်း၏အကြောင်းတရပ်ဖြစ်သည်ဟုသမိုင်း ဆရာ တို့ဆိုကြ သည်။ မည်သို့ဖြစ်စေကာမူ ကုန်းဘောင်ခေတ်နောက်ပိုင်းတွင် မြန်မာမြေပေါ်၌အင်္ဂလိပ်နှင့်ပြင်သစ်တို့အပြိုင်အဆိုင်ဖြစ်နေကြသည်။

မြန်မာဘုရင်က ပြင်သစ်တို့အား အထူးအခွင့် အရေးများ ပေးပြီးလျှင် မဟာမိတ်စာချုပ်များ၊ စီးပွားရေးစာချုပ်များ ချုပ်ဆိုသည်ကို အင်္ဂလိပ်တို့ကအထူးမခံမရပ်နိုင်ဖြစ်ကြသည်။ မြန်မာနိုင်ငံအထက်ပိုင်းကို ပြင်သစ်တို့သိမ်းပိုက်ခြင်း၊ သို့မဟုတ် သြဇာလွှမ်းမိုးခြင်းများ ပြုလုပ်မည်ကိုစိုးရိမ်မကင်းဖြစ် ကြ သဖြင့် အင်္ဂ လိပ် တို့ က မြန်မာနိုင်ငံ အထက်ပိုင်းကို တနည်းနှင့်မဟုတ်တနည်း သိမ်းယူလိုက်ကြခြင်းဖြစ်သည်။

ဤသို့အားဖြင့် အနောက် လက် နက် နိုင်ငံ ကြီး များ စား ခွက်လုမှုကြောင့် မြန်မာနိုင်ငံသည် ထီးသုဉ်း၊ နန်းသုဉ်း၊



**သီပေါမင်းနှင့် စုဖုရားလတ်၊ စုဖုရားကလေး မိဖုရားနှစ်ပါးတို့ပုံ**

မင်းသုဉ်းပြီးနောက် ကျွန်ဘဝတွင်စုံးစုံးမြုပ်ခဲ့ရ လေ သည်။ (အင်္ဂလိပ်မြန်မာစစ်ပွဲများ — ရှု)။

**ကပ္ပလီကျွန်း။** ။ပြည်ထောင်စုမြန်မာနိုင်ငံ နဂရေအငူ၏ တောင်ဖက် မိုင် ၁၆၀ ခန့်အကွာ၊ အိန္ဒိယနိုင်ငံ မဒရပ်ကမ်းရိုးတန်း၏အရှေ့ဖက် မိုင် ၇၀၀ ခန့်အကွာ၊ ဗင်္ဂလားပင်လယ်အော်အတွင်း၌ရှိသော ကပ္ပလီ ကျွန်း ခေါ် အန္ဒမန် ကျွန်းစုမှာ၊ နဂရေအငူနှင့်ဆူမတြားကျွန်းရှိ အချင်အငူစပ်ကြားတွင်ရှိသော ကျွန်းစုတန်းတွင်၊ အကြီးဆုံးကျွန်းစုဖြစ်သည်။ ထိုကျွန်းစုတန်းမှာ၊ အမှန်အားဖြင့်ဟိမဝန္တာတောင်ဆွယ်မှ ဖြာဆင်းလာ သော ရခိုင်ရိုးမ တောင်တန်း၏ ပင်လယ်တွင်း

ရောက် ကုန်းမြင့်တန်း၏အဆက်ပင်ဖြစ်သည်။ ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက၊ မြန်မာနိုင်ငံမှ တသက်တကျွန်းပို့ခြင်းခံရသောအကျဉ်းသားများကို ထိုကျွန်းသို့ပို့သောကြောင့် ထိုကျွန်းစုကို တကျွန်းဟုလည်းခေါ်ကြသည်။ ကပ္ပလီလူပုများနေသည်ကိုအကြောင်းပြု၍လည်း ကပ္ပလီကျွန်းဟုလည်းတွင်သည်။

ကပ္ပလီကျွန်းစုတွင် ကျွန်းကြီးကျွန်းငယ်အစုစုပေါင်း ၂၀၄ ကျွန်းပါဝင်သည်။ ထိုကျွန်းစုသည် မြောက်မှတောင်သို့မိုင် ၂၀၀ ခန့်ရှည်လျား၏။ မြောက်ဖက်ရှိကျွန်းကြီးကို ကပ္ပလီကျွန်း၊ သို့မဟုတ် အန္ဒမန်ကျွန်းကြီးဟုဂုင်း၊ တောင်ဖက်ရှိကျွန်းကြီးကိုကပ္ပလီကျွန်းငယ်၊ သို့မဟုတ် အန္ဒမန်ကျွန်းငယ်ဟုဂုင်းခေါ်သည်။ ကျွန်းငယ်ကလေးတို့တွင် မြောက်ဖက်စွန်းရှိ ကိုကိုနှင့်လင်းဖေါကျွန်းများ၊ ကျွန်းကြီး၏အနောက်ဖက်ကမ်းရှိ အင်တာဗျူးကျွန်း၊ အရှေ့ဖက်ကမ်းအနီးရှိ ရစ်ချီကျွန်းစု၊ တောင်ဖက်ဖျားရှိရတ်တလန်နှင့် မြောက်ဆင်တီနယ်ကျွန်းတို့ထင်ရှားသည်။

ကပ္ပလီကျွန်းကြီးကို ကျွန်းကြီးတကျွန်းတည်းဟုယူဆရန်ဖြစ်သော်လည်း၊ ကျဉ်းမြောင်းလှသောဆားငန်ရေကြောင်းငယ်ကလေးများဖြတ်စီးနေသောကြောင့် ကျွန်းလေးကျွန်းရှိသည်ဟုယူမှတ်ကြသည်။ ယင်းတို့မှာ မြောက်အန္ဒမန်၊ အလယ်အန္ဒမန်၊ ဗါရာတန်းနှင့် တောင်အန္ဒမန်တို့ဖြစ်သည်။ တောင်မှမြောက်သို့ (ရတ်တလန်ကျွန်းအပါအဝင်) မိုင် ၁၆၀ ရှည်လျား၍ အရှေ့နှင့်အနောက်တွင် တဖက်ပင်လယ်မှအခြားတဖက်သို့ မည်သည့်နေရာမျှမိုင် ၂၀ ထက်ပို၍မကျယ်ဝန်းပေ။ ပင်လယ်ကမ်းရိုးတန်းမှာ များစွာကွေ့ကောက်၍၊ သင်္ဘောများခိုလှုံနိုင်သည့်အကွေ့အကောက်အများရှိသည်။ အန္ဒမန်ကျွန်းငယ်မှာ ရတ်တလန်ကျွန်း၏တောင်ဖက်မိုင် ၃၀ ကွာတွင်ရှိ၏။ တောင်မှမြောက်သို့ ၂၆ မိုင်ရှည်ပြီးလျှင် အရှေ့မှအနောက်သို့ ၁၆ မိုင်ကျယ်သည်။

မြေမျက်နှာပြင်မှာ တောင်ကုန်းထူထပ်၍ တသက်တကျွန်းသားတို့စတည်းချနေထိုင်ရာဒေသမှအပ တကျွန်းလုံးတွင် အပူပိုင်းသစ်တောများဖြင့် လွှမ်းမိုးလျက်ရှိသည်။ တောင်ကုန်းတို့မှာ မြောက်မှတောင်သို့တန်းလျက်ရှိကြသည်။ အရှေ့ဖက်တွင်ပိုမိုမြင့်၍ အနောက်ဘက်၌နိမ့်သည်။ ထိုကျွန်းစုရှိတောင်ထိပ်များမှာ မြောက်အန္ဒမန်ရှိ ဆက်ဒဲတောင်ထိပ် ၂၄၀၂ ပေ၊ အလယ်အန္ဒမန်ရှိ ဒီယဗိုလိုတောင်ထိပ် ၁၆၇၈ ပေ၊ တောင်အန္ဒမန်ရှိ ဟဲရီးယက်တောင်ထိပ် ၁၁၉၆ ပေတို့ဖြစ်သည်။

ပူနွေး၊ စွတ်စို၊ ထိုင်းမှိုင်းသောအပူပိုင်းရာသီဥတုရှိ၍ နှစ်တိုင်းလိုပင် အပူ၊ အအေးခြားနားချက်တို့မှာ တသမတ်တည်းကဲ့သို့ဖြစ်သည်။ အအေးဆုံးအချိန်မှာဇန်နဝါရီနှင့်ဖေဖွာ ရီလတို့ဖြစ်၍ အပူဆုံးအချိန်မှာ မတ်လ၊ ဧပြီလနှင့်မေလတို့ဖြစ်သည်။ ပျမ်းမျှခြင်းအားဖြင့် အအေးဆုံးဒီဂရီမှာ ဖါရင်ဟိုက် ၆၆.၇ မျှရှိ၍၊ အပူဆုံးဒီဂရီမှာဖါရင်ဟိုက် ၉၆ ဖြစ်သည်။ တနှစ်တွင်ပျမ်းမျှခြင်းအားဖြင့် မိုးရေချိန် ၁၃၈ လက်မရွာသည်။ မိုးရာသီမှာအနောက်တောင်မုတ်သုန်ရာသီလေတိုက်သည့် မေလလယ်လောက်မှ နိုဝင်ဘာလလယ်လောက်ထိဖြစ်၍ ကျန်ခြောက်လမှာ သွေ့ခြောက်သောရာသီဖြစ်သည်။ ဗင်္ဂလားပင်လယ်အော်တွင်ဖြစ်ပေါ်တတ်သော ဆိုင်ကလုန်းအတွင်းဝိုက်လေဝဲတို့မှာ ဤကျွန်းစုတောင်ဖက်လောက်မှစတင်ဖြစ်ပေါ်လေ့ရှိသည်။



ဤကျွန်းစုနှင့်စပ်လျဉ်း၍ အစောဆုံးမှတ်သားချက်များကို ၈၇၁ ခုနှစ်လောက်က အရှေ့ပိုင်းသို့ခရီးထွက်သော အာရပ်လူမျိုး ခရီးသည်နှစ်ဦး၏ မှတ်တမ်းတွင်တွေ့ရသည်။ ပဥ္စမ ၁၀၀၀ စုနှစ်များတွင် တရုပ်နှင့်ဂျပန်လူမျိုးတို့သည်လည်း ဤကျွန်းစုအကြောင်းကိုကောင်းစွာသိကြသည်။ တရုပ်တို့က ဤကျွန်းစုကို ယန်ထိုမန်ဟူ၍ငင်း၊ ဂျပန်တို့ကအန္ဒဗန်ဟူ၍ငင်း အသီးသီးခေါ်ကြသည်။ ကမ္ဘာကျော်ခရီးသည် မာကိုပိုလို၏မှတ်တမ်းတွင်လည်း၊ ဤကျွန်းများအကြောင်းကိုဖော်ပြထားသည်။ သို့ရာတွင် ဖော်ပြသည့်အကြောင်းအရာတို့မှာ တဆင့်ကြားများသာဖြစ်ခဲ့ဟန်တူသည်။

၁၅၆၆ ခုနှစ်က နကဗါရီကျွန်းအနီးမှဖြတ်သွားခဲ့သော ဆီဇာဖရက်ဒရစ်ဆိုသူ၏မှတ်တမ်းတွင် ထိုကျွန်းစုအကြောင်းကိုပိုမိုခိုင်လုံစွာဖော်ပြထားသည်။ ၁၇ နှင့် ၁၈ ရာစုနှစ်များအတွင်းက ထိုကျွန်းစုများအကြောင်းကိုဖော်ပြသောမှတ်တမ်းအများရှိခဲ့လေသည်။ ထိုမှတ်တမ်းတို့တွင် ဤကျွန်းသားတို့မှာလူရိုင်းများဖြစ်၍ ကြောက်ရွံ့ဖွယ်ရာ ကောင်းကြောင်း၊ တတ်နိုင်သမျှကျွန်းကိုရှောင်သင့်ကြောင်းစသည်တို့ဖော်ပြခဲ့သည်။

သင်္ဘောပျက်၍ ထိုကျွန်းများတွင် သောင်တင်ခဲ့သော သင်္ဘောသားတို့မှာ များသောအားဖြင့် သတ်ဖြတ်ခြင်းခံခဲ့ရသည်။ မှတ်တမ်းအများတွင်ကျွန်းသားများသည်လူသားစားသူများဟုဖော်ပြခဲ့သော်လည်း၊ ထိုဖော်ပြချက်တို့မှာ အခြေအမြစ်မရှိပေ။ သင်္ဘောပျက်တို့နှင့်သံကိုရရှိပြီးနောက်မှ ဤကျွန်းသားတို့သည် သံ၏အသုံးကိုတတ်သိခဲ့ကြသည်။

၁၈ ရာစုနှစ်များကုန်သည်တိုင်အောင် ဤကျွန်းစုများနှင့် ဆက်သွယ်မှုများ ရရှိရန်မည်သူမျှကြိုးစားခဲ့ခြင်းမရှိချေ။ သို့ရာတွင် ဤကျွန်းတဝိုက်တွင် ခရီးသွားသောသင်္ဘောသားများအတွက် ဘေးအန္တရာယ်များလှသောကြောင့် လော့ကွန်းဝေါလစ်လက်ထက် ၁၇၈၈ ခုနှစ်တွင် ဗြိတိသျှအရှေ့အိန္ဒိယကုမ္ပဏီသည် အာချီဗော်ဗလဲယားဆိုသူကို ဤကျွန်းစု၌ ကိုလိုနီတခုဖွင့်လှစ်ရန် တာဝန်လွှဲအပ်ခဲ့သည်။ အလုပ်သမားများအဖြစ်အကျဉ်းသားများကိုပို့ပေးခဲ့သည်။ ကိုလိုနီကို ၁၇၈၉ ခုနှစ်စက်တင်ဘာလတွင် ယခုပို့ဗလဲယားတွင်စတင်ခဲ့သည်။ ၁၇၉၂ ခုနှစ်တွင် အခြေခံရေတပ်စခန်းတခုဖွင့်လှစ်ရန်ရည်ညွှန်း၍၊ မြောက်အန္ဒမန်ကျွန်းရှိယခုပို့ကွန်းဝေါလစ်နေရာသို့ ရွှေ့ပြောင်းခဲ့သည်။ သို့ရာတွင် ကျန်းမာရေးနှင့် သန့်ရှင်းစင်ကြယ်ရေးအခြေအနေဆိုးရွားသောကြောင့် အခြေခံရေတပ်စခန်းဖွင့်လှစ်ရန်အကြံကို ခေတ္တရုပ်သိမ်းပြီးလျှင်၊ အကျဉ်းသားများအားအိန္ဒိယပြည်သို့ပြန်ခေါ်ခဲ့သည်။ ထိုနောက် အနှစ် ၆၀ အတွင်း ဤကျွန်းတွင်အပြင်လူများသွားရောက်နေထိုင်ခြင်းမရှိခဲ့ချေ။ သို့ရာတွင်သင်္ဘောပျက်ကိစ္စများ မကြာခဏတွေ့ကြုံနေသဖြင့် အရှေ့အိန္ဒိယကုမ္ပဏီသည် ဤကျွန်းစုကို ကိုလိုနီအဖြစ်ပြုလုပ်ရန် ပြန်လည်ဆောင်ရွက်ခဲ့လေသည်။ ၁၈၅၈ ခုမတ်လတွင် ယခင်နေရာဟောင်းဖြစ်သောပို့ဗလဲယားနေရာ၌ ပင် အကျဉ်းသားတို့၏စခန်းတခုကိုပြန်လည်ဖွင့်လှစ်ခဲ့လေသည်။ ထိုအချိန်မှာ အိန္ဒိယတပ်တွင်း သူပုန်ကြီးပြီးစဖြစ်၍ အရှေ့အိန္ဒိယကုမ္ပဏီတွင် မြောက်မြားလှသောတပ်တွင်းသူပုန်အကျဉ်းသားတို့အား နေရာချထားရန်ပြဿနာနှင့်ရင်ဆိုင်နေခဲ့သဖြင့် အကျဉ်းသားတို့၏စခန်းကိုပိုမိုလျင်မြန်စွာဖွင့်လှစ်နိုင်ခဲ့ပေသည်။

ကပ္ပလီလူပုများဖြစ်သော အန္ဒမန်ကျွန်းသားတို့မှာ မိမိတို့ဒေသသို့ဝင်ရောက်နေထိုင်ကြသောနိုင်ငံခြားသားတို့အား မိမိတို့ဒေသ၌မနေထိုင်အောင်၊ စတင်ဝင်ရောက်လာကြသည့်အချိန်မှစ၍ မကြာခဏတိုက်ခိုက်သတ်ဖြတ်ကြသည်။ နိုင်ငံခြားသားတို့မှာ ထိုကျွန်းသားတို့နှင့်ချစ်ခင်ရင်းနှီးမှု ရရှိစေရန်နည်းအမျိုးမျိုးတို့ဖြင့် ဆက်ဆံခဲ့လေသည်။ ယခုအခါ၌တောင်အန္ဒမန်ကျွန်းအတွင်း နေထိုင်ကြသောဂျာရဝါးလူမျိုးတို့မှတပါး၊ ကျန်ကျွန်းသားတို့ဖြင့် ဆက်သွယ်မှုမှာ ကောင်းမွန်လာခဲ့သည်။

၁၈၂၄ ခုနှစ်တွင် ပဌမအင်္ဂလိပ်မြန်မာစစ်ပွဲဖြစ်ပွားစဉ်က မြန်မာနိုင်ငံကို တိုက်ခိုက်ရန်စေလွှတ်သော အရှေ့အိန္ဒိယကုမ္ပဏီ၏ ဗင်္ဂလားတပ်မကြီးနှင့် မဒရပ်တပ်မကြီးတို့သည် ရှေးဦးစွာအန္ဒမန်ကျွန်းကြီးရှိ ပို့ကွန်းဝေါလစ်တွင်စုဝေးပြီးနောက်မှ ပင်လယ်ခရီးဖြင့် ရန်ကုန်မြို့သို့ချီတက်တိုက်ခိုက်ခဲ့ကြသည်။

ကိုကိုကျွန်းစု၊ အန္ဒမန်ကျွန်းစု၊ နကဗါရီကျွန်းစုတို့မှာ ဗြိတိသျှလက်ထက်က ကော်မရှင်နာမင်းကြီးတဦးအုပ်ချုပ်သောဗြိတိသျှအိန္ဒိယအင်ပိုင်ယာအပါအဝင်နယ်တနယ်ဖြစ်ခဲ့သည်။ ထိုစဉ်က အိန္ဒိယပြည်နှင့်မြန်မာပြည်မှ တသက်တကျွန်းပို့ခြင်းခံရသူတို့ကို ဤကျွန်းသို့ပို့ခဲ့ကြသည်။

ဗြိတိသျှပါလီမန်တွင်ပြုလုပ်သော ၁၉၃၅ ခုနှစ်မြန်မာနိုင်ငံအက်ဥပဒေအရ၊ အိန္ဒိယနှင့်မြန်မာနိုင်ငံကိုခွဲလိုက်ရာတွင် အန္ဒမန်ကျွန်းစုမှာ အိန္ဒိယနိုင်ငံ၏ ပိုင်နက်တွင်ကျရောက်ခဲ့၏။ အမှန်စင်စစ်သော်ကား၊ ပထဝီဝင်အနေအထားအရ၊ ကပ္ပလီကျွန်းစုသည်ပြည်ထောင်စုမြန်မာနိုင်ငံပိုင်ဖြစ်သင့်ပေသည်။ လွတ်လပ်သောပြည်ထောင်စုမြန်မာနိုင်ငံခေတ်၌မူ တသက်တကျွန်းအပြစ်ပေးခံရသူတို့ကို မြန်မာနိုင်ငံမှထိုကျွန်းသို့မပို့တော့ပေ။

ကပ္ပလီကျွန်းစု၏တိုင်းဦးသားတို့မှာ အရပ်ပုသောကပ္ပလီလူမျိုးများတွင်အပါအဝင်ဖြစ်သည်။ ထောင်ပေါင်းများစွာသောနှစ်ပေါင်းအလျင်က၊ အာရှတိုက်အရှေ့တောင်ပိုင်းနှင့်ထိုဒေသတဝိုက်ကျွန်းစုတို့တွင် ဤကပ္ပလီပုများပြန့်နှံ့နေထိုင်ခဲ့ကြသည်။ သူတို့မှာ ထိုဒေသတွင်ရှေးအကျဆုံး

နေထိုင်ခဲ့သူများဟု ယူဆဖွယ်ရာရှိသည်။ ကပ္ပလီကျွန်းသားတို့နှင့် အနွယ်တူဖြစ်သောကပ္ပလီပုများကို ယခုတိုင် အာရှတိုက်အရှေ့တောင်ပိုင်းနှင့် ကျွန်းစုများတွင်တွေ့ရသေးသည်။ သူတို့မှာပသျှူးကျွန်းဆွယ်အတွင်းပိုင်း၊ လတ္တီတွဒ် ၅ နှင့် ၇ စပ်ကြား ထူထပ်သောဒေသရှိဆေမန်များ၊ ဖိလစ်ပိုင်ကျွန်းစု၏ ကျွန်းမဖြစ်သော လူဇုံကျွန်းတောတွင်းနေအအီတများ၊ နယူးဂင်းနီကျွန်းရှိ တပိရိုများနှင့် တိုင်မော်၊ ဆူမတြားစသည့်ကျွန်းတို့တွင်တွေ့ရသောအခြားလူမျိုးများ ဖြစ်သည်။ ဤဒေသရှိကပ္ပလီလူပုတို့သည် အခြားလူမျိုးတို့နှင့်ရောနှောနေလာခဲ့ကြသည်မှာကြာပြီဖြစ်သဖြင့် ထိုသူများသည် အခြားလူမျိုးတို့၏ယဉ်ကျေးမှုလွှမ်းမိုးခြင်း၊ ရောနှောခြင်းကို ခံခဲ့ရသလောက် ကပ္ပလီကျွန်းသားများမှာ မခံခဲ့ရသဖြင့် ကပ္ပလီကျွန်းသားများသည် ကပ္ပလီပုလူမျိုးများအနက် အမျိုးအစစ်ဆုံး၊ အသန့်ဆုံးဟုဆိုနိုင်ပေသည်။

ကပ္ပလီကျွန်းသားတို့သည် မည်သည့်ဒေသ၊ မည်သည့်အချိန်လောက်က ကပ္ပလီကျွန်းစုသို့ရောက်ခဲ့ကြသည်ကို မခန့်မှန်းနိုင်ပေ။ ကျွန်းစုသည် ကျွန်းမကြီးနှင့် တဆက်တည်းဖြစ်စဉ်က ရောက်ခဲ့သည်၊ သို့မဟုတ် ပင်လယ်ရေကြောင်းအဆက်ပြတ်ပြီးမှ ရောက်ခဲ့သည်ကိုပင် မပြောနိုင်ပေ။ အလွန့်အလွန်ရှေးကျလှသောခေတ်က ရောက်ခဲ့သည်ဟုသာယူဆရပေမည်။ မည်သည့်အချိန်ကပင်ရောက်သည်ဖြစ်စေ၊ သူတို့သည်မြန်မာနိုင်ငံ ရခိုင် သို့မဟုတ် ပဲခူးဒေသဘက်ဆီမှရောက်လာကြတန်ရာသည်ဟုပညာရှင်တို့ယူဆကြသည်။

ကပ္ပလီကျွန်းသားယောကျ်ားတို့သည် များသောအားဖြင့် ၄ ပေ ၁၀ လက်မခွဲ၊ မိန်းမတို့မှာ ၄ ပေ ၆ လက်မခွဲမျှအရပ်ရှိကြသည်။ ဦးခေါင်းလုံး၍ နှာခေါင်းပြားသည်။ ဆံပင်မှာကျပ်ခိုးရောင်ရှိ၍ တွန့်လိမ်နေသည့်ပြင် ဦးရေတွင်ပြားကပ်၍တည်နေသည်။ အသားရောင်မှာမဲပြောင်နေ၏။

ကပ္ပလီကျွန်းသားတို့မှာ လူမျိုးတမျိုးတည်းပင်ဖြစ်သော်လည်း၊ ဘာသာစကားနှင့်ယဉ်ကျေးမှု အချက်အလက်များ၏ကွဲပြားချက်ကိုလိုက်၍ ကပ္ပလီကျွန်းကြီးအစုနှင့် ကပ္ပလီကျွန်းငယ်အစုဟု ၂ စုခွဲခြားနိုင်သည်။ ပဌမအစုတွင် တောင်အန္ဒမန်ရှိဂျာရဝါးလူမျိုးတို့မှအပ ကပ္ပလီကျွန်းကြီးနေ အခြားလူမျိုးများပါဝင်၍၊ ဒုတိယအစုတွင် ဂျာရဝါးများ၊ ကပ္ပလီကျွန်းငယ်နေလူမျိုးများနှင့်၊ မြောက်ဆင်တီနယ်ကျွန်းသားများပါဝင်၏။

ကပ္ပလီကျွန်းကြီးအစုတွင် လူမျိုးစု ၁၀ မျိုးပါဝင်ရာ၊ မြောက်အန္ဒမန်ကျွန်းတွင် အကချရီ၊ အကကိုရ၊ အကဘိုနှင့် အကဂျေရု၊ အလယ်အန္ဒမန်နှင့်ဗါရာတန်းတို့တွင် အကကေဒေ၊ အကကို၊ အိုကိုဂျူဝိုင်နှင့် အပုစိက္ခာ၊ ရစ်ချီကျွန်းစုတွင် အကာဘလေ၊ တောင်အန္ဒမန်ကျွန်းစု၏ ကမ်းရိုးတန်းတွင် အကာဘီအတို့ရှိကြသည်။ ကပ္ပလီကျွန်းငယ်အစုတွင် တောင်အန္ဒမန်အတွင်းပိုင်းနေ ဂျာရဝါးများ၊ မြောက်ဆင်တီနယ်ကျွန်းသားများ၊ အန္ဒမန်ကျွန်းငယ်နေ အွန်ဂေများပါဝင်ကြသည်။ ထိုလူမျိုးစုတို့သည် ရောနှောနေထိုင်ခြင်းမရှိ မိမိတို့ဒေသနှင့်မိမိတို့ သီးသန့်နေထိုင်ကြသည်။

နေထိုင်စားသောက်၊ တွေးတောယုံကြည်မှုတို့တွင်၊ တိုးတက်မှုမရှိကြသေးပေ။ ဝတ်ဆင်မှုဟူ၍မရှိလှ၊ အလှအပအဖြစ် ကိုယ်တွင်ရွှံ့စေးတို့ဖြင့် အဆင်ပေါ်အောင် ဆေးရေးတတ်ကြသည်။ ရှင်ပျစွာနေထိုင်တတ်ကြသော်လည်း အမျက်ထွက်သောအခါတို့တွင် ရက်စက်ကြမ်းကြုတ်သူများဖြစ်ကြသည်။ ဦးဘရှင်။

**ကပ္ပလီလူမျိုး**။ ။ကမ္ဘာပေါ်တွင်လူမျိုးတမျိုးအနေဖြင့် ကပ္ပလီလူမျိုးတို့တိုးတက်ကြီးပွားလာပုံမှာ စိတ်ဝင်စားဖွယ်ရာကောင်းလှသည်။ ယဉ်ကျေးသောလူမျိုးဟုမိမိတို့ကိုယ်ကို ယူဆလျက်ရှိသော လူဖြူတို့၏အဖိနှိပ်ခံဘဝမှ ထိုးထွက်လာကြသည်မှာလည်း အံ့သြဖွယ်ရာပင်ဖြစ်သည်။ ကပ္ပလီလူမျိုးတို့သည် နှစ်ပေါင်းမြောက်မြားစွာကပင် ကမ္ဘာ့အရပ်ရပ်၌ ကျေးကျွန်များအဖြစ်ဖြင့်၊ အဆင်းရဲဆုံး၊ အောက်ကျနောက်ကျအဖြစ်ဆုံးသော အခြေအနေများတွင် နေထိုင်ခဲ့ရသည်။ တိရစ္ဆာန်များပမာ၊ သူတပါး၏အခိုင်းအစေကို ခံခဲ့ရသည်။ အမှန်စင်စစ် ယနေ့တိုင်အောင်ပင် ကပ္ပလီလူမျိုးသည် အခြားလူမျိုးနှင့် တန်းတူလူ့အခွင့်အရေးများကိုမခံစားရသေးချေ။ ယင်းသို့လူမျိုးတမျိုးအနေဖြင့်အဖက်ဖက်တွင်တပန်းရှုံးနေသောဘဝမှ အခက်အခဲများကိုကျော်နင်းကာ အခြားလူမျိုးများနှင့် ယှဉ်ပေါင်တန်းလိုက်နိုင်အောင်ကြိုးပမ်းကြသည်မှာ ချီးကျူးဖွယ်ရာပင်ဖြစ်သည်။

ကပ္ပလီဟူသောစကားသည် လွန်စွာပင် အဓိပ္ပါယ်ကျယ်ဝန်းလှသည်။ အတိုချုပ်အားဖြင့် နီးဂရိုက်လူမျိုးစုများကို ကပ္ပလီလူမျိုးဟုခေါ်သည်။ သို့ရာတွင် တိတိကျကျမဖေါ်ပြနိုင်ချေ။ ယေဘုယျအားဖြင့် ကပ္ပလီအနွယ်သည် အသားမည်းသည်၊ ဆံပင်ကောက်သည်၊ နှာခေါင်းပြားသည်၊ နှုတ်ခမ်းထူသည်ဟုသာမန်အားဖြင့်သိရပေသည်။

ကပ္ပလီဟူသောစကား၏အဓိပ္ပါယ်မှာ နိုင်ငံဒေသကိုလိုက်၍အမျိုးမျိုးကွဲပြားသည်။ အမေရိကန်ပြည်ထောင်စုတွင် မိမိတို့မျိုးရိုး၌ကပ္ပလီတဦးပါလျှင် မည်မျှပင်လူဖြူသွေးပါစေကာမူ၊ ကပ္ပလီလူမျိုးဟုစာရင်းသွင်းခံရ၏။ အမေရိကန်အလယ်ပိုင်းနှင့်တောင်အမေရိကတိုက် ကပ္ပလီတို့သည် တိုင်းရင်းသားလူဖြူလူမဲအမျိုးမျိုးတို့နှင့် ပေါင်းစပ်မိသဖြင့် များစွာသောကပ္ပလီကပြားမျိုးများပေါက်ပွားလာ၏။ ထိုမျှသာမက ကမ္ဘာ့အရပ်ရပ်သို့လည်း ရောင်းကုန်အဖြစ်ရောင်းစားခြင်းခံရသဖြင့် ပြန့်နှံ့သွားပေသေး

သည်။ သို့သော် ကပ္ပလီဟူသောစကားမှာ အာဖရိကတိုက်တွင် တိုင်းဦးသားလူမဲမျိုးများကိုအာရပ်များက 'ကဖါး' ဟုခေါ်ရာမှ ပေါ်ပေါက်လာလေသည်။ အများအားဖြင့် ဆဟားရားသဲကန္တာရတောင်ဖက်တွင် နေထိုင်ကြသည်။ (အာဖရိက — ရှု)။

ကပ္ပလီလူမျိုးနှင့်ခပ်ဆင်ဆင်တူသော နီးဂရိုက်နှင့် နီဂရီတိုခေါ် လူမျိုးတို့ကို ပသျှူးကျွန်းဆွယ်၊ ဖိလစ်ပိုင်ကျွန်းစု၊ နယူးဂင်းနီကျွန်းနှင့် ပစိဖိတ်သမုဒ္ဒရာတောင်ပိုင်းရှိကျွန်းကြီးများတွင် အများအပြားတွေ့ရလေသည်။ ယခုအခါ အမေရိကတိုက်နှစ်တိုက်တွင် ကပ္ပလီလူမျိုးပေါင်း ၂၆ သန်းခန့်ရှိနေသည်။ တောင်အမေရိကတိုက် ဗရာဇီးနိုင်ငံတွင် ကား၊ ကျွန်အရောင်းအဝယ်ပိတ်ပင်ရေး နောက်ကျသဖြင့် ကပ္ပလီဦးရေအများဆုံးရှိလေသည်။ (ဗရာဇီးနိုင်ငံ — ရှု)။

ကျူးဗား၊ ဟေးတီး၊ ဂျမေးကား စသောကျွန်းများနှင့် အနောက်အိန္ဒိယကျွန်းစုအပါအဝင် ကျွန်းကလေးများတွင်လည်း ကပ္ပလီလူမျိုးအမြောက်အမြားနေထိုင်သည်။

တောင်အမေရိကတိုက်တွင်ကား ကပ္ပလီလူမျိုး၊ အသားလတ်လူမျိုး၊ လူဖြူမျိုး ဟူ၍သုံးမျိုး သုံးစားခွဲခြားလေ့ရှိသည်။ အသားလတ်လူမျိုးများမှာ နီးဂရိုးနှင့်လူဖြူကပြားများဖြစ်သည်။ လက်တင်အမေရိကန်နိုင်ငံများတွင်ကား လူတယောက်၏ စီးပွားရေးနှင့် ပေါင်းသင်းဆက်ဆံရေး အဆင့်အတန်းသည် သူ့အား မည်သည့်လူမျိုးစုတွင်ထည့်သွင်းရမည်ကို များစွာအထောက်အပံ့ပေးလေသည်။

အမေရိကန်ပြည်ထောင်စုတွင် အမေရိကန်ပြည်တွင်းစစ်မဖြစ်မီက၊ ကပ္ပလီလူမျိုးများမှာ လူဖြူလူမဲခွဲခြားမှုဒဏ်ကို အများဆုံးခံခဲ့ရသည်။ အစစအရာရာတွင် လူဖြူများနှင့်တန်းတူအခွင့်အရေးမရရှိကြချေ။ ကပ္ပလီလူမျိုးများအား ဥပဒေအရ စာရေး၊ စာဖတ်ခြင်းကိုပင် တားမြစ်ထားသည်။ အမေရိကန်ပြည်တွင်းစစ်ပြီးသည့်နောက် ကပ္ပလီများ လွတ်လပ်ခွင့်ရသောအခါမှ အမေရိကမြောက်ပိုင်းသာသနာပြုအဖွဲ့များက သင်ကြားပေးသဖြင့် ကပ္ပလီလူမျိုးပညာတတ်များပေါ်များလာလေသည်။ ယခုအခါ ကပ္ပလီလူမျိုးများအထဲမှ ကျောင်းဆရာ ဆရာမများ၊ ဆေးဆရာဝန်၊ ရှေ့နေရှေ့ရပ်၊ ကုန်သည်၊ လောကဓါတ်ဆရာ၊ လက်ဝှေ့ချံပီယန်၊ ဂီတဆရာနှင့် စာရေးဆရာကြီးများ တနှစ်ထက်တနှစ် တိုးတက်များပြားလာပြီးလျှင် အခြားလူမျိုးများနှင့် ပခုံးချင်း ယှဉ်ပြိုင်လိုက်နိုင်သော ဘဝသို့ပင် ရောက်ရှိနေကြလေပြီ။ (လင်ကွန်း၊ အေ — လည်းရှု)။



ယခုခေတ်ကျမှကပ္ပလီတို့စာပေလိုက်စားခွင့်ရကြသည်။

ကမ္ဘာပေါ်တွင်ကပ္ပလီလူမျိုးဦးရေမှာ ကမ္ဘာ့လူဦးရေ၏ လေးပုံတပုံခန့်ရှိသည်ဟု နောက်ဆုံးသန်ကောင်စာရင်းအရ ခန့်မှန်းရလေသည်။ အာဖရိကတိုက်နှင့် အနီးအပါးနိုင်ငံများတွင်ကပ္ပလီဦးရေ ၁၄၇ သန်း၊ ကနေဒါနှင့်အမေရိကန်ပြည်ထောင်စုတွင် ၁၃ သန်း၊ အနောက်အိန္ဒိယကျွန်းစုနှင့် လက်တင်အမေရိကန်နိုင်ငံများတွင် ၁၃ သန်း၊ ပစိဖိတ်ကျွန်းများနှင့်ဩစတြေးလီးယားတွင် ၂ သန်းကျော်ခန့်ရှိသည်ဟု ခန့်မှန်းရသည်။ ကပ္ပလီလူမျိုးအများဆုံးနေထိုင်ရာမှာ အီကွေတာတောင်ဖက်ရှိ အပူပိုင်းနိုင်ငံများ ဖြစ်သည်။



အစေခံအဖြစ်အသက်မွေးရရှာသောကပ္ပလီအမျိုးသမီး



တေဗယ်တောင်တန်းကိုနောက်ခံပြုကာရှုခင်းသာစွာ တည်ထားသော ကိပ္ပတောင်းမြို့

**ကပ္ပီတန်။** ။ကက်ပတိန် — ရှု။

**ကိပ္ပတောင်းမြို့။** ။ကိပ္ပတောင်းမြို့သည် တောင်အာဖရိက ပြည်ထောင်စုတွင် ရှေးအကျဆုံးနှင့် ဒုတိယအကြီးဆုံးမြို့ ဖြစ်သည်။ ထိုပြင် ဂွတ်ဒဟုပ်အငူပြည်နယ်၏မြို့တော်ဖြစ်၍၊ တောင် အာဖရိက ပြည် ထောင် စု အစိုးရ ရုံးစိုက်ရာ မြို့လည်း ဖြစ်လေသည်။

မြို့၏တည်နေရာမှာ ဂွတ်ဒဟုပ်အငူ၏မြောက်ဖက် မိုင် ၃၀ ခန့်အကွာ တေဗယ်ပင်လယ်အော်၏ ကမ်း ခြေ ပေါ် တွင်ဖြစ် သည်။ ကုန်းဖက်ပတ်လည်တွင် မြင့်မားသောတောင်တန်း ကြီးများက နယ်နိမိတ်သဖွယ်ကာရံလျက်ရှိသည်။ မြို့နှင့် ကပ်လျက်တည်ရှိသော တေဗယ်တောင်တန်းမှာ နှစ်မိုင်ခန့် ရှည်လျား၍၊ အချို့နေရာများတွင်ပေ ၃,၅၀၀ ကျော်မြင့် သည်။ အရှေ့ဖက်၌ ဒဲဗဲပီခေါ် 'သေမင်းတောင်ထွတ်' သည် လွင်ပြင်၏အစွန်းဖြစ်သကဲ့သို့ အနောက်ဖက်၌ လိုင်း ယင်းစဟက်ခေါ် 'ခြင်္သေ့ဦးခေါင်း' တောင် ထိပ် သည် အစွန်းဖြစ်လေသည်။ ထိုတောင်ထိပ် နှစ်ခုကြားရှိလွင်ပြင်၌ ကိပ္ပတောင်းမြို့သည် တင့်တယ်ခန့်ညားစွာ တည်ရှိသည်။

ကိပ္ပတောင်းမြို့ကိုတည်ခဲ့သည် မှာ နှစ်ပေါင်း ကြာမြင့်လှပြီ ဖြစ် သော် လ ည်း၊ ခေတ် မှီ အောင် ပြု ပြင် ပေး ထား သော ကြောင့် တောင်အာဖရိကပြည်ထောင်စုတွင် အလှပအခန့် ညားဆုံးမြို့တမြို့ဖြစ်နေပေ သည်။ မြို့၏ ဗဟိုလမ်းမကြီးဖြစ် သော အက်ဒါလီလမ်းမကျယ်ကြီးမှာ လွန်စွာစည်ကား၍၊ ခေတ်မှီအဆောက်အအုံများနှင့်တင့်တယ်လှသည်။ ထိုလမ်း မှ ပင်လယ်ကမ်းခြေသို့ ဂိုက် ၆၀၀ ရှည်သည့် အညောင်း ပြေလမ်းရှောက်ရန်ဆိပ်ခံတန်တားရှည်ကြီးဖြင့် ဆက်သွယ် ထားသည်။ ဥပဒေပြုလွှတ်တော်အဆောက်အအုံ၊ ပြည်သူ့ စာကြည့်တိုက်၊ တက္ကသိုလ်ကျောင်း၊ ဒပ်ချ လူမျိုး တို့ ဆောက်ခဲ့သည့်ရဲတိုက်ကြီး နှင့် အစိုးရ အဆောက် အအုံများ စွာတို့မှာ အက်ဒါလီ လမ်းမကြီး တ လျှောက် နှင့် အစိုးရရိပ် သာတွင်တည်ရှိသည်။ မျူနီစီပယ် ဥယျာဉ်များကိုလည်း တွေ့ရ၏။ ဆိပ်ခံတန်တားလမ်းအဝင်ဝအနီးတွင် မြို့ကိုစတင် တည်ထောင်ခဲ့သူ ဗန်ရီးဗိ၏ ကြေးရုပ်ရှိ သည်။ ထို နေ ရာ မှ မနီးမဝေးတွင် ၁၈၂၄ ခုနှစ်ကဖွင့်လှစ် ခဲ့ သောစစ် အထိမ်း အမှတ်ကျောက်တိုင်ရှိလေသည်။

မြို့၏ ရာသီ ဥတု မှာ ပင် လယ် ဆိပ် ကမ်း မြို့ ဖြစ် သည့် အ လျောက် သင့်တင့်မျှတသည်။ ကျန်းမာရေးအတွက် အစိုးရ က ခေတ်မှီနည်း စံနစ် များကို စီမံလျက် ရှိ၏။ ကိပ္ပတောင်း မြို့သည် တောင်အာဖရိက ပြည်ထောင်စု၏ စည်ကား သော ဆိပ်ကမ်းမြို့လည်း ဖြစ် သည်။ ခန့်ညားသောဆိပ်ကမ်းများ ရှိ၍ ကုန်တင် ကုန်ချ ပြု လုပ် ရာ တွင် ခေတ် မှီ ကိ ရိ ယာ များ ကို အသုံး ပြု သည်။ ခရီး သည် များ အ တွက် လည်း ဗ ဟို ဌာန ဖြစ် သည်။ ခရီးသည် များ သည် ကိပ္ပ တောင်း မြို့မှ တဆင့်ဂျိုဟန္နက်စဗတ်မြို့၊ ရိုဒီးဇီယားမြို့ နှင့် ဒါဗန်မြို့ များ သို့မီးရထားဖြင့် သွားကြ သည်။ ဥရောပတိုက် မှ ဩစတြေး လီး ယား တိုက် သို့ ကုန်များ သယ်ယူပို့ဆောင်သော သင်္ဘော များဆိုက်ကပ်ရာ ဗဟိုဆိပ်ကမ်းလည်းဖြစ်၏။

ထွက်ကုန်များမှာ၊ အများအားဖြင့်သစ်သီးစို၊ သစ်သီး ခြောက်၊ ပန်းနှင့်ဝိုင်အရက်များဖြစ်၏။ အခြားအရေးပါ သောထွက်ကုန်မှာသားမွေး၊ ဆိတ်မွေး၊ သားရေနှင့်ပြောင်း များဖြစ်ကြသည်။

ကိပ္ပတောင်းမြို့ တွင် လူမျိုးစုံ နေထိုင်၍ အရှေ့တိုင်းသား မူဆလင်များ၊ ဒပ်ချလူမျိုးအဆက် အနွယ် များကို တွေ့နိုင် သည်။ မြို့၏လူဦးရေမှာ ၃၇၃,၇၈၁ ယောက် (၁၉၄၆) ဖြစ်သည်။

**ကိပ်ဗတ်ကျွန်းများ။** ။ကိပ်ဗတ်ကျွန်းစုသည် အာဖရိ ကတိုက် ဗတ်အငူမှအနောက်ဖက်မိုင် ၃၅၀ ကွာ၊ အတ္တ လန္တိတ်သမုဒ္ဒရာအတွင်း၌တည်ရှိသည်။ ထိုဗတ်အငူကိုအစွဲ ပြု၍ ကိပ်ဗတ်ကျွန်းစုဟုခေါ် တွင်ခဲ့သည်။

၁၄၄၁ ခုနှစ်တွင် ပေါ်တူဂီလူမျိုးများစတင်တွေ့ရှိခဲ့ရာ၊ ထိုအချိန်မှစ၍ယခုထက် တိုင် ပေါ်တူဂီအစိုးရတို့က ပိုင်ဆိုင် နေလေသည်။ ထိုကျွန်းစုတွင် ကျွန်းကြီး ၁၀ ကျွန်း၊ ကျွန်း ငယ် ၅ ကျွန်း ပါဝင်၍၊ စုစုပေါင်းအကျယ်အဝန်းမှာစတုရန်း

မိုင် ၁,၅၁၆ မျှဖြစ်သည်။ ကျွန်းအားလုံးပင် မီးတောင်ကျွန်းများဖြစ်ရာ၊ ဖိုးဂိုးခေါ် ပေ ၁၀,၀၀၀ ခန့်မြင့်သော မီးတောင်မှာ ယခုတိုင်မီးရှင်လျက်ရှိနေသေးသည်။

ကျွန်းစုတခုလုံး၏လူဦးရေမှာ ၁၈၁,၀၀၀ ခန့်ရှိသည့်အနက် ၆,၀၀၀ ခန့်မှာဥရောပတိုက်သားများဖြစ်၍ ကျန်လူများမှာကပ္ပလီလူမျိုးတို့ဖြစ်ကြ၏။

ရာသီဥတုမှာ ပူပြင်းလှသည့်အပြင် ကျန်းမာရေးနှင့်လည်း မညီညွတ်ချေ။ မကြာခဏမိုးခေါင်သဖြင့် လူများအစာငတ်မွတ်၍သေကြေပျက်စီးကြရသည်။

ဆန်စပါး၊ ပြောင်း၊ ဆေး၊ သကြား၊ ကာဖီ၊ ကြက်ဆူဆီ၊ မုန်ညင်း၊ ဗရန်ဒီအရက်နှင့် စပျစ်၊ လိမ်မော်၊ ငှက်ပျော၊ ရှောက်စသည့်သစ်သီးများထွက်၏။ မြည်း၊ ဆိတ်၊ မြင်းတို့ကိုလည်းမွေးမြူကြသည်။

အကြီးဆုံးကျွန်းဖြစ်သည့် ဆန်တီယာဂိုကျွန်းပေါ်တွင် တည်ရှိသော ပရိုင်ယာမြို့သည် ထိုကျွန်းစု၏မြို့တော်ဖြစ်၍၊ ဘုရင်ခံချုပ်ရုံးစိုက်ရာမြို့ဖြစ်သည်။ စိန်ဗင်းဆင့်ကျွန်းပေါ်ရှိ ပေါ်တိုဂရန်းဒေးမြို့မှာ ဥရောပတိုက်မှ တောင်အမေရိကတိုက်သို့သွားသောသင်္ဘောများ ကျောက်မီးသွေး ဖြည့်ရာစခန်းမြို့ဖြစ်သည့်ပြင် ထိုကျွန်းစု၏ရောင်းဝယ်ရာဗဟိုဌာနလည်းဖြစ်သည်။ ဤဆိပ်ကမ်းမြို့၏အရောင်းအဝယ်လုပ်ငန်းများမှာ၊ အများအားဖြင့်၊ ဗြိတိသျှလူမျိုးများ၏လက်ထဲတွင်ရှိလေသည်။

**ကုပ်ကလူငှက်။** ။ကုပ်ကလူသည် တီးတုတ်ငှက်မျိုးစုဝင်ပင်ဖြစ်သော်လည်း လူသိနည်းသည်။ ကုပ်ကလူကို ရှေးက ကုပ်သလုပ်ဟုခေါ်ကြသည်။

ကုပ်ကလူသည် အိန္ဒိယနှင့်မြန်မာနိုင်ငံတို့မှ မလက္ကာအထိ အနှံ့အပြားနေသည်။ မြန်မာနိုင်ငံတွင် ရခိုင်တိုင်း နှင့် မန္တလေးမြို့အနီးအပါးရှိဆည်မြောင်းများ၌ မြင့်မားသောလက်ပံပင်များတွင်အများအပြားတွေ့ရသည်။

အလျား ၂၃ လက်မခန့်ရှိ၍၊ မဲ့ခြောက်ခြောက်အရောင်ရှိသည်။ မျက်စိမှာ ဖြူဃော်ဃော်ဖြစ်၏။

အသံမှာ မီးရထားစက်ခေါင်းသံနှင့်တူ၍၊ ကုပ်၊ ကုပ်ကုပ်ကလူဟုမြည်သည်ထင်ရသည်။ ဤမြည်သံကိုအစွဲပြု၍ပင် ကုပ်ကလူဟုခေါ်ကြသည်။ ကုပ်ကလူ၏အော်သံကိုနွေရာသီတွင်တနေ့လုံးကြားရတတ်သည်။ အထူးသဖြင့်မှောင်စပျိုးချိန်နှင့်နံနက်ဝေလီဝေလင်းအချိန်များတွင်၊ ဆူညံစွာအော်လေ့ရှိသည်။

ကုပ်ကလူသည် ရေကောင်းစွာရသောတောအုပ်၊ သစ်ပင်အုပ်များတွင် နေလေ့ရှိသည်။ တနေ့လုံးပုန်းအိပ်နေ၍၊ ညဥ့်အခါတွင်သာ အစာရှာထွက်လေ့ရှိသည်။ တောကျီး၊ မြို့ကျီးများသည် ယင်း၏ အဓိကအစာဖြစ်၏။ တိရစ္ဆာန်ငယ်များနှင့် ငှက် ပေါက်စများကိုလည်းဖမ်းယူစားသောက်လေ့ရှိတတ်သည်။

ကုပ်ကလူသည် ဒီဇင်ဘာလမှမတ်လအထိသားပေါက်၏။ မြေမှ ပေသုံးလေးဆယ်မြင့် သော သစ်ပင် ခွ၌ အသိုက်ကိုတုတ်ချောင်းများဖြင့်ခွက်သဏ္ဌာန်ပြုလုပ်တတ်သည်။ တခါတရံ အသိုက် ဟောင်းများကို ပင် ချဲ့ထွင် ၍ နှစ်စဉ်အသုံးပြုသွားပြီးလျှင်၊ မကြာမကြာလည်း လင်းယုန်နှင့်လင်းတအသိုက် ဟောင်းများကို အသုံးပြုတတ်သည်။ တမြုံလျှင် ဥတလုံးမှ ၄ လုံးအထိရှိတတ်သော်လည်း အများအားဖြင့် ၂ လုံးသာရှိတတ်သည်။ ဥများမှာအခြားတီးတုတ်ဥများနှင့်တူသော်လည်း အရွယ်နှင့်သဏ္ဌာန်မှာ များစွာကွာခြားသည်။ ဥအရွယ်မှာပျမ်းမျှအလျား ၂.၃၃ လက်မနှင့်ပြက် ၁.၉၀ လက်မရှိသည်။

**ကုံကော်ပင်။** ။ကုံကော်ပင်မျာ်းသည် အာသံပြည်နှင့် မြန်မာနိုင်ငံရှိ အမြဲစိမ်းတောများမှ အပင်ကြီးတမျိုးဖြစ်သည်။ မြန်မာနိုင်ငံတွင် အထူးသဖြင့်အထက်မြန်မာနိုင်ငံနှင့်တနင်္သာရီတိုင်း၌အပေါက်များသည်။ ပေ ၇၀ မှ ၉၀ အထိမြင့်၍ ပင်စည်လုံးပတ်မှာ ၈ ပေမှ ၁၀ ပေအထိရှိတတ်



အရွက်များဖြင့် အစဉ်လို ဝေဆာလျက်ရှိသော ကုံကော်ပင်



ဝတ်ဆံဝါပွင့်ချပ်ဖြူနှင့်မွှေးကြိုင်လှသည့်ကံ့ကော်ပန်း

သည်။ ကံ့ကော်သား၏အရောင်မှာ နီညစ်ညစ်ရှိ၍၊ အလွန်မာကျောလေးလံပြီးလျှင် ကြာရှည်ခံ သည်။ ခြောက်သွားသောအခါပြုပြင်ရန်ခဲယဉ်းသည်။ မာကျော ခိုင် ခံ့ သဖြင့် ကံ့ကော်သားကိုတန်တား၊ မီးရထားလမ်းဇလီဖါးတုံး၊ ရေတွင်းဘောင်၊ သေနတ်ပြောင်းခံနှင့်လှည်းထမ်းပိုး၊ လှည်းပုံတောင်းစသည်များအတွက် အသုံးချနိုင်သည်။

ကံ့ကော်ပင်၏ရုက္ခဗေဒအမည်မှာ မက်ဆူဝါဖဲရီးယားဖြစ်သည်။ အရိပ်အာဝါသကောင်းခြင်း၊ လှပ၍ရနံ့ကြိုင်သောပန်းများပွင့်ခြင်းတို့ကြောင့် မြန်မာနိုင်ငံ တွင် အနှံ့အပြားစိုက်ပျိုးကြ၏။ နောင်ပွင့်တော်မူလတ္တံ့သောအရိမေတ္တေယျမြတ်စွာ ဘုရား ရှင် သည် ကံ့ကော်ပင် ၌ပွင့် တော်မူမည်ဆိုခြင်းကြောင့် အချို့က ကံ့ကော်ပင်များကိုအထွတ်အမြတ်ထားကာ ဘုရားဝင်းကျောင်းဝင်းအတွင်း၌တမင်သက်သက်ပင်စိုက်ပျိုးလှူဒါန်းကြသည်။ အလွန်ကြီးခဲသည့်အတွက်လမ်းဘေးအပင်များအဖြစ် စိုက်ပျိုး ရန် ကား မသင့် တော်ချေ။ အဝါရောင် ဝတ်ဆံပတ်လည်တွင် ဖြူဖွေးသောပွင့်ဖတ်များ ဝိုင်းရံလျက် ရှိသည့် ကံ့ကော်ပန်းများ သည် တန်ခူးလတွင် ဝေဆာစွာပွင့်ကြသည်။ ကံ့ကော်ပန်းကိုဘုရားတင်ကြသည်။ မြန်မာအမျိုးသမီးများနှစ်သက်မြတ်နိုးစွာ ပန်ဆင် လေ့ရှိသည့် ပန်းတမျိုးလည်းဖြစ်၏။ ကံ့ကော်ပန်းအခြောက်ကို အထူးသဖြင့် သွေးဆေးပေါ် စပ်ရာတွင် အသုံးပြု၍ ကံ့ကော်ဝတ်ဆံအမည်ဖြင့် ဘယဆေးဆိုင်၌ရောင်းချသည်။ ကံ့ကော်ရွက်မှာမူ မြွေဆိပ်နိုင်သည်ဟုဆိုသည်။

ကံ့ကော်သီးမှာ ရှည်လျားလျားဖြစ်၍ တလက်မခန့်ရှည်သည်။ အသီးမှအဆန်ကိုကြိတ်လျှင် ဆီရနိုင်၏။ သို့သော် လူတို့စားသုံးခြင်းကား မပြု နိုင် ချေ။ ဆပ်ပြာချက် ရာတွင် အသုံးပြုနိုင်သော်လည်း လိုသလောက်မရနိုင်သဖြင့်ဆီကြိတ်ခြင်းကိုလက်လွှတ်ထားကြသည်။

**ကံကျွေးချစ်နှစ်။** ။ဥရောပတိုက်တွင် ၈ ရာစုနှစ်မှ ၁၀ ရာစုနှစ်အတွင်း၊ ကံကျွေးချစ်နှစ် သည် တဖြည်းဖြည်း အကောင်အထည်ပေါ် လာလေသည်။ ကံကျွေးချစ်နှစ် ပဒ္ဓမဦးဆုံး ပေါက်ပွား ရာ နှင့် စံနစ် တကျ တိုးတက် ထွန်း ကား ဆုံးဒေသမှာ ပြင်သစ်နိုင်ငံပင်ဖြစ်လေသည်။ သို့ရာတွင် အခြားအနောက်ဥရောပနိုင်ငံများတွင်လည်း ကံကျွေးချစ်နှစ်သည် အသွင်တမျိုး မျိုး ဖြင့် ပေါ် ပေါက်ခဲ့ရာ၊ ၁၃ ရာစုနှစ်အထိ အထူးတိုးတက်ထွန်းကားခဲ့သည်။ ဥရောပတိုက်တွင် အလယ်ခေတ်၌ကံကျွေးချစ်နှစ်ထွန်းကားနေသကဲ့သို့ အင်္ဂလန်တွင်လည်း နော်မန် မင်း များ ရောက် လာ အုပ်စိုးသည့် အချိန်မှ အစပြု၍၊ ကံကျွေးချစ်နှစ်သည် အမြစ်တွယ်ခဲ့လေသည်။

ဥရောပတိုက်တွင် ထိုအချိန် အခါက မြောက် နှင့် အရှေ့အရပ်မှရိုင်းစိုင်းသော လူ အမျိုးမျိုး တို့ ဝင်ရောက် တိုက် ခိုက်ဒုက္ခပေးလာခါစဖြစ်ရာ၊ အအုပ်အထိန်းရှိနိုင်သမျှရှိအောင်ပြုလုပ်ရာမှကံကျွေးချစ်နှစ်ပေါ် ပေါက်ခဲ့၏။ ကံကျွေးချစ်နှစ်မှာ ကိုယ့်ဖက်တော်သား ဖြစ် အောင်သစ္စာခံစေပြီးမှ မြေငှား၍အုပ်ချုပ်သောအုပ်ချုပ်ရေးစံနစ်တမျိုး ဖြစ် ပေသည်။ သို့သော် ကံကျွေးချစ်နှစ်ကို အုပ်ချုပ်ရေးစံနစ်တခုဟုဆိုခြင်းထက် နေထိုင်ဆက်ဆံမှုစံနစ်တခုဟုဆိုကပို၍မှန်ကန်ပေမည်။

ကံကျွေးချစ်နှစ်အရ ရှင်ဘုရင်သည်နိုင်ငံအလုံးကိုထာဝရဘုရားသခင်က ပေးသနား တော် မူသောကြောင့်အုပ်စိုးရ၍၊ မြေယာအားလုံး၏ပိုင်ရှင်ဖြစ်သည်ဟုဆိုလေသည်။ အဓိကမြေရှင်ကြီးဖြစ်သောရှင်ဘုရင်သည် မြေယာများကိုခွဲဝေပြီးလျှင် သူ၏ဆွေတော်မျိုးတော်များနှင့်နောက်လိုက်နောက်ပါ အခြွေအရံ မှူးကြီး မတ်ရာများ အား သစ္စာခံယူစေပြီးနောက် ငှားရမ်းလေသည်။ ထိုသစ္စာခံမြေရှင်ကြီးများသည် ဝင်ရောက်တိုက်ခိုက်မှုအန္တရာယ်မှကာကွယ်နိုင်ရန်၊ ခိုင်ခံ့လှသောကိုယ်ပိုင်ရဲတိုက်ကြီးများတည်ဆောက်ထား လေသည်။ အခြွေအရံလည်း ပေါများသည်။ သူတို့သည်အနီးအနားတဝိုက်တွင်၊ ဘုရင်ကလေး တဆူသဖွယ်သြဇာလွှမ်းမိုးသူများဖြစ်ကြသည်။ မြေရှင်ကြီးများကတဖန် မိမိတို့ရရှိသောမြေများကိုခွဲဝေ၍ မိမိထက်အင်အားငယ်သောသူများအားသစ္စာခံယူစေပြီးလျှင်၊ ငှားရမ်းပြန်လေသည်။ မြေရှင်ကြီးများသည် ဘုရင့်သစ္စာတော်ခံများဖြစ်သကဲ့သို့ ထိုသူတို့သည်လည်း မြေရှင်ကြီးများ၏သစ္စာခံများဖြစ်လာကြသည်။ ထို့ပြင် သူတို့သည်မြေရှင်ကြီးများကဲ့သို့ပင် ခိုင်ခံ့

သောရဲတိုက်ကြီးများကို ပိုင်ဆိုင်၍ အနီးအနားတဝိုက်တွင် မင်းမူနေသူများဖြစ်၏။ သူတို့က တဆင့် မြေကိုခွဲဝေ၍ အထက်နည်းအတိုင်း ငှားရမ်းပြန်သည်။ ထိုသို့မြေများကို အဆင့်ဆင့် ငှားရမ်းသွားကြရာ၊ နောက်ဆုံးအဆင့်တွင်ရှိသော သစ္စာခံ၍မြေငှားယူသူများမှာ စားနိုင်သောက်နိုင်ရုံမျှသာရှိလေသည်။

အထက်ပါအတိုင်း မြေများကိုအဆင့်ဆင့်ငှားရမ်းရာတွင် မြေကိုထုတ်ငှားသူသည် သစ္စာခံ၍၊ မြေကိုငှားယူလုပ်ကိုင်သူတို့၏ အသက်ဦးဆံကို ပိုင်သည်။ ထုတ်ငှားရာနယ်မြေတွင် နေထိုင်သူအားလုံး၏အသက်ဦးဆံကိုလည်းပိုင်၏။ သို့ဖြစ်၍ အသက်ဦးဆံပိုင်အာဏာလည်းအဆင့်ဆင့်တည်လေသည်။

ထို့ပြင် သစ္စာပေး၍မြေထုတ်ငှားသူသည် သစ္စာခံ၍မြေငှားလုပ်သူတို့အား သူတပါး၏တိုက်ခိုက်ဖျက်ဆီးခြင်းဘေးမှ ကာကွယ်ပေးရသည်။ သစ္စာခံသူတို့ကလည်း ကျေးဇူးတုံ့ပြန်သောသဘောဖြင့် သစ္စာစောင့်ထိန်းရသည်။ ထို့ကြောင့် အရေးကြုံလာသည်ရှိသော် စစ်သားများထောက်ပံ့ရ၏။ ကိုယ်တိုင်ထွန်ယက်လုပ်ကိုင်သော မြေထွက်ပစ္စည်းများကိုလည်း ကြေးအဖြစ်ပေးဆက်ရသည်။ သို့သော် မြေရှင်သည် သားအကြီးဆုံးအား ဆာဘွဲ့အပ်နှင်းသည့်အခါ၊ သို့မဟုတ် မြေရှင်၏ သမီးအကြီးဆုံးလက်ထပ်သောအခါ၊ သို့မဟုတ်မြေရှင်အား အချုပ်အနှောင်မှ ရွေးယူရသောအခါမျိုးတွင်သာ ထိုကြေးကိုပေးဆက်ရလေသည်။ မြေကိုငှားသည့် အခါတွင်၊ မြေရှင်၏ သစ္စာခံလူဟုအသိအမှတ်ပြုသည့် သဘောမျိုး သက်ရောက်သော အခမ်းအနား တရပ်ကျင်းပလေသည်။ ထိုနောက်တွင် မြေငှားသူသည် မြေရှင်၏ လက်အောက်ခံဖြစ်သွား၍၊ ထိုသူ သေဆုံးသောအခါ သားအကြီးဆုံးဖြစ်သူကဆက်ခံရလေသည်။ မြေငှားယူသူများက သူတို့ရရှိသောမြေယာများကို သူတို့၏နယ်မြေအတွင်း နေထိုင်သောဆင်းရဲသားများအားလုပ်ကိုင်စေသည်။ ထိုဆင်းရဲသားများကား မြေကျွန်များဖြစ်လေသည်။ မြေကျွန်များသည် မြေရှင်များ၏လယ်ယာများကို ပင်ပန်းကြီးစွာ ထွန်ယက်လုပ်ကိုင်ပေးရသော်လည်း၊ ရရှိသမျှပစ္စည်းများအနက်အနည်းငယ်သာပိုင်ဆိုင်ခွင့်ရကြ၏။ ကျန်သမျှကိုမြေရှင်အား ပေးရလေသည်။ သူတို့တွင် လွတ်လပ်စွာ လုပ်ကိုင်နိုင်ခွင့်မရှိချေ။ သူတို့၏ချွေးနှင့်ရင်းနှီး၍ရသမျှသော အကောင်းအမွန်အညွန့်အသားတို့ကို မြေရှင်တို့က သာခံစားကြလေသည်။ ထိုစဉ်အခါက ဥရောပတိုက်တွင် ကံကျွေးချစံနစ်ကြောင့် လူတန်းစားသုံးမျိုးပေါ်ပေါက်လာခဲ့ရာ၊ မြေရှင်နှင့်မြေကျွန်တို့အပြင် လူလွတ်ဟူ၍ရှိသေး၏။ လူလွတ်များကား မြို့များတွင်နေထိုင်ကြသောလက်မှုပညာသည်များနှင့်ကုန်သည်များဖြစ်လေသည်။

ကံကျွေးချစံနစ်သည် ၁၃ ရာစုနှစ်အထိ ထွန်းကားပြီးနောက် တဖြည်းဖြည်းတိမ်ကောသွားလေသည်။ ကံကျွေးချစံနစ်တိမ်ကောသွားရသောအကြောင်းရင်းများမှာ၊ ဘုရင်တို့၏တန်ခိုးအာဏာကြီးမားလာခြင်း၊ ကုန်စည်ကူးသန်းရောင်းဝယ်ရေးဖွံ့ဖြိုးလာသဖြင့် မြို့ရွာများထွန်းကားလာခြင်း၊ ကြေးငွေကိုအခြေပြုသည့်စီးပွားရေးစံနစ်ပေါ်ပေါက်လာခြင်း၊ လူတို့၏အသိဉာဏ်များတိုးပွားလာခြင်းနှင့်တိုက်



ကံကျွေးချခေတ်မြေရှင်ကြီးများထံမှောက်တွင်လက်အောက်ခံမြေငှားများဤသို့သစ္စာခံယူကြရ၏။

ပွဲတွင် လေး မြား အစား ယမ်း နှင့် သုံး ရသောအမြောက်စိန် ပြောင်းတို့ပေါ် လာခြင်းတို့ကြောင့် ရဲတိုက်ကြီးများမလုံခြုံ ခြင်းစသည်တို့ဖြစ်ပေသည်။

**ကမ်ချတ်ကားကျွန်း ဆွယ်။** ။ကမ်ချတ်ကားကျွန်း ဆွယ် သည် ဆိုက်ဗီးရီး ယား ပြည် အရှေ့ဖက် ဖျား ၌ တည်ရှိ သည်။ အရှေ့ဖက်တွင် ဗေးရင်းပင်လယ်နှင့်အနောက်ဖက် တွင် အိုကော့ပင်လယ် တို့အကြားမှ မိုင်ပေါင်း ၇၅၀ ခန့် တောင်ဖက်ပစိဖိတ်သမုဒ္ဒရာထဲသို့ထိုးထွက်နေသည်။

ထိုကျွန်းဆွယ်မှာ တောင် ထူ ထပ်၍၊ မြင့် မား သော မီး တောင်ကြီးများပေါသည်။ အမြင့်ဆုံးတောင်မှာပေပေါင်း ၁၆,၀၀၀ အထိမြင့်လေသည်။ ကျွန်းဆွယ်တခုလုံးတွင် ရေ ပူစမ်းများပြည့်နှက်နေသည်။ ထို့ပြင် ထူထပ်လှသောသစ် တောကြီးများလည်းရှိသည့်ပြင်၊ တွင်းထွက်ပစ္စည်းအားနှင့် လည်း ပြည့်စုံလေသည်။ အရှေ့ဖက်တောင်တန်းနှင့်အလယ် ပိုင်း တောင် တန်း ဟူ၍ တောင် တန်း နှစ်ခု အထင် အရှားရှိ သည်။ ကမ်ချတ်ကားကျွန်းဆွယ်သည် ဗြိတိသျှကျွန်းစုနှင့် တပြေးတည်း တည်ရှိသည်ဟုဆိုနိုင် သော်လည်း ရာသီဥတု မှာအလွန်အေးလေသည်။

ထိုကျွန်းဆွယ် တွင် နေထိုင်သောသူတို့၏ အဓိက အသက် မွေးမှုလုပ်ငန်းများမှာ ငါးများခြင်းနှင့်အမဲလိုက်ခြင်းဖြစ်၍ သား မွေး များ ကို တင် ပို့ ရောင်း ချကြ သည်။ ၁၇ ရာစုနှစ် အကုန် လောက် မှ စ၍ ကမ် ချတ် ကား ကျွန်းဆွယ်ကို ရုရှား တို့ကသိမ်းပိုက် လိုက် လေ သည်။ ယခုအခါဆိုဗီယက်အစိုးရ တို့က ထိုကျွန်းဆွယ် တွင် စိုက် ခင်း ခြံ များ နှင့် ကျွဲ နွား မွေး ဌာနအမျိုးအစား တည်ထောင်ပေးပြီးဖြစ်၏။ အကျယ် အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၀၄,၂၆၀ ဖြစ်၍၊ လူဦးရေ မှာ ၁၀,၀၀၀ နီးပါးရှိသည်။ ထို့ပြင် လူဦးရေ ၁၀ ယောက် လျှင် ၄ ယောက်မှာရုရှားလူမျိုးဖြစ်၏။ ပက်ထရိုပက်ဗ လော့ခ်မြို့မှာ ကမ်ချတ်ကား ကျွန်းဆွယ်၏မြို့တော်နှင့်ထင် ရှားသောဆိပ်ကမ်းမြို့ဖြစ်သည်။

**ကမ္ဘောဇနိုင်ငံ။** ။ရှေးနှစ်ပေါင်း ၁,၀၀၀ ကျော်ခန့်က အလွန်ကျယ်ပြန့်သော တိုင်းပြည်တခုဖြစ်ခဲ့သည့် ကမ္ဘောဇ နိုင်ငံသည် ပြင်သစ်ပိုင်အင်ဒိုချိုင်းနားတွင်နယ်တနယ်ဖြစ်ခဲ့ သည်။ ထိုသို့ ပြင်သစ် အစောင့် အရှောက် ခံ တိုင်း ရင်းသား ဘုရင် အုပ် ချုပ် သည့် ပြည် နယ် ဖြစ်ခဲ့ရာမှ၊ ၁၉၄၆ ခုနှစ်တွင် အင်ဒိုချိုင်း နား ပြည် ထောင်စုတွင် ကိုယ်ပိုင်အုပ်ချုပ်ရေးရ သောတိုင်းပြည်ဖြစ်လာသည်။

ကမ္ဘောဇနိုင်ငံ၏မြောက်ဖက်နှင့် အနောက်ဖက်တွင် ယိုး ဒယားနိုင်ငံတည်ရှိ၍၊ အရှေ့ဖက်တွင်အာနမ်ပြည်၊ အနောက် တောင်ဖက်တွင် ယိုးဒယားပင်လယ်ကွေ့နှင့် အရှေ့တောင် ဖက်တွင် ကိုချင်ချိုင်းနားပြည်တို့ရှိလေသည်။ အကျယ် အဝန်းမှာ စတုရန်းမိုင်ပေါင်း ၆၇,၅၅၀ မျှရှိခဲ့ရာ၊ ၁၉၄၁ ခု နှစ် တွင် ယိုး ဒယား နိုင်ငံ သို့ မြောက် ပိုင်း ရှိ နယ် အများကို လွှဲအပ်လိုက်ရသည်။ သို့သော် ၁၉၄၅ ခုနှစ်တွင်ထိုနယ်ပယ် အားလုံးကိုပြန်လည်ရရှိခဲ့၏။ ကမ္ဘောဇနိုင်ငံတွင် လူဦးရေ ၃,၀၄၆,၀၀၀ (၁၉၃၆) မျှနေထိုင်သည်။ ကမ္ဘောဇနိုင်ငံ၏ အနောက် ဖက် တွင် ပေပေါင်း ၄,၈၀၀ မြင့် သော ကာဒမုံ တောင်တန်းရှိသော်လည်း အခြားအပိုင်းများမှာ မြေပြန့် ညီညာသည်ဟုဆိုနိုင်၏။ ကမ္ဘောဇနိုင်ငံ၏ရာသီဥတုမှာ မုတ် သုန်ရာသီဥတုမျိုးဖြစ်၏။ ကမ်းခြေတလျှောက်တွင် တနှစ် လျှင်မိုးရေချိန်လက်မ ၂၀၀ ခန့်ရွာသွန်း၍ အတွင်းဖက်သို့




တဖြည်းဖြည်းပါးသွားရာမှ အချိုသောကုန်းတွင်းပိုင်းနေရာ များတွင် လက်မ ၄၀ ခန့်သာရွာသွန်းတော့သည်။ ကမ္ဘောဇ နိုင်ငံတဝက်လောက်တွင်အမြဲ စိမ်းလန်း သော သစ်တောကြီး များ ထူထပ်စွာပေါက်လေသည်။ ထိုသစ် တောကြီး များမှ အဖိုးတန်သစ်များထွက်၏။ တုန်လီဆက်အိုင်ကြီးတည်ရှိရာ အပိုင်းသည် ကမ္ဘောဇနိုင်ငံ၏ထူးခြားသောအပိုင်းဖြစ်သည်။

ထိုအိုင်ကြီးမှချောင်းငယ်မြောင်းငယ်တို့သည် မဲခေါင်မြစ် နှင့်ဆက်သွယ်နေသည်။ မိုးအခါ၌ မဲခေါင်မြစ် ရေတိုးသဖြင့် ရေလျှံသည့်အခါတွင်ထိုချောင်းငယ် မြောင်း ငယ်များ သည် အိုင်ထဲသို့စီးဆင်း၏။ သို့ရာတွင် နွေအခါ၌မူ ထိုချောင်းငယ် များ သည် မဲ ခေါင် မြစ် ထဲသို့ စီး ဝင် ကြ လေသည်။ မိုးအခါ ရေတိုးချိန်တွင် အိုင်ထဲရှိရေမှာ ၄၆ ပေမှ ၄၇ ပေအထိနက် သော်လည်း၊ နွေအခါ၌မူ ၅ ပေမျှသာနက်၏။ ရေတိုးချိန် တွင် ရေအိုင်၏အကျယ်အဝန်းမှာစတုရန်းမိုင် ၇၇၀ မျှရှိ၍ ရေဆုတ်သည့်အခါ စတုရန်းမိုင် ၁၀၀ မျှသာရှိသည်။

နွေရာသီတွင်ရေကျသွားသောအခါ အိုင်ကြီးထဲရှိရေခန်းသွားသည့်နေရာများနှင့် အိုင်ကြီးအနီးအနားတွင် စပါးကို အကြီးအကျယ်စိုက်ပျိုးကြသည်။ ထို့မှတပါးကြံ၊ ပြောင်း၊ ဆေး၊ သရက် စသည်တို့ကိုလည်းစိုက်ပျိုးသည်။ စိုက်ပျိုးရေးမှာ ကမ္ဘောဇနိုင်ငံ၏အဓိကလုပ်ငန်းဖြစ်သည်။ မြစ်ရေကျသဖြင့် အိုင်ကြီးနှင့် ချောင်းမြောင်းတို့မှရေများ ပြန်ဆုတ်ချိန်တွင် ငါးအမြောက်အမြားဖမ်းဆီးကြသည်။ ငါးဖမ်းသော လုပ်ငန်းနှင့် ငါးများမှ အဆီထုတ်သော လုပ်ငန်းမှာ ကမ္ဘောဇနိုင်ငံ၏ ထင်ရှားသောလုပ်ငန်းများဖြစ်ပေသည်။ သံရိုင်းနှင့် အဖိုးတန်ကျောက်မျက်ရတနာများတူးဖော်သည့် လုပ်ငန်းလည်းရှိသေးသည်။

အိုင်ကြီး၏အနောက်ဖက် ဗက်တံဗင်မြို့နယ်ပတ်ဝန်းကျင်တွင် စပါးအများဆုံးစိုက်ပျိုးသည်။ သို့ရာတွင် ၁၉၁၄ ခု မေလ ၉ ရက်နေ့တွင်ချုပ်ဆိုသောစာချုပ်အရ၊ ကမ္ဘောဇဘုရင်သည် ဗက်တံဗင်နယ်ကိုယိုးဒယားနိုင်ငံသို့ပေးအပ်လိုက်ရသည်။ ကမ္ဘောဇနိုင်ငံ၏အဓိကထွက်ကုန်မှာဆန်စပါးဖြစ်သည်။ ပြောင်း၊ ဝါဂွမ်းနှင့် သစ်တို့မှာ ဒုတိယအရေးပါသော ထွက်ကုန်များဖြစ်သည်။ ငရုတ်ကောင်း၊ ကြံ၊ ကာဖီ၊ လက်ဖက်၊ ကြက်ပေါင်စေး၊ ပိုး၊ မဲနယ်နှင့် ဆေးများလည်း ထွက်လေသည်။ ကမ္ဘောဇတိုင်းရင်းသားများမှာအာနမ်ပြည်သူပြည်သားများထက်၊ ယိုးဒယားလူမျိုးများနှင့်ပို၍ သွေးနီးစပ်သည်။ ယင်းတို့မှာ မူလတိုင်းရင်းသားများနှင့် နောက်မှ ပြည်တွင်းသို့ဝင်ရောက်လာကြသောမွန်ဂိုများအပြင် အာရိယန်အနွယ်တို့မှပေါက်ပွားလာကြသည်ဟုဆိုသည်။ကမ္ဘောဇတိုင်းရင်းသားများမှာ ဗုဒ္ဓအယူဝါဒီများဖြစ်ကြသည်။

ကမ္ဘောဇဟူသောအမည်မှာ ဟင်ဒီဘာသာစကားကမ်ဗုမှ ဆင်းသက်လာသည်။ ကမ္ဘောဇ ထုံးဟောင်းပုံပြင်တခုတွင် ထိုကမ်ဗူဆိုသူမှ ခမာလူမျိုးများဆင်းသက်ပေါက်ပွားလာသည်ဟုဆိုသည်။ ခရစ်မပေါ်မီနှစ်ပေါင်းများစွာက အိန္ဒိယနိုင်ငံတောင်ပိုင်း အရှေ့ဖက်ကမ်းရိုးတန်းမှ အိန္ဒိယတိုင်းသားပလ္လဝလူမျိုးကုန်သည်တို့သည် ထိုဒေသကမ်းခြေသို့ လာရောက်နေထိုင်ခဲ့ကြသည်။ သူတို့စတင်နေထိုင်သောနေရာသည်စမ္ပအမည်ရှိနယ်တဝိုက်တွင်ဖြစ်သည်။ ထိုစဉ်ကခမာများသည် တောနက်ကြီးများအတွင်း ရွာငယ်များ ဟိုတကွက် သည်တကွက် တည်ကာ ဘာသာဘာဝ လုပ်ကိုင်စားသောက်ကြလေသည်။

ပလ္လဝတို့သည် စမ္ပဒေသတွင်အခြေစိုက်၍ဆူမတြား၊ ဂျားဗား၊ အရှေ့အိန္ဒိယကျွန်းစုများနှင့် ရောင်းဝယ်ဖေါက်ကားလေရာ၊ နှစ်ရှည်ကြာလတ်သော် ထိုဒေသသည်စည်ကားကြီးပွားလာသည်။ ထိုဒေသတွင်ဝရမန်ဘွဲ့ခံယူသောအိန္ဒိယနိုင်ငံပလ္လဝနေပြည်တော်မှ ကောဏ္ဍညသည်ပဌမဆုံးဘုရင်အဖြစ်အုပ်စိုးခဲ့၏။ ၂၅၀ ပြည့်နှစ်တွင် ထိုစမ္ပဒေသ၌ပန္ဒုရင်္ဂနေပြည်တော်ကိုတည်ထောင်ခဲ့သည်။ ထိုနောက် ၄၃၅ ခုနှစ်၌ကမ္ဘောဇနိုင်ငံကိုတည်ခဲ့သည်။

ဆူမတြားကျွန်း သီရိဝိဇယနိုင်ငံမှပင့်ဆောင်ကိုးကွယ်ခဲ့သော ဗုဒ္ဓသာသနာ ထွန်းကားခဲ့ရာ၊ ဗုဒ္ဓဘာသာရေးအဆောက်အအုံများမြေပြင်ပြည့်မျှတည်ရှိခဲ့သည်ဟုဆိုသည်။ ထိုမျှမကသေး၊ ဆယ်ရာစုနှစ်လောက်တွင် နိုင်ငံတော်အယူဝါဒဖြစ်သောဗြဟ္မဏအယူဝါဒနှင့်ပင်အပြိုင်ဖြစ်လာခဲ့သည်။

ကမ္ဘောဇနိုင်ငံကိုတည်ထောင်ခဲ့ပြီးနောက် ပလ္လဝတို့သည် တောနက်များကိုတဖြည်းဖြည်းခုတ်ထွင်ရှင်းလင်း၍၊ ကမ္ဗုပုရနိုင်ငံ၊ ဗျဓပုရနိုင်ငံများကိုတည်ထောင်ခဲ့ကြ၏။

၉ ရာစုနှစ်အတွင်း ဇယဝရမန်မင်းသည်ကမ္ဘောဇနိုင်ငံ၊ ကမ္ဗုပုရနိုင်ငံ၊ ဗျဓပုရနိုင်ငံများကို တနိုင်ငံတည်းစုပေါင်းလျက်အုပ်စိုးခဲ့လေသည်။ ထို့ပြင် ကမ္ဘောဇနိုင်ငံတွင် အင်းကောနေပြည်တော်ကို ၈၆၀ ပြည့်နှစ်လောက်တွင်စတင်တည်ထောင်ခဲ့၏။ သို့သော် အပြီးမသတ်မီကံကုန်ရာ နောက်ဆက်လက်စိုးစံသော ယသောဝရမန်မင်းက ၉၀၀ ပြည့်နှစ်လောက်တွင်ပြီးစီးအောင်ဆောက်လုပ်ခဲ့လေသည်။ အင်းကောမြို့တော်မှာနီရိုဘုရင်လက်ထက်က ရောမမြို့တော်ကဲ့သို့ ကြီးကျယ်ခမ်းနားခဲ့သော်လည်း နောင်အခါတွင်ထိုမြို့တော်ကြီးသည် လူသူကင်းမဲ့သော တောနက်ကြီးထဲတွင်တိမ်မြုပ်နေခဲ့သည်။

၁၈၆၀ ပြည့်နှစ်ကျော်လွန်သောအခါ ပြင်သစ်လူမျိုးတယောက်သည်အင်းကောမြို့တော်ဟောင်းနှင့် အင်းကောဝတ်ကျောင်းတော်ကြီးကို တုန်လီဆက်အိုင်အနီး၌အမှတ်မထင်တွေ့ခဲ့သည်။ အင်းကောမြို့တော်၏တောင်ဖက်တမိုင်နီးပါးအကွာတွင် အင်းကောဝတ်ကျောင်းကြီးတည်ရှိ၏။ ၁၂ ရာစုနှစ်အစတွင် ထိုကျောင်းတော်ကြီးကိုတည်ဆောက်ခဲ့သည်ဟုဆိုကြသည်။ ဆန်းကြယ်ခမ်းနားစွာတည်ဆောက်ထားခဲ့သဖြင့် ရှေးခေတ်ပိသုကာတို့၏ လက်ရာကိုပေါ်လွင်ထင်ရှားစေသည့်ပြင် ဗုဒ္ဓသာသနာထွန်းကားရာ ကမ္ဘောဇနိုင်ငံတန်ခိုးကြီးခဲ့ပုံကိုခန့်မှန်းနိုင်စေသည်။ ယသောဝရမန်လက်ထက်မှသည် ၁၂ ရာစုနှစ်တိုင်အောင်ကမ္ဘောဇနိုင်ငံကြီးသည်တနေ့တခြားစည်ကားတိုးတက်ခဲ့လေရာ တခါက စစ်သည်ပေါင်း ၅ သန်းမျှပင်ရှိခဲ့၍ထီးဆောင်းမင်း ၂၀ ခန့်သည် လက်ဆောင်ပဏ္ဏာများဆက်သခဲ့ရသည်ဟုအဆိုရှိသည်။

သို့သော် လွန်ခဲ့သည့်အနှစ် ၇၀၀ ခန့်ကယိုးဒယားတို့တိုက်ခိုက်ဖျက်ဆီးခဲ့သဖြင့်ပျက်သုဉ်းသွားရလေသည်။ ထိုနောက်တွင် ယိုးဒယားနှင့်အာနမ်နိုင်ငံတို့၏စိုးမိုးမှုကို ခံခဲ့ရသည်။ ၁၈၆၃ ခုနှစ်တွင် ပြင်သစ်အစောင့်အရှောက်ခံပြည်နယ်ဖြစ်သွားပြီးလျှင် ဘုရင်ရှိသော်လည်း ပြင်သစ်ကိုယ်စားလှယ်တော်ချုပ်ကသာ ပြည်နယ်ကိုအုပ်ချုပ်ခဲ့၏။ ၁၈၈၄ ခုနှစ်တွင် အင်ဒိုချိုင်းနားပြည်ထောင်စုတွင်ကိုယ်ပိုင်အုပ်ချုပ်ခွင့်

ကမ္ဘောဇနိုင်ငံဘုရင်မင်းမြတ်တို့သည် ရှေးမူမပျက်အထက်ပါနန်းတော်ကြီးတွင် ဆက်လက်စိုးစံကြသည်။



တုန်လီဆက်အိုင်အနီးရှိ အင်းကောဝတ်ကျောင်းတော်ကြီးအနောက်မုတ်လမ်းတွင်ဖျော်ဖြေနေကြသောကခြေသည်တစု

ရသောတိုင်းပြည်ဖြစ်လာသည်။ ကမ္ဘောဇရှိ ပြင်သစ်ကိုယ်စားလှယ်တော်သည် ကမ္ဘောဇဘုရင်၏ အတိုင်ပင်ခံအဖြစ် ဆောင်ရွက်လေသည်။

ယခုခေတ်တွင် ကမ္ဘောဇနိုင်ငံ၏ မြို့တော်မှာ ပနွမ်းပင်းမြို့ဖြစ်သည်။ ယင်းမှာမဲခေါင်မြစ်ပေါ်ရှိ အရေးပါသောဆိပ်ကမ်းမြို့လည်း ဖြစ်သည်။ ၁၉၄၁ ခုနှစ်ကုန်ခါနီးလောက်မှစ၍ ပနွမ်းပင်း-မွန်ကောဗိုရေး မီးရထားလမ်းကို ယိုးဒယားနိုင်ငံမီးရထားလမ်းများနှင့်ဆက်သွယ်လိုက်လေသည်။

# လူ့အခြေသာယာစေရည်ညွှန်း

**ကမ္ဘာကိုအမြဲတစေလောင်မြိုက်လေ့ရှိသောစစ်မီးများငြိမ်းသတ်ရန်အလို့ငှါ နိုင်ငံပြုသူခမိန်ကြီးများသည်အမျိုးမျိုးအဖုံဖုံကြံစည်ကြိုးစားခဲ့ကြသည်ကို အောက်တွင်ဖေါ်ပြထားသည်။ သို့ရာတွင်အပြုသဘောထက်အဖျက်သဘောသို့ရေစုန်မျှောနေသော ဤခေတ်ကြီးတွင် ထိုပုဂ္ဂိုလ်ကြီးများ၏ကြိုးပမ်းချက်သည်မည်မျှအောင်မြင်ထမြောက်မည်ကိုကျွန်ုပ်တို့စောင့်စားကြည့်ရှုကြပါစို့။**

**ကမ္ဘာ့ငြိမ်းချမ်းရေးလုပ်ငန်း။** ။ကမ္ဘာ့သမိုင်းကို ပြန်လည်သုံးသပ်ကြည့်လျှင် ကမ္ဘာဦးအစမှယနေ့တိုင်အောင်လူအချင်းချင်းတိုက်ခိုက်သတ်ဖြတ်နေသောစစ်ပွဲကြီးများကိုတွေ့ရပေမည်။ ငြိမ်းချမ်းရေးကိုလိုလားသောပုဂ္ဂိုလ်အချို့တို့၏တိုက်တွန်းနှိုးဆော်ချက်ဖြင့်သော်၎င်း၊ သို့မဟုတ် စစ်ပွဲကြီးများတွင် ပါဝင်တိုက်ခိုက်သူတို့ကိုယ်တိုင် နောင်တရရှိ၍ သော်၎င်း၊ စစ်ပွဲကြီးများအနားယူကာ ကမ္ဘာကြီးသည်ခဏတာမျှငြိမ်းအေးလျက်ရှိသည်။

စစ်ပွဲကြီးများစတင်သည်နှင့်တပြိုင်နက် နိုင်ငံအချင်းချင်းမသင့်တင့်မှု၊ လူမျိုးအချင်းချင်းမုန်းတီးမှုများပွားများလာလျက် တဖက်ကိုတဖက်အနိုင်တိုက်ခိုက်ကြတော့သည်။ စစ်သည်စီးပွားရေး၊ ပညာရေး၊ လူမှုဆက်ဆံရေး၊ လူ့ယဉ်ကျေးမှုပြန့်ပွားရေးတို့ကိုဟန့်တားရပ်တန့်စေရုံမျှမက၊ လူတို့၏ကိုယ်ကျင့်တရားများကိုလည်း ပျက်ပြားနိမ့်ကျစေသည်။ လူ့လောကကြီး၏တိုးတက်ကြီးပွားရေးတွင်မီးရှူးတန်ဆောင်များဖြစ်သော သိပ္ပံ၊ ဝိဇ္ဇာပညာရပ်တို့မှာစစ်နိုင်ရေးတခုတည်းအတွက် အလုပ်အကျွေးပြုကြရတော့သဖြင့် ‘အပြု’ လုပ်ငန်းများထက် ‘အဖျက်’ လုပ်ငန်းများအဖြစ်အသုံးပြုကြသည်။ တိုးတက်လာသော သိပ္ပံပညာကြောင့်ပေါ်ပေါက်လာသည့် လက်နက်သစ်၊ လက်နက်ဆန်းများသည် မြို့ရွာ၊ အိုးအိမ်၊ အဆောက်အအုံကြီးများကိုခဏအတွင်းလောင်ကျွမ်းပြာကျစေခဲ့ရုံမျှသာမက၊ အပြစ်ကင်းမဲ့သော ကလေးသူငယ်နှင့် ရပ်သူရွာသားအများ၏အသက်စည်းစိမ်တို့ကိုလည်းဆုံးရှုံးစေခဲ့လေသည်။

ထိုကြောင့်စစ်ပွဲကြီးများကို လူတိုင်းရွံရှာမုန်းတီးကြသည်။ စစ်ပွဲကြီးများကိုဟန့်တားနိုင်သည့်နည်းအမျိုးမျိုးတို့ကို ရှာဖွေကြံဆကြကုန်သည်။ နိုင်ငံကြီးအချင်းချင်းအုပ်စုဖွဲ့ကာ အာဏာမဲ့တင်းပေးသည့်စံနစ်ဖြင့်သော်၎င်း၊ အပြည်ပြည်ဆိုင်ရာ ဥပဒေပြုလွှတ်တော်များ ဖွဲ့စည်း၍ သော်၎င်း၊ နိုင်ငံချင်းချင်းမျက်နှာစုံညီ တွေ့ဆုံဆွေးနွေးကြခြင်းဖြင့်သော်၎င်း၊ စစ်ပွဲကြီးများကိုဟန့်တားနိုင်လိမ့်မည်ဟုယုံကြည်ကြသည်။ ထိုကြောင့်လည်း အဆိုပါနည်းလမ်းများဖြင့်စစ်ပွဲကြီးများကိုဟန့်တားရန်ကြိုးစားဆောင်ရွက်လျက်ရှိကြ၏။

ရုရှားအစိုးရ၏တိုက်တွန်းချက်အရ ၁၈၉၉ ခုနှစ်တွင် အပြည်ပြည်ဆိုင်ရာညီလာခံတခုကို ဟိတ်မြို့တွင်ကျင်းပခဲ့သည်။ အဆိုပါညီလာခံသို့နိုင်ငံပေါင်း ၂၆ နိုင်ငံမှကိုယ်စားလှယ်များတက်ရောက်ကြပြီးလျှင် လက်နက်လျှော့ပေါ့ရေးနှင့် အပြည်ပြည်ဆိုင်ရာတရားခုံတော်ထားရှိရေးတို့ကို ဆုံးဖြတ်အတည်ပြုခဲ့သည်။ ၁၉၀၀ ပြည့်နှစ်မှစ၍အပြည်ပြည်ဆိုင်ရာအနုညာတစီရင်ရေးရုံးတော်ကို ဟိတ်မြို့တွင်အမြဲတမ်းဖွင့်လှစ်ထားခဲ့၏။ ၁၉၀၇ ခုနှစ်တွင်ဒုတိယအကြိမ်မြောက် အပြည်ပြည်ဆိုင်ရာညီလာခံကြီးကို ဟိတ်မြို့၌ကျင်းပပြန်သည်။ ဤအကြိမ်၌နိုင်ငံပေါင်း ၄၄ နိုင်ငံမှကိုယ်စားလှယ်များတက်ရောက်ခဲ့သည်။ ညီလာခံတွင် တနိုင်ငံနှင့်တနိုင်ငံအချင်းဖြစ်ပွားခဲ့လျှင် ကြားနိုင်ငံက ဖြန်ဖြေစေ့စပ်ရန်၎င်း၊ အမှုအခင်းများကို စုံစမ်းရေးအဖွဲ့များဖွဲ့၍ စုံစမ်းရန်၎င်း၊ ဖွဲ့စည်းပြီးဖြစ်သောခုံတော်အားအာဏာအချို့အပ်နှင်းရန်၎င်း ဆုံးဖြတ်ခဲ့လေသည်။ ထိုအချိန်တွင်ခုံတော်မှအမှုပေါင်း ၁၅ မှုမျှစီရင်ဆုံးဖြတ်ပြီးဖြစ်လေသည်။

၁၈၉၀ ပြည့်နှစ်တွင်စတင်ဖွဲ့စည်းခဲ့သောအမေရိကန်နိုင်ငံများသမဂ္ဂသည် အမေရိကန်တိုက် ၂ တိုက်ရှိနိုင်ငံများအချင်းချင်းချစ်ကြည်ရေးကိုဆောင်ရွက်လျက်ရှိသည်။ ၁၉၁၄ ခုနှစ်တွင် အပြည်ပြည်ဆိုင်ရာအဖွဲ့အစည်းများ၊ သဘောတူစာချုပ်မှုများပိုမိုများပြားလာသဖြင့် ပဌမကမ္ဘာစစ်ကြီးကိုပင်တားဆီးနိုင်လိမ့်မည်ဟုတွေးထင်ခဲ့ကြသည်။ ၁၉၁၄ ခုနှစ်တွင် နိုင်ငံချင်းချုပ်ဆိုခဲ့သောစာချုပ်ပေါင်းမှာ ၁၂၂ မျှရှိခဲ့၏။ အမေရိကန်ပြည်ထောင်စုကလည်း နိုင်ငံအသီးသီးနှင့်စာချုပ်အမျိုးပေါင်း ၃၀ မျှချုပ်ဆိုခဲ့သည်။ ထိုနှစ်တွင်ထူးခြားချက်တရပ်မှာ အပြည်ပြည်ဆိုင်ရာအမြဲတမ်းစုံစမ်းရေးအဖွဲ့များပေါ်ပေါက်လာခြင်းပင်ဖြစ်လေသည်။

သို့သော်ငြားလည်း ပဌမကမ္ဘာစစ်ကြီးမှာ မလွဲမရှောင်သာဘဲပေါ်ပေါက်လာခဲ့လေသည်။ ပဌမကမ္ဘာစစ်ကြီးအပြီးတွင် ၁၉၂၀ ပြည့်နှစ်၌ချုပ်ဆိုသော ဗာဆေးစာချုပ်အရ နိုင်ငံပေါင်းချုပ်အသင်းကြီးတခု ပေါ်ပေါက်လာခဲ့သည်။

အသင်းကြီးတွင်နိုင်ငံပေါင်း ၆၀ တိုပါဝင်၍ ပြည်ထောင် ချင်းချင်းအငြင်းဖြစ် ပွားခဲ့ သော်၊ ရှေးဦးစွာစေ့စပ်ဖြန်ဖြေ ရေးများမပြုလုပ်ဘဲ စစ်မဖက်စတမ်း လက်မှတ် ရေးထိုး ကြ လေသည်။ အသင်းကြီး၏တည်ရာဌာနနှင့် အပြည်ပြည်ဆိုင် ရာ အလုပ်သမားအစည်းအရုံးကြီးကို ဂျီနီးဗားမြို့ တွင် ထား ရှိ၍ အပြည်ပြည်ဆိုင်ရာတရားခုံတော်ကို ဟိတ်မြို့တွင်ထား ရှိလေသည်။

နိုင်ငံပေါင်းချုပ်အသင်းကြီးသည် ကမ္ဘာပေါ် တွင်နောက် ထပ်စစ်မက်များမဖြစ်ပွားစေ ရန် အဓိက ရည်ရွယ်ချက် ဖြင့် ဆောင် ရွက် ခဲ့ သည်။ နိုင်ငံ တိုင်း လက်နက်ကိုအနည်းနိုင် ဆုံး အထိ လျှော့ ပေါ့ ကြ အောင် ဆောင် ရွက် ရေး မှာ အသင်းကြီး၏ စီမံကိန်းတရပ် ဖြစ်လေသည်။ (နိုင်ငံပေါင်း ချုပ်အသင်း–ရှု။) ၁၉၂၅ ခု နှစ်တွင်ချုပ်ဆိုသော လိုကား နိုးစာချုပ် တွင် ၎င်း၊ ၁၉၂၈– ၂၉ ခုနှစ်များ၌ချုပ်ဆိုသော ကဲလော့ စာ ချုပ် ဟုထင် ရှား သော ပါရစ်မြို့ငြိမ်းချမ်းရေး စာ ချုပ် တွင် ၎င်း၊ နိုင်ငံ ချင်း ချင်း သဘောကွဲလွဲချက်များ ကို အေးချမ်းသောနည်းများဖြင့်သာ ဖြေရှင်းကြရန် သ ဘောတူညီကြသည်။ ၁၉၂၂ ခုနှစ်နှင့် ၁၉၃၀ ပြည့်နှစ်များ တွင်ဝါရှင်တန်မြို့နှင့်လန်ဒန်မြို့များ၌ ရေတပ်အင်အားလျှော့ ပေါ့ရေးစာချုပ်များကို လက်မှတ်ရေးထိုးခဲ့ကြသည်။ ထိုစာ ချုပ်များအရ အင်္ဂလန်၊ အမေရိကန်၊ ဣတလီ၊ ပြင်သစ်၊ ဂျပန် နိုင်ငံများတွင် စစ်သင်္ဘောအရေအတွက်နှင့် အမျိုးအစား များကို ကန့်သတ်ထားရန်ဖြစ်လေသည်။ နိုင်ငံပေါင်းချုပ် အသင်းကြီးသည် ကမ္ဘာ့ငြိမ်းချမ်းရေးကို ပေးစွမ်းနိုင်လိမ့် မည်ဟု ကမ္ဘာ့လူထုကြီး တရပ်လုံးက မြော်လင့် အားကိုး ခဲ့ကြ၏။ သို့သော် နိုင်ငံ ပေါင်း ချုပ် အသင်းကြီး၏ ဆောင် ရွက်ချက်တို့မှာ မြော်မှန်းသလောက် ခရီးမပေါက်မြောက်ခဲ့ ချေ။ ၁၉၂၅ ခုနှစ်တွင်ဂျာမနီအားအသင်းကြီးသို့ဝင်ခွင့်ပြု ခဲ့သော်လည်း ဟစ်တလာ အာဏာရှင် ဖြစ် လာပြီး နောက် ၁၉၃၃ ခုနှစ်တွင်နုတ်ထွက်သွားလေသည်။

၁၉၃၂ ခုနှစ်နှင့် ၁၉၃၃ ခုနှစ်များတွင် လက်နက်လျှော့ ပေါ့ ရေး ညီလာ ခံကြီး ကို ဂျီနီး ဗား မြို့၌ကျင်းပနိုင်ခဲ့သော် လည်း ရည်မှန်းသည့်အတိုင်းမအောင်မြင်ဘဲ နိုင်ငံပေါင်း ချုပ်အသင်းကြီးမှ တနိုင်ငံပြီး တနိုင်ငံ အလျှိုလျှို နုတ် ထွက် သွားကြလေတော့သည်။ ၁၉၃၃ ခုနှစ်တွင်ဂျာမနီ၊ ၁၉၃၄ ခုနှစ်တွင်ဂျပန်၊ ၁၉၃၅ ခုနှစ်တွင်ဣတလီနိုင်ငံတို့ အသီးသီး နုတ်ထွက်သွားကြပြီးနောက်၊ ၁၉၃၉ ခုနှစ်တွင်ဆိုဗီယက် ရုရှား အား နိုင်ငံ ပေါင်း ချုပ် အသင်း ကြီးမှ ထုတ် ပယ် ခဲ့၏။ ဤသို့အားဖြင့် နိုင်ငံပေါင်းချုပ်အသင်းကြီးက တားဆီးမနိုင် သော ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပေါ် လာခဲ့ရပြန်လေသည်။

ကမ္ဘာ့ငြိမ်း ချမ်း ရေး ဆောင် ရွက် သည့် အဖွဲ့ အစည်း များ တွင် အင်္ဂလန်ပြည်မှငြိမ်းချမ်းရေးသမဂ္ဂသည်လည်း တခု အပါ အဝင် ဖြစ် ခဲ့ သည်။ ဤ အသင်းကို ၁၉၃၄ ခုနှစ်တွင် ခရစ်ယန်ဘုန်းတော်ကြီး ရက် ပတ် က စ တင် ထူ ထောင် ၍ အော လ ဒတ် ဟတ် စ လေး၊ ဗာထရန်ရပ်ဆဲလ်စသောပုဂ္ဂိုလ် များပါဝင်လေသည်။

ဒုတိယကမ္ဘာစစ်ကြီးအပြီး တွင် ကုလသမဂ္ဂအဖွဲ့ကြီးမှာ ကမ္ဘာ့ငြိမ်း ချမ်း ရေး မဏ္ဍိုင် ကြီးဖြစ်လာပေ တော့ သည်။ (ကုလသမဂ္ဂ — ရှု။) ၁၉၄၅ ခုဇွန်လ ၂၆ ရက်နေ့တွင်ထုတ် ပြန် ခဲ့ သော ကု လ သမဂ္ဂအ ခြေ ခံ ရည် ရွယ် ချက် နှင့် လုပ် ငန်းစဉ်ကျေညာစာတမ်းကြီး တွင် ကမ္ဘာ့ငြိမ်းချမ်းရေးကိုရရှိစေရန်နှင့် ကမ္ဘာပေါ် တွင် နောက် ထပ် စစ် မ ဖြစ် ပွားစေ ခြင်း ငှါ ဤ အဖွဲ့ ချုပ် ကြီး ကို ဖွဲ့စည်းကြောင်း အတိအလင်းဖော် ပြထားလေသည်။



သံလွင်ခက်ကိုက်ချီလာသောကမ္ဘာ့ငြိမ်းချမ်းရေးသရုပ်ဆောင်ဂျိုးငှက်

ကုလသမဂ္ဂအဖွဲ့ကြီးသည် ကမ္ဘာ့ငြိမ်းချမ်းရေးကိုဆောင် ရွက်ရာ၌ သေနင်္ဗျူဟာ ၃ မျိုးတို့ဖြင့်ဆောင်ရွက်လျက်ရှိ သည်။ ပဌမနည်းမှာ ငြင်းခုံဖြစ်ပွား ရင်ကြားမစေ့ဖြစ်နေ သော နိုင်ငံများအရေးတွင် ဆောလျင်စွာဖြန်ဖြေစေ့စပ်ပေး သောနည်းဖြစ်၍၊ ပါလက်စတိုင်းအရေး၊ အင်ဒိုနီးရှားအရေး နှင့်ကသ္မီရပြည်နယ်အရေးတို့တွင် ဆောင် ရွက် ခဲ့သည့် လမ်း စဉ်များအတိုင်းဖြစ်သည်။

ဒုတိယနည်းမှာ ငြိမ်းချမ်းရေးကိုထိခိုက်စေရန်အကြောင်း ပေါ် စေမည့်ဒေသများကို ကုလသမဂ္ဂ နိုင်ငံငယ် များ ထိန်း သိမ်းရေးအဖွဲ့က ထိန်းသိမ်းအုပ်ချုပ်စေခြင်းဖြစ်သည်။ ပမာ အားဖြင့် အာဖရိကတိုက်အနောက်တောင်ဖက်ဒေသ၊ တိုဂို လန်၊ နယူးဂင်းနီ၊ ဆိုမားလီလန်အစရှိသောဒေသတို့ကို ထိန်း သိမ်းအုပ်ချုပ်ထားသည့်နည်းတူပင်ဖြစ်သည်။ တတိယနည်း လမ်းမှာ မဖွံ့ဖြိုးသေးသောဒေသများသို့အထူးအဖွဲ့များစေ လွှတ်၍၎င်း၊ စီးပွားရေးအကူအညီများပေး၍၎င်း၊ ကမ္ဘာ

သူကမ္ဘာသားတို့အား စီးပွားရေးကပ်ပျက်များမဆိုက်ရလေအောင် ကြိုတင်ကာကွယ်မှုများကိုပြုလုပ်ထားလေသည်။ ကုလသမဂ္ဂအဖွဲ့အောက်တွင်ရှိသော ကမ္ဘာ့ကျန်းမာရေးအဖွဲ့၊ နိုင်ငံပေါင်းစုံပညာ၊ သိပ္ပံနှင့်ယဉ်ကျေးမှုအဖွဲ့စသည်တို့မှာ စစ်မက်အခင်းများမဖြစ်ပွားစေရန် ပြဿနာအရပ်ရပ်များကို ဖြေရှင်းဆောင်ရွက်ပေးနိုင်ခဲ့လေသည်။

၁၉၅၀ ပြည့်နှစ်ဇွန်လ ၂၅ ရက်နေ့တွင် မြောက်ပိုင်းကိုရီးယားနှင့် တောင်ပိုင်းကိုရီးယားတို့ လက်နက်စွဲကိုင်စစ်ဖက်ပြိုင်ကြလေရာ ကုလသမဂ္ဂအဖွဲ့ကြီးသည်အချိန်မှီဟန့်တားနိုင်မည့်နည်းလမ်းများကိုရှာဖွေခဲ့လေသည်။ ဖြစ်ပေါ်လာသောအခြေအနေများနှင့်လျော်ညီစွာ ကုလသမဂ္ဂအဖွဲ့ကြီးသည် အရေးကြီးသောဆုံးဖြတ်ချက်များကို ချမှတ်ရပြန်သည်။ (ကိုရီးယားစစ်ပွဲ — ရှု)။

၁၉၅၀ ပြည့်နှစ်နိုဝင်ဘာလ ၃ ရက်နေ့တွင် အဖွဲ့ဝင်နိုင်ငံပေါင်း ၅၂ နိုင်ငံ၏ထောက်ခံချက်ဖြင့် 'ငြိမ်းချမ်းရေးအတွက်စည်းလုံးမှု' အဆိုကိုဆုံးဖြတ်ချက်ချမှတ်ခဲ့ကြသည်။ ဤအဆို၏အတိုချုပ်မှာ ကမ္ဘာ့ငြိမ်းချမ်းရေးကိုချိုးဖဲ့ဖျက်ဆီးလာသောအခါ၊ သို့မဟုတ် ကျူးကျော်စော်ကားမှုများပေါ်ပေါက်လာသောအခါ လုံခြုံရေးကောင်စီကတာဝန်ယူဆောင်ရွက်ရမည်။ လုံခြုံရေးကောင်စီတွင် နိုင်ငံကြီးများအချင်းချင်း သဘောကွဲလွဲနေခဲ့လျှင် အထွေထွေညီလာခံကြီးကတာဝန်ယူ၍ဆုံးဖြတ်ဆောင်ရွက်ရန်ဖြစ်သည်။ အထွေထွေလွှတ်တော်၏ဆုံးဖြတ်ချက်များတွင် ပူးပေါင်းဆောင်ရွက်ရေးကိစ္စများအပြင်၊ လက်နက်ကိုင်တပ်များဖြင့်ပါဝင်တိုက်ခိုက်သင့်ကလည်း တိုက်ခိုက်ရန်ထောက်ခံချက်များကို ဆုံးဖြတ်နိုင်လေသည်။ အကယ်၍အထွေထွေလွှတ်တော်ညီလာခံကျင်းပချိန်နှင့်မတိုက်ဆိုင်ခဲ့လျှင် လုံခြုံရေးကောင်စီဝင် ၇ နိုင်ငံကဖြစ်စေ၊ အဖွဲ့ဝင်နိုင်ငံအများကဖြစ်စေ အရေးပေါ်ညီလာခံကြီးကိုဖိတ်ခေါ်ရမည်။ ထို့မှတပါး အဖွဲ့ဝင်နိုင်ငံပေါင်း ၁၄ နိုင်ငံပါဝင်သော ငြိမ်းချမ်းရေးလေ့လာမှုအဖွဲ့တခုကိုလည်း ဖွဲ့စည်းထားရန်ဆိုသောအချက်လည်း ပါဝင်လေသည်။

အဆိုပါဆုံးဖြတ်ချက်များအရ ကုလသမဂ္ဂအဖွဲ့ကြီးသည် ကိုရီးယားတောင်ပိုင်းအား စီးပွားရေးနှင့်စစ်ရေးစစ်ရာအကူအညီများပေးခဲ့လေသည်။ ကမ္ဘာ့ငြိမ်းချမ်းရေးဆောင်ရွက်ချက်များကိုပါ ဖော်ပြမှသာလျှင်ပြည့်စုံမည်ဖြစ်သဖြင့် ဆိုဗီယက်အုပ်စုများ၏ ကမ္ဘာ့ငြိမ်းချမ်းရေးဆောင်ရွက်မှုများကိုလည်းဖော်ပြသင့်ပေသည်။

၁၉၃၉ ခုနှစ်တွင် ကမ္ဘာ့ငြိမ်းချမ်းရေးကွန်ဂရက်ကြီးကို ဗရပ်ဆဲမြို့၌ကျင်းပခဲ့ရာ ကမ္ဘာ့အရပ်ရပ်မှကိုယ်စားလှယ်ပေါင်း ၅,၀၀၀ မျှတက်ရောက်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီးပြီးဆုံးပြီးနောက် ကမ္ဘာ့ငြိမ်းချမ်းရေးကောင်စီတွင် လက်ဝဲဂိုဏ်းသားများ သာ ကြီးစိုးလွှမ်းမိုးလျက်ရှိလေသည်။ ၁၉၄၉ ခုနှစ်အတွင်း ပါရစ်မြို့နှင့်ပရာဟာမြို့များတွင် ပဌမအကြိမ်မြောက်ငြိမ်းချမ်းရေးညီလာခံကြီးကိုကျင်းပခဲ့၏။

၁၉၅၀ ပြည့်နှစ်မတ်လတွင် ကမ္ဘာ့ငြိမ်းချမ်းရေးကောင်စီသည် ငြိမ်းချမ်းရေးလမ်းစဉ်များကို စတော့ဟုမ်းမြို့၌ရေးဆွဲခဲ့ရာ၊ 'စတော့ဟုမ်းငြိမ်းချမ်းရေးစီမံကိန်း' များဟုခေါ်တွင်လေသည်။ ဤစီမံကိန်းတွင် ကြီးငါးကြီးသဘောတူလက်မှတ်ရေးထိုးရေး၊ နိုင်ငံကြီးများ၏လက်နက်အင်အားကို ၃ ပုံ တပုံလျှော့ပေါ့ရေးများပါဝင်သည်။ ထိုနှစ်နိုဝင်ဘာလ ၁၆ ရက်နေ့တွင် ဒုတိယအကြိမ်မြောက်ကမ္ဘာ့ငြိမ်းချမ်းရေးညီလာခံကြီးကို ဝါဆောမြို့တွင်စတင်ကျင်းပခဲ့၍ နိုင်ငံပေါင်း ၄၇ နိုင်ငံမှကိုယ်စားလှယ်များတက်ရောက်ခဲ့ကြသည်။ ၁၉၅၂ ခုအောက်တိုဘာလတွင် အာရှနှင့်ပစိဖိတ်နိုင်ငံများငြိမ်းချမ်းရေးညီလာခံကို တရုပ်ပြည်သူ့သမတနိုင်ငံ ပီကင်းမြို့တော်၌ကျင်းပခဲ့ရာ၊ မြန်မာနိုင်ငံအပါအဝင်ဖြစ်သောနိုင်ငံပေါင်း ၃၇ နိုင်ငံ မှကိုယ်စားလှယ်များတက်ရောက်ခဲ့လေသည်။

၁၉၅၂ ခုဒီဇင်ဘာလ ၁၂ ရက်နေ့မှ ၁၉ ရက်နေ့တိုင်အောင် တတိယအကြိမ်မြောက် ကမ္ဘာ့ငြိမ်းချမ်းရေးကွန်ဂရက်ကို ဗီယင်နားမြို့တော်၌ကျင်းပခဲ့၏။ နိုင်ငံပေါင်း ၈၅ နိုင်ငံတို့မှကိုယ်စားလှယ်များ၊ လေ့လာသူများ တက်ရောက်ခဲ့ကြသည်။ ဤညီလာခံကြီးတွင်နိုင်ငံပေါင်း ၆၄ နိုင်ငံမှ သန်းပေါင်း ၅၆၀ ကျော်မျှသောလူများက လက်မှတ်ရေးထိုးပေးပို့သော 'ငြိမ်းချမ်းရေးမေတ္တာရပ်ခံလွှာ' များကို တင်ပြခဲ့သည်။ အဆိုပါကမ္ဘာ့ငြိမ်းချမ်းရေးညီလာခံကြီးများ၏ဆုံးဖြတ်ချက်အတိုချုပ်မှာ တရုပ်ပြည်သူ့သမတနိုင်ငံအပါအဝင် ကြီးငါးကြီးတွေ့ဆုံဆွေးနွေးရေး၊ ဂျာမနီနိုင်ငံကိုပြန်လည်စုစည်းရေး၊ ဂျပန်နိုင်ငံကို ဒီမိုကရေစီနိုင်ငံတခုဖြစ်မြောက်ရေး၊ ကိုရီးယားစစ်ပွဲရပ်စဲရေးနှင့် ၁၉၂၅ ခုနှစ်ကျင်းပဆုံးဖြတ်ခဲ့သော ဂျီနီဗားပရိုးတိုကိုးစာချုပ်အရ ရောဂါပိုးလက်နက်ကိုအသုံးမပြုရေးတို့ကို ဆွေးနွေးဆုံးဖြတ်ခဲ့ကြသည်။ ဆိုဗီယက်အုပ်စုနိုင်ငံများက ပီကာဆိုထွင်ခဲ့သော သံလွင်ခက်ချီထားသောဂျိုးဖြူရုပ်ကို ငြိမ်းချမ်းရေးအထိမ်းအမှတ်ဖြင့်ထားကြသည်။

ထိုနောက်ကုလသမဂ္ဂအတွင်းရှိ ကြီး ၄ ကြီးနိုင်ငံများတွေ့ဆုံဆွေးနွေးရန်ကို အတန်တန်စကားကမ်းလှမ်းခဲ့ကြသည်။ ကြီးလေးကြီးတွေ့ဆုံဆွေးနွေးရေးကိုသဘောတူညီကြပြီးနောက် မူလအခြေခံအားဖြင့် ပြင်သစ်၊ အမေရိကန်နှင့်အင်္ဂလန် ၃ နိုင်ငံတို့သည် ၁၉၅၃ ခုဒီဇင်ဘာလ ၄ ရက်နေ့တွင် ဗာမျူးဒါးကျွန်း၌တွေ့ဆုံဆွေးနွေးကြသည်။

ဗာမျူးဒါးကျွန်းမှ အစပျိုးခဲ့သောအစီအစဉ်များအရ ၁၉၅၄ ခုဇန်နဝါရီလ ၂၅ ရက်နေ့တွင် ဂျာမနီပြည်ဘာလင်



ကမ္ဘာ့ငြိမ်းချမ်းရေးကိုကြိုးပမ်းခဲ့သော နိုင်ငံပေါင်းချုပ်အသင်းကြီး၏ဌာနချုပ်ကို ဂျီနီးဗားမြို့၌ဤသို့တွေ့မြင်ရသည်။

မြို့၌ ကြီး ၄ ကြီးနိုင်ငံများဆွေးနွေးပွဲကို စတင်ကျင်းပခဲ့သည်။ အဆိုပါဆွေးနွေးပွဲသို့ အမေရိကန်ပြည်ထောင်စုမှ နိုင်ငံခြားရေးဝန်ကြီးဂျွန်ဖော့စတာဒါးလက်၊ အင်္ဂလန်ပြည်မှ နိုင်ငံခြားရေးဝန်ကြီးမစ္စတာအီဒင်၊ ပြင်သစ်နိုင်ငံမှ နိုင်ငံခြားရေးဝန်ကြီးဂျော့ဂျက်ဗီဒေါ၊ ဆိုဗီယက်နိုင်ငံမှနိုင်ငံခြားရေးဝန်ကြီးမိုလိုတော့တို့ ပါဝင်ဆွေးနွေးခဲ့ကြသည်။ အရေးတကြီးဆွေးနွေးခဲ့သောကိစ္စများမှာ ဂျာမနီပြည်ပြန်လည်စုစည်းရေးနှင့် ဩစတြီးယားနိုင်ငံတွင် မဟာမိတ်နိုင်ငံများ၏အုပ်ချုပ်ရေးအဖွဲ့ကိုရုပ်သိမ်းပြီးလျှင် အချုပ်အခြာအာဏာပိုင်နိုင်ငံအဖြစ်ထူထောင်ပေးရေးတို့ ပါဝင်လေသည်။ သို့ရာတွင် နိုင်ငံကြီးများသည် နောက်ဆုံး၌ဆွေးနွေးပွဲကြီးပြီးဆုံးသည့်တိုင်အောင် ပြဿနာများကိုပြေလည်အောင်မဖြေရှင်းနိုင်ခဲ့ကြချေ။

အချုပ်ဆိုရလျှင် ယခုလက်ရှိအခြေအနေတွင် ကမ္ဘာပေါ်၌အုပ်စုကြီး ၂ စုကွဲလျက်ရှိသည်။ တစုမှာဆိုဗီယက်ရုရှားခေါင်းဆောင်သောအုပ်စုဖြစ်၍ ကျန်တစုမှာအမေရိကန်ခေါင်းဆောင်သောအုပ်စုဖြစ်သည်။ ဤအုပ်စုကြီး ၂ စုသည်ကုလသမဂ္ဂအတွင်း၌ရင်း၊ အပြင်၌ရင်း 'စစ်အေး' စံနစ်ဖြင့် ယှဉ်ပြိုင်ရင်ဆိုင်လျက်ရှိနေကြသည်။ ဆိုဗီယက်အုပ်စုကလည်း ငြိမ်းချမ်းရေးကိုလိုလားလှပါသည်ဟု အစဉ်သဖြင့်ဟစ်အော်ကြွေးကြော်လျက်ရှိသည်။ အမေရိကန်အုပ်စုကလည်း မိမိတို့သည်ငြိမ်းချမ်းရေးကိုတကယ်လိုလားပါသည်ဟု အထပ်ထပ်ကျေညာလျက်ရှိနေကြသည်။ သို့သော်တဖက်၏ငြိမ်းချမ်းရေးလမ်းစဉ်ကိုတဖက်ကမလေးစားတဖက်၏အလုပ်ကို တဖက်ကအပြစ်ပြောယင်းနှင့်ပင် ကမ္ဘာ့ငြိမ်းချမ်းရေးလုပ်ငန်းကြီးမှာ ရေစုန်တွင်မျော၍နေသည်။

ကမ္ဘာ့လူထုကြီးတရပ်လုံးသည် ငြိမ်းချမ်းရေးကိုလိုလားတောင်းတနေကြသည်။ ထိုငြိမ်းချမ်းရေးမှာလည်း ဝေးဝေးလံလံအရပ်တွင်တည်ရှိနေသည်မဟုတ်၊ ကမ္ဘာ့လူထုကြီးတရပ်လုံးအပေါ်တွင်တည်ရှိနေပေသည်။ ထို့ကြောင့်ကမ္ဘာ့လူထုကြီးကိုကိုယ်စားပြုနေသော ကုလသမဂ္ဂအဖွဲ့ချုပ်ကြီး၏ရှေ့ခြေလှမ်းကို စောင့်ဆိုင်း ငံ့မျှော်လျက်နေကြရပေသည်။

**ကမ္ဘာ့တိရစ္ဆာန်ဘေးမဲ့နေ့။** ။အောက်တိုဘာလ ၄ ရက်နေ့သည် ကမ္ဘာပေါ်ရှိတိရစ္ဆာန် အပေါင်းတို့အဖို့ ထူးခြားသောနေ့ဟု ဆိုရပေမည်။ ကမ္ဘာပေါ်ရှိနိုင်ငံပေါင်းများစွာတွင် ထိုနေ့ကို 'တိရစ္ဆာန်ဘေးမဲ့နေ့' ဟု အသိအမှတ်ပြုထား၍ ထိုနေ့တွင်တိရစ္ဆာန်များအား သတ်ဖြတ်ခြင်း၊ ပင်ပန်းကြီးစွာ ဝန်ထမ်းခိုင်းခြင်း တို့ကို လုံးဝ ရပ်စဲထားသည်။

ယင်းသို့ ကမ္ဘာပေါ်ရှိ တိရစ္ဆာန်များအား တရက်တာမျှ ဘေးမဲ့ပေးထားသော ကမ္ဘာ့ တိရစ္ဆာန် ဘေးမဲ့နေ့ဖြစ်ပေါ်လာရသည်မှာ နိုင်ငံများစွာတို့၌ ဖွဲ့စည်းထားသော 'တိရစ္ဆာန် ညှဉ်းပန်းမှု ကာကွယ်ရေး အသင်းများ' ၏ ကြိုးပမ်းမှုကြောင့် ဖြစ်သည်။ တိရစ္ဆာန် ညှဉ်းပန်းမှု ကာကွယ်ရေး အသင်းကြီးကို ရှေးဦးစွာ အင်္ဂလန်ပြည်တွင် ၁၈၂၄ ခုနှစ်ကစတင်တည်ထောင်ခဲ့လေသည်။ ထို့နောက် စကော့တလန်ပြည်တွင် ၁၈၃၉ ခုနှစ်၌ရင်း၊ အမေရိကန်ပြည်ထောင်စုတွင် ၁၈၆၆ ခုနှစ်၌ရင်း၊ အလားတူအသင်းများကိုဖွဲ့စည်း



**တိရစ္ဆာန်ကိုဆေးကုပေးနေသော တ၊ ည၊ က၊ သ ဆေးခန်း**

ခဲ့သည်။ ထိုနောက်တွင် ကမ္ဘာအနှံ့ အပြားနိုင်ငံပေါင်းများစွာတို့၌ တိရစ္ဆာန်ညှင်းပန်းမှုကာကွယ်ရေး အသင်းများကို ဖွဲ့စည်းတည်ထောင်လာကြသည်။

ထိုအသင်းများ၏ရည်ရွယ်ချက်မှာ တိရစ္ဆာန်များအားလူများက ညှဉ်းပန်း နှိပ်စက်ခြင်းများကို တားမြစ်ပေးရန်ဖြစ်သည်။ ဤအသင်းများ မပေါ်မီက အချို့လူများသည် တိရစ္ဆာန်များအားသနား ညှာတာရကောင်း မှန်း မသိကြပေ။ မိမိတို့လက်တွင်း၌ မိမိတို့ပြု သမျှ နုကြရမည်ဖြစ်သော တိရစ္ဆာန်များအား ရက်ရက်စက်စက်ခိုင်းကြသည်။ အချို့တိရစ္ဆာန်များမှာ လူတို့၏ သတ်ဖြတ်စားခြင်းကိုပင်ခံကြရသည်။ ဤသို့လူတို့ပြုသမျှ ခံနေရခြင်းမှာတိရစ္ဆာန်များတွင် မိမိတို့ကိုယ်ကို မိမိတို့ကာကွယ်စောင့်ရှောက်နိုင်စွမ်း မရှိကြ၍မဟုတ် သဘာဝအလျောက်ရှိကြသည်သာဖြစ်၏။ သို့ရာတွင် လူတို့သည်တိရစ္ဆာန်များထက်ဦးနှောက်အင်အားကောင်းသောကြောင့် မိမိတို့ထက်ခွန်အားကြီးသော တိရစ္ဆာန်များကိုပင် ကျိုးနွံအောင် ခိုင်းစေနိုင်ကြခြင်း ဖြစ်ပေသည်။

မည်သို့ပင်ဖြစ်စေ တိရစ္ဆာန်များမှာလည်း လူများကဲ့သို့ပင်သွေးသားနှင့်သတ္တဝါများသာဖြစ်လေရာ၊ လူတို့ကဲ့သို့ပင် ကိုယ်စိတ်ဝေဒနာခံစားမှုများ၊ အလိုဆန္ဒများ ရှိကြမည်ဖြစ်ပေသည်။ သို့ရာတွင် လူတို့ခိုင်းစေရာကို ပင်ပန်းကြီးစွာလုပ်ကြရခြင်း၊ အရိုက်အနှက်ခံရခြင်း၊ အနှောင်အဖွဲ့ခံရခြင်း၊ သတ်ဖြတ်ညှင်းဆဲခံရခြင်းတို့မှာ တိရစ္ဆာန်လောက၏ဆိုးရွားလှသောအခြင်းအရာဖြစ်သည်ကို လူတို့သတိပြုမိခဲ့လှသဖြင့်၊ တိရစ္ဆာန်များအပေါ်တွင် ကိုယ်ချင်းစာနာစိတ်များနည်းပါးခဲ့ကြ၏။

တိရစ္ဆာန်ညှင်းပန်းမှုကာကွယ်ရေးအသင်းများသည် ဤအချက်များကိုညွှန်ပြ၍၊ လူတို့အား တိရစ္ဆာန်များအပေါ်တွင် ညှာတာသနားစိတ်များမွေးမြူစေရန် နည်းအမျိုးမျိုးဖြင့်ဆောင်ရွက်ကြလေသည်။ အသင်းများ၏ဆောင်ရွက်ချက်အရ၊ တိရစ္ဆာန်ညှင်းပန်းမှုများကိုတားမြစ်သောဥပဒေများကို အစိုးရများက ပြဋ္ဌာန်းပေးရလေသည်။

အသင်းများ၏လုပ်ငန်းအဝဝကိုအရှည်သဖြင့် ဆောင်ရွက်သွားနိုင်ရန် ရန်ပုံငွေများဖွင့်လှစ်ကောက်ခံ၍ တိရစ္ဆာန်များ၏အကျိုးကို အမြဲတမ်းဆောင်ရွက်လျက်ရှိပေသည်။ အိမ်တွင်မွေးမြူထားသဖြင့် ယဉ်ပါးနေသောတိရစ္ဆာန်များ၊ လူတို့ဖမ်းဆီးရမိသောတိရစ္ဆာန်များ၊ ဒဏ်ရာအနာတရရှိသောတိရစ္ဆာန်များနှင့် ခိုကိုးရာမဲ့တိရစ္ဆာန်များအား ညှာတာစွာပြုမူရေး၊ ဆေးဝါးမှအစ အစာရေစာကျွေးမွေးရေးများကိုအသင်းများကကြီးကြပ်ဆောင်ရွက်သည်။

ယင်းသို့တိရစ္ဆာန်များ၏ သက်သာချောင်ချိရေးများကို ဆောင်ရွက်ပေးသည့်ပြင် လူတို့သည်တိရစ္ဆာန်များအပေါ် ညှာတာသနားစိတ်များ မမေ့မလျော့ထားရှိနိုင်ကြစေရန်၊ နှစ်စဉ်အောက်တိုဘာလ ၄ ရက်နေ့ကို ‘တိရစ္ဆာန်ဘေးမဲ့နေ့’ ဟု သတ်မှတ်ထားသည်။ ထိုနေ့တွင် ဝန်ထမ်းတိရစ္ဆာန်များအား ပင်ပန်းကြီးစွာခိုင်းစေခြင်းမှနားခွင့်ပေးခြင်း၊ အစားအစာအတွက်တိရစ္ဆာန်များအားသတ်ဖြတ်ခြင်းမှရှောင်ကြဉ်ခြင်း၊ ခိုကိုးရာမဲ့တိရစ္ဆာန်များအား အစာရေစာပေးခြင်း၊ အနာတရရှိသောတိရစ္ဆာန်များကိုလိုက်လံကုပေးခြင်း စသည့်မွန်မြတ်သောလုပ်ငန်းများကိုဆောင်ရွက်လေသည်။ တိရစ္ဆာန်များအပေါ်ကြင်နာသနားသောစိတ်များပေါ်ပေါက်အောင်ဟောပြောပွဲများပြုလုပ်ကြသည်။

ယခုအခါကမ္ဘာပေါ်ရှိနိုင်ငံများစွာတို့၌ တိရစ္ဆာန်ညှင်းပန်းမှုကာကွယ်ရေး အသင်းများတည်ထောင်၍ အောက်တိုဘာလ ၄ ရက်နေ့တိုင်းတွင် ကမ္ဘာ့တိရစ္ဆာန်ဘေးမဲ့နေ့ကို



**ကမ္ဘာ့တိရစ္ဆာန်ဘေးမဲ့နေ့တွင် ရန်ပုံငွေအလှူခံကြစဉ်**

ကျင်းပကြသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတွင်လည်း အလားတူတိရစ္ဆာန်ညှဉ်းပန်းမှုကာကွယ်ရေးအသင်း (တ၊ည၊က၊သ) တည်ထောင် ဖွဲ့စည်း၍ တိရစ္ဆာန် များ၏ သက် သာချောင်ချိရေးကိုဆောင်ရွက်လျက်ရှိနေပေသည်။

**ကမ္ဘာ့သမဝါယမနေ့။** ။ကမ္ဘာပေါ်ရှိ သမဝါယမလုပ်ငန်း အောင်မြင်ထွန်းကားသောနိုင်ငံများတွင်၊ နှစ်စဉ်နှစ်တိုင်းမိမိတို့နိုင်ငံတွင်သင့်လျော်သောနေ့တနေ့ကို သမဝါယမနေ့ဟူ၍သတ်မှတ်ကာအထိမ်းအမှတ်ပွဲများကျင်းပကြသည်။ ကမ္ဘာ့ သမဝါယမနေ့ ဟူ၍ ကမ္ဘာပေါ် တွင်ပဌမဆုံး ကျင်းပသောနေ့မှာ ၁၉၂၃ ခုဇူလိုင်လ ပဌမစနေနေ့ဖြစ်သည်။ ထိုနှစ်မှစ၍ အနောက်နိုင်ငံများတွင် နှစ်စဉ်ဇူလိုင်လ ပဌမစနေနေ့တိုင်းကမ္ဘာ့သမဝါယမနေ့ကို ကျင်းပကြသည်။

ယင်းသို့ ကမ္ဘာ့ သမဝါယမနေ့ဟူ၍ ဖြစ်ပေါ်လာရသည်မှာ အိုင်စီအေခေါ် ကမ္ဘာ့ သမဝါယမအဖွဲ့ချုပ်ကြီး၏ ကြိုးပမ်းမှုကြောင့်ဖြစ်သည်။ ထိုအဖွဲ့ချုပ်ကြီးကို ၁၈၉၅ ခုနှစ်က စ၍ တည် ထောင် ခဲ့ သည်။ အဖွဲ့ချုပ်ကြီး၏အဓိကရည်ရွယ်ချက်မှာ လူတဦးတယောက်တည်းကောင်းစားရေးထက် လူအများကောင်းစားရေးကို ရှေးရှုသောသမဝါယမ လုပ်ငန်းများ ကမ္ဘာပေါ် တွင်ပြန့်ပွားထွန်းကားစေရန်ဖြစ်သည်။ ထိုအဖွဲ့ချုပ်ကြီးသည် တစတစတိုးတက်ကြီးပွားခဲ့ရာ ၁၉၃၀ ပြည့်နှစ်တွင် နိုင်ငံပေါင်း ၄၀ မှ သမဝါယမအဖွဲ့ချုပ်ပေါင်း ၁၁၇ ဖွဲ့သည် အသင်းဝင်ဖြစ်လာခဲ့သည်။ ထို ၁၁၇ ဖွဲ့တွင် အိန္ဒိယနိုင်ငံပါဝင်ခဲ့သော်လည်း ထိုအခါက မြန်မာနိုင်ငံမှာ သမဝါယမစံနစ်များမထွန်းကားသေးသဖြင့်မပါဝင်ခဲ့ရချေ။

ထိုနောက် တွင် ကား သမဝါယမလုပ်ငန်း သည် ကမ္ဘာပေါ်ရှိ နိုင်ငံအများတွင်တိုးတက် ပြန့်ပွားလာရာ၊ ကမ္ဘာ့ သမဝါယမနေ့အဖြစ် နေ့တနေ့ကိုသတ်မှတ်၍ အထိမ်းအမှတ်ပွဲများကျင်းပရန်လိုလာလေသည်။ ထိုအခါက ကမ္ဘာ့ သမဝါယမအဖွဲ့ချုပ်ကြီးက ၁၉၂၃ ခုဇူလိုင်လ ပဌမစနေနေ့မှစ၍ နှစ်စဉ် ထိုနေ့များတွင် ကမ္ဘာ့ သမဝါယမနေ့အထိမ်းအမှတ်ပွဲများကျင်းပရန် သတ်မှတ်ကျေညာခဲ့၏။ (ယင်းသို့ ဇူလိုင်လကိုသတ်မှတ်ရသည်မှာ အကြောင်း ထူး ထူး ထွေ ထွေရှိ၍ ကားမဟုတ်ချေ) သို့သော် နိုင်ငံတကာတွင် မိမိ တို့၏ အခါ အခွင့်များ နှင့် ဆီလျော် သောနေ့ များ တွင် သမဝါယမနေ့ အခမ်းအနားများ ကျင်းပနိုင်ခွင့်ပေးထားသည်။

သမဝါယမနေ့ အထိမ်းအမှတ်ပွဲများ ကျင်းပရခြင်း၏ အဓိကရည်ရွယ်ချက်မှာ၊ သမဝါယမအသင်းသားများသည် ဒေသအလျောက်နေထိုင်ကြရာတွင် တဦးနှင့်တဦး ခင်မင်ရင်းနှီးစွာသိကျွမ်းကြစေရန်နှင့် သမဝါယမလုပ်ငန်းတိုးတက်ရာတိုးတက်ကြောင်း အကြံဉာဏ်စသည်များကို နှီးနှောဆွေးနွေးနိုင်ကြစေရန်ဖြစ်သည်။

မြန်မာနိုင်ငံတွင် လွန်ခဲ့သည့်နှစ် အနည်းငယ်ခန့်က စ၍ သမဝါယမနေ့ကိုကျင်းပခဲ့သည်။ မြန်မာတို့သည် သမဝါယမကုန် စုံ ဆိုင် အသင်း များကို ရန် ကုန် မြို့ ၌ ၁၉၃၈ ခုနှစ်ကမှ စတင်ဖွဲ့စည်းခဲ့လေသည်။ ထိုစဉ်က ၃ သင်းမျှသာရှိခဲ့သော်လည်း၊ တဖြည်းဖြည်းများပြားလာခဲ့၍ ၁၉၃၉ ခုနှစ်တွင် သမဝါယမ နေ့ ကို နိုဝင် ဘာ လ ပဌမ စနေနေ့တွင် ကျင်း ပခဲ့၏။ ၁၉၄၀–၄၁ ခုနှစ်များတွင်လည်း နိုဝင်ဘာလ ပဌမစနေနေ့တွင်ပင်ဆက်လက် ကျင်းပခဲ့သည်။ နောက် နှစ်များတွင်ကား ဒုတိယကမ္ဘာစစ်ကြီးကြောင့် ၁၉၄၆ ခုနှစ်အထိ သမဝါယမနေ့ကိုမကျင်းပနိုင်ခဲ့ချေ။ ၁၉၄၇ ခုနှစ်သို့ ရောက်မှပင် ဆက်လက်ကျင်းပနိုင်ခဲ့သည်။ ၁၉၄၇ ခုနှစ်နှင့် ၁၉၄၈ ခုနှစ်များတွင် လွန်ခဲ့သည့်နှစ်များက ကဲ့သို့နိုဝင်ဘာလပဌမစနေနေ့တွင်ကျင်းပခဲ့၏။ သို့ရာတွင် ၁၉၄၉ ခုနှစ်တွင် သမဝါယမနေ့ကိုရန်ကုန်မြို့တွင် ဒီဇင်ဘာလပဌမစနေနေ့၌ကျင်းပခဲ့၍၊ မန္တလေးမြို့တွင်ကား နိုဝင်ဘာလ၌ပင်ကျင်းပခဲ့သည်။

ထိုသို့ ရက် အမှန် မရှိခြင်းမှာ ရာသီဥတုအခြေအနေအရသင့်လျော်အောင် စီမံရခြင်းကြောင့်ဖြစ်လေသည်။ ကမ္ဘာ့ သမဝါယမအဖွဲ့ချုပ်ကြီးကလည်း သမဝါယမနေ့ကို ၁၉၅၀ ပြည့်နှစ်မှစ၍ စက်တင်ဘာလဒုတိယစနေနေ့သို့ ရွှေ့ပြောင်းသတ်မှတ်လိုက်လေသည်။ သို့ရာတွင် နိုင်ငံပေါင်းများစွာ၌ မိမိတို့နိုင်ငံ၏လုပ်ငန်းဆောင်တာ အခြေအနေနှင့် ရာသီဥတုအခြေအနေကိုထည့်သွင်းစဉ်းစား၍သင့်လျော်သောနေ့များတွင် ကမ္ဘာ့သမဝါယမနေ့ အထိမ်းအမှတ်များ ကျင်းပကြလေသည်။ (သမဝါယမအသင်းများ — ရှု)။

**ကမ္ဘာ့အလုပ်သမားနေ့။** ။မေလ ၁ ရက်နေ့သည်ကား ကမ္ဘာ့နိုင်ငံအသီးသီးရှိ အလုပ်သမားသမဂ္ဂများ၊ အလုပ်သမားနိုင်ငံရေးပါတီများ၊ အလုပ်သမား အစည်းအရုံးများက 'ကမ္ဘာ့အလုပ်သမားနေ့' ဟုသတ်မှတ် ထားသော နေ့ ဖြစ်လေသည်။ ထိုနေ့တွင် အစိုးရရုံးများ၊ အလုပ်ရုံများ၊ ဈေးဆိုင်ကန္တားများကိုပိတ်၍၊ အလုပ် သမားများ၏ အင်အားပြပွဲများ၊ စီတန်းလမ်းလျှောက်ခြင်းများ စသော အလုပ်သမားနေ့ အထိမ်းအမှတ်ပွဲများကိုကျင်းပလေ့ရှိသည်။

ယခု အခါ မေဒေး ကို ကမ္ဘာ့ အလုပ် သမား နေ့ ဟု အသိအမှတ်ပြု၍ ကျင်းပခြင်းနှင့် ရှေးအခါက အင်္ဂလိပ်လူမျိုးတို့ နွေဦး ပေါက် တွင် ကျင်း ပသော မေဒေး နေ့တို့မှာ မည်သို့မျှ အဆက်အသွယ်မရှိချေ။ ရှေးအခါက အင်္ဂလိပ်လူမျိုးတို့သည် နွေဦးပေါက် ပဌမလဖြစ်သော မေလ၏ ပဌမနေ့တွင် နွေဦးကို စောင့်သော မေယာ နတ်သမီးအား ဂုဏ်ပြုသော ပွဲတော်များကျင်းပလေ့ရှိသည်။ ထိုနေ့တွင် ပန်းခူးထွက်ခြင်း၊ နွေဦးမယ်အလှဘုရင်မများရွေးချယ်ခြင်း၊ မြက်ခင်းပြင်တွင် တိုင် စိုက် ၍ ပန်းများ၊ ဖဲကြိုးများ ဖြင့် ချည်ပြီးလျှင်

လှည့်ပတ်ကခုန်ခြင်းစသည်ဖြင့် ပျော်ပွဲသဘင်များဆင်ယင်ကြသည်။ ဥရောပတိုက်တွင်လည်း မေဒေးပျော်ပွဲသဘင်များကိုကျင်းပသောဓလေ့ထုံးစံများရှိသည်။

ယခုအခါတွင်ကား ကမ္ဘာတဝှန်းလုံးရှိ မေဒေး နေ့ သည် နွေဦးပွဲနေ့အဖြစ်မှ တိမ်ကော ပပျောက်၍ ကမ္ဘာ့ အလုပ်သမားများ၏ နေ့အဖြစ်အသိအမှတ်ပြုခြင်းခံရသည်။ မေဒေးခေါ် ကမ္ဘာ့အလုပ်သမားနေ့သည် ကမ္ဘာ့အလုပ်သမားလူတန်းစားများအဖို့ လူမျိုးဘာသာမရွေးနိုင်ငံရေးသဘောတရား အရ လွန် စွာ အရေး ပါ သော နေ့ ကြီးဖြစ်လာလေပြီ။ ရှေးနှစ်ပေါင်းများစွာကစ၍ အလုပ်သမားပစ္စည်းမဲ့များအား ဖိနှိပ်ချုပ်ချယ်ခဲ့သော အရင်းရှင် စံနစ်အား တော်လှန်၍ အလုပ်သမားတို့၏ဘဝသစ်တည်ဆောက်ရန် အလုပ်သမားများသွေးစည်းလိုက်သောနေ့ဟုလည်း ဆိုထိုက်ပေသည်။

ဤမေဒေးခေါ် ကမ္ဘာ့ အလုပ်သမားနေ့ ပေါ် ပေါက်လာအောင်ဖန်တီးလိုက်သော အလုပ်ရှင်နှင့် အလုပ်သမားတို့၏ ပဋိပက္ခမှုမှာ ၁၉ ရာစုနှစ်ဆန်းစလောက်မှစ၍အမေရိကန်ပြည်ထောင်စုတွင်နိဒါန်းပျိုးခဲ့လေသည်။ ထိုခေတ်ကအလုပ်သမားများမှာ နေထွက်မှနေဝင် တနေ့လျှင် ၁၆ နာရီမှနာရီ ၂၀ အထိ ပင်ပန်းကြီးစွာအလုပ်ရုံစက်ရုံများတွင်လုပ်ကြရလေသည်။ မည်မျှပင်ပန်းကြီးစွာလုပ်စေကာမူ သူတို့၏ဘဝမှာများစွာအောက် ကျ၍ လူစဉ်မမှီချေ။ သူတို့ ၏ နေ ရေး ထိုင်ရေးနှင့်ကျန်းမာရေးမှာ များစွာအဆင့်အတန်းနိမ့်ကျခဲ့လေသည်။

ယင်းသို့ အလုပ်သမားများ၏ဘဝဆိုးကိုမျက်ဝါးထင်ထင်ရင်ဆိုင်ရသော အလုပ် သမား ခေါင်း ဆောင် များ သည် အလုပ်သမားများ သက်သာချောင်ချိစေရန် အလုပ်ရှင်များထံအရေးဆိုကြသည်။ ၁၈၂၀ ပြည့်နှစ်မှ ၁၈၄၀ ပြည့်နှစ် လောက် အထိ အလုပ် သမား ခေါင်း ဆောင် များသည် တနေ့လျှင် ၁၀ နာရီသာ အလုပ်ချိန် ကန့်သတ်ထားရန် တောင်းဆိုကြသည်။ သို့သော် အလုပ်ရှင်များက အလွယ်တကူမလိုက်လျောခဲ့ချေ။ အလုပ်ချိန် လျော့ပေါ့ရေးအတွက် တိုက်ပွဲဝင်သော အလုပ်သမားများမှာသာ ဖမ်းဆီး နှိပ် ကွပ်ခြင်းခံရလေသည်။ အလုပ်သမားအင်အားစုများကလည်း အလျော့မပေးဘဲဆက် လက်၍ ကြိုးပမ်း ကြသည်။ ထိုအခါမှစ၍ အလုပ်သမားတို့၏တိုက်ပွဲသည် အင်္ဂလန်၊ ဂျာမနီ၊ ပြင် သစ် နှင့် ဩ စတြေး လီး ယားတိုက်သို့ပင် ကူးစက်သွားလေသည်။

၁၈၈၄ ခုနှစ် တွင် အမေရိ ကန် အလုပ် သမားများ အဖွဲ့ချုပ်၏ညီလာခံ၌ ၁၈၈၆ ခုမေလ ၁ ရက်နေ့မှစ၍ တနေ့လျှင် ၈ နာရီသာအလုပ်လုပ်ရန်ဆုံးဖြတ်လိုက်၏။ အလုပ်သမားအဖွဲ့ခွဲများသို့ လည်း ထိုဆုံး ဖြတ် ချက် အတိုင်း အောင်မြင်သည်အထိတိုက်ပွဲဝင်ကြရန် ညွှန်ကြားချက်များ ပေးပို့လေသည်။ အလုပ်သမားပေါင်းများစွာတို့သည် ဤညွှန်ကြားချက်အတိုင်းဆောင်ရွက်ကြရာ တဖက်မှ အစွမ်းကုန် ဖိနှိပ်ချုပ်ချယ်ခြင်းကိုခံရသည်။ အချို့မှာ အလုပ်မှထုတ်ပစ်ခြင်းခံရသည်။ အချို့ထောင်ကျ၍ သေကြေ ပျက်စီးသူများလည်း မနည်းချေ။ နောက်ဆုံးတွင် အလုပ်သမားများ၏အရေးမှာ အောင်မြင်သွားလေသည်။




**ကမ္ဘာ့အလုပ်သမားနေ့ကျင်းပရန် အောင်ဆန်းကစားကွင်းကြီးသို့ အားကြိုးမာန်တက်ချီတက်လာကြသော အလုပ်သမားများ**



မြန်မာ့အိုလင်းပစ်ကစားပွဲအခမ်းအနားဖွင့်လှစ်စဉ် ချီတက် အလေးပြုနေကြပုံ

၁၈၈၉ ခုနှစ် ပါရစ်မြို့၌ကျင်းပသောအပြည်ပြည်ဆိုင်ရာ ဆိုရှယ်လစ်တို့၏ ဒုတိယညီလာခံက မေလ ၁ ရက်နေ့ကို ကမ္ဘာ့အလုပ်သမားနေ့ဟုသတ်မှတ်ပေးလိုက်၏။ အဆိုပါ ဆုံးဖြတ်ချက်အရ နှစ်စဉ်မေလ ၁ ရက်နေ့တိုင်းတွင် အလုပ်သမားများအင်အားပြခြင်း၊ အလုပ်သမား ခေါင်းဆောင် အသီးသီးတို့ကအလုပ်သမား အရေးများကို ဟောပြောခြင်း စသည်ဖြင့် အလုပ်သမားနေ့အထိမ်းအမှတ်ပွဲများကျင်းပကြလေသည်။

ကမ္ဘာ့အလုပ်သမားနေ့တွင် အလုပ်သမားများအားလုံးသည်လုပ်ခအပြည့်နှင့်အားလပ်ခွင့်ရကြသည်။ ယခုအခါ ကမ္ဘာ့အလုပ်သမားနေ့ကို မြန်မာနိုင်ငံ အပါအဝင် နိုင်ငံပေါင်းများစွာတို့၌အများပြည်သူ ရုံးပိတ်ရက် အဖြစ် သတ်မှတ်ထားလေသည်။

**ကမ္ဘာ့အိုလင်းပစ်နေ့။** ။နှစ်စဉ်ဇွန်လ ၂၃ ရက်နေ့သည် နိုင်ငံအသီးသီးရှိ အားကစားနှင့် ကာယဗလလိုက်စားသူများအဖို့ အမှတ်တရထူးခြားလှသော နေ့တနေ့ဖြစ်ပေသည်။ ထိုနေ့ကို ကမ္ဘာတဝှန်း လုံး၌ ကမ္ဘာ့အိုလင်းပစ်နေ့ဟု အသိအမှတ်ပြု၍ အထိမ်းအမှတ်ပွဲများကျင်းပကြလေသည်။

ကမ္ဘာ့အိုလင်းပစ်နေ့ ပေါ်ပေါက်လာရခြင်းမှာ အိုလင်းပစ် ကစားပွဲများကြောင့် ဖြစ်သည်။ အိုလင်းပစ်ဟူသော အမည်သည် ရှေးနှစ်ပေါင်း ၂၅၀၀ ကျော်က ဂရိနိုင်ငံ အိုလင်းပီယာရွာကလေး အနီး ရှိကွင်းပြင်တွင်၊ ဂရိလူမျိုးတို့ ၄ နှစ် တကြိမ်ကျင်းပသောပွဲမှအစပြု၍ဖြစ်ပေါ်လာခဲ့သည်။ ဂရိတို့သည်အဆိုပါအိုလင်းပီယာကွင်းပြင်တွင် ဇုနတ်မင်းကြီးကို ပူဇော်သောနတ်ပွဲများကို၄နှစ်တကြိမ်ကျင်းပ၍၊ ထိုပွဲများ၌ မြေပြန့်အပြေးပြိုင်ပွဲများ ကို ကျင်းပသော အလေ့အထရှိခဲ့သည်။ ထိုအိုလင်းပီယာပြေးပွဲ၌ အနိုင်ရသောလူစွမ်းကောင်းများအား ဂရိလူမျိုးတို့အထွတ်အမြတ်ထားသော သံလွင်ပင်မှအရွက်ဖြင့်လုပ်သည့်သရဖူကို ဦးခေါင်းတွင်ဆင်ပေးကာ လူအများကချီးကျူးမြှောက်စားကြသည်။

အိုလင်းပစ်ပြိုင်ပွဲများကို ရှေးဦးစွာကျင်းပသောအခါက မြေပြန့်အပြေးပြိုင်ပွဲများသာရှိခဲ့သော်လည်း၊ နောက်ခေတ်များတွင်အပြေးသာမက၊ နပန်းသတ်၊ သံပြားဝိုင်းပစ်၊ လှံ

အဝေးပစ်၊ အမြင့်ခုန်နှင့် အလျားခုန်ပွဲများကို ထည့်သွင်းကျင်းပခဲ့သည်။ ထိုကဲ့သို့ဘီစီ ၇၇၆ ခုနှစ်မှအေဒီ ၃၉၄ ခုနှစ်အထိ အိုလံပစ်ပြိုင်ပွဲများကို လေးနှစ်တကြိမ်မှန်မှန်ကျင်းပခဲ့ကြသည်။ ၃၉၄ ခုနှစ်မှ ၁၈၉၄ ခုနှစ်အထိမူကား အိုလံပစ်ပွဲများ တိမ်မြုပ်နေခဲ့သည်။ ၁၈၉၄ ခုနှစ်တွင်မှတဖန်ပြင်သစ်လူမျိုးဗဲရွန်ဘ့်ရပီယဲဒါကူဗာတင် (၁၈၆၃–၁၉၃၇) ဆိုသူက ရှေးဂရိတို့၏အားကစားလုပ်ငန်းများကို ယခုခေတ်အရပ်ရပ်ပညာသင်ကြားရေးတွင်ထည့်သွင်းအသုံးပြုလျက် အလွန်တန်ဖိုးများဖွယ်ရာရှိကြောင်းကို နိုင်ငံတကာရှိ အားကစားလိုက်စားသူအကြီးအကဲများထံ အကြံဥာဏ်များပေးပို့သဖြင့် အိုလံပစ်ပြိုင်ပွဲများပြန်လည်ပေါ် ပေါက်လာလေသည်။ သူ၏ကြိုးပမ်းမှုကြောင့်ထိုနှစ်ဇွန်လ ၂၃ ရက်နေ့တွင် ကမ္ဘာ့အိုလံပစ်အသင်းကြီးကိုတည်ထောင်နိုင်ခဲ့ပေသည်။

ထိုသို့တည်ထောင်ပြီးသောအခါ လွန်ခဲ့သည့်နှစ်ပေါင်း ၁,၅၀၀ ကျော်က ဂရိလူမျိုးတို့ကျင်းပခဲ့သော ကွင်းပြင်နေရာ၌ ကမ္ဘာ့နိုင်ငံများစွာမှလာရောက်ပါဝင်ဆင်နွှဲသော ပဌမအကြိမ် အိုလံပစ်ကစားပွဲကြီးကို ၁၈၉၆ ခုနှစ်တွင်ကျင်းပနိုင်ခဲ့၏။ ထိုနောက် ၄ နှစ်အကြာ ၁၉၀၀ ပြည့်နှစ်တွင် အိုလံပစ်ကစားပွဲကြီးကို ပြင်သစ်နိုင်ငံ ပါရစ်မြို့၌ကျင်းပခဲ့သည်။ ဤသို့လျှင် ၁၉၀၄ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု စိန်လူဝီမြို့၌ရင်း၊ ၁၉၀၈ ခုနှစ်တွင်လန်ဒန်မြို့၌ရင်း၊ ၁၉၁၂ ခုနှစ်တွင်စတော့ဟုမ်းမြို့၌ရင်း၊ ၄ နှစ်တကြိမ်မှန်မှန်ကျင်းပခဲ့လေသည်။ ၁၉၁၆ ခုနှစ်တွင် ဂျာမနီနိုင်ငံဘာလင်မြို့တော်၌ကျင်းပရန်ရှိသောပွဲကိုကား စစ်အတွင်းဖြစ်၍ မကျင်းပနိုင်တော့ချေ။ သို့ရာတွင်စစ်အပြီး ၁၉၂၀ ပြည့်နှစ်တွင်အန့်တွပ်မြို့၌ အိုလံပစ်ပွဲကြီးကို ကျင်းပခဲ့ပြန်သည်။ ထိုနောက် ၁၉၂၄ ခုနှစ်တွင်ပါရစ်မြို့၌ရင်း၊ ၁၉၂၈ ခုနှစ်တွင် အမ်စတာဒမ်မြို့၌ရင်း၊ ၁၉၃၂ ခုနှစ်တွင်လော့စိန်းဂျလီးမြို့၌ရင်း၊ ၁၉၃၆ ခုနှစ်တွင်ဘာလင်မြို့၌ရင်း၊ လေးနှစ်တကြိမ်မှန်မှန်ဆက်လက်ကျင်းပခဲ့သည်။ တဖန်ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားပြန်ရာ ၁၉၄၀ ပြည့်နှစ်တွင် ဂျပန်နိုင်ငံတိုကျိုမြို့၌ကျင်းပရမည့်ပွဲနှင့် ၁၉၄၄ ခုနှစ်တွင်ဖင်လန်နိုင်ငံ ဟဲလဆင်းကီးမြို့၌ကျင်းပရန်ဖြစ်သော အိုလံပစ်ပွဲများကိုမကျင်းပခဲ့ရချေ။ စစ်ပြီးခေတ်တွင် ၁၉၄၈ ခုနှစ်ကမ္ဘာ့အိုလံပစ်ပွဲကြီးကိုလန်ဒန်မြို့၌ရင်း၊ ၁၉၅၂ ခုနှစ်တွင်ဖင်လန်နိုင်ငံဟဲလဆင်းကီးမြို့၌ရင်း ကျင်းပအောင်မြင်ခဲ့ရာနိုင်ငံပေါင်းများစွာမှပါဝင်ဆင်နွှဲခဲ့ကြလေသည်။

ဤသို့လျှင် ကမ္ဘာ့နိုင်ငံအရပ်ရပ်တွင် အိုလံပစ်ကစားပွဲကို စစ်အတွင်းကာလများမှတပါး ၄ နှစ်တကြိမ်တလှည့်စီကျင်းပ၍ ကမ္ဘာပေါ်ရှိ အားကစားဖက်တွင် ထူးချွန်သူများကို အချင်းချင်းတွေ့ဆုံရင်းနှီးစေခြင်း၊ တကမ္ဘာလုံး၏ကိုယ်လက်ကြံ့ခိုင်ရေးကိုအားပေးခြင်း၊ အားကစားလုပ်ငန်းများကို တိုးတက်ပြန့်ပွားစေခြင်းစသည်တို့ကို ကမ္ဘာ့အိုလံပစ်အသင်းကြီးမှကြီးမှူး၍ ဆောင်ရွက်သည်။ ထိုအသင်းကြီးတွင် နိုင်ငံပေါင်းစုံမှကိုယ်စားလှယ်များပါဝင်၍ ထိုနိုင်ငံတို့တွင်လည်း အားကစားမြင့်တင်ရေးကို ရှေးရှုကြသည့် အိုလံပစ်အသင်းများတည်ထောင်ထားကြလေသည်။

ယခုအခါ နိုင်ငံအသီးသီးရှိ အိုလံပစ်အသင်းများသည် ကမ္ဘာ့အိုလံပစ်အသင်းကြီးဇွန်လ ၂၃ ရက်နေ့၌စတင်ပေါက်ဖွားခဲ့သည်ကို သတိရဂုဏ်ပြုသောအားဖြင့် နှစ်စဉ်ထိုနေ့တွင် ကမ္ဘာ့အိုလံပစ်နေ့ အထိမ်းအမှတ်ပွဲများကိုကျင်းပကြလေသည်။ (အိုလံပစ်ကစားပွဲများ — ရှု)။

**ကမ္ဘာ့အံ့ဖွယ်ခုနစ်သွယ်။** ။အယ်လက်ဇန္ဒာ–သ–ဂရိတ်လက်ထက်မှစ၍ အသိအမှတ်ပြုထားသော ရှေးဟောင်းကမ္ဘာ့အံ့ဖွယ်ခုနစ်သွယ်ဆိုသည်မှာ (၁) အီဂျစ်နိုင်ငံရှိပိရမစ်ခေါ် သင်းချိုင်းဂူကြီးများ (၂) ဗက်ဗီလုံးနိုင်ငံရှိဥယျာဉ်ပျံများ (၃) အက်ဖီဆပ်အရပ်ရှိ အားတီမစ် သို့မဟုတ် ဒိုင်ယာနာ (ရောမအခေါ်) နတ်သမီး၏နတ်ကွန်းကြီး (၄) အိုလံပီယာအရပ်ရှိ ဇုနတ်ရုပ်ကြီး (၅) ဟယ်လီကာနက်ဆပ်မြို့ရှိမောဆိုလီယမ်သင်းချိုင်း (၆) ရုတ်ကျွန်းရှိကြေးဝါရုပ်တုကြီးနှင့် (၇) အယ်လက်ဇန္ဒြီးယားမြို့ရှိ ဖေးရော့မီးပြတိုက်ကြီးများဖြစ်ကြသည်။

အီဂျစ်နိုင်ငံရှိ၊ ပိရမစ်သင်းချိုင်းဂူကြီးများသည် ခရစ်မပေါ်မီနှစ်ပေါင်း ၃,၀၀၀ ခန့်က တည်ဆောက်ထားခဲ့သည်ဖြစ်လျက်၊ ယခုခေတ်တိုင်အောင် မပျက်စီးဘဲတည်ရှိနေသဖြင့် ကမ္ဘာ၏အံ့ချီးဖွယ်ရာတပါးဆက်လက်ဖြစ်နေပေသည်။

ဗက်ဗီလုံးပြည့်ရှင် နက်ဗျုခတ်နက်ဇာဘုရင်၏ ချစ်လှစွာသောမိဖုရားမှာ စိမ်းလန်းသာယာသော တောင်ကုန်းဒေသမှလာသူဖြစ်၍၊ ခြောက်သွေ့၍ အပင်များကင်းမဲ့သောဗက်ဗီလုံးနိုင်ငံတွင်မနေတတ်အောင်ဖြစ်နေသဖြင့်၊ မိဖုရားစိတ်လက်ကြည်လင်ရန်ဥယျာဉ်ပျံများကို စီမံဆောက်လုပ်စေသည်။ ထိုဥယျာဉ်ပျံများမှာ ကျောက်အင်္ကတေများဖြင့်အဆင့်ဆင့်ပြုလုပ်ထား၍ ၇၅ ပေမှပေ ၃၀၀ ခန့်အထိမြင့်လေသည်။ ထိုအဆင့်များပေါ်တွင် သစ်ပင်ပန်းပင်ပေါင်းစုံလင်စွာကို စိုက်ပျိုးစေ၍၊ ယူဖရေးတီးမြစ်မှရေကိုပိုက်လုံးများဖြင့်သွယ်လျက် သစ်ပင်များအားလောင်းစေ၏။ ဤသို့ဖြင့်လှပဆန်းကြယ်စွာသော ဥယျာဉ်ပျံများဖြစ်လာ၍ ထင်ရှားကျော်ကြားလှ၏။ ယခုအခါတွင်မူကား အပျက်အစီးများကိုသာတွေ့မြင်ရတော့သည်။

အာရှမိုင်းနားနယ်ရှိ ဂရိတို့တည်ဆောက်ခဲ့သောအက်ဖီဆပ်မြို့မှ အားတီမစ်နတ်သမီး၏နတ်ကွန်းမှာလည်း အံ့ဖွယ်တပါးဖြစ်ခဲ့သည်။ ထိုနတ်ကွန်းကိုဘီစီ ၃၀၀ ခန့်ကဆောက်လုပ်ပြီးစီးခဲ့၏။ အေဒီ ၂၆၂ ခုနှစ်တွင်ဂေါ့သလူမျိုးတို့၏







(အပေါ်–ဝဲ) အယ်လက်ဇန္ဒြီးယားမြို့ရှိ ဖေးရော့မီးပြတိုက်ကြီး။ (အပေါ်–အလယ်) မပျက်မစီးရှိခဲ့သော်ဤသို့တွေ့မြင်ရမည့်ဇုနတ်ရုပ်ကြီး။ (အပေါ်–ယာ) ရုတ်ကျွန်းရှိ ဟီးလိယော့အမည်ရှိ နေ နတ်ကြေးရုပ်တုကြီး။ (အလယ်–ဝဲ) အီဂျစ်နိုင်ငံရှိ ပိရမစ်သင်းချိုင်းဂူကြီးများ။ (အလယ်–ယာ) ဒိုင်ယာနာနတ်သမီး၏ နတ်ကွန်းကြီး။ (အောက်–ဝဲ) မောဆိုလပ်ဘုရင်၏ သင်းချိုင်းတော်။ (အောက်–ယာ) ဗက်ဗီလုံနိုင်ငံမှဥယျာဉ်ပျံကြီးတခု။









လက်ချက်ဖြင့်ပျက်စီးသွား၍ ကာလကြာမြင့်လေသော်မြေအောက်တွင်နစ်မြုပ်နေခဲ့သည်။ ထိုနတ်ကွန်းနေရာကိုတူးဖော်ကြည့်ရာမှရရှိသော ပေ ၆၀ ခန့်ရှိတိုင်လုံးကြီးတလုံးကို ဗြိတိသျှပြတိုက်တွင်ထားရှိ၏။

ဇုနတ်ရုပ်ကြီးမှာ ယခုအခါလုံးဝပျက်စီးသွားချေပြီ။ ထိုနတ်ရုပ်ကြီး၏ပုံပန်းသဏ္ဌာန်ကို ကျွန်ုပ်တို့သည် အီးလစ်ဒင်္ဂါးပြားများတွင်ပါသော ပုံများမှသိရှိကြရ၏။ ထိုနတ်ရုပ်ကြီးမှာ ဂရိနိုင်ငံ ပယ်လိုပွန်နီးဆပ်ကျွန်းဆွယ်၊ အိုလင်းပီယာမြို့တွင် ဘီစီ ၅၇၈ ခုနှစ်ခန့်ကထင်ရှားသော ရုပ်လုံးထုဆရာကြီး ဖီးဒီးယက်က ထုလုပ်ထားခဲ့သည်။ ထိုနတ်ရုပ်တုကြီးမှာ ပေ ၆၀ ခန့်မြင့်၍ကြီးမားလှပြီးလျှင် ဆင်စွယ်နှင့်ရွှေတို့ဖြင့် ထုလုပ်ထားကြောင်းသိရှိရ၏။

ဘီစီ ၃၇၈ ခုနှစ်လောက်တွင်နတ်ရွာစံသော ကဲရီးယားပြည့်ရှင်ဘုရင်မောဆိုလပ်အတွက် မိဖုရားကဆောက်လုပ်ခဲ့သောသင်းချိုင်းဂူကြီးမှာ အာရှမိုင်းနားနယ်ဟယ်လီကာနက်ဆပ်မြို့တွင်ရှိ၍၊ မောဆိုလီယမ်ဟုခေါ်သည်။ လေးထောင့်လျားလျားပုံရှိသည့်ဂူကြီးပေါ်တွင် လှပသောတိုင်လုံးကြီးများစီကာဆောက်လုပ်ထားပြီးလျှင် ထိုအပေါ်မှတဖန်အမိုးသဏ္ဌာန်ပိရမစ်ဖြင့်မိုးထား၏။ ထိုပိရမစ်အမိုးပေါ်တွင်ဘုရင်နှင့်မိဖုရားတို့ မြင်းလေးကောင်ကသောရထားကို စီးနေသည့်ပုံကိုထုလုပ်ထားရာ၊ ဘုရင်ကြီး၏ရုပ်တုမှာ ၁၀ ပေမြင့်လေသည်။ ထိုအဆောက်အအုံကြီးကား ဂရိပိသုကာတို့၏လက်ရာဖြစ်၏။ ယခုအခါတွင်ပျက်စီးယိုယွင်းသွားပြီဖြစ်ရာ အချို့အပျက်အစီးများကို ဗြိတိသျှပြတိုက်တွင်ထိန်းသိမ်းထားလေသည်။ ထိုအဆောက်အအုံကြီးမှာ ခိုင်ခံ့ကြီးမားလှပတင့်တယ်သဖြင့် နောက်နောင်တွင်ကြီးမားလှသော ဂူသင်းချိုင်းများကို မောဆိုလီယမ်ဟုခေါ်ဝေါ်ကြ၏။

ဆဋ္ဌမအံ့ခြီးဖွယ်ရာကား အီးဂျီးယန်းပင်လယ်အတွင်းရှိ ရုတ်ကျွန်း၏သဘော်ဆိပ်တွင်တည်ရှိခဲ့သော အရုပ်ကြီးဖြစ်လေသည်။ ထိုအရုပ်ကြီးမှာ ဟီးလီယော့အမည်ရှိသောနေနတ်ရုပ်ကြီးဖြစ်၍ ကြေးနှင့်ပြုလုပ်ထားပြီးလျှင်ပေ ၁၀၀ မျှမြင့်လေသည်။ ထိုအရုပ်ကြီးကို ဘီစီ ၂၈၀ ခန့်ကတည်လုပ်ထားလေသည်။ ဘီစီ ၂၂၄ ခုနှစ်တွင်လျှင်ကြီးလှုပ်သဖြင့် ထိုအရုပ်ကြီးသည်ပြိုလဲသွားရာ နှစ်ပေါင်းတထောင်ခန့်ကြာသောအခါတွင် ထိုအရုပ်ကြီးမှအပျက်အစီးများကို စုဆောင်း၍ သတ္တုဟောင်းအဖြစ်ဖြင့်ရောင်းချလိုက်ကြ၏။

သတ္တမအံ့ခြီးဖွယ်ရာမှာကား အယ်လက်ဇန္ဒြီးယားမြို့ရှိ ဖေးရော့မီးပြတိုက်ကြီးဖြစ်လေသည်။ အီဂျစ်ကမ်းခြေတွင်ရှိ၍ ထိုမြို့ကြီးနှင့်ကပ်နေသောကျွန်းကလေးတကျွန်းမှာဖေးရော့ကျွန်းဟုခေါ်၏။ အယ်လက်ဇန္ဒာ–သ–ဂရိတ်သည်အယ်လက်ဇန္ဒြီးယားမြို့ကြီးကိုတည်စဉ်က ထိုဖေးရော့ကျွန်းနှင့် မြို့ကြီးကိုပိုင်းခြားသည့်ရေပြင်ကိုဖြတ်၍ ပေါင်းကူးတန်တားဆောက်လုပ်ခဲ့၏။ အီဂျစ်ဘုရင် ဒုတိယတော်လမီမင်းလက်ထက်၌ ထိုကျွန်း၏အရှေ့ဖက်စွန်းတွင် ကျောက်တုံးကြီးများဖြင့်ပေ ၅၀၀ ခန့်မြင့်သောမီးပြတိုက်ကြီးကိုတည်ဆောက်လေသည်။ ထိုအဆောက်အအုံကြီးကိုဘီစီ ၂၆၀ ပြည့်နှစ်တွင်ပြီးစီးရာ၊ အယ်လက်ဇန္ဒြီးယားမြို့၏ဖေးရော့မီးပြတိုက်ဟုခေါ်တွင်၏။

အထက်ပါတို့ကား ရှေးဟောင်းကမ္ဘာ၏အံ့ဖွယ်ခုနစ်သွယ်ဖြစ်လေသည်။ ယခုအခါတွင်ကား ထိုအံ့ဖွယ်များမှာအီဂျစ်နိုင်ငံရှိပိရမစ်များမှတပါးပျက်စီးယိုယွင်းကုန်ချေပြီ။ (ပိရမစ်များ – ရှု။) ခေတ်သစ်ကမ္ဘာတွင်အံ့ဖွယ်များကား မည်သည်တို့ကိုခေါ်ဆိုပါမည်နည်း။ သိပ္ပံပညာရပ်ထွန်းကားသည့်ယခုခေတ်တွင် အဆန်းအပြားအံ့ဖွယ်ရာများကား တနေ့တခြားပေါ်များနေရာ၊ အံ့ဖွယ်ရာများမှာမကြာခဏပင်ပြောင်းလဲရမည်လောဟု စဉ်းစားဖွယ်ရာဖြစ်တော့သည်။

# လူတို့ရိပ်မြုံမြေဝသုန်

**မျက်မှောက်ခေတ်တွင် ကမ္ဘာကြီးလုံးကြောင်းလူတိုင်းသိကြပေသည်။ သို့ရာတွင်လူတို့အိုးအိမ်အခြေစိုက်ရာဤကမ္ဘာကြီးမည်သို့ဖြစ်ပေါ်လာသည်၊ ကမ္ဘာကြီးအတွင်းပိုင်း၌ မည်သို့ဖွဲ့စည်းတည်နေသည်စသည့် အကြောင်းတို့ကိုမူ လူတိုင်း မသိကြသေးချေ။ အောက်ပါအကြောင်းရပ်တွင် ကမ္ဘာကြီးသည် တခါက အပူရှိန် အလွန် ပြင်းသည့် ဓါတ်ခိုး ဓါတ်ငွေ့လုံးကြီးဖြစ်ခဲ့ကြောင်း ဘတ်မိရလျှင် လူတိုင်းပင် အံ့သြမိကြပေလိမ့်မည်။**

**ကမ္ဘာ။** ။ကမ္ဘာမြေသည် နေစကြာဝဠာတွင်အပါအဝင်ဖြစ်သောဂြိုဟ်တလုံးဖြစ်သည်။ အာကာသလောကတွင် အလားတူနေစကြာဝဠာပေါင်း မရေမတွက်နိုင်အောင်ရှိနိုင်သဖြင့် ကျွန်ုပ်တို့ကမ္ဘာကဲ့သို့သော အခြားဂြိုဟ်များလည်း အမြောက်အမြားပင်ရှိနိုင်ပေသည်။ တော၊ တောင်၊ ရေ၊ မြေ၊ လေတို့နှင့်ပြီးသောဤကမ္ဘာသည် ဖြစ်ပေါ်စအချိန်က မည်သည့်အရာဝတ္ထုမျှမရှိဟုဆိုလျှင်အံ့သြကြပေမည်။ ကမ္ဘာကြီးသည်ဖြစ်တည်ခါစက အပူရှိန်အလွန်ပြင်းသော ဓါတ်ခိုးဓါတ်ငွေ့လုံးကြီးသာလျှင်ဖြစ်သည်။ အနှစ်သန်းပေါင်းများစွာကြာ၍ ကမ္ဘာ၏အပေါ်ယံအခွံအေးသွားသောအခါ ကမ္ဘာကိုရစ်ပတ်ထားသောဓါတ်ငွေ့တို့သည်လေဖြစ်လာသည်။ အချို့ဓါတ်ငွေ့တို့သည်ခဲ၍ရေဖြစ်လာသည်။ ကမ္ဘာ




**သိပ္ပံပညာအလိုအရ ကမ္ဘာတွင်အထပ်ကြီး ၆ ထပ်ပါဝင် သည်။ အတွင်း ကျဆုံးဗဟိုပိုင်းကို သံနှင့် နစ်ကယ်သတ္တုများပါဝင်သောသတ္တုရည်ထုက ဝန်းရံထားသည်။ အပေါ်ဆုံးအထပ်မှာမူ မြေထုပင်ဖြစ်သည်။**

မြေ၏မျက်နှာပြင်ကျုံ့၍ တွန့်လိပ်လာရာမှ တောင်များဖြစ်ပေါ်လာသည်။ ထိုနောက်မှ အပင်များ၊ တိရစ္ဆာန်နှင့် လူများပေါ်ပေါက်လာသည်ဟုယူဆကြသည်။

ကမ္ဘာဖြစ်ပေါ်ပုံကို သိပ္ပံဆရာများက နည်းအမျိုးမျိုးဖြင့်ကြံဆတွေးတောကြည့်ခဲ့ကြသည်။ ပြင်သစ်နက္ခတ်ဆရာကြီး လာပလပ် ကြံဆတီထွင်ခဲ့သော နက်ဗျူလာဟိုက်ပေါ့သီဆစ်အရ လက်ရှိ နေ၊လနှင့် ဂြိုဟ်တို့သည်ရှေးဦးပဌမတွင် တခုချင်းအနေနှင့် သီးသန့်မတည်ရှိခဲ့ပေ။ နေ၊ လ၊ ဂြိုဟ်များမဖြစ်ပေါ်မီက ဓါတ်ခိုးဓါတ်ငွေ့များနှင့် ပြည့်နှက်နေသော နက်ဗျူလာကြီးတခုရှိခဲ့သည်။ (နက်ဗျူလာ — ရှု။) ထိုနက်ဗျူလာကြီးသည် နက်ပကျွန်းဂြိုဟ်သွားလမ်းလောက် အထိကြီး မား၏။ ထိုနက်ဗျူလာသည် အလွန်ပူပြင်း၍ လည် လျက် ရှိသည်။ လည်နေယင်းလည်း အလယ်ဗဟိုရှိဒြပ်တို့၏ဆွဲငင်မှုကြောင့် တဖြည်းဖြည်းကျုံ့ ဝင်လျက်ရှိ၏။ ထိုသို့ကျုံ့ ဝင်ရာမှ ဓါတ်ငွေ့ကွင်းများ တကွင်းပြီးတကွင်း လွင့် စင် ထွက် ကြ သည်။ လွင့်စင်ထွက်သွားသောကွင်းကြီးများ သိပ်သည်းကျစ်လစ်၍လာသောအခါ ဓါတ်ငွေ့မှအရည်၊ အရည်မှအခဲဖြစ်၍ နောက်ဆုံးတွင်ဂြိုဟ်များဖြစ်လာကြသည်။ ဂြိုဟ်များလည်း၊ လည်၍နေကြသဖြင့် ထိုဂြိုဟ်များမှတဖန် လ ဟုခေါ်တွင်သော အရံဂြိုဟ်ကလေးများလွင့်စင် ဖြစ် ပေါ်လာပြန် သည်။ ကျွန်ုပ်တို့ကမ္ဘာသည် အဆိုပါနက်ဗျူလာကြီးမှ လွင့်စင်ထွက်လာသော ဓါတ်ငွေ့ကွင်းတခု သိပ်သည်းကျစ်လစ်လာရာမှ ဖြစ်ပေါ်လာရသည်ဟုဆိုလေသည်။

နက်ဗျူလာသီအိုရီကို ယခုခေတ်နက္ခတ်ဆရာတို့က လက်မခံကြပေ။ ကမ္ဘာကျော်နက္ခတ်ဆရာကြီး ဆာဂျိမ်းဂျီအင်းသည် ကမ္ဘာဖြစ်ပေါ်ပုံကို အောက်ပါအတိုင်းကြံဆကြည့်လေသည်။ ရှေးဦးပဌမတွင် နက်ပကျွန်းဂြိုဟ်သွားလမ်းလောက် အထိ ပင် ကြီး မား သော ဓါတ် ငွေ့လုံးကြီးတလုံးရှိသည်။ ထိုဓါတ်ငွေ့လုံးကြီးမှာ ယခုကျွန်ုပ်တို့၏နေဖြစ်၏။

ဓါတ်ငွေ့လုံး၏အပြင်ပိုင်းသည် အလွန်ပါး၍အတွင်းပိုင်းမှာ ထူသည်။ တခါ၌ ထိုနေထက် များ စွာကြီး သော နေတစင်း သည် အနားမှကပ်၍ဖြတ်သွားသည်။ ထိုအခါထိုနေသည် မိမိ၏ ဆွဲအားဖြင့် ကျွန်ုပ်တို့၏ နေမှ ဓါတ်ခိုးဓါတ်ငွေ့များကို ဆွဲထုတ်သည်။ ဒီရေပမာမောက်ကြွလျက် ဆေးပြင်းလိပ် သဏ္ဍာန် ရှည်လျားလျားပုံဖြင့်ထွက်လိုက်လာသော ဓါတ်ခိုး ဓါတ်ငွေ့အစုသည် နေဆွဲရာနောက်သို့ လိုက် ပါသွား သည်။ သို့ရာတွင်နေသည် အလွန်လျင်မြန်ကြီး မား သော အရှိန် ဖြင့် ဖြတ် သန်း ထွက်ခွာသွား သည့် အတွက်၊ အထက် ပါ အတိုင်း ထွက်လိုက်လာသောဓါတ်ခိုးဓါတ်ငွေ့အစုသည် နေကိုမမှီဘဲ နောက်တွင်ကျန်ခဲ့သည်။ ထိုသို့ကျန်ရစ်ခဲ့သောဓါတ်ခိုးဓါတ် ငွေ့အစုသည် နေနှစ်စင်း၏ဆွဲငင်မှုကြောင့် ပဌမနေကိုလှည့် ပတ်ပြီးနေလေသည်။ ထိုဓါတ် ခိုး ဓါတ် ငွေ့အစုမှ အများ အစားပင် ပဌမနေပေါ် သို့ပြန်၍ကျသွား၏။ သို့သော်အချို့ မှာ နေပေါ် သို့ပြန်ကျရန် ဆင်းလာသော်လည်း နေကိုလှည့် ပတ်နေသောအရှိန်ကြောင့် နေဆီသို့မရောက်ဘဲလွဲသွားပြီး သော် မလှမ်းမကမ်း နေရာမှ နေကို လှည့် ပတ် ပြီး နေလေ တော့ သည်။ နေကဆွဲထားသော ကြောင့် အခြားတပါးသို့ လည်း လွင့်စင်၍ မသွားပေ။ ထိုဓါတ်ခိုးဓါတ် ငွေ့တို့ သည် ဖိအားများရာဗဟိုချက်တို့တွင် ခွဲခြားစုရုံးကြရာမှ ဂြိုဟ်များ ဖြစ်ပေါ် လာကြသည်ဟုဆို၏။ ထိုသီအိုရီကို တိုက်ဒ်သီအိုရီ (ဒီရေအဆို) ဟုခေါ် လေသည်။

အချို့နက္ခတ်ဆရာတို့က နောက်တမျိုးယူဆကြပြန်သည် မှာ၊ အထက်ပါသီအိုရီနည်းတူပင် ရှေးပဝေဏီအခါတပါးက အခြားနေတစင်းသည် ကျွန်ုပ်တို့နေအနားသို့ချဉ်းကပ်လာ ပြီးနောက် နေမှဓါတ်ခိုးတို့ကိုဆွဲထုတ်သွားသည်။ ထွက်လာ သောဓါတ်ခိုး တို့သည် တ ဖြည်း ဖြည်း အပူချိန် လျော့ သွား သောအခါ သေးငယ်သောအစိုင် အခဲ ကလေးများ အဖြစ်ခဲ့ ထွက်ကြသည်။ ထိုအခဲကလေးများ တဖန်တဖြည်းဖြည်း ပြန်လည်စုရုံးမိပြီးနောက် ဂြိုဟ်များဖြစ်ပေါ် လာကြ သည်။ အခဲကလေးများအချင်းချင်း တခုနှင့်တခုတိုက်မိကြရာမှရရှိ သောအပူရှိန်မှာ ထိုအခဲ ကလေးများကို အရည် ပျော်စေ၍ ပေါင်းစည်း သွားစေနိုင် လောက် အောင် ပြင်းထန်သည်ဟု ဆို၏။ ထိုသီအိုရီကို ပလန်းနက်တက်စီမယ်ဟိုက်ပေါ့သီဆစ် ဟုခေါ် လေသည်။

အထက်ပါသီအိုရီများကိုမှန်ကန်သည်ဟု မည်သူမျှတထစ် ချမပြောနိုင်သေးချေ။ တနေ့နေ့တွင် ထိုသီအိုရီတို့ထက်သာ သော သီအိုရီများပေါ် လာကောင်းပေါ် လာပေဦးမည်။

**ကမ္ဘာမြေ၏အထပ်များ။** ။ကမ္ဘာလုံး တွင် အထပ် ကြီး ၆ ထပ်ပါဝင်သည်ဟုဆိုသည်။ အတွင်းအကျဆုံးဗဟိုပိုင်းမှာ အချင်းအားဖြင့်မိုင်ပေါင်း ၄၀၀၀ ရှိသည်။ ထိုဗဟိုပိုင်းသည် အလွန် ပူပြင်း သ ဖြင့် ထို အပိုင်း၌ ရှိ သော အရာ များ သည် ပလပ်စတစ်အနေနှင့်သော်၎င်း၊ အရည်အနေနှင့်သော်၎င်း တည်ရှိမည်ဟုသိပ္ပံဆရာများကယူဆကြသည်။ ဗဟိုပိုင်းကို ဝန်းရံထားသော ဒုတိယအထပ်သည်ကား ကမ္ဘာ၏အရေး ကြီးသော အဓိကအထပ်ပင် ဖြစ် ၏။ ထို အထပ် သည်မိုင် ၂၀၀၀ မျှထူ၍ ထိုအထပ်တွင်နစ်ကယ်နှင့်ရောနေသောသံ ပါရှိသည့်အပြင်အခြားသတ္တုနှင့်ကျောက်များလည်းအနည်း ငယ်ပါရှိသည်။ ထိုအထပ်ကို ဗယ်ရီစဖီးယား (သတ္တုရည် ထု) ဟုခေါ် ၏။ ဗယ်ရီစဖီးယားတွင်ရှိသောအပူရှိန်သည် အလွန် များ သော် လည်း ပြင်ပမှဖိနှိပ် အားမှာ ကြီး မားလှ သောကြောင့် ဗယ်ရီစဖီး ယား သည် အစိုင် အခဲ အဖြစ် ဖြင့် သာတည်လျက်ရှိသည်။

ဗယ်ရီစဖီးယားအပေါ် ကအထပ်မှာ ၂၅ မိုင်မှ မိုင် ၃၀ လောက်သာထူ၍ ထိုအထပ်တွင်ယင်းနှင့်ကပ်လျက်ရှိသော အတွင်းထပ် အပြင်ထပ်များ၌ ပါရှိသည့် သတ္တုများရှိ သည်။ ထိုအထပ်သည်တွင်းထွက်ပစ္စည်းများတည်ရာ အထပ်ဖြစ်၍၊ ထိုအထပ်ကို အိုးဇုန် (သတ္တုရိုင်းထု) ဟုခေါ် သည်။

သတ္တုရိုင်းထုဖြစ်သောအထပ်ကို ဝန်းရံထားသောအထပ် မှာ လစ်သိုစဖီးယား (မြေထု) ဖြစ်၍၊ ထိုအထပ်သည်မိုင် ၁၅၀ မှ မိုင် ၂၀၀ အထိထူသည်။ လစ်သိုစဖီးယားဖြစ်ပေါ် ရခြင်းမှာ ဗယ်ရီစဖီးယားတွင်ရှိသော သံနှင့်နစ်ကယ်ပေါင်း စပ်သည့်သတ္တုမှ အချို့ပေါ့သောသတ္တုတို့ အပေါ် ဖက်သို့ ခွဲ၍တက်လာခြင်းကြောင့်ဖြစ်သည်ဟု ဘူမိဗေဒဆရာတို့က ယူဆကြသည်။ လစ်သိုစဖီးယား၌အဓိကအားဖြင့် ပစ္စည်း စုနှစ်မျိုးပါဝင်သည်။ ပဌမအစုတွင် အရောင်ဖျော့၍အလေး ချိန်ပေါ့သောသတ္တုနှင့် ကျောက်နှမ်းဖတ်စသည်တို့ပါဝင်၏။ ဒုတိယအစုတွင်မူ သံ၊ မက်ဂနီဇီယမ်၊ ကယ်လဆီယမ်စသော အရောင်ရင့်၍လေးသောသတ္တုများ ပိုမိုပါရှိလေသည်။

လစ်သိုစဖီးယား အပေါ် ဖက် တွင် သမုဒ္ဒရာ၊ ပင်လယ်၊ မြစ်တို့တည်ရာ ဟိုက်ဒြိုစဖီးယား (ရေထု) အထပ်ရှိသည်။ ထိုအထပ်သည်ပျမ်းမျှခြင်းအားဖြင့် ၂½ မိုင်ထူသည်။ ထို



**ကမ္ဘာမြေ၏အနေအထားကို ရှေးလူတို့အမျိုးမျိုးကြံဆရာတွင် ရှေးကယ်လဒီယန်လူမျိုးတို့က ကမ္ဘာသည် သမုဒ္ဒရာမှပေါ် ပေါက်သော နံရံများ အတွင်းတွင် ကုတ်နေသောမိုးကောင်းကင်ကိုမျက်နှာကျက်ပြုလျက် တည်ရှိနေသည်ဟု (အထက်) ပုံအတိုင်းယုံကြည်ကြသည်။ ရှေးအီဂျစ် လူမျိုးတို့ကမူ ကမ္ဘာကိုဆင်ကြီးလေးကောင်က ထမ်းထားလျက် ထိုဆင်များသည် သမုဒ္ဒရာရေပြင်တွင်ကူးခတ်လျက်ရှိသော ကမ္ဘာလိပ်ကြီး၏ ကျောက်ကုန်းထက်၌ရပ်တည်လျက်ရှိသည်ဟု (အလယ်) ပုံအတိုင်းယုံကြည်ကြသည်။ ရှေးဂရိလူမျိုးတို့ကမူကား ကမ္ဘာမှာသမုဒ္ဒရာဝိုင်းရံထား သည့်မြေအပြင်ကြီးတခုသာလျှင်ဖြစ်သည်ဟု (အောက်ဆုံး) ပုံအတိုင်းယုံကြည်ကြသည်။**

အထပ်အပေါ်ဖက်တွင် နောက်ဆုံးအထပ်ဖြစ်သော ဓါတ်ငွေ့များပါဝင်သည့်အထပ်ရှိသည်။ ထိုအထပ်သည်မိုင် ၂၀၀ ခန့်ထူ၍ ထိုအထပ်ကိုအက်တမိုစဖီးယား (ဓါတ်ငွေ့ထု) ဟုခေါ်သည်။

# ကမ္ဘာကြီးကိုတုန်လှုပ်စေခဲ့သောစစ်ပွဲကြီး

**မီးပွားကလေးမှစတင်သောမီးသည် တောတခုလုံးကိုလောင်ကျွမ်းစေသကဲ့သို့ နိုင်ငံငယ်ချင်းဖြစ်ပွားရာမှ နိုင်ငံကြီးပေါင်းများစွာသို့ကူးစက်ကာ ကြောက်မက်ဖွယ်လက်နက်ဆန်းများကိုသုံးသဖြင့် ကမ္ဘာ့သမိုင်းတွင် ရှေးကမကြုံဘူးသောသွေးချောင်းစီးစစ်ပွဲကြီးပေါ်ပေါက်ခဲ့လေသည်။**

**ကမ္ဘာစစ်၊ပဌမ** (ခရစ် ၁၉၁၄-၁၉၁၈)။ ။နိုင်ငံတိုင်းက စစ်မလိုလားပါဟုဆိုလျက် စစ်မဖြစ်ရဘဲ ငြိမ်းချမ်းရေးရအောင်ဆောင်ရွက်ကြရာမှ ဥရောပတိုက်တွင် ၁၉၁၄ ခုနှစ်၌ ကြောက်မက်ဖွယ်ရာကောင်းလှသော လူသတ်ပွဲ၊ အခြေအနေဖျက်ဆီးပွဲကြီးဖြစ်သည့် ပဌမကမ္ဘာစစ်ကြီးပေါ်ပေါက်ခဲ့လေသည်။

**စစ်ဖြစ်ရသည့်အကြောင်းများ**။ ။နိုင်ငံတိုင်းစစ်ကိုကြောက်၍ မဖြစ်ရအောင်ရှောင်ရှားလိုကြသည်။ သို့သော် မလွှဲမရှောင်သာဘဲစစ်ဖြစ်လာလျှင် အဆင်သင့်ရှိရန်ပြင်ဆင်ထားကြလေသည်။ လက်နက်အင်အားပြည့်စုံမှသာလျှင် အရေးကြုံသည့်အခါသက်လုံကောင်းနိုင်ကြောင်းကို နိုင်ငံကြီးတိုင်းယုံကြည်ခဲ့ကြ၏။ ထို့ပြင်နိုင်ငံကြီးများ၏ အလိုအရမှာ လက်နက်အင်အားဖြင့်အကြမ်းဖက်မှုသည်သာလျှင် မိမိတို့လိုရာကိုရရှိပြည့်စုံနိုင်မည်ဖြစ်လေသည်။ ထို့ကြောင့်စစ်ကိုကြောက်သဖြင့် အရေးရှိကအသင့်ဖြစ်စေရန် တနိုင်ငံကလက်နက်အင်အားဖြည့်တင်းသောအခါ၊ အခြားနိုင်ငံများကလည်း လက်ပိုက်ကြည့်မနေနိုင်တော့ဘဲ လက်နက်များစုဆောင်းဖြည့်တင်းလာကြ၏။ သို့ဖြစ်၍စစ်ကိုကြောက်ခြင်းသည်ပင်လျှင် စစ်ဖြစ်ရခြင်း၏အကြောင်းရင်းတခုဖြစ်သည်ဟုဆိုနိုင်ပေသည်။

ပဌမကမ္ဘာစစ်ကြီးဖြစ်ရန်အကြောင်းများမှာ ပြင်သစ်နှင့် ဂျာမနီစစ်ဖြစ်ပွားခဲ့သည့် ရှည်ဝေးသောကာလ ၁၈၇၀ ပြည့်နှစ် ၁၈၇၁ ခုနှစ်များလောက်ကပင်အစပျိုးခဲ့လေသည်။ နိုင်ငံကြီးတိုင်းဓနအင်အားကြီးမြင့်လိုကြသဖြင့်၊ တနိုင်ငံထက်တနိုင်ငံသာအောင်ပြိုင်ကြရာမှ ပဋိပက္ခမှုများဖြစ်ပွားခဲ့လေသည်။ ပမာအားဖြင့်ဆိုသော်၊ အင်အားပြည့်ဝလာသောဂျာမနီသည် အာဖရိကတိုက်တွင် အကျိုးကျေးဇူးဖြစ်ထွန်းနိုင်မည့်ဒေသများကို သိမ်းပိုက်ရန်ကြံရွယ်နေစဉ်၊ အင်္ဂလိပ်နှင့်ပြင်သစ်တို့က အလျင်ဦးအောင်သိမ်းပိုက်လိုက်လေသည်။ ပြင်သစ်ဩဇာလွှမ်းမိုးနေသော အာဖရိကမြောက်ပိုင်းရှိ မိုရိုကိုနယ်တွင် ဂျာမန်တို့ကခြေကုပ်ရရန်ကြိုးစားသောအခါတွင်လည်း၊ အင်္ဂလိပ်ကပြင်သစ်ကိုကူညီသောအားဖြင့် ဝင်ရောက်နှောင့်ယှက်ခဲ့လေသည်။

သို့ဖြစ်၍ဂျာမနီသည် ဂရိတ်ဗြိတိန်နှင့်ပြင်သစ်တို့ကိုအသာရနိုင်ဖို့ ကြည်းတပ်၊ ရေတပ်အင်အားတောင့်တင်းရန်ကြိုးစားလေရာ အင်္ဂလန်လည်းဂျာမနီကို စိုးရိမ်ကြီးစွာစောင့်ကြည့်နေခဲ့လေသည်။ ထို့ပြင်ရုရှားနှင့်ဩစတြီးယားနိုင်ငံတို့သည် ဗော်လကန်နယ်များကိုအုပ်စီးလိုခဲ့ကြသည်။ အခြားဥရောပနိုင်ငံများကလည်း ထိုနယ်များကိုမျက်စောင်းထိုးနေခဲ့ရာ၊ မကြာမီအကြံတူရန်သူဟူသကဲ့သို့ ဗော်လကန်စစ်ပွဲကလေးများ နှစ်ကြိမ်ဖြစ်ပွားခဲ့လေသည်။ ထို့ပြင်အရေးရှိကကူဖေါ်ရရန်မဟာမိတ်များဖွဲ့ထားခဲ့ကြရာ ၁၉၁၄ ခုနှစ်လောက်တွင် အင်္ဂလိပ်၊ ပြင်သစ်နှင့်ရုရှားတို့သည် သုံးနိုင်ငံမဟာမိတ်စာချုပ်များ ချုပ်ဆို၍ သွေးစည်းခဲ့လေသည်။ ထိုမဟာမိတ်အဖွဲ့နှင့်ဖက်ပြိုင်နိုင်ရန် ဂျာမနီ၊ ဩစတြီးယားနှင့်ဣတလီတို့ကလည်း သုံးနိုင်ငံချစ်ကြည်ရေးစာချုပ် ချုပ်ဆိုခဲ့ကြလေသည်။

စစ်ဖြစ်ရခြင်း၏တိုက်ရိုက်အကြောင်းရင်းသည် ဩစတြီးယားနိုင်ငံတွင် စတင်ပေါ်ပေါက်ခဲ့၏။ ဩစတြီးယားနိုင်ငံသည် အီးဂျီးယန်းပင်လယ်ဖက်တွင် သင်္ဘောဆိပ်တခုရရန်အတွက် အရှေ့ဖက်သို့နယ်ချဲ့လိုသည်။ ထိုအရေးတွင်ဆားဗီးယားနိုင်ငံက ကြားမှကန့်လန့်ခံနေသဖြင့်၊ ဩစတြီးယားသည်ဆားဗီးယားနိုင်ငံအား တိုက်ခိုက်ရန်အပြစ်ရှာနေခဲ့လေသည်။ ရုရှားကလည်း ဆားဗီးယားနိုင်ငံကို ရန်သူများတိုက်ခိုက်လာခဲ့လျှင် ကူညီရန်ကတိပေးထား၏။

၁၉၁၄ ခုနှစ်ဇွန်လ ၂၈ ရက်နေ့တွင် ဩစတြီးယားနိုင်ငံ၏ အိမ်ရှေ့စံ ဖါဒီနန်နှင့်ကြင်ယာတော်တို့ကို တိုင်းခမ်းလှည့်လည်နေစဉ် ဗော့စနီးယားနယ် ဆားရာဂျဲဗိုမြို့တော်၌ ဂါဗရီလိုပရင်းဇစ်ဆိုသူ ဆဗ်လူမျိုးတဦးက သေနတ်ဖြင့်ပစ်သတ်လိုက်လေသည်။ ထိုအရေးကား ဥရောပယမ်းအိုးကြီး၏စနက်မီးဖြစ်လေတော့သည်။ ဩစတြီးယားသည် ပင်ကိုယ်ကပင် ဆားဗီးယားအားအပြစ်ရှာနေဆဲတွင်၊ ထိုလုပ်ကြံမှု၌ဆားဗီးယားအစိုးရ၏တာဝန်မကင်းဟု တင်းမာပြင်းထန်လှသော နောက်ဆုံးရာဇသံတရပ်ပေးခဲ့၏။ ဩစတြီးယားကိုဂျာမနီကထောက်ခံလေသည်။

ဆားဗီးယားအစိုးရသည် ယင်း၏အချုပ်အခြာအာဏာကို ထိခိုက်မည့်အချက်မှတပါး ရာဇသံပါအခြားအချက်များကိုလိုက်လျောမည်ဟု ချက်ခြင်းအကြောင်းပြန်ခဲ့၏။

သို့သော် ဩစတြီးယားနိုင်ငံက ဆားဗီးယားအစိုးရသည် ရာဇသံပါအချက်တို့ကို လိုက်လျောရန်ပျက်ကွက်သည်ဟု စစ်ကြေညာလေသည်။ ရုရှားသည်ဆားဗီးယားနှင့်သာမက အခြားဗော်လကန်နယ်ကလေးများနှင့် အကျိုးစီးပွားချင်း ဆက်စပ်နေသည်ဟုဆိုကာ ဆားဗီးယားကိုကူညီရန်စစ်ပြင် ခဲ့၏။ ထိုအခါပြင်သစ်ကလည်း မဟာမိတ်ရုရှားဖက်မှကူရန် အသင့်ပြင်လေသည်။ ရုရှား၏စစ်ပြင်ဆင်မှုမှာ ဩစတြီး ယားအတွက်အန္တရာယ်ဖြစ်နေလေရာ ဂျာမနီသည်ရုရှားနှင့် ပြင်သစ်တို့အား ၁၉၁၄ ခုဩဂုတ်လ ၁ ရက်နေ့နှင့် ၃ ရက် နေ့များတွင်စစ်ကြေညာခဲ့၏။ ထိုအချိန်အထိ သုံးနိုင်ငံမဟာ မိတ်အဖွဲ့ဝင်တဦးဖြစ်သော ဗြိတိန်နိုင်ငံသည် စစ်ထဲမပါသေး ချေ။ ဣတလီနိုင်ငံကလည်း ကြားနေမည်ဟုကြေညာ၏။

**ပွဲဦးထွက်။** ။စစ်ဦးဘီးလူးထွက် ထွက်လာခဲ့သောဂျာမနီကို တကမ္ဘာလုံးက အံ့ဩရလေသည်။ ဂျာမနီ၏ တိုက်ခိုက်ပုံ များမှာ အနှစ်နှစ် အလလက ကြိုတင်၍သေချာစွာပြင်ဆင် မှုရှိခဲ့သကဲ့သို့ အချက်ကျကျအရာရောက်ရောက်နှင့် ထိမိစွာ တိုက်ခိုက်နိုင်ခဲ့၏။ ဂျာမနီ၏စစ်တပ်အင်အားမှာ ဥရောပ တတိုက်လုံး၌ အကြီးမားအထင်ရှားဆုံး ကဲ့သို့ဖြစ်ခဲ့သည်။ ဂျာမနီသည်ပြင်သစ်အား တလအတွင်းသိမ်းပိုက်ပြီးမှ ရုရှား ကိုတိုက်ခိုက်ရန်ရည်ရွယ်ထား ခဲ့၏။ ထိုပြင် ဗြိတိန်ကိုသိမ်း သွင်းပြီးနောက် အရှေ့ဖက် သို့နယ်ချဲ့နိုင်ရန် ဗော်လကန် နယ်များကို သိမ်းသွင်းရန် အစီအစဉ်လည်းရှိလေသည်။

**ဗဲလဂျီယမ်ကိုဖြတ်ကျော်ခြင်း။** ။ထိုကြောင့်ဂျာမနီ သည် ပြင်သစ်နိုင်ငံကို ပို၍ လျင်မြန်လွယ်ကူစွာသိမ်း ပိုက်နိုင်ရန် ဗဲလဂျီယမ်နိုင်ငံ ထံဖြတ်သန်းခွင့်တောင်းခဲ့ ၏။ ဗဲလဂျီယမ်မှာကြားနေ နိုင်ငံဖြစ်ရာ၊ ဖြတ်သန်းခွင့် မပေးခဲ့ချေ။ ထိုအခါဂျာမနီ သည်ဇွတ်အတင်းဖြတ်ကျော် လေသည်။ ဗဲလဂျီယမ်တွင် ဂျာမန်စစ်တပ်များရှိနေပါ က၊ အင်္ဂလန်ကျွန်း၏ လုံခြုံ ရေးကို စိုးရိမ်ရသည်တ ကြောင်း၊ ဗဲလဂျီယမ်၏ ကြားနေရေးကို အာမခံထား သည့်ပြင် ယင်းကိုထိပါးလာ ပါကကူညီပါမည်ဟုလည်း စာချုပ်ထားသည်တကြောင်း ကြောင့်ဗဲလဂျီယမ်ဖက်မှကူညီတိုက်ခိုက်ရန်အကြောင်းပြ၍ ဗဲလဂျီယမ်နိုင်ငံကလေးကို ဂျာမနီစတိုက်သည့် ဩဂုတ်လ ၄ ရက်နေ့မကုန်မီပင်ဗြိတိန်နိုင်ငံသည်စစ်ကြေညာကာစစ်ထဲဝင် ခဲ့လေသည်။ ဂျပန်နိုင်ငံသည်ဗြိတိန်နှင့်ချုပ်ဆိုထားသောမ ဟာမိတ်စာချုပ်အရ မကြာမီဗြိတိန်ကိုကူညီရန်စစ်ကြေညာ ကာစစ်ထဲဝင်ခဲ့သည်။ အခြားဟန်ဂေရီ၊ ဗူလဂေးရီးယား၊ တူရကီစသောနိုင်ငံများကလည်း ဂျာမနီနှင့်ဩစတြီးယား ဖက်မှစစ်ထဲဝင်လာကြလေရာ၊ ဥရောပဗဟိုနိုင်ငံများဟု ခေါ်သောထိုနိုင်ငံများကတဖက်၊ ရုရှား၊ ပြင်သစ်၊ အင်္ဂလိပ် စသောမဟာမိတ်နိုင်ငံများကတဖက်၊ စစ်ရေးပြိုင်ကြသည့် ပဌမကမ္ဘာစစ်ကြီးဖြစ်ပေါ်လာခဲ့သည်။

ဗဲလဂျီယမ်သည်ရှိသမျှစစ်သား ၂ သိန်းခန့်နှင့် အင်အား ကြီးမားသောဂျာမန်စစ်တပ်ကြီးကို ရက်သတ္တ ၂ ပတ်မျှ ကြာအောင်ခုခံတွန်းလှန်နေခဲ့သဖြင့်၊ ပြင်သစ်အဖို့ဂျာမန် များဝင်ရောက်မည့်လမ်းများတွင် စစ်အင်အားထပ်ဖြည့် ထားရန် အချိန်ရခဲ့သည့်ပြင်၊ ပြင်သစ်နိုင်ငံမြောက်ပိုင်းသို့ ရှိသမျှသော အင်္ဂလိပ်စစ်တပ်များကိုလည်း တင်ပို့နိုင်ခဲ့၏။ ထိုသို့မဟာမိတ်များဖက်တွင် စစ်အင်အားဖြည့်တင်းရန်



ဩစတြီးယားအိမ်ရှေ့စံဖါဒီနန်နှင့်ကြင်ယာတော်တို့အား ပစ်သတ်သည့်လူသတ်သမားအား ဖမ်းဆီးနေစဉ်

အချိန်ရသွားသည့်အတွက်၊ ဂျာမနီမှာစစ်ကိုလျင်မြန်စွာအနိုင်နှင့်ပိုင်းရန်ရည်မှန်းချက်ကြီး ပျက်ပြားရလေသည်။

ဗဲလဂျီယမ်အာဇာနည်စစ်သည်များသည် အစွမ်းကုန်ကြိုးစားတွန်းလှန်ကြသော်လည်း ဂျာမနီ၏ကြီးမားတောင့်တင်းလှသောဒဏ်ကိုမခံနိုင်ဘဲဩဂုတ်လ ၁၅ ရက်နေ့တွင် လီအေ့ခ်တပ်ကြီးကျိုးပေါက်သွားပြီးနောက်လေးရက်မျှအကြာတွင် ဗရပ်ဆဲမြို့တော်ကြီးကျဆုံးခဲ့ရလေသည်။ ဗဲလဂျီယမ်အစိုးရအဖွဲ့လည်း ပြင်သစ်နိုင်ငံသို့ပြောင်းရွှေ့သွားရသည်။

**ပဌမ မန်းတိုက်ပွဲ**။ ။ဗဲလဂျီယမ်နိုင်ငံကိုဖြတ်ကျော်နိုင်ခဲ့ပြီးနောက် ပြင်သစ်နိုင်ငံဖက်သို့ ဂျာမန်တပ်များဆက်လက်ချီတက်ခဲ့လေသည်။ ထိုအခါဗဲလဂျီယမ်၊ ပြင်သစ်၊ အင်္ဂလိပ်တပ်များကလည်း တွန်းလှန်နိုင်သမျှတွန်းလှန်ခဲ့၏။ ဤသို့ဖြင့်မဟာမိတ်တပ်များနှင့်ဂျာမန်တပ်များသည် အနောက်ဖက်စစ်မြေပြင် မန်းမြစ်အနီးတွင် ယှဉ်ပြိုင်တိုက်ခိုက်ကြရာ၊ ဂျာမန်တို့နောက်ဆုတ်ပေးကြရသည်။ ထိုကြောင့်ပြင်သစ်နိုင်ငံအတွက် အတန်စိတ်အေးသွားရသော်လည်း ဂျာမန်တို့မှာပြင်သစ်နိုင်ငံ၏အကြွယ်ဝဆုံးသော နယ် ဆယ်ပုံ တပုံခန့်ကိုသိမ်းပိုက်မိထားကြသည်။

စစ်ဖြစ်စဉ် ကြည်းကြောင်းတိုက်ပွဲများတွင် မဟာမိတ်တပ်များသာလျှင် အရှုံးများလေသည်။ ဗဲလဂျီယမ်နိုင်ငံ အီးပရားတိုက်ပွဲတွင် အင်္ဂလိပ်စစ်တပ်ကြီး တပ်လုံးပြုတ်လုမတတ်ကျဆုံးခဲ့လေသည်။ ထိုကြောင့် ဗြိတိန်သည် စစ်တပ်အင်အားကိုထပ်မံဖြည့်တင်းခဲ့ရာ၊ တနှစ်အတွင်းတပ်သားပေါင်းတသန်းကျော်ရရှိခဲ့၍ ဗြိတိသျှနိုင်ငံတော်တွင်းမှ စစ်တပ်အင်အားများပါဆိုလျှင် တပ်သား နှစ် သန်း ကျော်ရရှိခဲ့၏။ သို့သော်စစ်ပွဲတွင်ရန်သူတပ်များနှင့်ယှဉ်ပြိုင်တိုက်နိုင်လောက်အောင်ကား ကျင့်သားမရှိကြသေးပေ။ ၁၉၁၇ ခုနှစ်လောက်တွင်မှ အင်္ဂလိပ်တို့၏ တိုက် ခိုက် မှုအင်အားမှာထိပ်တန်းသို့ရောက်ခဲ့သည်ဟုဆိုနိုင်ပေသည်။

**စစ်မျက်နှာများ**။ ။ပဌမကမ္ဘာစစ်ကြီးတွင် နိုင်ငံအများပါဝင်တိုက်ခိုက်ကြသဖြင့် စစ်မျက်နှာမှာတနေရာတည်းတွင်မဟုတ်ပေ။ အနောက်ဖက်စစ်မျက်နှာ၊ အရှေ့ဖက်စစ်မျက်နှာ၊ ဣတာလျံစစ်မျက်နှာ၊ ဗော်လကန်တောင်ပိုင်းစစ်မျက်နှာဟူ၍ နေရာအနှံ့အပြားရှိခဲ့၏။ ထိုစစ်မျက်နှာများတွင် အရေးအပါဆုံးစစ်မျက်နှာမှာ အနောက်ဖက်စစ်မျက်နှာဖြစ်သည်။ အင်္ဂလိပ်ရေလက်ကြားကြီးမှ ဆွစ်ဇာလန်နိုင်ငံအထိ စစ်ကြောင်းပြန့်နေ၍မိုင်ပေါင်း ၄၅၀ မျှရှည်လျားသည်။ အရှည်လျားဆုံးဖြစ်ပြီးလျှင် ဒုတိယ အရေးအပါဆုံးသောစစ်မျက်နှာမှာ အရှေ့ဖက်စစ်မျက်နှာဖြစ်၍၊ ဗောလတစ်ပင်လယ်ကမ်းခြေရှိ ရီးဂမှပင်လယ်နက်ကမ်းခြေတိုင်အောင် မိုင်ပေါင်း ၁၁၂၅ မိုင်မျှရှည်လျားလေသည်။ ၁၉၁၅ ခုမေလ ၂၃ ရက်နေ့တွင် ဣတလီသည် မဟာမိတ် တို့ဖက်မှ စစ်ထဲဝင်လာသောအခါ၊ မိုင် ၃၂၀ မျှရှည်လျားသည့် ဣတာလျံစစ်မျက်နှာတခုဖွင့်ခဲ့ပြန်သည်။ စစ်မပြီးမီ နောက်ဆုံးဖွင့်ရသောစစ်မျက်နှာမှာ စစ်ကြောင်းမိုင် ၃၀၀ မျှရှည်လျားသည့်ဗော်လကန်တောင်ပိုင်းစစ်မျက်နှာဖြစ်၏။

တိုက်ခိုက်ရာတွင် နည်းသစ်ထွင်ကာ တဖက်နှင့်တဖက် ကတုတ်ကျင်းများထဲမှပစ်ခတ်တိုက်ခိုက်ကြသဖြင့် ရင်ဆိုင်တိုက်ခြင်း၊ လျင်မြန်စွာနေရာရွှေ့ပြောင်းတိုက်ခိုက်ခြင်းများ နည်းပါးလှသည်။ ထိုနည်းဖြင့်တိုက်ခိုက်ခြင်းကြောင့် သုံးနှစ်အတွင်းအနောက်ဖက်စစ်မျက်နှာတွင် စစ်ကြောင်းကိုမိုင်နှစ်ဆယ်မျှ ကျွံဝင်အောင် မည်သည့်ဖက်ကမျှ မတိုက်နိုင်ခဲ့ချေ။ သို့သော်ထိုသို့စစ်ကြောင်းကို ထိုးဖေါက်ရန်ကြိုးစားကြရာ၌ တပ်သားပေါင်းတသန်းကျော်ကျဆုံးခဲ့လေသည်။

ထိုစစ်မျက်နှာတွင် မဟာမိတ်တပ်များဖက်မှ ထင်ရှား၍ စစ်မှုရေးရာကျွမ်းကျင်သော ဆာဂျွန်ဖရင့်၊ စစ်သူကြီးဆာဒေါက်ဂလပ်ဟိတ်၊ မာရှယ်ဂျော့ဖါး၊ ဗိုလ်ချုပ်မှူးပေတန်းနှင့်မာရှယ်ဖေါ့စသည့်စစ်ဗိုလ်ကြီးများ ကွပ်ကဲအုပ်ချုပ်တိုက်ခိုက်ခဲ့၏။ စစ်ထဲသို့အမေရိကန်ဝင်လာသောအခါတွင် ဗိုလ်ချုပ်မှူးပါးရှင်က ဦးစီးခဲ့လေသည်။ ဂျာမနီစသည့်ဗဟိုနိုင်ငံများဖက်မှ ဂျာမနီအိမ်ရှေ့ဥပရာဇာနှင့် ဗာဗေးရီးယားဥပရာဇာများကိုယ်တိုင် ကွပ်ကဲတိုက်ခိုက်ခဲ့ကြသည်။

အရှေ့ဖက်စစ်မျက်နှာတွင် ရုရှားကခေါင်းဆောင်တိုက်ခိုက်ရလေရာ နစ်ကလတ်မင်းသားကြီးကိုယ်တိုင် တနှစ်ခွဲခန့်ဦးစီးခဲ့ပြီးနောက်၊ ရုရှားဇာဘုရင်ကိုယ်တိုင် ကွပ်ကဲတိုက်ခိုက်ခဲ့လေသည်။ ထိုစစ်မျက်နှာတွင်ဂျာမန်တို့ဖက်မှ စစ်ဦးစီးချုပ် လူဒင်ဒေါ့၏အကူအညီဖြင့် ဗိုလ်ချုပ်မှူးဟင်ဒင်ဗတ်က ကြီးမှူးတိုက်ခိုက်ခဲ့ရာ၊ တန်နင်ဗတ်တိုက်ပွဲတွင်နာမည်ရခဲ့ပြီးလျှင် မကြာမီဂျာမန်စစ်သေနာပတိချုပ်ဖြစ်လာ၏။

**၁၉၁၅ ခုနှစ် အတွင်း စစ်အခြေအနေ**။ ။အနောက်ဖက် စစ်မျက်နှာတွင် သုံးနှစ်ခန့်အတွင်း အကြီးအကျယ်ပြောင်းလဲခြင်း မရှိခဲ့ချေ။ ထိုကြောင့် အင်္ဂလိပ် နှင့် ပြင်သစ်တို့သည် လက်နက်ခဲယမ်းမီးကျောက်ရုံများ တိုးတက် တည်ဆောက် ထုတ်လုပ်နိုင်ခဲ့သည်ဖြစ်ရာ တိုက်ပွဲများတွင်အများအားဖြင့် အမြောက်ကိုသုံးနိုင်ခဲ့ကြသည်။ ထိုနှစ်အတွင်း ထိုစစ်မျက်နှာ၌ အရေး အပါ ဆုံး တိုက် ပွဲ မှာ ဗာဒန်တိုက်ပွဲဖြစ်သည်။ ဗာဒန်မှာပါရစ်မြို့သွားရာလမ်းပေါ်တွင် တည်ရှိ၍ ပြင်သစ်ခံစစ် ကြောင်း၏ အချက် အခြာဖြစ် လေရာ၊ဂျာမန်အိမ်ရှေ့ဥပရာဇာကိုယ်တိုင် ဗာဒန်ကိုတိုက်ခိုက် သိမ်းပိုက် ရန် ကြိုးစားခဲ့၏။ ပြင်သစ်တို့ကလည်းရှပ်ရှပ်ချွံချွံခုခံတိုက်ခိုက်ခဲ့၍သွေးချောင်းစီးသောတိုက်ပွဲကြီးများ ထိုမြို့အနီး၌ဖြစ်ပွားခဲ့လေသည်။ သို့သော်ဗာဒန်မြို့မှာဗိုလ်ချုပ်မှူး (နောက်မာရှယ်) ပေတန်း၏ကြိုးပမ်းချက်ကြောင့် မကျဘဲရှိနေခဲ့၏။ ထိုနှစ်တွင်ပင်ဂျာမန်တို့သည် အင်္ဂလန်ပြည်ဖက်သို့လွယ်ကူစွာကူး

နိုင်ရေးအတွက် ကဲလေးမြို့ကို သိမ်းပိုက် ရန် စစ်ဆင်ကြပြန်ရာ ဓါတ်ငွေ့များကိုပင် အသုံး ပြုခဲ့ လေ သည်။ သို့သော်ကနေဒီယန်တပ်သားများ၏ ရှပ်ရှပ်ချွံချွံတွန်းလှန်မှုကြောင့် ၁၉၁၈ ခုနှစ် တိုင် အောင် ဂျာမန်တို့၏ရန်မှကင်းလွတ်ခဲ့လေသည်။ ထိုနှစ်တွင် မဟာမိတ်တို့ဖက်မှ အရေးပါသော အောင် မြင် မှုမှာ သံမဏိ နှင့် အင်္ဂတေတို့ဖြင့် ခိုင် ခံ့ စွာပြုလုပ်ထားသော လက်ဗီရင့်ခေါ် ဝင်္ကပါအမည် ရှိ ဂျာမန် မြေအောက် ခံတပ်ကြီးကို သိမ်းပိုက်နိုင်ခြင်းဖြစ်ပေသည်။ မဟာမိတ်တို့သည် ပြင်သစ် နှင့် ဗဲလဂျီယမ် နိုင်ငံ တို့မှ ရန်သူလက် ကျရောက် ခဲ့သောနယ်များကို ကယ်တင်ရန်ကြိုးပမ်းခဲ့သော်လည်း၊ စတုရန်းမိုင်ပေါင်း ၅၀ ခန့်သာပြန်ရခဲ့လေသည်။

အရှေ့ဖက်စစ်မျက်နှာမြောက်ဖက်တွင် ဗွန်ဟင်ဒင်ဗတ်၏ ဂျာမန်စစ်တပ်များသည် မဆူးရီယန်အိုင်များဒေသတဝိုက်၌ အရေးသာနေကြသည်။

တောင်ဖက်တွင် ပဋ္ဌမသော် ရုရှား သည် စစ်ရေးလှခဲ့၏။ ဩစတြီးယားပိုင် ဂလစ်ရှာနယ်ကိုဖြတ်၍ဟန်ဂေရီနိုင်ငံထဲသို့ပင် ဝင်နိုင်ခဲ့လေသည်။ သို့သော် ၁၉၁၅ ခုနှစ်နွေရာသီတွင် ဂျာမန်နှင့်ဩစတြီးယားတပ်များပူးပေါင်း၍၊ ရုရှားတို့အား ဂလစ်ရှာ နယ် ထဲမှ အထူးအောင်မြင်စွာ မောင်းထုတ်လိုက်သည်။ ထိုအခါ နစ်ကလပ်မင်းသားကြီးနေရာတွင် ရုရှားဇာဘုရင်ကိုယ်တိုင် ထိုတပ်များကိုကွပ်ကဲတိုက်ခိုက်လေသည်။

ရုရှားအား ဗဟိုနိုင်ငံများ၏ ဖိနှိပ်ခြင်းမှ သက်သာရာရစေရန် မဟာမိတ်တပ်များသည် တူရကီပိုင်ဒါးဒနဲရေလက်ကြားမှ ဂလစ်ပိုလီကျွန်းဆွယ်ကို တိုက်ခိုက်သိမ်းယူရန်ကြိုးပမ်းခဲ့ကြသည်။ သို့ရာတွင်မအောင်မြင်သည့်ပြင် ဗော်လကန်ပြည်နယ်များ၏အထင်သေးခြင်းကိုပင်ခံရလေသည်။ ဩစတြီးယားသည် ဆားဗီးယားကိုတိုက်ခိုက်ခဲ့ရာတွင် မြော်လင့်သလောက်မလွယ်ကူလှချေ။ ဩစတြီးယားတို့က ဆားဗီးယား မြို့ တော် ဗဲလဂရိတ် မြို့ကို သိမ်း ပိုက် နိုင် ခဲ့ သော် လည်း ဆားဗီးယားတို့ကပြန်လည်သိမ်းနိုင်ခဲ့၏။ သို့သော်မကြာမီ အူရောင်ငန်းဖျားရောဂါကျရောက်သဖြင့် ဆားဗီးယားတပ်များမှာ အတော်ပင်အင်အားနည်းသွားလေသည်။

ထိုအတွင်း ဗူလဂေးရီးယားနိုင်ငံသည် ဗော်လကန်စစ်အတွင်းက ဆုံးရှုံးခဲ့သော ဗော်လကန်ပြည် နယ်အချို့ကိုပြန်ရရန်ရည်ရွယ်ချက်ဖြင့် ဗဟိုနိုင်ငံများဖက်သို့ ၁၉၁၅ ခုနှစ်တွင်ဝင်ရောက်ခဲ့ပြီးသော် ဆားဗီးယားကိုတိုက်ခိုက်၏။ ဂျာမန် နှင့် ဩစတြီးယားတပ်များကလည်း ကူညီသဖြင့် ၁၉၁၅ ခုဒီဇင်ဘာလတွင် ဆားဗီးယားတပြည်လုံးလိုပင် ရန်သူ့လက်သို့ကျရောက်သွားလေသည်။ မဟာမိတ်တို့ဖက်မှဆားဗီးယားကိုကူညီရန် ဆယ်လိုနီးကားမြို့သို့ သန်းဝက်မျှရှိသောတပ်များကို ၁၉၁၅ ခုအောက်တိုဘာလတွင်ပို့ခဲ့၏။ ဆားဗီးယားတပ်ကိုလည်းပြန်လည်ဖွဲ့စည်းခဲ့လေသည်။ သို့သော် ထိုတပ်များသည် မည်သို့မျှအရာရောက်အောင်မစွမ်းဆောင်နိုင်ဘဲ ဆယ်လိုနီး ကား တွင် သာ သောင် တင် နေ ကြ လေသည်။ မဟာမိတ်တို့လည်း မိမိတို့၏ဂုဏ်သရေကိုထိခိုက်မည်စိုးသောကြောင့် ထိုတပ်များကိုပြန်၍ မဆုတ်ခိုင်းသဖြင့် ၁၉၁၈ ခုနှစ်တိုင်အောင် ထိုတပ်များမှာ ထိုမြို့တွင်ပင်ရှိနေခဲ့ကြလေသည်။



မြေကတုတ်ကိုအားကိုးပြုစစ်ဆင်ရသော ပဋ္ဌမကမ္ဘာ့စစ်အတွင်း မဟာမိတ်ရှေ့တန်းစစ်မျက်နှာ



စစ်မြေပြင်ဆင်းရတော့မည့်ပြင်သစ်ပြည်ရောက်အမေရိကန်စစ်သားများ အပြီးသတ်ချေမှုန်းပွဲစစ်ရေးလေ့ကျင့်နေကြစဉ်

**၁၉၁၆ ခုနှစ် အတွင်း စစ်အခြေအနေ။** ။ထိုနှစ် သြဂုတ်လ အတွင်း ရူမေးနီး ယား နိုင်ငံသည် မဟာမိတ်တို့ဖက်မှစစ်ထဲဝင်လာလေသည်။ ရူမေးနီးယားသည် ဟန်ဂေရီနိုင်ငံ လက် အောက် သို့ ကျရောက် နေ ခဲ့သော ရူမေးနီးယန်းအမျိုးသားတို့၏ လွတ် မြောက် ရေး အတွက် စစ် ထဲ ဝင်လာခြင်းဖြစ်ပေသည်။ ရူမေးနီးယားသည် ဟန်ဂေရီနိုင်ငံတွင်းသို့ဝင် ရောက် တိုက်ခိုက် ရာ ဂျာမနီ နှင့် ဗူလဂေး ရီးယားတပ်များကပြန်လှန်တိုက်ခိုက်သဖြင့် အရေးနိမ့်ခဲ့ရသည့်ပြင် ရူမေးနီးယားနိုင်ငံ၏တဝက်မျှရှိသော အဖိုး ထိုက် တန် သည့် ရေနံနှင့်ဂျုံစပါး ထွက်သောဒေသများ မှာ ရန်သူ၏ လက်သို့ကျရောက်ခဲ့လေသည်။

၁၉၁၅ ခုမေလ ၃ ရက်နေ့တွင် ဣတလီသည်ဩစတြီးယားပိုင်နယ်မြေ အချို့ရမည် ဟူသောလှုံ့ ဝှက် ကတိကြောင့် ယခင်ကဂျာမနီ နှင့် သုံး နိုင်ငံ ချစ်ကြည်ရေးစာချုပ်ကိုဖေါက်ဖျက်ပြီးလျှင် မဟာမိတ်တို့ဖက်မှစစ်ထဲသို့ဝင်လာလေသည်။ ထိုနှစ်အတွင်း၌ ဣတလီစစ်မျက်နှာတွင်ကြီးကျယ်လှသော တိုက် ပွဲကြီးများ မရှိခဲ့ချေ။ ၁၉၁၆ ခုသြဂုတ် လအတွင်း၌ကား ဣတလီသည်ဩစတြီးယားနိုင်ငံကို ထိုးစစ်ဆင်ခဲ့ရာ အရေးအပါဆုံးသောအောင်မြင်မှုမှာ ဂိုရီးဇီးယားကို သိမ်းပိုက်နိုင်ခြင်းဖြစ်ပေသည်။ ဆောင်းရာသီမကျမီကလေးတွင် ဣတလီသည် အေဒြီယက် တစ် ပင်လယ် သင်္ဘောဆိပ်ကမ်းမြို့ဖြစ်သော ထရီးယက်မြို့ကိုသိမ်းပိုက်တိုက်ခိုက်ရန် အသင့်ပြင်ထားခဲ့လေသည်။

ထိုနှစ်အတွင်းအရေးအပါဆုံးသောတိုက်ပွဲမှာ အနောက်ဖက်စစ်မျက်နှာမှ ဗာဒန်တိုက်ပွဲဖြစ်၏။ ဂျာမန်တို့ဖက်မှအိမ်ရှေ့ဥပရာဇာ ကိုယ်တိုင် ကွပ် ကဲ၍ တိုက် ခိုက် ၏။ ဖေဖွာရီလ မကုန်မီမှစကာ်တင်ဘာလဆန်းခန့် အထိခြောက်လခန့်မျှတိုက်ခိုက်ခဲ့သည်တွင် ရှေ့သို့လေးမိုင်ခန့်မျှသာ တိုးတက်နိုင်သဖြင့် ဗာ ဒန် ခံ တပ် မြို့ သိမ်း ပိုက် ရေး ကို ဂျာမန် တို့ လက် လျှော့လိုက် ရ လေ သည်။ ယင်း သို့ ရှိ နေစဉ် မဟာမိတ်တို့သည် မြောက်ဖက်ရှိ ဆုမ်းမြစ်တလျှောက်တွင် အကြီးအကျယ်ထိုးစစ် ဆင်ရန် ပြင် ဆင် ခဲ့ လေ သည်။ ထို အချိန် လောက် တွင် မဟာမိတ်တို့၏အမြောက်လက်နက်များမှာ အထူးတိုးတက်ကောင်းမွန်လာခဲ့ပြီဖြစ်ရာ သံမဏိ၊ အင်္ဂတေတို့ဖြင့်ခိုင်ခံ့လှသည့် မိုင်ပေါင်းများ စွာရှည် လျား သည့် ဂျာမန်ကတုတ်ကျင်းများကို ချေမှုန်းဖျက်ဆီးနိုင်ခဲ့လေသည်။ ထိုပြင်ထိုနှစ်တွင် မဟာမိတ်တို့သည်တင့်ကားများကိုစတင်သုံးခဲ့သည်။ ထိုနှစ်ဒီဇင်ဘာလတိုင်အောင် မဟာမိတ်တို့ သည် ဖိ၍ တိုက်လာခဲ့ရာ ဂျာမန်တို့သည်ကြံ့ကြံ့ခံယင်း နောက်သို့တဖြည်းဖြည်းဆုတ်ပေးခဲ့ရလေသည်။

အရှေ့ဖက်စစ်မျက်နှာတွင် ဆောင်းရာသီအတွင်း၌ ရုရှား သည် အားဖြည့်နိုင်ခဲ့၍၊ ဇွန်လလောက်တွင်အရှေ့ဖက်စစ် ကြောင်းတောင်ဖက်စွန်းမှ ထိုးစစ်ဆင်ကာ ဩစတြီးယား တပ်များကို ကာပေသီယန်တောင်တန်းများသို့ တိုက်ထုတ် နိုင်ခဲ့၏။

၁၉၁၆ ခုနှစ်အတွင်းအိုင်ယာလန်ပြည်၌ သူပုန်ထလေရာ မဟာမိတ်တို့၏စစ်ဆင်မှုတွင် အတန်ပင်ထိခိုက်ဖို့အကြောင်း ပေါ်ပေါက်ခဲ့လေသည်။ ထိုမှတပါး ဗြိတိသျှအစိုးရ၏အရေး ပါသောရာထူးများကိုထမ်းရွက်ခဲ့ရသူ ဆာရော်ဂျာကေ့ စမင့်သည် ဂျာမန်လက်နက်များကိုအိုင်ယာလန်ပြည်တွင်း သို့ခိုးသွင်းကာ ပုန်ကန်ရန်ကြံစည်ခဲ့သဖြင့်၊ အပေါင်းပါ အခြားခေါင်းဆောင် ၆ ဦးတို့နှင့်အတူစစ်ဆေး၍ အဆုံးစီရင် လိုက်ရလေသည်။

ထိုနှစ်အတွင်း ဂရိနိုင်ငံ၏ပြည်တွင်းရေးအခြေအနေကို မဟာမိတ်တို့ဖက်မှရင်း၊ ဗဟိုနိုင်ငံများဖက်မှရင်း၊ စောင့် ကြည့်နေခဲ့သည်။ ဂရိနိုင်ငံသည် ဆားဗီးယားအား ရန် သူတို့ထိပါးလာလျှင် ကူညီတိုက်ခိုက်ပေးရန် သဘောတူညီ ချက်များရှိခဲ့၏။ သို့သော်ဂရိဘုရင်မှာ ဂျာမန်ကိုင်ဇာဘုရင် ၏ယောက်ဖတော် ဖြစ်သဖြင့် ထိုစစ်ထဲတွင် မပါဝင်ဘဲကြား နေမည့်ယောင်ယောင်ပြုနေခဲ့လေသည်။ ဂရိမျိုးချစ်များ ကား ဆားဗီးယားကိုကတိထားချက်အတိုင်း ကူညီလိုကြ သည်။ ထိုကြောင့်မဟာမိတ်တပ်များ ဗူလဂေးရီးယားကို



အရှေ့ဖက်စစ်မျက်နှာတွင်ဦးစီးခဲ့သော ဇာဘုရင်နစ်ကလပ်

တိုက်ခိုက်သောအခါ ဂရိမျိုးချစ်တပ်များသည် မဟာမိတ် တို့ဖက်မှ ကူညီတိုက်ခိုက်ခဲ့၏။ ထိုသို့ဂရိနိုင်ငံ၏သဘော ထား မပြတ်မသားရှိနေခဲ့သဖြင့်၊ မဟာမိတ်တို့က ဂရိနိုင်ငံကို စိတ်ချရအောင် ကြိုတင်၍ရေကြောင်းမှပိတ်ဆို့ထားသည်။

ထိုပြင် အာမီးနီးယားပြည်ဖက်တွင် နစ်ကလပ်မင်းသား ကြီး ကွပ်ကဲသောရုရှားတပ်များသည် အတန်ပင်အရေး သာခဲ့သည်။ တူရကီနိုင်ငံသည် ဆူးအက်တူးမြောင်းကို သိမ်းပိုက်နိုင်ရန် ကြိုးစားခဲ့သော်လည်း ဗြိတိသျှတပ်များက တွန်းလှန်လိုက်သဖြင့် မအောင်မြင်ခဲ့ချေ။

**၁၉၁၇ ခုနှစ်အတွင်းစစ်အခြေအနေ။** ။ထိုနှစ်တွင် အနောက်ဖက်စစ်မျက်နှာ၌ မဟာမိတ်တို့သည် စစ် အောင်နိုင်မည့်မြော်လင့်ချက်ကလေးများပင် ထားရှိလာ နိုင်လေသည်။ ထိုနှစ်အတွင်းအရေးပါသောတိုက်ပွဲများ ပြင် သစ်နိုင်ငံအရှေ့မြောက်ဖက်နှင့် ဗဲလဂျီယမ်နိုင်ငံများတွင် ဖြစ် ပွားခဲ့သည်။ ထိုဒေသများတွင် အင်္ဂလိပ်၊ ပြင်သစ်၊ ဗဲလဂျီ ယမ်နှင့်ကနေဒီယန်တပ်များပူးပေါင်း၍ ဂျာမန်တပ်များ စိတ်ဓါတ်ပျက်ပြားအောင်ပင် တိုက်ခိုက်နိုင်ခဲ့၏။ ထိုပြင် ထိုနှစ် ဇွန်လအတွင်း မကြိုးစဘူး ထူးကဲလှစွာ အပြင်းအထန် တိုက်ခိုက်ခဲ့လေရာ ရက်အနည်းငယ်အတွင်း ဂျာမန်တို့လေး မိုင်ခန့်မျှနောက်သို့ဆုတ်ပေးရလေသည်။ တောင်ဖက်တွင် လည်း ဂျာမန်တို့၏ ကျောက်မီးသွေးထွက်ရာအဖိုးတန်မြို့ ကြီးတမြို့ဖြစ်သော လင်းမြို့ဖက်သို့ ကနေဒီယန်တပ်များက ရှေ့ဆောင်ချီတက်တိုက်ခိုက်ခဲ့သဖြင့် ဂျာမန်တို့တဖြည်းဖြည်း ဆုတ်ပေးရပြန်သည်။ ထိုနှစ်နိုဝင်ဘာလလောက်တွင် မဟာ မိတ်တို့သည် ဂျာမန်တို့သိမ်းပိုက်ထားသည့် ပြင်သစ်မြို့ဖြစ် သော ကမ်းဗရေးကိုရုတ်တရက် ဝင်ရောက်တိုက်ခိုက်လေ သည်။ ထိုအခါ ဗာဗေးရီးယားပြည်၏ ဥပရာဇာမင်းသား ခေါင်းဆောင်သော ဂျာမန်တပ်များမှာ ငါးမိုင်ခန့်ဆုတ်ပေး ခဲ့ရလေသည်။ သို့သော်ဂျာမန်တို့က ပြန်၍ထိုးစစ်ဆင်သော အခါ မဟာမိတ်တို့သိမ်းပိုက်ရရှိသမျှနယ်မြေများပြန်၍ဆုံး ရှုံးရပြန်သည်။

ထိုနှစ်မတ်လ ၁၁ ရက်နေ့တွင်ရုရှားပြည်၌ တော်လှန်ရေး ကြီးပေါ်ပေါက်ခဲ့လေသည်။ နောက်လေးရက်ခန့်အကြာ တွင် ဇာဘုရင်မှာနန်းစွန့်လိုက်ရပြီးနောက် သမတနိုင်ငံ အဖြစ်ကြေညာခဲ့လေရာ စစ်ပြေငြိမ်းရန်ကြံရွယ်နေသောဇာ ဘုရင်ကြောင့် စိတ်ပျက်အားလျော့နေရသောမဟာမိတ်တို့ မှာ ဝမ်းမြောက်ဝမ်းသာဖြစ်ခဲ့ရသည်။ သို့သော်ရုရှားနိုင်ငံ မှာ စစ်ကိုဆက်လက်တိုက်ခိုက်ရန်အခြေအနေမျိုးမရှိတော့ ချေ။ တပ်တွင်းစည်းကမ်းများပျက်ပြားကာ တပ်ပြေးဦး ရေမှာလည်း များသည်ထက်များလာသည့်ပြင် နေရာတိုင်း တွင်အရှုံးကြီးရှုံးနေခဲ့လေသည်။ ထိုအတွင်း လူအချင်းချင်း အရင်းရှင်နယ်ချဲ့စစ်ပွဲတွင် တဦးနှင့်တဦးတိုက်ခိုက်နေရန်

မသင့်ကြောင်းကြွေးကြော်သံပေါ် ပေါက်ခဲ့ပြီးနောက် ထိုနှစ်နိုဝင်ဘာလတွင် ဗော်လရှီဗစ်တို့သည် အုပ်ချုပ်ရေးအာဏာကိုသိမ်းပိုက်ခဲ့လေသည်။ ဗော်လရှီဗစ်အစိုးရသည် ဒီဇင်ဘာလထဲတွင် ဂျာမန်တို့နှင့် စစ်ပြေငြိမ်းရန် ကြိုးပမ်းခဲ့ရာ ၁၉၁၈ ခုမတ်လထဲတွင် ဗရက်စ–လီတော့ဗ်စာချုပ်ကိုချုပ်ဆိုခဲ့လေသည်။ ထိုကြောင့်ဂျာမန်တို့သည် အရှေ့ဖက်စစ်မျက်နှာမှ စစ်သားထောင်ပေါင်းများစွာကို အနောက်ဖက်စစ်မျက်နှာသို့ ရွှေ့ပြောင်းနိုင်ခဲ့ကာ ပြင်သစ်နှင့် အင်္ဂလိပ်တို့အား ယခင်ကထက်ပို၍ဖိတိုက်နိုင်ခဲ့သည်။

ဣတာလျံစစ်မျက်နှာတွင် ဣတလီတို့သည်မူလကြံရွယ်ချက်အတိုင်း ထရီးယက်မြို့ဆီသို့တဖြည်းဖြည်း ချီတက်ခဲ့ရာ မြို့နှင့်ဆယ်မိုင်ခန့်အကွာ နေရာသို့ပင်ရောက်ရှိခဲ့သည်။ သို့သော် မကြာမီ ဂျာမန်စစ်ကူများ ရောက်ရှိလာ၍ ဩစတြီးယန်းတပ်နှင့်ပူးပေါင်းကာ အောက်တိုဘာလကုန်လောက်၌ ကားပိုရက်တိုတွင် ဣတာလျံတပ်များကိုရှုပ်ရှုပ်ချချတိုက်ခိုက်ခဲ့ရာ ဣတာလျံတို့တပ်ပျက်ကာဆုတ်ခွာခဲ့ရသည်။ ပီယားဗေမြစ်သို့ရောက်မှ ဂျာမန်တို့၏ချီတက်မှုကိုတန့်အောင်ပြုနိုင်ပေတော့သည်။ ထိုသို့တန့်အောင်ခံနိုင်ခဲ့သည်မှာလည်း မဟာမိတ်များသည် ဣတာလျံတို့အားကူညီရန် ထိုနှစ်ဒီဇင်ဘာလမတိုင်မီ အနောက်ဖက်စစ်မျက်နှာမှ စစ်ကူတပ်များပို့ပေးသောကြောင့်ဖြစ်လေသည်။

ထိုအတွင်းဂရိနိုင်ငံ၏အခြေအနေမှာ တမျိုးတဖုံဖြစ်လာခဲ့သည်။ ဂရိဘုရင်ကွန်စတန်တင်းသည်ဇွန်လ ၂ ရက်နေ့တွင်နန်းမှဆင်းကာ မဟာမိတ်တို့အားလိုလားသူ ဒုတိယသားတော် အယ်လက်ဇန္ဒာအား နန်းအပ်ခဲ့ရလေသည်။ အယ်လက်ဇန္ဒာသည် ဂရိမျိုးချစ်တပ်များကိုခေါင်းဆောင်ခဲ့သူ ဗဲနီဇေလော့ကိုဝန်ကြီးချုပ်အဖြစ် ခန့်ထား၍ မဟာမိတ်တို့ဖက်မှကူညီတိုက်ခိုက်လေသည်။

၁၉၁၇ ခုနှစ်စလောက် အထိ အမေရိကန်ပြည်ထောင်စုနိုင်ငံသည် စစ်ထဲမပါဝင်သေးဘဲ နှစ်ဦးနှစ်ဖက်စလုံးအားလက်နက်များ ရောင်းချကာကြားနေခဲ့သည်။ ရေတပ်အင်အားတွင်ဗြိတိသျှတို့က သာသဖြင့် ရေကြောင်းဖြင့်သယ်ယူသော အမေရိကန်လက်နက်ပစ္စည်းများမှာ မဟာမိတ်တို့ဖက်သို့သာအရောက်များခဲ့လေရာ ဂျာမန်တို့အဖို့အမေရိကန်ပြည်ထောင်စုနိုင်ငံမှာ မဟာမိတ်တို့၏ လက်နက်သိုလှောင်ရာဌာနကြီးဖြစ်နေပေသည်။ သို့ဖြစ်၍ဂျာမန်တို့သည် မဟာမိတ်တို့ထံပို့သော အမေရိကန်လက်နက်တင်သင်္ဘောများကို ရေငုပ်သင်္ဘောများဖြင့် တိုက်ခိုက်ဖျက်ဆီးခဲ့ရာ၊ အမေရိကန်သင်္ဘောများနှင့် လူအမြောက်အမြားပင် ဂျာမန်ရေငုပ်သင်္ဘောများ၏လက်ချက်ကြောင့် နစ်မြုပ်သေကြေပျက်စီးကြလေသည်။ ထိုပြင်မက္ကဆီကိုနိုင်ငံအား ယင်းဆုံးရှုံးခဲ့ရသောနယ်ပယ်တို့ကို ပြန်လည်သိမ်းပိုက်နိုင်ရေးအတွက် ဂျာမနီကငွေကြေးထောက်ပံ့ရန် ကြံစည်နေသောကြောင့် အမေရိကန်ပြည်ထောင်စုနိုင်ငံသည် ၁၉၁၇ ခုဧပြီလ ၆ ရက်နေ့တွင်ဂျာမနီနိုင်ငံကိုစစ်ကြေညာခဲ့၏။ သို့သော် အမေရိကန်မှာ စစ်တိုက်ရန် အစီအစဉ်ကျနစွာမရှိသေးသဖြင့် ၁၉၁၇ ခုဇွန်လ ၁၇ ရက်နေ့တွင်မှ အမေရိကန်တပ်စုတစုကိုပြင်သစ်နိုင်ငံသို့ ပဌမဆုံးအကြိမ်ပို့နိုင်ခဲ့လေသည်။

ထိုနှစ်အတွင်း ပုပ်ရဟန်းမင်းကြီး ၁၅ ဆက်မြောက်ဗဲနီးဒစ်သည် စစ်ပြေငြိမ်းကြရန်ကြိုးစားဖြန်ဖြေခဲ့သေး၏။ သို့သော်မဟာမိတ်တို့ဖက်မှ စစ်ပြေငြိမ်းရန်မလိုလားသဖြင့် ကြိုးပမ်းချက်မှာမအောင်မြင်ခဲ့ချေ။

**၁၉၁၈ ခုနှစ်စစ်အခြေအနေ။** ။ထိုနှစ်ကား ဂျာမန်တို့က မဟာမိတ်တို့ကိုအပြုတ်တိုက်ရန် အကြီးအကျယ်စစ်ဆင်ခဲ့သောနှစ်ဖြစ်ပေသည်။ စစ်သူကြီးဟင်ဒင်ဗတ်က ဂျာမန်တပ်များသည်ဧပြီလတရက်နေ့တွင် ပါရစ်မြို့ကိုသိမ်းပိုက်နိုင်ရမည်ဟုပင် ကြေညာခဲ့လေသည်။ ဂျာမန်တို့၏ထိုးစစ်ကြောင်းမှာအီးပရား၏တောင်ဖက်မှစတင်၍ ငါးဆယ့်တမိုင်မျှရှည်လျားလေသည်။ ထိုမျှလောက်ကြီးမားလှသောအင်အားနှင့်ဖိတိုက်သဖြင့် ထိုမျှလောက်လူအသေအကြေများလှသောစစ်ပွဲမျိုး ယခင်ကမရှိခဲ့ဟုဆိုကြသည်။

ဂျာမန်တို့၏ အင်အားကြီးမားလှသဖြင့် ဆယ်ရက်ခန့်အတွင်း နှစ်ဆယ့်ခုနစ်မိုင်ခန့်မျှ မဟာမိတ်တို့၏စစ်ကြောင်းအတွင်းသို့ကျွံဝင်ခဲ့၏။ ထိုအခါမဟာမိတ်တပ်များအားလုံး



ပဌမကမ္ဘာစစ်အတွင်း ဂျာမန်ဗုံးဒဏ်ခံလိုက်ရသောလန်ဒန်မြို့ရှုခင်း



ပြင်သစ်နိုင်ငံရိမ်းမြို့အနီးရှိလာပွန်ပယ်ခံတပ်ကိုပြင်းထန်စွာတိုက်ခိုက်ခြင်းခံရပြီးနောက်

ကိုကွပ်ကဲရန် ပြင်သစ်ဗိုလ်ချုပ်မှူးဖေါ့အား အနောက်ဖက်စစ်မျက်နှာစစ်သေနာပတိအဖြစ်ခန့်အပ်ကာ အစွမ်းကုန် ခုခံတွန်းလှန်စေလေသည်။ သို့သော်ရန်သူ့အင်အားကြီးမားလှ၍ တပ်ပေါင်းစုံမှဆုတ်၍ဆုတ်၍သာပေးရလေသည်။ ဂျာမန်တို့ကလည်း ပါရစ်မြို့တော်သို့ချီတက်ရန် လမ်းပွင့်ဖို့ကြိုးစားကာဖိတိုက်ကြလေသည်။ ယင်းသို့ဖြင့် ဂျာမန်တို့မှာ ပါရစ်မြို့အနီးကပ်လာလေရာ မြို့တော်ကြီးကျဆုံးရန်နာရီပိုင်းမျှလောက်သာလိုတော့သည်။ ထိုအတောအတွင်း အမေရိကန်ရေတပ်မှ တပ်သားရှစ်ထောင်ပါသောတပ်တတပ်သည် ခြောက်ထောင်မျှအကျခံကာ ဂျာမန်တို့ပါရစ်သို့ချီတက်ရာလမ်းကြောင်းကို တားဆီးနိုင်ရန်ကြိုးစားခဲ့ကြရာ အတန်ပင်အောင်မြင်ခဲ့လေသည်။ ထို့ပြင် ရှားတိုးသီယဲရီးတွင် စစ်ပန်းနေပြီဖြစ်သောပြင်သစ်တပ်ကို လူစားထိုးရန် ရောက်ရှိလာခဲ့သည့် အမေရိကန်တပ်သည် ဂျာမန်တို့ရှပ်ရှပ်ချုံချုံတိုက်ခိုက်နေသည့်အကြားမှ ထိုးစစ်ဆင်ကာ ထိုအရပ်မှဂျာမန်များကို ရှင်းလင်းပစ်နိုင်ခဲ့လေသည်။ ထိုကြောင့်ဂျာမန်တို့လည်း ထိုးစစ်မှ ခံစစ်အဖြစ်သို့ပြောင်းလဲသွားရပြီးလျှင် ပါရစ်မြို့တော်ကြီးမှာလည်း ရန်သူလက်ထဲကျရောက်မည့်ဘေးမှကင်းလွတ်ခဲ့လေသည်။

အမေရိကန် စစ်ကူတပ်များ အဆက်မပြတ် တင်ပို့အားဖြည့်ပေးနိုင်ခြင်းကြောင့်၊ ဗိုလ်ချုပ်မှူးဖေါ့မှာ ရန်သူတပ်များကိုအင်အားတောင့်တင်းစွာနှင့်တိုက်နိုင်လေသည်။ စစ်ပန်း လာပြီ ဖြစ် သောဂျာမန် တပ်များ မှာ အားပြည့်လန်းဆန်းနေသော အမေရိကန်တို့နှင့်ယှဉ်ရသည့်အခါတိုင်းလိုလိုပင် နောက်ဆုတ်ပေးခဲ့ရလေသည်။ မြောက်ဖက်တွင်လည်း မဟာမိတ်တပ်များသည် မြောက်ပင်လယ် အနီးမှ ဖိတိုက် ခဲ့လေရာ ဗဲလဂျီယမ်နိုင်ငံမှမြို့များကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့၍ ဂျာမန်တပ်များ ကိုလည်း အတန်ပင်ရှင်းလင်း တိုက်ထုတ်ပစ်နိုင်ခဲ့ကြသည်။ ၁၉၁၈ ခု အောက်တိုဘာလ ၁၉ ရက်နေ့တွင် ဂျာမန်တို့၏ရေငုပ်သင်္ဘောစခန်းဖြစ်သော ဇေးဗရွတ် ဂီမြို့မှ ဂျာမန်များ ကို တိုက် ထုတ် ပစ်ကာ ထိုမြို့ကိုပြန်လည်သိမ်းပိုက်နိုင်ခဲ့၏။ ထိုအတောအတွင်း အနောက်ဖက်စစ်ကြောင်းတလျှောက်တွင်လည်း ဂျာမန်တို့ကိုတောင်ဖက်သို့ရင်း၊ အရှေ့ဖက်သို့ရင်း၊ ရောက်အောင် တဖြည်းဖြည်းဖိ၍ တိုက် ထုတ်နိုင်ခဲ့လေသည်။ တောင်ဖက်မှဖိ၍တိုက်လာသည့် အမေရိကန်တပ်များ၏ဒဏ်ကို မခံနိုင်သောဂျာမန်တပ်များသည် ဇူလိုင်လမှစ၍ တံဆုတ်တည်းဆုတ်ခဲ့ရလေရာ နောက်ဆုံး ပြင်သစ်မြေပေါ်၌ မိုးဗန်းခံတပ်တခုသာလျှင်ခြေကုပ် အဖြစ် ကျန် လေတော့ သည်။ ထို အတောအတွင်းဂျာမန်၏ ဘက်တော်သားများမှာ လည်း ရှုံး၍သာ နေကြလေ

သည်။ ၁၉၁၈ ခုစက်တင်ဘာလ ၁၅ ရက်နေ့တွင် ဆယ်လိုနီးကား၌သောင်တင်နေသောမဟာမိတ်တပ်များသည် ထိုးစစ်ဆင်ကာရှေ့သို့ချီတက်ခဲ့၏။ ရက်သတ္တ ၂ ပတ်အတွင်းဆားဗီးယားနိုင်ငံ တောင်ပိုင်းတခုလုံးလိုလိုပင် ပြန် လည် သိမ်း ယူခဲ့ကြသည်။ သို့ဖြစ်၍နိုင်ငံတွင်း ချီတက်တိုက်ခိုက်ခြင်းခံရမည်ကိုစိုးရိမ်သည်နှင့် ဗူလဂေးရီးယားသည် စက်တင်ဘာလ ၂၉ ရက်နေ့တွင် လက်နက်ချလိုက် လေ သည်။ ထိုနောက်မြောက်ဖက်သို့ဆက်လက်ချီတက်ခဲ့ရာ ဆက်လက်၍အောင်ပွဲရခဲ့သည်။ ဩစတြီးယန်းတပ်များလည်း အယ်လဗေးနီးယားနှင့်မွန်တီနီးဂရိုးပြည်များမှဆုတ်ပေးရလေသည်။ တလခွဲခန့် အတွင်း ဆား ဗီး ယား မှ ဩစတြီး ယန်း တပ် များ ကို မောင်းထုတ်နိုင်ခဲ့ပြီးနောက် ဗဲလဂရိတ်မြို့ကိုလည်း ပြန်လည်သိမ်းပိုက်နိုင်ခဲ့၏။

ထို ထိုးစစ် နှင့် တပြိုင်တည်း လိုလို ပင် ပါလက် စတိုင်း ချီအယ်လင်ဗီ၏တပ်သည် အေမာဖေးဆယ်ခေါင်းဆောင်သောအာရပ်တပ်စုနှင့် ကာနယ်တီအီလောရင့်တို့၏အကူအညီဖြင့် ထိုးစစ်ဆင်ခဲ့ရာ တူရကီတို့သည်မခံနိုင်၍ ဒမက်စကပ်၊ ဗေ၊ ဗေးရွတ် နှင့် အလက် ပိုစသော မြို့ များ ကို သိမ်း ပိုက် ရ ရှိ ခဲ့သည်။ ၁၉၁၈ ခုအောက်တိုဘာလ ၃၁ ရက်နေ့တွင်တူရကီတို့လက်နက်ချလေသည်။

ထိုနှစ်အောက်တိုဘာလထဲတွင် ပီယားဗေးမြစ်ကိုဖြတ်၍ချီတက် ခဲ့ သော ဣတလီ တပ် တို့ သည် ဩစတြီး ယန်း တပ်များကို နှစ်စုကွဲအောင်တိုက်ခဲ့လေရာ တပ်ပျက်ပြီးနောက် ၁၀ ရက်ခန့်အတွင်း တပ်သားသုံးသိန်းကျော်မျှလက်နက်ချခဲ့လေသည်။ သို့ဖြစ်၍ဩစတြီးယန်းတပ်များ၏ဗိုလ်ချုပ်က စစ်ရပ်စဲရန်တောင်းပန်ခဲ့၏။

ထိုသို့တပ်ပျက်ခဲ့သည်နှင့် ဩစတြီးယားအစိုးရအဖွဲ့လည်းပျက်ခဲ့လေသည်။ ဩစတြီးယားနိုင်ငံတော်အတွင်းရှိ ဗိုဟီးမီး ယား ပြည် နယ် နှင့် အခြား ပြည် နယ် အသီး သီး တို့ သည်တော်လှန် ပုန်ကန်ကာလွတ်လပ်ရေးကိုကျေညာခဲ့ကြသည်။ သို့ဖြစ်၍ဂျာမနီတဦးတည်းသာ ကျန်နေလေတော့သည်။

၁၉၁၈ ခုနိုဝင်ဘာလ ၃ ရက်နေ့တွင် ကီးရေတပ်စခန်းရှိဂျာမန် ရေတပ် သည် ပုန်ကန်ရာ မကြာမီ ဗရီးမင်းနှင့် ဟမ်းဗတ်ရှိရေတပ်များသို့ ကူးစက်သွားလေသည်။ စစ်တပ်အခြေအနေမှာလည်း မြှော်လင့်စရာမရှိအောင်ဆိုးရွားနေသည်ကိုသိရှိသောဂျာမန်အစိုးရသည် အောက်တိုဘာလထဲကပင်စစ်ပြေငြိမ်းရန် ဂျာမန်ဝန်ကြီးချုပ် မင်းသားကြီးမက္ကဆီမီလျံက စကား ကမ်း လှမ်း ခဲ့ လေ သည်။ ထိုပြင်သူ့ အစိုးရ အဖွဲ့တွင်ဆိုရှယ် လစ် များကို လည်း ပါဝင် စေခဲ့ရာ ရက် များ မကြာမီအစိုးရအဖွဲ့ကိုသူတို့ကြိုးကိုင်ပြီးလျှင် အမေရိကန်သမတ ဝီလဆန်ထံ စစ်ပြေငြိမ်းရေးအတွက် စကားကမ်းလှမ်း ခဲ့ လေသည်။ သို့သော်ဝီလဆန်က မဟာမိတ်တပ်ပေါင်းစုံစစ်သေနာပတိ မာရှယ်ဖော့နှင့်ဆွေးနွေးရန်ညွှန်ကြားခဲ့၏။ ထိုအတောအတွင်းကိုင်ဇာဘုရင်သည် ဘာလင် မြို့ မှထွက် ခွာပြီးနောက် သူ၏စစ်တပ်များရှိရာတွင် သွားရောက်နေထိုင်ခဲ့လေသည်။ သို့သော်ဝန်ကြီးချုပ်က ကိုင်ဇာအားနန်းစွန့်ရန်တောင်းဆိုခဲ့ရာ ဟင်ဒင်ဗတ် က လည်း သဘောတူခဲ့ သဖြင့်နိုဝင်ဘာလ ၁၀ ရက်နေ့တွင်နန်းစွန့်ပြီးလျှင် ဟော်လန်နိုင်ငံသို့ထွက်ပြေးရလေသည်။

ဂျာမန်တို့လည်း သမတဝီလဆန်ညွှန်ကြားသည့်အတိုင်းမာရှယ်ဖော့ထံတွင် စစ်ပြေငြိမ်းရေးအတွက်စကားကမ်းလှမ်းခဲ့ရာ၊ မဟာမိတ်တို့အချင်းချင်းဆွေးနွေးပြီးနောက် စစ်ရပ်စဲရေး စည်းကမ်းချက်များကို ရေးဆွဲခဲ့ ၏။ ထိုစည်းကမ်းချက်များကို မာရှယ်ဖော့က ကွန်းပျင်းသစ်တောအတွင်း ရပ်တန့်ထားသောမီးရထားတွဲပေါ် တွင် နိုဝင်ဘာလ ၁၁ ရက်မိုးသောက်ယံအချိန်၌ ဂျာမန်အစိုးရကိုယ်စားလှယ်များအားပေးအပ် လေ သည်။ ယင်း တို့ကို ဂျာမန် တို့က လက်ခံလိုက်သဖြင့် ၆ နာရီအကြာနံနက် ၁၁ နာရီတွင် အပစ်အခတ်ရပ်စဲသွားလေသည်။

ထို နေ့ ထိုအချိန် ကို နောင် လာ နောက် သားများ သည် တော်တော်နှင့်ပင် မေ့နိုင်တော့မည်မဟုတ်ချေ။

**အာရှတိုက် တွင်။** ။ကမ္ဘာ့ စစ် ကြီး ဟု ခေါ် တွင် သည့်အတိုင်း တိုက်ပွဲများမှာဥရောပတိုက်တွင်သာဖြစ်ပွားသည်မဟုတ်၊ အာရှတိုက်ဖက်တွင်လည်း ဖြစ်ပွားကြသေးသည်။ ၁၉၁၅ ခုနှစ်ကုန်ခါနီးလောက်တွင် အင်္ဂလိပ်နှင့်အိန္ဒိယတပ်တတပ်သည် ဗဂ္ဂဒက်မြို့ကိုသိမ်းပိုက်ရန်ရောက်လာခဲ့၏။ နိုဝင်ဘာလတွင်ဗြိတိသျှတပ်များ သည် ဗဂ္ဂဒက် မြို့တောင် ဖက်ရှိတူရကီ တို့ ကို တိုက် ခိုက် ရာ အတန်ငယ်မျှအရေးသာသော်လည်း ဒီဇင်ဘာလတွင်အရေးနိမ့်ကာ ကွတ်အယ်အဲမာရားမြို့တွင် အဝိုင်းခံရလေသည်။ ၁၉၁၆ ခုဧပြီလတွင်ရိက္ခာပြတ်လပ်၍ငတ်မွတ်ခေါင်းပါးခြင်းဘေးနှင့်ကြုံရလေသဖြင့်၊ ဗြိတိသျှတပ်များ လက်နက် ချကြရလေရာ ဗြိတိသျှတို့၏ဂုဏ်သရေကိုအတန်ပင်ထိခိုက်သွားလေသည်။ သို့ရာတွင်ထိုတပ်ကိုကယ်တင်ရန်ရောက်လာသောစစ်ကူတပ်သည် ၁၉၁၇ ခုမတ်လတွင်ဗဂ္ဂဒက် မြို့ကို သိမ်းပိုက်ခဲ့ပြီးလျှင် မြောက်ဖက် သို့ပင်တိုးတက်ချီတက်သွားနိုင်ခဲ့လေသည်။

၁၉၁၇ ခုဒီဇင်ဘာလ ၁ ရက်နေ့တွင် ဗိုလ်ချုပ်မှူးအယ်လင်ဗီခေါင်းဆောင်သောတပ်များသည် ဂျရုဆလမ်မြို့သို့ချီတက်ခဲ့၍ ၉ ရက်နေ့တွင်ထိုမြို့ကိုသိမ်းပိုက်ခဲ့၏။ ထိုအောင်မြင်မှုမှာ ၁၉၁၇ ခုနှစ်အတွင်း မဟာမိတ်တို့၏အရေးပါသောအောင်မြင်မှုများထဲတွင် အပါအဝင်ဖြစ်ပေသည်။

**ရေကြောင်းတိုက်ပွဲများ။** ။စစ် ပွဲ များ တွင် ဗြိတိသျှတို့အားထားရာကား ရေတပ်မတော်ဖြစ်ပေသည်။ အားထားသလောက်လည်း ဗြိတိသျှရေတပ်မှာ အခြားရေတပ်များကို

ကြီးစိုး လွှမ်း မိုး နိုင် သောအင်အား နှင့် ပြည့် စုံခဲ့လေသည်။ ကမ္ဘာစစ်ကြီးမဖြစ်မီကလေးတွင် အင်္ဂလိပ်ရေတပ်ကို ထပ်မံအင်အားဖြည့်တင်းထားခဲ့၏။ ထိုကြောင့်စစ်ဖြစ်သည်နှင့် တပြိုင်နက် ရေတပ်မတော်သည် တိုက်ပွဲဝင် ရန် အဆင်သင့်ဖြစ် နေ ခဲ့ သည်။ ဗြိတိသျှတို့၏ အင်အားကောင်း သောရေတပ်ကြောင့် ဂျာမန်တို့နိုင်ငံခြားနှင့် ကုန် မသွယ်နိုင် အောင်ပိတ်ပင်နိုင်ခဲ့သည့်ပြင်၊ ဂျာမန်ရေတပ်ကြီးကို ရေတပ်စခန်းများမှမထွက်နိုင်အောင် ပိတ်ဆို့ထားနိုင်ခဲ့သည်။ စစ်ဖြစ်စက ဂျာမန်ရေတပ်ကြီးသည် ကီးတူးမြောင်းအတွင်းစခန်းများ၌ လုံခြုံစွာရှိနေခဲ့၏။ သို့သော်ပင်လယ်ပြင်တွင်ရှိနေသော ဂျာမန်တော်ပီဒိုသင်္ဘောအချို့နှင့် ကရူဇာစစ်သင်္ဘောအချို့သည် မြောက်ပင်လယ်အတွင်း ကူးသန်းသွားလာရေးတွင် အနှောင့်အယှက်ပေးခဲ့လေသည်။ သို့သော်တဖြည်းဖြည်းထိုသင်္ဘောများကို ဖမ်းဆီးခြင်း၊ နှစ်မြုပ်ခြင်းပြုလာနိုင်ခဲ့သောအခါ မဟာမိတ်နှင့် ကြားနေနိုင်ငံသင်္ဘောများမှာ ဂျာမန်ရေငုပ်သင်္ဘောများ၏ရန်ကိုသာ ကြောက်ရွံ့ကြရလေတော့သည်။ (တော်ပီဒိုသင်္ဘော၊ ရေငုပ်သင်္ဘော–လည်းရှု။)

ဗြိတိသျှကရူဇာစစ်သင်္ဘောသုံးစင်းမှာ မြောက်ပင်လယ်တွင် ဂျာမန်ရေငုပ်သင်္ဘောများကတိုက်ခိုက်သဖြင့် နစ်မြုပ်သွားရလေသည်။ ၁၉၁၄ ခုနိုဝင်ဘာလ ၁ ရက်နေ့တွင် ချီလီကမ်းခြေ ကိုရိုနဲအငူအနီး၌ ဂျာမန်ကရူဇာစစ်သင်္ဘောငါးစင်းပါဝင်သောရေတပ်စုသည် ဗြိတိသျှရေတပ်စုကိုတိုက်ခိုက်နှိမ်နင်းလိုက်လေသည်။ သို့သော်ယင်း ဂျာမန် ရေတပ်စုမှာ ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဖော့ကလန်ကျွန်းစုအနီး၌ အခြားဗြိတိသျှစစ်သင်္ဘောတပ်စု၏ တိုက် ခိုက်ခြင်းခံရသဖြင့် ဒရက်ဇဒန်အမည်ရှိစစ်သင်္ဘောမှတပါး အခြားသင်္ဘောများနှစ်မြုပ်ခြင်းခံရ၏။ ဒရက်ဇဒန်မှာမူ လွတ်မြောက်သွားခဲ့လေသည်။

အင်မဒင်အမည်ရှိ ဂျာမန်ကရူဇာစစ်သင်္ဘောတစင်းသည်လည်း သမုဒ္ဒရာပင်လယ်ပြင်တလျှောက် လှည့်လည်သွားလာကာ ဒေါ်လာတကုဋေခန့်တန်ဖိုးရှိသော သင်္ဘောများကို နှစ်မြုပ်ဖျက်ဆီးခဲ့၏။ သို့သော်နောက်ဆုံးတွင် အိန္ဒိယသမုဒ္ဒရာရှိ ကိုကိုကျွန်းတွင် ဩစတြေးလီးယားစစ်သင်္ဘောတစင်း၏ တိုက်ခိုက်ဖျက်ဆီးခြင်းကိုခံရလေသည်။

၁၉၁၅ ခုနှစ်နှင့် ၁၉၁၆ ခုနှစ်များတွင်လည်း ဒရက်ဇဒန်၊ ဖရီးဒရစ်၊ ကွန်းနစ္စဗတ်စသောဂျာမန်သင်္ဘောများသည် ပင်လယ်ပြင်အရပ်ရပ်တွင် မဟာမိတ်တို့၏သင်္ဘောများကို နှစ်မြုပ်ဖျက်ဆီး၍ ကူးသန်းသွားလာရေးကို အနှောင့်အယှက်ပေးခဲ့လေသည်။



ဒဏ်ရာရစစ်သည်တို့အားအမြန်ပြုစုရန် တောင်စောင်းကိုအကာအကွယ်ယူကာရှေ့တန်းသူနာပြုစခမ်းဖွင့်နေစဉ်

ပဌမကမ္ဘာစစ်ကြီးအတွင်းက အကြီးအကျယ်ဆုံးသော ရေကြောင်းတိုက်ပွဲကြီးမှာ ၁၉၁၆ ခုမေလ ၃၁ ရက်နေ့တွင် ဖြစ်ပွားသော ဂျတ်တလန်တိုက်ပွဲဖြစ်ပေသည်။ ထိုတိုက်ပွဲတွင် ဂျာမန်ရေတပ် ရေကြောင်းဗိုလ်ချုပ်ရှေးက ကွပ်ကဲအုပ်ချုပ်၍ အင်္ဂလိပ်ရေတပ်တိုက်သင်္ဘောများကို ရေကြောင်းဗိုလ်ချုပ်ဗီးတီးက ဦးစီးအုပ်ချုပ်ခဲ့လေသည်။ နှစ်ဖက်စလုံးမှသင်္ဘောများသည် ဒိန်းမတ်နိုင်ငံကမ်းခြေတွင် တနေ့လုံးတိုက်ခိုက်ကြရာ၊ ညနေဖက်တွင် ရေကြောင်းဗိုလ်ချုပ်မှူးဂျယ်လီကို ဦးစီးသည့် အင်္ဂလိပ်ရေတပ်စုတစုသည် အကူရောက်လာသဖြင့်၊ ဂျာမန်ရေတပ်သည် ယင်း၏စခန်းများသို့ နောက်ပြန်ဆုတ်သွားရလေသည်။ ထိုတိုက်ပွဲတွင် ဂျာမန်တို့က အနိုင်ရသည်ဟုကြေညာခဲ့သည်။ အင်္ဂလိပ်တို့ဖက်မှအပျက်အစီးအဆုံးအရှုံးမှာ ဂျာမန်တို့နှင့်စာသော် အလွန်ပင်များပြားလှရကား တနည်းအားဖြင့်ထိုကြေညာချက်မှာ မှန်သည်ဟုဆိုနိုင်ပေသည်။ သို့သော်ထိုနောက်တွင် ကိုင်ဇာဘုရင်သည် ငွေကိုရေလိုသုံးကာတည်ဆောက်ခဲ့သည့်ပြင် သူဂုဏ်ယူခဲ့သောဂျာမန်ရေတပ်ကြီးမှာ ကီးတူးမြောင်းစခန်းများတွင် ပိတ်မိနေတော့သည်။ ထိုပြင်ဂျာမန်တို့ထက်အဆုံးအရှုံးများသော်လည်း အင်္ဂလိပ်ရေတပ်သည် ပင်လယ်ပြင်တွင်ကြီးစိုးမြဲကြီးစိုးနေခဲ့လေသည်။ ဂျာမန်တို့သည်ရေတပ်ကြီးကိုအသုံးမပြုနိုင်သောကြောင့် ရေကြောင်းတွင်ကြီးစိုးနိုင်ရန် ရေငုပ်သင်္ဘောများကို တွင်တွင်ကျယ်ကျယ်အသုံးပြုခဲ့ကာ အင်္ဂလိပ်ရေတပ်ကိုကြီးစွာအနှောင့်အယှက်ပေးနိုင်ခဲ့သည်။ စစ်ကြီးဖြစ်စ ပဌမသုံးနှစ်အတွင်း ဂျာမန်ရေငုပ်သင်္ဘောများ၏ရန်ကို ထိရောက်စွာကာကွယ်ရန်မကြံစည်နိုင်ခဲ့သဖြင့် ဂျာမန်တို့ရေငုပ်သင်္ဘောဖြင့်တိုက်ခိုက်ခြင်းသည် စစ်အရှုံးအနိုင်ကိုဆုံးဖြတ်တော့မည်လောဟုတွေးတောကြလေသည်။

ထိုပြင်ဂျာမန်တို့၏အကြံမှာ မဟာမိတ်တို့၏ကူးသန်းရောင်းဝယ်ရေးကိုဖျက်ဆီးခြင်းဖြင့် ငတ်မွတ်ခေါင်းပါးခြင်းဘေးဆိုက်အောင်ပြုလုပ်ရန်လည်းဖြစ်လေသည်။ ထိုကြောင့်ပြင်သစ်နှင့်အင်္ဂလန်ပြည်ကမ်းရိုးတန်းများကို ရေကြောင်းမှပိတ်ဆို့ထားကြောင်းကြေညာပြီးလျှင် သင်္ဘောများကိုကြားနေနိုင်ငံပိုင်များဖြစ်စေကာမူ၊ သတ်မှတ်ထားသောစစ်နယ်နိမိတ်အတွင်း၌တွေ့ရှိလျှင် နှစ်မြှုပ်ပစ်မည်ဟုသတိပေးခဲ့၏။ သုံးလအတွင်း ကြားနေနိုင်ငံမှသင်္ဘောအမျိုးအစားများများအပါအဝင် သင်္ဘောတရာခန့်နှစ်မြှုပ်ခြင်းခံရလေသည်။ ၁၉၁၆ ခုနှစ်အကုန်လောက်တွင်ကား ဗြိတိသျှတို့၏ကုန်သင်္ဘောအပျက်အစီးမှာ အတန်ပင်များလျက်ရှိလေပြီ။ သို့သော်မဟာမိတ်နိုင်ငံများသို့ ကုန်များ၊ စားနပ်ရိက္ခာများ၊ လက်နက်များ ဆက်လက်ရောက်ရှိနေခဲ့၏။ သို့ဖြစ်၍ ၁၉၁၇ ခုနှစ်တွင်ဂျာမန်ရေငုပ်သင်္ဘောများသည် မဟာမိတ်နိုင်ငံများသို့အသွားသင်္ဘောများကိုသာမက မဟာမိတ်နိုင်ငံများမှအပြန်သင်္ဘောများကိုလည်း နှစ်မြှုပ်ပစ်ကြလေသည်။ သို့သော်ဂျာမန်တို့၏ရည်မှန်းချက်အတိုင်း မအောင်မြင်ခဲ့ချေ။ ထိုသို့ဖြစ်ရသည်မှာ ရေငုပ်သင်္ဘောများ၏အန္တရာယ်ကို ထိထိရောက်ရောက်မဟုတ်သော်လည်း အတော်အတန်ကာကွယ်နိုင်သော အစီအမံများကို တဖြည်းဖြည်းပြုလုပ်လာနိုင်သောကြောင့်၎င်း၊ ဂရိတ်ဗြိတိန်နှင့်အမေရိကန်ပြည်ထောင်စုနိုင်ငံတို့သည် သင်္ဘောများကို လျင်မြန်စွာတည်ဆောက်နိုင်လာသောကြောင့်၎င်း၊ ဖြစ်ပေသည်။ အထူးသဖြင့်အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် သင်္ဘောများကို ဂျာမန်များဖျက်ဆီး၍မနိုင်လောက်အောင်ပင်လျင်မြန်စွာတိုးတက်ဆောက်လုပ်နိုင်ခဲ့လေသည်။

**လေတပ်စတင်အသုံးပြုခြင်း။** ။ပဌမကမ္ဘာစစ်ကြီးမှစ၍ လေယာဉ်ပျံများကို စစ်ဆင်မှုအတွက်အသုံးပြုလာခဲ့လေသည်။ ပဌမတွင်လေယာဉ်ပျံများကို ရန်သူအခြေအနေကို အကဲခတ်ဓါတ်ပုံရိုက်ယူရန် ကင်းထောက်ရန်သာ အသုံးပြုခဲ့သည်။ ထိုစဉ်က လေယာဉ်ပျံများမှာလည်း သေးငယ်သည့်ပြင်တနာရီမိုင်ကိုးဆယ်မျှလောက်သာ ပျံသန်းနိုင်သေးသည်။ (လေယာဉ်ပျံများ — လည်းရှု။)

စစ်ဖြစ်စက အင်္ဂလိပ်တို့တွင် လေယာဉ်ပျံအနည်းငယ်မျှသာရှိ၍ ပြင်သစ်တွင်မူ အများဆုံးရှိလေသည်။ ဂျာမနီ၊ ပြင်သစ်၊ အင်္ဂလိပ်တို့တွင်ရှိသော လေယာဉ်ပျံအရေအတွက်စုစုပေါင်းမှာ ၅၀၀ ခန့်မျှသာဖြစ်ရာ၊ ပြင်သစ်တို့တွင် ၂၅၀ ခန့်ရှိခဲ့၏။ စစ်ဖြစ်ပြီးနောက်တွင် ထိုနိုင်ငံများသည်လေယာဉ်ပျံများကို တိုးတက်ဆောက်လုပ်လာကြ၍ လေယာဉ်ပျံ၏အသွားနှုန်းတိုးတက်အောင်နှင့် အလေးချိန်ပိုမိုသယ်ယူနိုင်အောင် ပြုပြင်လုပ်ကိုင်ခဲ့ကြသည်။ ထိုကြောင့်နောင်တနှစ်ခန့်အကြာတွင် တနာရီလျှင် ၁၇၅ မိုင်နှုန်းခန့် ပျံသန်းနိုင်သော လေယာဉ်ပျံများတည်ဆောက်နိုင်လာကြ၍ စက်သေနတ်နှင့် ဗုံးအလေးချိန်တတန်ခန့်ကို သယ်ယူနိုင်ခဲ့၏။ ထိုကြောင့်လေယာဉ်ပျံများကို ဗုံးကြဲတိုက်ခိုက်ရန်နှင့် စက်သေနတ်ဖြင့်ပစ်ခတ်တိုက်ခိုက်ရန်အတွက် အသုံးပြုလာသဖြင့် လွန်စွာအရေးပါလာလေသည်။ သို့ဖြစ်ရာလေတပ်သားတယောက်နှင့် ကြည်းတပ်သားတထောင် ညီမျှသည်ဟုပင်ဆိုလာကြလေသည်။

မကြာမီလေကြောင်းတိုက်ပွဲများ မကြာခဏဖြစ်ပွားလာခဲ့၍ တဖက်နှင့်တဖက် လေကြောင်း၌ကြီးစိုးနိုင်ရန်ကြိုးစားခဲ့ကြလေသည်။ ၁၉၁၇ ခုနှစ်မကုန်မီ မဟာမိတ်တို့သည် အနောက်ဖက်စစ်မျက်နှာ၌ လေကြောင်းတွင်အရေးသာနေခဲ့၏။ ယင်းသို့လေကြောင်းတွင် သူနိုင်ငါနိုင်ကြိုးစားကြသော်လည်း၊ စင်စစ်မှာအရှုံးအနိုင်တိုက်ခိုက်ရာ၌ လေကြောင်းတိုက်ပွဲများမှာ ပဌမကမ္ဘာစစ်ကြီးအတွင်းက အရာ



ဆုမ်းမြစ်စစ်မျက်နှာတွင် ဗြိတိသျှစစ်ကူတပ်များတိုက်ခိုက်ရန် ရှေ့သို့အပြင်းချီတက်နေကြစဉ်

မရောက်လှသေးချေ။

ဂျာမနီသည် အင်္ဂလန်ကို လေကြောင်းမှတိုက်ခိုက်ရာ၌ ဇက်ပလင်ခေါ် ဗုံးသီးပုံသဏ္ဍာန်လေသင်္ဘောများဖြင့် တိုက်ခိုက်ခဲ့လေသည်။ ထိုဇက်ပလင်လေသင်္ဘောများသည် ခရီးရှည်သွားနိုင်သောလေယာဉ်မျိုးဖြစ်သဖြင့် အင်္ဂလန်နှင့်ပြင်သစ်နိုင်ငံများသို့ သွားရောက်ဗုံးကြဲတိုက်ခိုက်ရန်အတွက် အလွန်အသုံးဝင်လေသည်။ ၁၉၁၅ ခုနှစ်မှ ၁၉၁၈ ခုမေလတိုင်အောင် အင်္ဂလန်နှင့်ပြင်သစ်နိုင်ငံတို့မှာ ဂျာမန်ဇက်ပလင်များ၏ ဗုံးကြဲတိုက်ခိုက်ခြင်းကို မကြာခဏခံခဲ့ကြရသည်။ အင်္ဂလိပ်နှင့်ပြင်သစ်တို့ကလည်း လေယာဉ်ပျံတပ်စုများကိုအသုံးပြု၍၎င်း၊ အားကောင်းလှသောမီးမောင်းများထိုးကာ လေယာဉ်ပျံပစ်အမြောက်များဖြင့်၎င်း၊ တွန်းလှန်ခုခံကြသည်။ ဂျာမန်တို့လေကြောင်းမှတိုက်ခိုက်ခြင်းကြောင့် အင်္ဂလိပ်နှင့်ပြင်သစ်တို့ဆုံးရှုံးနစ်နာမှုများ၏ အရပ်ရပ်တန်ဖိုးမှာ ဒေါ်လာ ၁၀ သန်းခန့်ဖြစ်သည်။ သို့သော် ပြင်သစ်နိုင်ငံတွင် တနေ့တည်း၌ဇက်ပလင်ကြီးငါးစင်း ပျက်ကျ၍ တစင်းအဖမ်းခံရပြီးနောက်တွင် ဂျာမန်တို့၏လေကြောင်းတိုက်ခိုက်ခြင်းများ ရပ်စဲသွားလေတော့သည်။

**ဂျာမန်ပိုင်နယ်သစ်များ။** ။စစ်ကြီးမဖြစ်မီက ဂျာမနီပိုင်နယ်သစ်များရှိလေသည်။ ထိုနယ်သစ်များရရှိရေးကြောင့် ဂျာမနီနှင့်ဂရိတ်ဗြိတိန်တို့ အင်အားပြိုင်ခဲ့လေရာ၊ ယင်းမှာစစ်ဖြစ်ရခြင်း၏အကြောင်းတရပ်ဖြစ်ခဲ့သည်။

စစ်ဖြစ်စတွင် အင်အားတောင့်တင်းသော ဗြိတိသျှရေတပ်သည် ဂျာမန်နိုင်ငံပိုင် ပင်လယ်ရပ်ခြားနယ်သစ်များကို သိမ်းပိုက်လိုက်လေသည်။ ကမ္ဘာ့အရှေ့ပိုင်းရှိဂျာမန်နယ်သစ်များဖြစ်သော နယူးဂင်းနီနှင့်ဆမိုးဝါးကျွန်းများကို နယူးဇီလန်တပ်များက သိမ်းပိုက်လိုက်လေသည်။ ဂျပန်ကတရုပ်နိုင်ငံရှိ ဂျာမန်ခံတပ် ဆင်းတောကိုသိမ်းပိုက်လိုက်၏။

အာဖရိကတိုက်ရှိ တိုဂိုလန်နယ်ကိုလည်း မဟာမိတ်တပ်များကသိမ်းပိုက်ခဲ့၏။ ၁၉၁၅ ခုနှစ်တွင်အင်္ဂလိပ်နှင့်ပြင်သစ်တပ်များသည် ကမ္မရွန်းနယ်ကိုသိမ်းပိုက်ခဲ့၍၊ ဂျာမန်အနောက်တောင်အာဖရိကနယ်မှာလည်း မဟာမိတ်တို့လက်ထဲသို့ ကျရောက်ခဲ့လေသည်။ ယင်းသို့ဖြင့်ဂျာမန်နယ်သစ်များအားလုံးလိုလိုပင် မဟာမိတ်တို့လက်တွင်းသို့ကျရောက်ခဲ့၏။ ၁၉၁၈ ခုနှစ်တိုင်အောင် မဟာမိတ်တို့ကိုတွန်းလှန်နိုင်ခဲ့သော ဂျာမန်နယ်သစ်မှာ ဂျာမန်အရှေ့အာဖရိကနယ်ပင်ဖြစ်သည်။

**ဗာဆေးစာချုပ်။** ။စစ်ရပ်စဲရေးစည်းကမ်းချက်များအရ ဂျာမန်တပ်များသည် ဗဲလဂျီယမ်၊ ပြင်သစ်၊ လပ်ဇင်ဗတ်၊ အယ်လဆက်လိုရိန်းအစရှိသည့်ဒေသများမှ ရိုင်းမြစ်




ကန်ကရစ်ဖြင့်ခိုင်ခံ့စွာပြုလုပ်ထားသောဂျာမန်စက်သေနတ်ကတုတ်ကျင်းကို မဟာမိတ်တို့သိမ်းပိုက်ပြီးနောက်

တိုင်အောင် ဆုတ်ခွာပေးရ၏။ လက်နက်ခဲယမ်းမီးကျောက်၊ လေယာဉ်ပျံ၊ စစ်သင်္ဘော နှင့် ရေငုပ် သင်္ဘော အား လုံး ကို မဟာမိတ်တို့အားပေးအပ်ရလေသည်။

ရုရှားနိုင်ငံ၊ ရူမေးနီးယားနိုင်ငံ၊ တူရကီနိုင်ငံနှင့်အရှေ့အာဖရိကရှိ ဂျာမန်တို့သိမ်းပိုက်ထားသောဒေသများမှ ဂျာမန်တပ်များကိုပြန်ခေါ် ရ၏။ မဟာမိတ်စစ်သုံ့ပန်းအားလုံးကိုလည်း ချက်ခြင်း လွှတ် ပေး ရ၏။ ထိုပြင် ဂျာမန် တို့ ကျူးကျော်တိုက်ခိုက်ခဲ့သောနယ်များမှ ပျက်စီးဆုံးရှုံး ခဲ့သမျှ ကို ဂျာမန် တို့က လျော် ကြေး ပေးရ၍ ဗဲလဂျီယမ်ဘဏ်တိုက်မှငွေများ၊ ရုရှားနှင့်ရူမေးနီးယားနိုင်ငံတို့မှရွှေများကို ပြန်ပေးရန်သဘောတူရလေသည်။

ယင်းသို့စစ်ရပ်စဲရေးစာချုပ် ချုပ်ဆိုပြီးသည့်နောက်တွင် မဟာမိတ်တို့သည် ဂျာမနီနိုင်ငံအတွင်း စစ်အတွက် အချက်အခြာကျသော ဒေသများတွင် တပ်များချကာ ဂျာမနီ လှုပ်ရှားထကြွခြင်းမပြုနိုင်အောင် စောင့်ကြပ်နေခဲ့ကြလေသည်။ . ထိုအတောအတွင်း မဟာမိတ်ခေါင်းဆောင်ကြီးများသည် ဗာဆေးမြို့တော်တွင် လပေါင်းများစွာညှိနှိုင်းဆွေးနွေး၍၊ ဗာဆေးစစ်ပြေငြိမ်းရေးစာချုပ်ကို ရေးဆွဲခဲ့ကြသည်။ ထိုသို့ဆွေးနွေးရာတွင် ဂျာမနီနိုင်ငံသည် ဝင်ရောက်ဆွေးနွေးခွင့်မရပေ။ အချက်ပေါင်း ၄၀၀ မျှပါဝင်သည့်ထိုစာချုပ်ကို ရေးဆွဲပြီးသောအခါ၊ ၁၉၁၉ ခုဇွန်လဝါရီလတွင် ဂျာမနီနိုင်ငံအား လက်မှတ်ရေးထိုးစေခဲ့၏။ သို့သော်စာချုပ်ပါအချက်များကို စဉ်းစားချင့်ချိန်ရန်နှင့် မကျေနပ်သောအချက် များ ကို ကန့်ကွက် ရန် အချိန် လုံ လောက်အောင်မပေးခဲ့ချေ။ ဂျာမနီ နိုင်ငံ မှာ မတတ် သာသဖြင့် ယင်းအား နလံမထူနိုင်အောင် ဖိနှိပ်ချုပ်ချယ်ထားသောစာချုပ်ကို လက်မှတ်ရေးထိုးခဲ့ရလေသည်။

ထိုစာချုပ်အရ ဂျာမနီနိုင်ငံမှ အာဖရိကတိုက်ရှိနယ်သစ်များအားလုံး ဆုံးရှုံးခဲ့ရလေသည်။ ဥရောပတိုက်တွင် စစ်အတွင်းဂျာမန်တို့သိမ်းပိုက်ထားခဲ့သောနယ်များကို ပြန်ပေးရရုံသာမက၊ စစ်မဖြစ်မီက ဂျာမန်ပိုင်နယ်များဖြစ်သော အယ်လဆက်လိုရိန်းနယ်များကိုပင် ပြန်၍ ပေးအပ် ခဲ့ရလေသည်။ အဖိုးတန်ကျောက်မီးသွေးတွင်းများတည်ရှိရာ ဆားနယ်ကို ပြင်သစ်နိုင်ငံသို့ ၁၅ နှစ်မျှ အပြည်ပြည်ဆိုင်ရာကော်မရှင်နှင့် အုပ်ချုပ်ရန်ပေးအပ်လိုက်ရလေသည်။ ဗဲလဂျီယမ်နိုင်ငံသည် ဂျာမန်နယ်ခြား ခရိုင်များ ဖြစ် သော မာလမေဒီ၊ အပ်ပင်နှင့် မောရက်ဇနဲခရိုင်တို့ကိုရရှိလေသည်။ ပိုဆင်ပြည်နယ်မှ နယ်ပယ်အတော်များများနှင့် အနောက်ပရပ်ရှားပြည်နယ်ကို တည်ထောင်စ ပိုလန်သမတနိုင်ငံသို့ ပေးအပ်ခဲ့ရ၏။

မဟာမိတ်တို့သည် ဂျာမနီနိုင်ငံ၏အခြေကို စောင့်ကြည့်ရန်အတွက် ရိုင်းမြစ်အနောက်ဖက်ရှိ ဂျာမနီပိုင်နယ်ကို ၁၅ နှစ်မျှသိမ်းပိုက်ထားရန်လည်းပါရှိလေသည်။

မေမယ်မြစ်ဝအနီးရှိ နယ်မြေကို ပဌမတွင် မဟာမိတ်တို့

အားပေးအပ်ပြီးနောက်၊ တဖန် လစ်သွေးနီးယားနိုင်ငံသို့ ပေးအပ်ခဲ့ရ၏။ ဂျာမန်ပိုင်နယ်သစ်များအားလုံး မဟာမိတ်တို့လက်အောက် သို့ရင်း၊ ဩဇာခံနယ်များအဖြစ် သို့ရင်း၊ ရောက်ရှိကုန်လေသည်။

ထိုပြင်စစ်တပ်နှင့်လက်နက်အင်အားများ လျှော့ပစ်ရလေရာ၊ ဂျာမန်စစ်တပ်မှာ ရဲအဖွဲ့မျှလောက်သာ အင်အားရှိတော့၏။ ဂျာမန်ရေတပ်တွင် စစ်သင်္ဘောကြီး ၆ စင်း၊ ကရူဇာစစ်သင်္ဘောအသေးစား ၆ စင်းနှင့် ဖျက်သင်္ဘောနှင့်တော်ပီဒိုသင်္ဘောအချို့သာ ထားပိုင်ခွင့်ရတော့ရာ၊ ကျန်သင်္ဘောများနှင့်စပ်လျဉ်း၍ မည်သို့မည်ပုံပြုလုပ်ရမည်ကို မဟာမိတ်တို့မှာအခက်အခဲတွေ့နေစဉ် ဂျာမန်ရေတပ်အရာရှိအချို့ကသင်္ဘောများကိုဖေါက်ခွဲဖျက်ဆီးခဲ့လေသည်။ ဂျာမနီသည်ရေငုပ်သင်္ဘောများကိုလည်း မဆောက်လုပ်နိုင်သည့်ပြင် လေတပ်ကိုလည်းဖွဲ့စည်းခွင့်မရှိချေ။ မဟာမိတ်တို့ဆုံးရှုံးခဲ့သော ကုန်သင်္ဘောများကိုအစားထိုးရန် ဂျာမန်ကုန်သင်္ဘောများကိုလည်း ပေးအပ်ခဲ့ရလေသည်။

ဂျာမနီနိုင်ငံသည် စစ်ကြီးနှင့်စပ်လျဉ်း၍ တာဝန်ရှိကြောင်းဝန်ခံခဲ့ရသဖြင့် မဟာမိတ်တို့အား စစ်လျော်ကြေးများပေးရန်လည်း ဗာဆေးစာချုပ်တွင်ပါလေသည်။ သို့သော်မည်ရွေမည်မျှပေးရမည်ကို ဖေါ်ပြထားခြင်းမပြုသဖြင့် တောင်းသမျှပေးရမလိုဖြစ်နေလေသည်။ သို့သော်ယင်းကိစ္စအတွက် ကော်မီတီတရပ်ဖွဲ့စည်းဆွေးနွေးစဉ်းစားခဲ့ရာ ၁၉၂၁ ခုနှစ်တွင်မှ ဂျာမနီက ဒေါ်လာကုဋေသုံးထောင်သုံးရာခန့်ပေးရမည်ဟုဆုံးဖြတ်ပြီးစီးလေသည်။

ဗာဆေးစာချုပ်ကို ဂျာမန်ကိုယ်စားလှယ်များသည် ၁၉၁၉ ခုဇွန်လ ၂၈ ရက်နေ့တွင်လက်မှတ်ရေးထိုးခဲ့သော်လည်း မြောက်မြားလှသောအငြင်းပွားမှုတို့ကြောင့် ၁၉၂၀ ပြည့်နှစ်ဇန္နဝါရီလ ၂၀ ရက်နေ့မှသာလျှင်အတည်ဖြစ်လာလေသည်။

ထိုပြင်အခြားဗဟိုအင်အားစုနိုင်ငံများနှင့်လည်း ငြိမ်းချမ်းရေးစာချုပ်များ ချုပ်ဆိုခဲ့သေး၏။ ဩစတြီးယားဟန်ဂေရီနိုင်ငံနှင့် ၁၉၁၉ ခုစက်တင်ဘာလ ၁၀ ရက်နေ့တွင်ချုပ်ဆိုခဲ့ရာ ထိုစာချုပ်အရ ဩစတြီးယားနိုင်ငံမှာ လူဦးရေ ၆ သန်းကျော် ၇ သန်းခန့်သာရှိသော နိုင်ငံငယ်ကလေးတခုအဖြစ်သို့ ရောက်ခဲ့လေသည်။ ဗိုဟီးမီးယား၊ ဟန်ဂေရီနှင့်တောင်ပိုင်းဆလဗ်တို့၏ လွတ်လပ်ရေးကိုအသိအမှတ်ပြုခဲ့ရ၏။ ဣတလီနိုင်ငံသို့ နယ်မြေအတော်များများပေးခဲ့ရ၏။ ထိုပြင်စစ်လျော်ကြေးများလည်း ပေးရသေးသည်။

ဗူလဂေးရီးယားနိုင်ငံသည် နယ်မြေအများအပြားမဆုံးရှုံးခဲ့ပေ။ သို့သော်တူရကီနိုင်ငံတော်တွင်ပါဝင်သော အာရေဗျ၊ အာမီးနီးယား၊ ပါလက်စတိုင်း၊ မက်ဆိုပိုတေးမီးယား၊ ဆီးရီးယား (တပိုင်းသာ) စသည့်တိုင်းပြည်များမှာ ၁၉၂၀ ပြည့်နှစ်ဩဂုတ်လ ၁၀ ရက်နေ့တွင်ချုပ်ဆိုသော ဆဲဗရာစာချုပ်အရ မဟာမိတ်တို့၏ဩဇာခံနယ်



**ပဌမကမ္ဘာစစ်တွင်ပတ်လည်ကြည့်မှန်ပြောင်းသည်မဟာမိတ်တို့အဖို့အထူးအသုံးဝင်ခဲ့သည်။**

များဖြစ်သွားလေသည်။ (တူရကီနိုင်ငံ — လည်း ရှု)။
ဥရောပမြေပုံသစ်။ ။ပဌမကမ္ဘာစစ်အပြီးတွင် ဥရောပမြေပုံသစ်ဖြစ်ပေါ်လာခဲ့သည်။ ဩစတြီးယားဟန်ဂေရီနိုင်ငံတော်ကြီး ပျောက်ကွယ်သွား၍ ဩစတြီးယားနှင့်ဟန်ဂေရီဟူသော သီးခြားနိုင်ငံငယ်ကလေးနှစ်ခုအဖြစ်သာကျန်ခဲ့၏။ ယခင်ကဩစတြီးယားဟန်ဂေရီနိုင်ငံတော်တွင်ပါဝင်သည့် ဗိုဟီးမီးယား၊ မိုရေးဗီးယား၊ ရုသီးနီးယားနှင့် စလိုဗက်ကီးယားပြည်များကိုစုပေါင်းထားသော ချက်ကိုဆလိုဗားကီးယားနိုင်ငံနှင့် ဆားဗီးယားနှင့်မွန်တီနီးဂရိုးနိုင်ငံငယ်ကလေးများကိုစုပေါင်းဖွဲ့စည်းထားသော ယူဂိုဆလားဗီးယားနိုင်ငံသစ်နှစ်ခု ပေါ်ပေါက်လာလေသည်။

ထိုပြင်ပရပ်ရှား၊ ဩစတြီးယားနှင့် ရုရှားမှနယ်များစုပေါင်းထားသည့် ပိုလန်သမတနိုင်ငံသစ် ပေါ်ပေါက်လာခဲ့သည်။ ရုရှားနိုင်ငံအနောက်စွန်းတွင် ဖင်လန်၊ အက်စတိုးနီးယား၊ လတ်ဗီးယားနှင့် လစ်သွေးနီးယားဟူသော သီးခြားနိုင်ငံကလေးများလည်း ပေါ်လာခဲ့၏။ ဒန်ဇစ်မြို့သည် လွတ်လပ်သောမြို့ဖြစ်သွား၏။ အယ်လဗေးနီးယားပြည်သည် လွတ်လပ်ရေးရရှိလေသည်။ ဆီးရီးယားနှင့်လက်ဗနွန်ပြည်များမှာ ပြင်သစ်ဩဇာခံပြည်များဖြစ်သွား၍ ပါလက်စတိုင်၊ အီရက်နှင့် ထရန်စဂျော်ဒန်ပြည်များမှာ ဗြိတိန်၏ဩဇာခံပြည်များ ဖြစ်သွားလေသည်။

ဗာဆေးစာချုပ်တွင်ပါရှိသည့်အတိုင်း နောင်အခါကမ္ဘာကြီးတွင် စစ်မက်မဖြစ်ပွားစေရန်နှင့် စစ်မက်ရေးရာများနည်းပါးစေမှုအတွက်ဆောင်ရွက်ရန် နိုင်ငံပေါင်းချုပ်အသင်းကြီး တခုကို ၁၉၂၀ ပြည့်နှစ်တွင်စတင်တည်ထောင်ခဲ့လေသည်။အသင်းကြီး၏ ရည်ရွယ်ချက်များမှာ ကောင်းသော်လည်းယင်းတို့ကိုဖြစ်မြောက်အောင် မဆောင်ရွက်နိုင်ခဲ့ပေ။ (နိုင်ငံပေါင်းချုပ်အသင်းကြီး — ရှု)။

၁၉၁၄ ခုဇူလိုင်လ ၂၈ ရက်နေ့တွင်စတင်ခဲ့သော ပဌမကမ္ဘာစစ်ကြီးကား ၁၉၁၈ ခုနိုဝင်ဘာလ ၁၁ ရက်နေ့တွင် ပြီးဆုံးသွားလေသည်။ ထိုလူသတ်ပွဲကြီးအတွက် စစ်သားရှစ်သန်းမျှအသက်ဆုံးရှုံးခဲ့၍ ဒေါ်လာသန်းပေါင်း ၂ သိန်းမျှ စစ်စရိတ်ကုန်ကျခဲ့၏။ စစ်တွင်ပါဝင်သောနိုင်ငံများ၏ ပျက်စီးဆုံးရှုံးမှုများမှာ လည်း ကြောက်ခမန်းလိလိပင်ဖြစ်၍၊ စစ်ဆိုလျှင် နားမှလေသံမခံချင်အောင် နိုင်ငံတိုင်းကကြောက်ရွံ့တုန်လှုပ်ခဲ့ကြလေသည်။ သို့သော်စစ်ဖြစ်ရခြင်း၏အကြောင်းရင်းများဖြစ်သော ကမ္ဘာ့နိုင်ငံရေးပြဿနာများကား စစ်ဖြစ်လိုက်သည့်တိုင်အောင် ရှင်းလင်းပြေလည်မသွားကြသေးပေ။ ထိုကြောင့်ပဌမကမ္ဘာစစ်ကြီးဖြစ်ပွားပြီးခဲ့၍ အနှစ်နှစ်ဆယ်မျှအကြာတွင် ဒုတိယကမ္ဘာစစ်ပွဲကြီး ဖြစ်ပွားပြန်လေသည်။ အချို့နိုင်ငံသမိုင်းဆရာတို့က ဒုတိယကမ္ဘာစစ်ကြီးကို ၁၉၁၄ ခုနှစ်တွင်စတင်ခဲ့သည့် ပဌမကမ္ဘာစစ်ကြီး၏ တစိတ်တဒေသဟုသာ ခေါ်ဆိုလိုကြသည်။




စစ်ရပ်စဲရေးလက်မှတ်ထိုးမည့်
မဟာမိတ်ကိုယ်စားလှယ်များ




**ကမ္ဘာစစ်၊ ဒုတိယ** (ခရစ် ၁၉၃၉–၁၉၄၅)။ ။ဒုတိယကမ္ဘာစစ်သည် တကမ္ဘာလုံးရှိနေရာအနှံ့အပြားသို့ ဂယက်ရိုက်ပြန့်နှံ့သွားသော တကယ့်ကမ္ဘာစစ်ဖြစ်သည်ဟု ဆိုရပေမည်။ ၁၉၁၄ ခုနှစ်မှ ၁၉၁၈ ခုနှစ်တိုင်အောင်ဖြစ်ပွားခဲ့သော ပဌမကမ္ဘာစစ်ကြီးမှာ နိုင်ငံအများအပြား ပါဝင်သည့် စစ်ပွဲကြီး ပင်ဖြစ်သော်လည်း ကမ္ဘာစစ်ဟူ၍စင်စစ်ခေါ်နိုင်လောက်အောင် ကမ္ဘာတဝှန်းလုံးရှိ နိုင်ငံတိုင်းလူမျိုးတိုင်းကို ထိခိုက်ခြင်းမရှိခဲ့ချေ။ (ပဌမကမ္ဘာစစ်ကြီး – ရှု။) ၁၉၃၉ ခုနှစ် တွင်ဖြစ်ပွားသောစစ်ကြီးမှာမူ ကမ္ဘာစစ်ဟု အမည်ပေးနိုင်လောက်အောင် နိုင်ငံတကာသို့ကူးစက်ပြန့်နှံ့ခဲ့လေသည်။ ထိုစစ်ဘေးမှကင်းလွတ်ခဲ့သောနိုင်ငံကား မရှိသလောက်ပင်ရှားလှသည်။ သို့ရာတွင် ၁၉၁၄–၁၉၁၈ ခုနှစ် စစ်ပွဲကြီးကိုပဌမကမ္ဘာစစ်ဟုခေါ်ခဲ့သဖြင့် ၁၉၃၉–၁၉၄၅ ခုနှစ်စစ်ကြီးကိုဒုတိယကမ္ဘာစစ်ဟုခေါ်ရပေတော့မည်။ ဒုတိယကမ္ဘာစစ်၏စစ်မျက်နှာသည် ဆော်လမွန်ကျွန်းမှ စတာလင်ဂရက်အထိငင်း၊ အလာစကာနယ်မှ လစ်ဗျန်သဲကန္တာရအထိငင်း ကျယ်ပြန့်စွာတည်ရှိခဲ့သည်။ ကုန်းတိုက်ပွဲ၊ ရေတိုက်ပွဲ၊ လေတိုက်ပွဲများသည် ကမ္ဘာပေါ်ရှိတိုက်ကြီးခြောက်တိုက်နှင့် သမုဒ္ဒရာခုနစ်စင်းတို့၌ သဲသဲမဲမဲနှင့်မစဲဘဲ ဖြစ်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကား မထိန်းနိုင်သောမီးကဲ့သို့ တနေရာပြီးတနေရာ တောက်လောင်ခဲ့လေသည်။

ဒုတိယကမ္ဘာစစ်သည် လူလောကကြီးတရပ်လုံးနှင့်သက်ဆိုင်သော်လည်း ထိုစစ်ကြီးတွင် လူမျိုးလိုက်ပါဝင်ဆင်နွှဲပုံကို မဖော်ပြဘဲ စစ်ဦး တည့်ရာ စစ်လမ်း ကျရာ နိုင်ငံ များ၌သာ မည်သို့ဖြစ် ပျက် သည် ကို အကျဉ်း ချုပ် ၍ ဖော် ပြသွားပေမည်။ ဂျာမန်တို့ပိုလန်ကိုဝင်ရောက်တိုက်ခိုက်သည့် ၁၉၃၉ ခု စက်တင်ဘာလ ၁ ရက်နေ့ကို ဒုတိယကမ္ဘာစစ်ကြီးစတင်ဖြစ်ပွား သည့် နေ့ဟု ယေဘုယျ အား ဖြင့် မှတ် ယူကြ သည်။ ထိုအချိန်မှစ၍ ကမ္ဘာ့သမိုင်းတွင်မကြုံဘူးအောင် ကြီးကျယ်ပြင်းထန်လှသောလူသတ်ပွဲကြီး ဖြစ်ပွားခဲ့၍ ထောင်ပေါင်းများစွာသော အသက်စည်းစိမ်အိုးအိမ်အဆောက်အအုံများ ပျက်စီးယိုယွင်းခဲ့ကြသည်။ ပဌမကမ္ဘာစစ်မှာ ကမ္ဘာ့အနှံ့အပြားသို့မကူးစက်ဘဲ ဥရောပတိုက်တဝိုက်တွင်သာ အသဲမဲဆုံးဖြစ်ခဲ့သော်လည်း ဒုတိယကမ္ဘာစစ်မှာကား တောင်အမေရိက တိုက် မှလွဲ၍ တကမ္ဘာလုံး သို့ ကူး စက် ပြန့် နှံ့ ခဲ့ သည်။ ဥရောပတတိုက်လုံးလိုလိုပင် ဂျာမန်နာဇီတို့ခြေဖဝါးအောက် ကျရောက်ခဲ့ရသည်။ အာရှအရှေ့တောင်ပိုင်းတခွင်မှာလည်း ဖက်ဆစ်ဂျပန်တို့၏ လွှမ်းမိုးခြင်းကို ခံ ခဲ့ ရ သည်။

ကြားနေနိုင်ငံကလေးများပင် စစ်ဒဏ်မှမလွတ်ကင်းခဲ့ကြချေ။ မိန်းမ၊ ယောကျ်ား၊ ကလေးလူကြီးအားလုံးပင် ချိုင့်စွာနေထိုင်စားသောက်ခဲ့ကြရသည်။ ကျွန်ုပ်တို့မြန်မာနိုင်ငံပင်လျှင် ယခုထက်တိုင်အောင် စစ်၏ဒဏ်ရာဒဏ်ချက်များမှ နလံမထူနိုင်သေးပေ။

ဂျာမနီက ပိုလန်အား ဝင်ရောက်တိုက်ခိုက်ခဲ့သည်မှ ဒုတိယကမ္ဘာ့စစ် စတင်ဖြစ်ပွားသည်ဟုမှတ်ယူကြသော်လည်း အမှန်အားဖြင့် ဒုတိယကမ္ဘာ့စစ်ဖြစ်စေသောအကြောင်းများသည် လွန်ခဲ့သောနှစ် ၂၀ ခန့်ကပင် ပေါ်ပေါက်ခဲ့၍ တစတစရင့်သန်လာခဲ့သည်။ ၁၉၃၁ ခုနှစ်တွင် မန်ချူးရီးယားကိုဂျပန်တို့ စတင်ဝင်ရောက်တိုက်ခိုက်ခြင်းသည် ဒုတိယကမ္ဘာ့စစ်၏ အစပျိုးခြင်းပင်ဖြစ်သည်ဟု ဆိုရပေမည်။ အာရှတိုက်တွင် စစ်အတွက် လုံလောက်စွာပြင်ဆင်ပြီး နေသော ဂျပန်သည် တရုပ်နိုင်ငံအား ရန်စကျူးကျော်ခြင်း၊ အီသီအိုးပီးယားနိုင်ငံကို ဣတလီက ဝင်ရောက်တိုက်ခိုက်ခြင်း၊ စပိန်နိုင်ငံ၌ပြည်တွင်းစစ်ဖြစ်ခြင်းစသည်တို့ကား ၁၉၃၉ ခုနှစ်ဒုတိယကမ္ဘာ့စစ်ကြီး၏ ပွဲဦးထွက်များပင်ဖြစ်တော့သည်။

## စစ်ဖြစ်ရသည့်အကြောင်းခံ

ပဌမကမ္ဘာ့စစ်ကြီး ပြီးဆုံးသည်မှ ဒုတိယကမ္ဘာ့စစ်ကြီး စတင်သည်အထိ ကြားကာလတွင် ကမ္ဘာ့အရပ်ရပ်၌ လက်ရှိနှင့်လက်မဲ့ ဟူ၍ လူတန်းစားနှစ်မျိုး ပေါ်ပေါက်လာခဲ့သည်။ ထိုသို့ပေါ်ပေါက်ခဲ့ရသည်မှာ စီးပွားရေးစံနစ်ဆိုးကြောင့်ဖြစ်ရာ လူအချင်းချင်းမနာလိုမုန်းတီးစိတ်များမှာ ဗလောင်ဆူဝေလျက်ရှိလေသည်။ ပဌမကမ္ဘာ့စစ်ကြီးကို အပြီးသတ်ခဲ့သော ဗာဆေးစာချုပ်ကို ချုပ်ဆိုကြပြီးသည့်နောက်၊ ကမ္ဘာ့အခြေအနေမှာ ဒုတိယကမ္ဘာ့စစ်ဖြစ်မည့် အချိန်သို့ တဖြည်းဖြည်းချဉ်းကပ်ခဲ့လေသည်။

တရုပ်နိုင်ငံ၌ မဆုံးနိုင်သောပြည်တွင်းစစ်ဖြစ်နေသည့်ပြင်၊ ဒေသအချို့မှာ ၁၉၃၁ ခုနှစ်တွင် ဂျပန်လက်အောက်ကျရောက်ခဲ့ရလေသည်။ ဥရောပတိုက်တွင် ဆိုဗီယက်တော်လှန်ရေးကြီးကြောင့်လည်း လူအမြောက်အမြား သေကြေပျက်စီးကြရသည်။ အင်္ဂလန်နှင့်ပြင်သစ်ကမူစစ်ကိုငြီးငွေ့ကာ ထာဝစဉ်ငြိမ်းချမ်းရေးကိုသာ အလိုရှိကြသည်။ ယင်းသို့သောအချိန်တွင် ဇော်လကန်တဝိုက်နှင့် ဥရောပအလယ်ပိုင်းတို့၌ အဝတ်အထည်အစားအစာ ခေါင်းပါးခြင်းတည်းဟူသော စီးပွားပျက်ကပ်ဆိုးနှင့် ရင်ဆိုင်တိုးနေရသည်။ မကြာမီပင်စီးပွားပျက်ကပ်ဆိုးကြီးသည် ဥရောပတိုက်တခုလုံးကို လွှမ်းခြုံမိတော့သည်။ ဣတလီတွင် အာဏာရှင်မှုဆိုလီနီက မင်းမူ၍ ဂျာမနီတွင်ဟစ်တလာက အာဏာသိမ်းလေသည်။ နောက်ထပ်ကမ္ဘာ့စစ်အတွက် အစစအရာရာအဆင်သင့်ဖြစ်နေလေပြီ။ မီးတောက်ကြီးထတောက်ရန် မီးပွားတခုသာ ကျဖို့လိုလေတော့သည်။

**လေချိုသွေးသည့်မျူးနစ်အရေး။** ။၁၆၄၇ ခုနှစ် ဝက်စဖေးလီးယားစာချုပ် ချုပ်ဆိုသည့်အခါမှစ၍ ဥရောပတိုက်ကိုမရေရာလှသော အာဏာမဲ့တင်းပေးသည့်စံနစ်အပေါ်တွင် တည်ဆောက်ခဲ့သည်။ သို့ရာတွင် ၁၇၁၇ ခုနှစ်တွင် ဂျာမန်ခေါင်းဆောင် ဗစ်ဇမတ်သည် အာဏာမဲ့တင်းပေးသည့်စံနစ်ကိုတိုက်ဖျက်၍ ဂျာမနီကိုစည်းလုံးပြီးလျှင် ဥရောပတွင်ဂျာမန်တန်ခိုးထွားနိုင်အောင် ကြိုးစားခဲ့လေသည်။ ပဌမကမ္ဘာ့စစ်အပြီးတွင်ချုပ်ဆိုသော ဗာဆေးစာချုပ်သည် ပြိုကွဲနေပြီဖြစ်သော အာဏာမဲ့တင်းပေးသည့်စံနစ်ကို ပြန်လည်အသက်သွင်းလိုက်သည်။ သို့ရာတွင် ဟစ်တလာနှင့်နာဇီပါတီတက်လာသောအခါ ဗစ်ဇမတ်၏လမ်းစဉ်အတိုင်း ဥရောပတွင်ထိပ်သီးနိုင်ငံကြီးဖြစ်အောင် ဂျာမနီအားပြန်လည်ထူထောင်လေသည်။ ယင်းသို့ပြဒါးတလမ်းသံတလမ်းဖြစ်သောဝါဒနှစ်ခုသည် မျူးနစ်သဘောတူညီချက်စာချုပ် ချုပ်ဆိုသည့်အချိန်တိုင်အောင် ပဋိပက္ခဖြစ်လာခဲ့သည်။ နောက်ဆုံးတွင် ဗစ်ဇမတ်နှင့်ဟစ်တလာတို့၏ ဂျာမနီနိုင်ငံအာဏာလွှမ်းမိုးရေးက စစ်တပ်အင်အားထောက်ခံမှုဖြင့်အနိုင်ရသွားလေသည်။

ဒုတိယကမ္ဘာ့စစ်အကြောင်းကိုရေးသားရာ၌ ဂျာမန်အာဏာရှင်ဟစ်တလာ၏အကြောင်းကို ထည့်မရေးက ပြည့်စုံမည်မဟုတ်ချေ။ ဟစ်တလာသည် ၁၉၃၃ ခုနှစ်တွင်ဝန်ကြီးချုပ်ဖြစ်လာပြီးလျှင် ဂျာမန်လူထုကြီးတရပ်လုံးအား စည်းရုံးလေသည်။ ၁၉၃၆ ခုနှစ်တွင် သူ၏အင်အားမှာအားကိုးလောက်အောင် တောင့်တင်းလာပြီဖြစ်ရကား နိုင်ငံပေါင်းချုပ်အသင်းကြီးမှ နုတ်ထွက်လိုက်ပြီးလျှင် လိုကားနိုးစာချုပ်ကိုလည်း ဖျက်သိမ်းခိုင်းလေသည်။ ထိုအချိန်တွင် ဂျာမနီနှင့်ဣတလီတို့မှာ စစ်တိုက်ရန်အဆင်သင့် ဖြစ်နေကြလေပြီ။

ဗြိတိသျှဝန်ကြီးချုပ် ချိန်ဗာလိန်ကား ငြိမ်းချမ်းရေးသမားကြီးဖြစ်သည်။ မည်သည့်နည်းနှင့်မဆို သူ၏လက်ထက်တွင် စစ်မဖြစ်အောင် တားဆီးနိုင်လိမ့်မည်ဟု ယုံကြည်သည်။ ဂျာမန်တို့အား မျက်နှာချိုသွေးကာ လေအေးဖြင့်ချော့မြူလျှင် ရနိုင်မည်ဟုလည်း မြော်လင့်လေသည်။ ၁၉၃၈ ခုနှစ်၌ ဂျာမနီက ချက်ကိုဆလိုဗားကီးယားပိုင်သော ဆူဒေတင်နယ်ကို တောင်းဆိုသောအခါ ချိန်ဗာလိန်နှင့်ပြင်သစ်ဝန်ကြီးချုပ်တို့သည် ယခင်ကမိမိတို့ ကတိများကိုလျစ်လျူရှုလျက် ဂျာမန်၏အလိုသို့လိုက်လျောခဲ့ကြသည်။ ဣတလီ၊ ပြင်သစ်၊ အင်္ဂလိပ်နှင့်ဂျာမန်ခေါင်းဆောင်များသည် မျူးနစ်မြို့တွင်စည်းဝေးကာ မျူးနစ်စာချုပ်ကိုရေးဆွဲ၍ ဆူဒေတင်နယ်ကလေးကို ဟစ်တလာ၏လက်သို့ပေးအပ်လိုက်သည်။

**စစ်ရှုံးဂျာမနီ။** ။ဟစ်တလာသည်ဂျာမနီအား ဒုတိယကမ္ဘာစစ်သို့မဆွဲသွင်းမီ မည်ကဲ့သို့ တန်ခိုး အာဏာ ရရှိလာ ခဲ့ပုံကို အနည်းငယ်မျှသိရှိထားသင့်၏။ ပဌမကမ္ဘာစစ်တွင် ဂျာမနီနှင့်အပေါင်းပါနိုင်ငံများမှာ နလံမထူနိုင်အောင် အရှုံးကြီးရှုံးခဲ့ရသည်ကို ကျွန်ုပ်တို့ကောင်းစွာသိခဲ့ကြပေသည်။ ထိုစစ်တွင်ဂျာမန်တို့သည် လူပေါင်း ၇ သန်းမျှဆုံးရှုံးခဲ့သည်။ အချို့မှာဒဏ်ရာရရှိ၍ များစွာသောသူတို့မှာ ပျောက်ဆုံးနေလေသည်။ ယင်းသို့စစ်ရှုံးသောကြောင့် ဂျာမနီတနိုင်ငံလုံး အင်အားပျက်ပြုန်းခဲ့၍ ဖရိုဖရဲဖြစ်နေစဉ် ၁၉၁၉ ခုနှစ်၌ နာဇီပါတီကို ထူထောင်လိုက်လေသည်။ (နာဇီပါတီ – ရှု။) ဗာဆေးစာချုပ်အရ ဂျာမနီသည် စတုရန်းမိုင်ပေါင်း ၁ သန်းမျှကျယ်ဝန်း၍ လူဦးရေ ၁၈ သန်းနေထိုင်သော နယ်ပယ်များ၊ ကျောက်မီးသွေး ၄၅ ရာနှုန်း၊ သံ ၆၅ ရာနှုန်းနှင့် အခြား မြောက်မြားလှစွာ သော ပစ္စည်းများကို လက်လွှတ်လိုက်ရသည်။ ပြင်သစ်နိုင်ငံသို့လည်း စစ်လျော်ကြေးပေးဆပ် ရ သေး သည်။ ဂျာမနီ၏ကြည်း တပ်၊ရေတပ်များ မှာလည်း အင်အားလျော့ပစ်ခြင်းခံရလေသည်။

ယင်းသို့စစ်ရှုံးဂျာမနီသည် စစ်နိုင်သောနိုင်ငံများ၏ ဖိ



ဗြိတိသျှဝန်ကြီးချုပ်ချိန်ဗာလိန်နှင့် ဂျာမနီအာဏာရှင်ဟစ်တလာတို့ မျူးနစ်စာချုပ် ချုပ်ဆိုရန် တွေ့ဆုံကြစဉ်

ထောင်းခြင်းကို ခံနေရသော အချိန် တွင် ဟစ်တလာ နှင့် သူ၏ အမျိုးသားဆိုရှယ်လစ်ဂျာမန်အလုပ်သမားပါတီခေါ် နာဇီပါတီ ပေါ် ပေါက် လာ သည်။ သို့ရာတွင် ရင်ဆိုင်နေရသောပြဿနာများကို ပြေလည်အောင်ဖြေ ရှင်း နိုင် စွမ်းမရှိချေ။ သူတို့သည် စစ်ကြောင့်အခြေပျက်အနေပျက်ဖြစ်ရသောစီးပွားရေးသမားကလေးများ နှင့် ကိုယ်ပိုင် လုပ် ငန်းရှင်များကို မြှောက်ပင့်ပေးသည်။ မရေရာသော စီးပွားရေးကတိများကို ပေးကြသည်။ ထိုပြင်ကမ္ဘာ့စီးပွားရေးတွင်လည်း လက်ဝါးကြီးအုပ်နေသော ယဟူဒီများ ကြောင့် သာ ဂျာမနီနိုင်ငံကြီး စစ်ရှုံးရသည် ဟုစွပ်စွဲကြသည်။ ဂျာမန်တမျိုးလုံးအား အိုးမဲသုတ်သော ဗာဆေးစာချုပ်ကိုတိုက်ဖျက်မည်၊ ဂျာမန်နိုင်ငံသစ် ထူထောင်မည် စ သော ကြွေးကြော်သံများဖြင့်ဝါဒဖြန့်ကြ သည်။ (ဗာဆေးစာချုပ် — ရှု။) နောက် ကွယ် ရာ တွင် ဂျာမန် စက်မှု လက်မှုလုပ်ငန်းရှင်ကြီးများ၊ စစ်ခေါင်းဆောင်များသည် အလုပ်သမားအင်အားစုဖြိုခွဲရန် နှင့် ဂျာမနီ၏ စစ်အင်အားကိုပြန်လည် ဖြည့်တင်းရန်အတွက် အခွင့်ကောင်းယူကာ နာဇီဂိုဏ်းသားများအားငွေကြေးဖြင့်အားပေးကူညီလျက်ရှိကြသည်။

**ဗီယာအဆောင်ပုန်ကန်မှု။** ။အစ ပဌမ တွင် နာဇီများသည် ထင် တိုင်း မ ပေါက် ကြ ချေ။ ၁၉၂၃ ခုနှစ်တွင် ဗီယာအဆောင်ပုန်ကန်မှုကို လုပ်ကိုင်ကြရာတွင် မအောင်မြင်ဘဲ၊ ဟစ်တလာနှင့်ခေါင်းဆောင်အချို့သာ ထောင်နန်းစံရလေသည်။ ထိုအချိန်တွင် ဂျာမနီသည်စီးပွားရေးအားဖြင့် အနည်းငယ်နလံ ပြန် ထူ လာ သည်။ နိုင်ငံ ပေါင်း ချုပ်အသင်းကြီး ၏ ဆောင် ရွက် ချက် ကြောင့် စစ် လျော် ကြေးပေးဆောင်ရခြင်းမှ အနည်းငယ်သက်သာရရသည်။ သို့ရာတွင် တကမ္ဘာလုံးသို့ဂယက်ရိုက်စပြုသော စီးပွားပျက်ကပ်ကြီးကိုကားရှောင်ကွင်း၍မရချေ။

စီးပွားပျက်ကပ်ကြောင့်နာဇီတို့အင်အားတက်လာသည်။ အလုပ်လက်မဲ့ဦးရေလည်း တိုး တက် များ ပြား လာ သည်။ ကွန်မြူနစ်ရန်ကို ကြောက် ရွံ့ သော ဂျာမန်သံမဏိလုပ်ငန်းအရင်းရှင်များ သည် နာ ဇီ တို့ အား ငွေ ကြေး အမြောက်အမြား ထောက်ပံ့ကြသည်။ အလုပ် လက်ကိုင်မရှိ သဖြင့် ယောင်ချာချာ ဖြစ် နေ သည့် သန်းပေါင်းများစွာသောဂျာမန်တို့သည်လည်း ဟစ်တလာ၏ဝါဒကိုယုံကြည်လျက် ဟစ်တလာကိုပင် မိမိတို့အားကယ်တင်မည့်သူအဖြစ်ဖြင့် ကြည်ညိုလေးစားလာကြသည်။ လက်ရှိဂျာမန်အစိုးရမှာ အင်အားနည်း ပါး ၍ နာဇီလက်နက်ကိုင် မုန်တိုင်းတပ်သားများကို ကောင်းစွာမနှိမ်နင်းနိုင်ချေ။ ယင်းသို့ဖြင့် နာဇီတို့၏ အင်အားမှာ ဒီရေအလားတိုးပွားလာခဲ့ရာ ၁၉၃၃ ခုဇန္နဝါရီလ ၃၀ ရက်နေ့တွင် ဟစ်တလာသည် အစိုးရအာဏာကို သိမ်းပိုက်လိုက်သည်။ သူ၏ဝါဒမှာ စစ်ဝါဒဖြစ်သည့်အတိုင်း

အာဏာရသည့်နေ့မှစ၍ စစ်ရေးကိုသာ လုံးပန်းလေတော့သည်။ သို့မှသာလျှင် အာဏာကိုလက်ကိုင်ထားနိုင်ပေမည်။ အရေးပါသောပါတီခေါင်းဆောင်များမှာ ရာထူးကြီးများရရှိ၍ ချမ်းသာကြသည်။ ငယ်သားများမှာလည်း လခကောင်းသောရာထူးများ အသီးသီးရရှိ၍ ထိုရာထူးများလက်လွှတ်မသွားစေရန်သာ ကြိုးပမ်းနေကြသည်။

ဒုတိယနပိုလီယန်။ ။ဟစ်တလာကား ဒုတိယနပိုလီယန်ပင်ဖြစ်သည်။ သူ၏ရည်မှန်းချက်မှာ တကမ္ဘာလုံးကိုလွှမ်းမိုးရန်ဖြစ်သည်။ ပဌမကမ္ဘာ့စစ်ဖြစ်ရသည်မှာလည်း ဂျာမန်ခေါင်းဆောင်များက ကမ္ဘာကိုလွှမ်းမိုးလိုသောကြောင့်ဖြစ်သည်။ ဟစ်တလာလည်း ထိုနည်းနှင်နှင်ဖြစ်သည်။ ဂျာမန်လူမျိုးသည် မြင့်မြတ်သောလူမျိုးဖြစ်၍ အခြားလူမျိုးများက ဂျာမန်လူမျိုးကို ကျိုးနွံခစားကြရမည်ဟု ဟစ်တလာယူဆသည်။ ဟစ်တလာ၌ နှိုင်းရှည့်ချင့်ချိန်နိုင်သောစိတ်ဓါတ်ခေါင်းပါး၍ မိမိကိုယ်ကို ရှေးခေတ်က စစ်သူကြီးများဖြစ်ခဲ့သော အယ်လက်ဇန္ဒာနှင့် နပိုလီယန်တို့ထက်ပင်ထင်ပေါ်ချင်လေသည်။ (အယ်လက်ဇန္ဒာ၊ နပိုလီယန် – ရှု။)

သို့ဖြစ်လေရာ ဟစ်တလာသည် အာဏာကိုသူ၏လက်ထဲတွင် မြဲအောင်ဆုပ်ကိုင်ထားလေသည်။ ဂျာမန်ရိုက်စတတ်လွှတ်တော်ကို ကြိုတင်ကြံစည်၍ မီးရှို့လိုက်ပြီးလျှင် အတိုက်အခံသမားအားလုံးကိုစုပ်စွဲ၍ လိုက်လံနှိမ်နင်းလေသည်။ အချို့ကိုထောင်အကျဉ်းချထား၍ အချို့ကိုအဆုံးစီရင်လိုက်သည်။ လွတ်လပ်စွာ ပြောဆိုရေးသားမှုကို ပိတ်ပင်သည်။ အဲလဗတ်အိုင်စတိုင်းစသော ကမ္ဘာကျော်သိပ္ပံပညာရှိကြီးများ၊ သောမတ်မန်းစသော ကမ္ဘာကျော်ဝတ္ထုရေးဆရာကြီးများကိုလည်း ပြည်နှင်ဒဏ်ပေးသည်။ အင်အားနည်းပါးသော ယဟူဒီများအား စံနစ်တကျညှဥ်းပန်းသည်။ မိမိအားအတိုက်အခံပြောဆိုသော သာသနာရေးခေါင်းဆောင်များအားလည်းနှိမ်နင်းလေသည်။

အတိအလင်းဖေါက်ဖျက်ခြင်း။ ။ဤသို့ဖြင့် ဟစ်တလာသည် ဗာဆေးစာချုပ်ကို စက္ကူစုတ်အသွင်သို့ပြောင်းလဲလိုက်လေသည်။ ဂျာမနီသည် လက်နက်စုဆောင်းရေးကိုသာလုံးပန်းလျက် ဂျာမန်ကြည်းတပ် လေတပ် ရေတပ်များကိုလည်းအပူတပြင်းခဲ့ထွင်လေသည်။

နာဇီတို့သည် ဗာဆေးစာချုပ်ကိုမဖေါက်ဖျက်ဟု ငြင်းဆိုနေသော်လည်း စစ်ပြင်ဆင်မှုများကိုကား အစွမ်းကုန်လုပ်ကိုင်နေကြသည်။ နိုင်ငံခြားအစိုးရများမှာ မည်သို့မျှအရေးမယူကြဘဲ လက်ပိုက်ကြည့်နေကြသည်။ ဆိုဗီယက်



ဩစတြီးယားနိုင်ငံကိုသိမ်းပိုက်ပြီးနောက်ဗီယင်းနားမြို့တော်တွင်ကျင်းပသောဟစ်တလာ၏အောင်ပွဲအခမ်းအနား

ရုရှားတဦးတည်းသာလျှင် ဂျာမန်၏ရန်စွယ်ကိုမြင်သဖြင့် စုပေါင်းကာကွယ်ရေးကို ပြုလုပ်ရန် အကြံပေးသော်လည်း အချည်းနှီး ဖြစ်ခဲ့သည်။ သို့သော်လည်း ဆိုဗီယက်ရုရှားသည် စိတ်ပျက်ခြင်းမရှိဘဲ အခြားသောဥရောပတိုက်နိုင်ငံများနှင့် အချင်းချင်းကူညီယိုင်းပင်းရန် စာချုပ်ကိုမဖြစ် ဖြစ်အောင် ချုပ်ဆိုခဲ့သည်။ ယင်းစာချုပ်များအနက် ၁၉၃၅



မကျူးကျော်ရေးစာချုပ် ချုပ်ဆိုရန်မော်စကိုမြို့၌တွေ့ဆုံကြစဉ်

ခုနှစ်တွင်ချုပ်ဆိုသော ပြင်သစ်ဆိုဗီယက်မဟာမိတ်စာချုပ်မှာအထင်ရှားဆုံးဖြစ်သည်။

**နိုင်ငံပေါင်းချုပ် အသင်းကြီး မစွမ်းနိုင်ပြီ။** ။၁၉၃၅ ခု အောက်တိုဘာလတွင် နိုင်ငံပေါင်းချုပ်အသင်းကြီး၏စွမ်းအားကို မှတ်ကျောက်တင်ကြည့်သော အဖြစ်အပျက်တခု ပေါ်ပေါက်လာသည်။ မူဆိုလီနီကြီးစိုးနေသော ဣတလီနိုင်ငံသည် အာဖရိကတိုက်ရှိ အီသီအိုးပီးယားနိုင်ငံကလေးကို အကြောင်းမဲ့ သက် သက် ဝင်ရောက်တိုက်ခိုက်သည်တွင် နိုင်ငံပေါင်းချုပ်အသင်းကြီးသည် ကျူးကျော်သောဣတလီအား စီးပွားရေးကန့်သတ်ရုံမှတပါး မည်သို့မျှထိရောက်စွာ အရေးမယူခဲ့ချေ။ ၁၉၃၆ ခုမေလ ၅ ရက်နေ့တွင် ဣတလီတပ်များသည် အီသီအိုးပီးယား၏မြို့တော် အက်ဒစ်အဗာဗာသို့ ဝင်ရောက်နိုင်ခဲ့ကြသည်။ (နိုင်ငံပေါင်းချုပ်အသင်း — လည်းရှု)။

ယင်းသို့အခြားနိုင်ငံတခုကို လက်နက်အားကိုးဖြင့် ကျူးကျော်သိမ်းပိုက်နိုင်ပုံကို မူဆိုလီနီက နမူနာပြလိုက်ပြီးနောက်၊ မကြာမီပင် ဟစ်တလာကလည်း အားကျမခံ အစွမ်းပြလိုက်သည်။ ၁၉၃၆ ခုမတ်လတွင်ဟစ်တလာ၏တပ်များသည် ရိုင်းလန်းနယ်ထဲသို့ချီတက်ကြသည်။ ဗာဆေးစာချုပ်က ရိုင်းလန်းနယ်ထဲတွင် အမြဲတမ်းစစ်တပ်များကို မထားရှိစေရဟု ဆိုထားသည်။ သို့သော်နိုင်ငံပေါင်းချုပ်အသင်းကြီးသည် ဟစ်တလာအားရှုတ်ချရုံကလွဲ၍ မည်သို့မျှမပြုစွမ်းနိုင်ခဲ့ချေ။ ဂျာမန်တပ်များသည် ရိုင်းလန်းနယ်တွင် တပ်စွဲ၍ခံတပ်များပင်ဆောက်လုပ်ကြလေသည်။

၁၉၃၆ ခုဇူလိုင်လတွင် ပြည်တွင်းစစ်တခုပေါ်ပေါက်လာပြန်သည်။ စပိန်နိုင်ငံတွင် သမတအစိုးရကို ဖက်ဆစ်သူပုန်များက တော်လှန်ပုန်ကန်ကြလေသည်။ ထိုပြည်တွင်းစစ်ပွဲတွင် ပြင်သစ်နှင့်အင်္ဂလိပ်အမျိုးရှိသောဥရောပနိုင်ငံများက ဝင်ရောက်စွက်ဖက်ခြင်းမရှိသော်လည်း ဂျာမနီနှင့်ဣတလီတို့က မူ သူပုန်များအား ကူညီလေသည်။ ၁၉၃၉ ခုမတ်လတွင် သမတအစိုးရပြုတ်ကျ၍ ဖက်ဆစ်သူပုန်ဗိုလ်ချုပ် ဖရန်ကိုအစိုးရတက်လာသည်။

၁၉၃၆ ခုနှစ်တွင် အခြားအရေးကြီးသော အဖြစ်အပျက်တခုမှာ ဂျာမနီနှင့်ဂျပန်ပူးပေါင်း၍ ကွန်မင်တန်ဆန့်ကျင်ရေးစာချုပ် ပြုလုပ်ခြင်းပင်ဖြစ်သည်။ နောက်တနှစ်တွင် ဣတလီသည် ထိုစာချုပ်တွင် ပါဝင်ဆောင်ရွက်လေသည်။

၁၉၄၀ ပြည့်နှစ်စက်တင်ဘာလတွင် ဂျာမနီ၊ ဣတလီနှင့် ဂျပန်တို့သည် ၃ နိုင်ငံမဟာမိတ်စာချုပ်ပြုလုပ်ကြသည်။ ထို ၃ နိုင်ငံကို ဝင်ရိုးတန်းနိုင်ငံများဟူ၍ခေါ်ကြသည်။

၁၉၃၇ ခုနှစ်အတွင်းစပိန်နိုင်ငံသည် ပြည်တွင်းစစ်ဖြင့်ဆူပွက်နေစဉ်၊ အရှေ့နိုင်ငံ၌ ဂျပန်သည်တရုပ်နိုင်ငံအား စစ်မကြေညာဘဲ တိုက်ခိုက်လျက်ရှိသည်။ လက်နက်အင်အားချင်း အဆမတန်ကွာခြားသော်လည်း မျိုးချစ်တရုပ်များသည် အချင်းချင်းသွေးစည်းလျက် ဂျပန်ရန်ကိုခုခံကြသည်။ တရုပ်တို့၏ဇွဲသတ္တိကို ကမ္ဘာကချီးကျူး၍မကုန်နိုင်အောင်ရှိတော့သည်။

**ဩစတြီးယား ကျခြင်း။** ။အရှေ့ဖျားနိုင်ငံများတွင် ဂျပန်တို့စစ်မီးမွှေးလျက်ရှိစဉ်၊ ဥရောပတိုက်တွင် စစ်ယမ်းအိုးကြီး ပေါက်ကွဲရန် တနေ့တခြား နီးကပ်လာလေသည်။ ၁၉၃၈ ခုနှစ်တွင် စိုးရိမ်ဖွယ်ရာအရေးတော်များ တသီတတန်းကြီးဖြစ်ပေါ်လာခဲ့သည်။

၁၉၃၄ ခု ဇူလိုင်လတွင် ဟစ်တလာသည်ဩစတြီးယားအားသိမ်း ပိုက်ရန်ကြိုးစားသေး၏။ သို့သော်မအောင်မြင်ခဲ့ချေ။ ၁၉၃၈ ခုနှစ်တွင် ဟစ်တလာသည်ဩစတြီးယား

အဓိပတိအား ရာဇသံများတခုပြီးတခုပေးပို့လျက် ခြိမ်းခြောက်လေသည်။ မတ်လ ၁၂ ရက်နေ့တွင် ဂျာမန်စစ်တပ်များသည် ဩစတြီးယားသို့ချီတက်သိမ်းပိုက်လေသည်။

ဩစတြီးယားကိုသိမ်းပိုက်ပြီးနောက် နာဇီရန်စွယ်သည် ချက်ကိုဆလိုဗားကီးယားဖက်သို့ ဦးလှည့်ပြန်သည်။ ဟစ်တလာသည် ချက်နိုင်ငံကိုသိမ်းပိုက်ရန် အကြောင်းအမျိုးမျိုးရှာဖွေ၍ ရန်စနေလေသည်။ ဗြိတိသျှဝန်ကြီးချုပ် ချိန်ဗာလိန်သည် သုံးကြိမ်တိုင်တိုင် ဟစ်တလာနှင့်စေ့စပ်ဆွေးနွေးသည်။ ပြင်သစ်နှင့်အင်္ဂလိပ်တို့သည် ဟစ်တလာ၏အလိုသို့ လိုက်လျောနိုင်သလောက်လိုက်လျောကြသည်။ သို့ရာတွင်ဟစ်တလာကားမကျေနပ်ချေ။ ၁၉၃၈ ခု စက်တင်ဘာလတွင် ဗြိတိသျှဝန်ကြီးချုပ် ချိန်ဗာလိန်၊ ပြင်သစ်ဝန်ကြီးချုပ် ဒါလာဒယေးနှင့် မူဆိုလီနီတို့သည် မျူးနစ်မြို့တွင် ဟစ်တလာနှင့်ဆွေးနွေးကြသည်။ ဤကားဟစ်တလာ၏အလိုသို့ နောက်ဆုံးလိုက်လျောခြင်းပင်ဖြစ်သည်။ ဟစ်တလာက နောက်ထပ်နယ်ပယ်မတောင်းတော့ပါဟု ကတိပြုသည်။ သို့ရာတွင် ၁၉၃၉ ခုနှစ်၌ဟစ်တလာသည် ပရာဟာမြို့တော်သို့ ချီတက်၍ ချက်တို့၏လွတ်လပ်ရေးကို ချေမှုန်းလိုက်သည်။

### ဒုတိယကမ္ဘာစစ်ကြီးစချေပြီ

ချက်ကိုဆလိုဗားကီးယားကို သိမ်းပိုက်ပြီးနောက် နာဇီတပ်ဦးသည် ပိုလန်ဖက်သို့လှည့်သွားသည်။ သို့ရာတွင် ဂျာမန်တို့သည် ချက်ခြင်းဝင်ရောက်မတိုက်ခိုက်သေးချေ။ ဗြိတိန်နှင့်ပြင်သစ်တို့ကလည်း ပိုလန်ကိုဟစ်တလာတိုက်လျှင် ပိုလန်ဖက်မှဝင်ရောက်ကူညီမည်ဟု ကတိပေးထားကြသည်။ ထိုအတောအတွင်း ဂျာမနီသည် ဆိုဗီယက်ရုရှားနှင့်မကျူးကျော်ရေးစာချုပ် ချုပ်ဆိုလိုက်ပြီးနောက်၊ ၁၉၃၉ ခု စက်တင်ဘာလ ၁ ရက်နေ့တွင် ပိုလန်ကိုရုတ်တရက် ဝင်ရောက်တိုက်ခိုက်လေသည်။ ထိုနောက်နှစ်ရက်အကြာတွင် ဗြိတိန်နှင့်ပြင်သစ်တို့သည် ဂျာမနီအားစစ်ကြေညာလေသည်။ ဤသို့ဖြင့်ဒုတိယကမ္ဘာစစ်ကြီး စတင်ဖြစ်ပွားလေ၏။

**ပိုလန်တိုက်ပွဲ။** ။နာဇီတို့၏စစ်စက်ယန္တရားကို ပိုလန်တိုက်ပွဲတွင်ကောင်းစွာတွေ့မြင်ရပေသည်။ လျှပ်တပြက်စစ်ဆင်နည်း၏ ခရီးရောက်ပုံကိုလည်း ပိုလန်သိမ်းပွဲတွင်ရှေးဦးစွာတွေ့မြင်ရသည်။ ပိုလန်လေယာဉ်ပျံကွင်းများ၊ မီးရထားလမ်းအချက်အခြာများကို အပြင်းအထန်ဗုံးကြဲဖျက်ဆီးကြသည်။ နာဇီတို့၏စစ်ချီစစ်တက်ပုံများကား အံ့ဩဖွယ်ရာကောင်းအောင် လျင်မြန်လှပေသည်။ စက်တင်ဘာလ ၇



ဂျာမန်တို့လက်ချက်ကြောင့်ပျက်စီးဆုံးပါးခဲ့ရသောပိုလန်နိုင်ငံဝါဆောမြို့တစိတ်တဒေသ



ဂျာမနီနိုင်ငံ၊ ဟန်နိုဗာမြို့ရှိ ရေနံချက်ရုံနှင့် အရေးပါသောနေရာအချို့ကို အမေရိကန်လေတပ်မှ ဗီ–၁၇ နှင့် ဗီ–၂၄ ဗုံးကြဲလေယာဉ်ပျံတို့ သွားရောက်ဗုံးကြဲတိုက်ခိုက်ပြီးနောက်မီးစွဲလောင်နေစဉ်

ရက်နေ့တွင် ဂျာမန်များသည် ဝါဆောမြို့တော်၏ ဆင်ခြေဖုံးအထိ ရောက်လာကြသည်။ စက်တင်ဘာလ ၁၀ ရက်နေ့တွင် ပိုလန်စစ်တပ်များ ဖရိုဖရဲဖြစ်ပြီးလျှင် ၁၂ ရက်နေ့တွင်ဂျာမန်တပ်များက ပိုလန်အနောက်ပိုင်းကို သိမ်းပိုက်ကြသည်။ စက်တင်ဘာလ ၁၇ ရက်နေ့တွင် ရုရှားတပ်များက ပိုလန်အရှေ့ပိုင်းကို ဝင်ရောက်သိမ်းပိုက်ကြ၏။

၁၉၃၉ ခု စက်တင်ဘာလ ၂၉ ရက်နေ့တွင် ဂျာမနီနှင့် ရုရှားသည် မော်စကိုမြို့တော်၌ စာချုပ် ချုပ်ဆိုပြီးလျှင် ပိုလန်ကိုခွဲဝေယူကြသည်။ လူဦးရေသန်းပေါင်း ၂၀ ရှိ၍ စက်မှုလက်မှုဗဟိုဌာနအများပါဝင်သော ပိုလန် အနောက်ပိုင်းကို ဂျာမနီကယူသည်။ လူဦးရေ ၁၄ သန်းရှိ၍ရေနံထွက်သောအရှေ့ပိုင်းကို ရုရှားကရရှိသည်။ ယင်းသို့ဖြင့် ပိုလန်နိုင်ငံသည် နိုင်ငံကြီးနှစ်ခုမတရားသိမ်းပိုက်ခြင်းကို ခံလိုက်ရလေသည်။

**အနောက်ဖက် စစ်မျက်နှာ။** ။ပိုလန်သည် ဂျာမန်နှင့် ရုရှား စစ်တပ်များ၏ ချေမှုန်းဖျက်ဆီးခြင်းကို ခံနေရစဉ် အနောက်ဖက်စစ်မျက်နှာ၌ စစ်အခြေအနေမှာ ရှေ့မတိုးနောက်မဆုတ်ဖြစ်နေသည်။ ပြင်သစ်တပ်များသည် မက်ဂျီးနိုးခံတပ်နောက်တွင်၎င်း၊ ဂျာမန်တပ်များသည် ဆီးဖရစ်ခံတပ်နောက်တွင်၎င်း၊ လပေါင်းများစွာ စစ်မဆင်ဘဲစောင့်ဆိုင်းနေကြသည်။ တခါတရံကင်းလှည့်တပ်များ တိုက်ခိုက်သည်မှလွဲ၍ကြီးကျယ်သောတိုက်ပွဲများမဖြစ်ပွားသေးချေ။

ကြည်း တပ်များ ငြိမ် သက် နေ သော် လည်း၊ ရေတပ်နှင့် လေတပ်များကား အတော်အသင့် လှုပ်ရှား လျက်ရှိသည်။ စစ်ဖြစ်သည်နှင့်တပြိုင်နက် ဂျာမန်လေတပ်သည် အင်္ဂလန်နှင့်ပြင်သစ်မြို့ကြီးများကို ဗုံးကြဲတိုက်ခိုက်လိမ့်မည်ဟု စိုးရိမ်ခဲ့ကြသော်လည်း ဂျာမန်လေတပ်မှာ ထိုအချိန်အထိထူးဆန်းစွာငြိမ်သက်နေ သည်။ ဗြိတိသျှ အာအေအက် (ဗ) ခေါ် ဘုရင့်လေတပ်မတော်ကသာ ဂျာမန်ရေတပ်စခန်းဖြစ်သော ကီးသင်္ဘောဆိပ်မြို့ကို သွားရောက်ဗုံးကြဲတိုက်ခိုက်လေသည်။

စစ်ဖြစ်စလများတွင် ဗြိတိသျှတို့မှာအရေးကြီးသော စစ်သင်္ဘောနှစ်စင်း ဆုံးရှုံးရလေသည်။ ၁၉၃၉ ခုစက်တင်ဘာလ ၁၇ ရက်နေ့တွင် ကာရေးဂျီးယပ်အမည်ရှိ လေယာဉ်ပျံတင်သင်္ဘောမှာ အမြှုပ်ခံရသည်။ အောက်တိုဘာလ ၁၄ ရက်နေ့တွင် ရွိုင်ယယ်အုတ်အမည်ရှိသော သင်္ဘောသည် ဂျာမန်တို့၏တော်ပီဒိုထိမှန်၍ နစ်မြုပ်သွားလေသည်။ ဗြိတိသျှတို့ကလည်း ဒီဇင်ဘာလတွင် ဂျာမန်ခါးပိုက်ဆောင်စစ်သင်္ဘော ဂရပ်စပီးကို အုရုဂွေးနိုင်ငံ မွန်တီဗစ်ဒီအိုမြို့အလွန်၌ ပိတ်မိလေသည်။ ဂျာမန်စစ်သင်္ဘော၏ ကပ္ပိတန်သည် လက်နက်ချအညံ့မခံဘဲ သင်္ဘောကိုဖေါက်၍ နှစ်မြှုပ်လိုက်၏။

**ဆိုဗီယက် – ဖင်လန်စစ်ပွဲ။** ။အနောက်ဖက်စစ်မျက်နှာတွင် ပြင်းထန်သောတိုက်ပွဲများ မဖြစ်သေးဘဲ ငြိမ်သက်နေစဉ် ကမ္ဘာတဝှန်းလုံးသည် ဆိုဗီယက်ရုရှားဆီသို့ အာရုံစူးစိုက်လျက်ရှိကြသည်။ ဆိုဗီယက်တို့သည် ဂျာမန်တို့နှင့် မကျူးကျော်ရေးစာချုပ် ချုပ်ဆို၍ အနားယူကာ မိမိတို့၏ ကာကွယ်ရေးအင်အား ခိုင်လုံတောင့်တင်းအောင် အချိန်ယူလျက်ရှိသည်မှာ ထင်ရှားသည်။ ပိုလန်အရှေ့ပိုင်းကိုသိမ်းယူပြီးသည့်နောက်၊ ဆိုဗီယက်ရုရှားသည် အက်စတိုးနီးယား၊ လတ်ဗီးယား၊ လစ်သွေးနီးယားအစရှိသော ဗောလတစ်နိုင်ငံများနှင့် စာချုပ်ကာ ထိုနိုင်ငံများတွင် ဆိုဗီယက်ကြည်းတပ်၊ ရေတပ်၊လေတပ်စခန်းများ ပြုလုပ်ထားလေသည်။ ဖင်လန်နိုင်ငံနှင့်လည်း အထက်ပါစာချုပ်မျိုးပြုရန်အတွက် ဖင်လန်အစိုးရနှင့် စေ့စပ်ပြောဆိုရာ ဖင်လန်က သဘောမတူသဖြင့် ရုရှားနှင့်ဖင်လန်တို့၏ဆက်ဆံရေးမှာ အခြေအနေဆိုးလာလေသည်။ ထိုနှစ်နိုဝင်ဘာလ ၂၈ ရက်နေ့တွင် ယခင်က ချုပ်ဆိုခဲ့သော ဆိုဗီယက် နှင့် ဖင်လန် မကျူးကျော်ရေးစာချုပ်မှာ ပျက်သွားပြီဟု ရုရှားက ကြေညာလေသည်။ နောက်နှစ်ရက်ကြာသောအခါ ဆိုဗီယက်ရုရှားသည် ဖင်လန်ကိုစစ်သုံးကြောင်းခွဲ၍ စတင်တိုက်ခိုက်သည်။

ပဌမတွင် ဖင်လန်တပ်များ၏ အပြင်းအထန်ခုခံတိုက်ခိုက်မှုကြောင့် ဆိုဗီယက်တပ်များမှာ ထင်သလောက် ခရီးမရောက်ကြချေ။ သို့ရာတွင် ရက်အတော်ကြာတိုက်မိသောအခါတွင် အင်အားချင်း မမျှသဖြင့် ဖင်လန်တပ်များမှာ တဖြည်းဖြည်းအရေးနိမ့်လာသည်။ ဗြိတိန်နှင့်ပြင်သစ်နိုင်ငံများက ဖင်လန်အား စစ်ကူပေးမည်ဟုဆိုသော်လည်း၊ ယင်းအကူအညီများ ရသည်အထိ ဖင်လန်စစ်တပ်များသည် ရန်သူကိုခုခံလျက်မနေနိုင်ကြတော့ချေ။ သို့ဖြစ်ရာ ၁၉၄၀ ပြည့်နှစ်မတ်လ ၁၃ ရက်နေ့တွင် ဆိုဗီယက်–ဖင်လန်စစ်ပြေငြိမ်းစာချုပ်ကိုချုပ်ဆိုကြသည်။ ယင်းစာချုပ်အရ ဆိုဗီယက်ပြည်ထောင်စုသည် မူလတောင်းဆိုချက်များအပြင် အခြားသောအခွင့်အရေးများကိုလည်းရလိုက်သည်။

**နော်ဝေး နှင့် ဒိန်းမတ်။** ။ဆိုဗီယက် – ဖင်လန် စစ်ပြီး ဆုံးခါနီးတွင် ယခင်ကငြိမ်သက်နေခဲ့သော အနောက်ဖက်စစ်မျက်နှာမှာ ရုတ်တရက်လှုပ်ရှားလာသည်။ အထူးသဖြင့် နော်ဝေးနိုင်ငံတဝိုက်တွင် ပိုမိုလှုပ်ရှား လာ၏။ နော်ဝေးနိုင်ငံမှာ မည်သည့်ဖက်ကမျှမပါသော ကြားနေနိုင်ငံဖြစ်သည်။ ပြည် ထောင် ချင်း ချင်းဥပဒေအရ နော်ဝေးကမ်းခြေမှ သုံးမိုင်အတွင်း၌ မည်သည့်စစ်ဆင်မှုမျှ ပြုလုပ်ခွင့်မရချေ။ သို့ရာတွင် ဂျာမန်တို့သည်ပြည်ထောင်ချင်းချင်းဥပဒေကိုဖေါက်ဖျက်၍ နော်ဝေးသင်္ဘောဆိပ်ဖြစ်သော နားဗစ်မြို့မှသံများကိုသယ်ယူလျက်ရှိသည်။ ထိုအခါဗြိတိသျှတို့သည်ကြည့်မနေသာတော့ဘဲ နော်ဝေးရေလက်ကြားကိုပိတ်ဆို့ရလိမ့်မည် ဟုသတိပေး လိုက်၏။ ဂျာမန် တို့လည်း ထို



အာဖရိကမြောက်ပိုင်းဂျာမန်သုံ့ပန်းစခန်းတွင် မဟာမိတ်စစ်အကျဉ်းသားများကိုဤသို့တွေ့မြင်ရ၏။

အချက်ကိုအကြောင်းပြု၍ ၁၉၄၀ ပြည့်နှစ်ဧပြီလ ၉ ရက်နေ့တွင် နော်ဝေးကိုဝင်ရောက်တိုက်ခိုက်သည်။ နာဇီပဉ္စမံတပ်သားများသည်လည်း နော်ဝေးနိုင်ငံတွင်းမှ နေ၍ မမှန်သတင်းလွှင့်ကာ လှုံ့ဆော်ပေးသည်။ ထိုနေ့မှာပင်အော့စလိုမြို့တော်နှင့် နားဗစ်ဆိပ်ကမ်းမြို့များမှာ နာဇီတို့လက်တွင်းသို့ကျဆုံးရလေသည်။

နော်ဝေးကိုသိမ်းပိုက်သည့်နေ့မှာပင် ဂျာမန်တို့သည်ဒိန်းမတ်ကိုသိမ်းယူကြသည်။ အခုအခံဟူ၍လုံးဝမရှိချေ။ ဒိန်းမတ်အစိုးရမှာ မပြောင်းမလဲ နဂိုအတိုင်းပင် တည်ရှိသော်လည်း၊ စင်စစ် အားဖြင့် ဂျာမန်စစ်တပ်က အုပ်ချုပ်နေလေသည်။ ဒိန်းမတ်နိုင်ငံတွင် အရေးကြီး၍ ကမ္ဘာကျော်ဖြစ်သောနို့ထွက်ပစ္စည်းလုပ်ငန်းများကိုလည်း ဂျာမန်တို့သိမ်းယူကြသည်။

ဒိန်းမတ်နိုင်ငံကလေးကို ဂျာမန်တို့သိမ်းပိုက်နိုင်သော်လည်း၊ အတ္တလန္တိတ်သမုဒ္ဒရာမြောက်ပိုင်းရှိ ဒိန်းမတ်ပိုင်နယ်များကိုကား မသိမ်းပိုက်နိုင်ကြချေ။ ဖဲရိုးကျွန်းများကိုစောင့်ရှောက်ထားသည့် အိုက်စလန်ကျွန်းကို ဗြိတိန်ကသိမ်းယူထားသည်။ ဂရင်းလန်းကျွန်းကို အမေရိကန်ပြည်ထောင်စုအစိုးရက ထိန်းသိမ်းထားလေသည်။

**မဟာမိတ်တို့၏ အဆုံးအရှုံးများ။** ။ဂျာမန်လက်တွင်းသို့နော်ဝေးနိုင်ငံ ကျဆုံးသွားရခြင်းသည် မဟာမိတ်နိုင်ငံများအဖို့ ကြီးစွာသောဆုံးရှုံးခြင်းပင်ဖြစ်လေသည်။ အင်အားကြီးမားသောဗြိတိသျှရေတပ်ကြီးကိုကျော်လွန်၍ ဂျာမန်များ နော်ဝေးကို မသိမ်းပိုက်နိုင်ဟု ယူဆခဲ့ကြသည်မှာ မဟာမိတ်တို့၏အမှားကြီးတရပ်ဖြစ်သည်။ နော်ဝေးနိုင်ငံကိုလက်လွှတ်ရပြီးနောက် မဟာမိတ်တို့သည် ဆက်ကာဆက်ကာ အရေးနိမ့်လျက်ရှိသည်။ ၁၉၄၀ ပြည့်နှစ်မေလ ၁၀ ရက်နေ့တွင် ဂျာမန်များက နယ်သာလန်နိုင်ငံကိုတိုက်ခိုက်လေသည်။ မဟာမိတ်တို့၏အခြေခံသေနင်္ဗျူဟာမှာ တနေရာတည်းမှခုခံကာကွယ်ခြင်းပင်ဖြစ်သည်။ သူတို့သည် ခိုင်မာသောခံတပ်များ၏နောက်မှနေ၍ ရန်သူ၏အတိုက်ကိုစောင့်နေလေ့ရှိကြသည်။ သို့ဖြစ်ရာ မည်သည့်အချိန်၌မည်သည့်နေရာကို မည်သို့တိုက်မည်ဟူသောစီစဉ်မှုများကို ဂျာမန်တို့က လွတ်လပ်စွာ ရွေးဆောင် အသုံးချလျက်ရှိ၏။

ဂျာမန်တပ်များသည် ဗဲလဂျီယမ်နှင့် ဟော်လန်သို့ ဝင်သောအခါ မဟာမိတ် စစ်ခေါင်းဆောင်များသည် ဗဲလဂျီယမ်ဘုရင်လီယိုပို၏ တောင်းပန်ချက်အရ တပ်မကြီး ၂၅ ခုကို ဗဲလဂျီယမ်သို့ ပို့ထားလိုက်သည်။ တချိန်တည်းမှာပင်

ပြင်သစ်တပ်မဟာများကို မက်ဇီးနိုးခံတပ်နောက်တွင် ဂျာမန်တို့ထိုးစစ်ကို စောင့်ဆိုင်းခုခံရန် ထားရှိလေသည်။ သို့ရာတွင် ဂျာမန်များက ခြေလှမ်းတမျိုးလှမ်းကြသည်။ ဗဲလဂျီယမ်နိုင်ငံတွင်းသို့ စဝင်သည့်နေ့မှာပင် ဗဲလဂျီယမ်ကာကွယ်ရေး၌ သော့ချက်ဖြစ်သော ဖို့အေဗင်အေးမားကို ဂျာမန်တို့သိမ်းယူလေသည်။ ဂျာမန်လေထီးတပ်သားများသည် ဟော်လန်နိုင်ငံ၏ အရေးကြီးသော လေဆိပ်အားလုံးကို သိမ်းယူ၍။ ပဥ္စမံတပ်သားများ၏အကူအညီဖြင့် ဒပ်ချတို့၏ခုခံရေးအင်အားကို အတွင်းမှနေ၍ဖြိုခွဲလေသည်။ လေးရက်အတွင်းတွင် ဂျာမန်တို့သည် ဟော်လန်တနိုင်ငံလုံးကိုသိမ်းပိုက်မိကြသည်။ ၁၉၄၀ ပြည့်နှစ်မေလ ၁၄ ရက်နေ့တွင် ဒပ်ချစစ်တပ်များလက်နက်ချ၍ အညံ့ခံကြရလေသည်။

ဖို့အေဗင်အေးမားကျဆုံးပြီးနောက် ဗဲလဂျီယမ်၏အခြေအနေမှာ စိုးရိမ်ဖွယ်ရာဖြစ်လာသည်။ ဂျာမန်တပ်စုများသည် ဗရပ်ဆဲမြို့နှင့် အန့်တွပ်မြို့များဆီသို့လိုမ့်ဆင်းခဲ့၍မေလ ၁၄ ရက်နှင့် ၁၈ ရက်နေ့များတွင် ထိုမြို့နှစ်မြို့မှာ ဂျာမန်တို့လက်အောက်သို့ ကျရောက်သွားသည်။

တောင်ဖက်ပိုင်း မျူးစမြစ် ခံတပ်ကြောင်းတွင် ဂျာမန်များသည် သံချပ်ကာစစ်ကားများ လေယာဉ်ပျံများ၏အကူအညီဖြင့် ဆီဒန်မြို့မှနေ၍ ပြင်သစ်မြောက်ပိုင်းသို့ထိုးဝင်လေသည်။ မက်ဇီးနိုးခံတပ်မှာထင်သလောက်အားမကိုးရတော့ချေ။ ထိုနောက်ဂျာမန်များသည် အင်္ဂလိပ်ရေလက်ကြားကြီးဆီသို့ချီတက်သည်။ မဟာမိတ်တပ်များလည်း ဆုတ်ပေးရလေသည်။ ၁၉၄၀ ပြည့်နှစ်မေလ ၂၈ ရက်နေ့တွင် လီယိုပိုဘုရင်သည်လက်နက်ချ၍အညံ့ခံလေသည်။

**ဒန်းကတ်မှ ဆုတ်ရခြင်း။** ။ဗဲလဂျီယမ် ကျပြီးနောက် ဂျာမန်တပ်များသည် ဒန်းကတ်မြို့ကိုဝိုင်းကြပြန်သည်။ အင်္ဂလိပ်တို့လည်း ဂျာမန်များကိုခုခံရန် တပ်တတပ်ကိုထားခဲ့ပြီးနောက်၊ ဒန်းကတ်မှ အပြင်းဆုတ်ခွာကြရသည်။ မေလ ၂၉ ရက်မှ ဇွန်လ ၄ ရက်နေ့တိုင် နေ့ရောညပါရနိုင်သမျှသင်္ဘောအမျိုးမျိုးဖြင့် စစ်တပ်များကို အင်္ဂလန်ကမ်းခြေသို့ပြန်ပို့ရသည်။ ဗုံးမိုးကျည်ဆန်မိုး မစဲဘဲပစ်ခတ်နေသည့်အထဲမှဗြိတိသျှနှင့်ပြင်သစ်စစ်သား ၃၃၅,၀၀၀ ခန့်ကိုသင်္ဘောတထောင်ခန့်ဖြင့်ရေလက်ကြားကိုဖြတ်၍ အောင်မြင်စွာဆုတ်ခွာနိုင်ခဲ့လေသည်။ စစ်အသုံးအဆောင်အားလုံးကိုကားလက်လွှတ်ခဲ့ကြရသည်။

**ပြင်သစ်ကို နာဇီမျိုခြင်း။** ။ဗြိတိသျှတပ်များ ဒန်းကတ်မှ အပန်းတကြီး ဆုတ်ခွာလာရပြီးသည့်နောက်တွင်၊



လေယာဉ်ပစ်အမြောက်ကိုဖုံးအုပ်ကာကွယ်ကာ ရန်သူကိုအသင့်စောင့်နေစဉ်



စစ်မြေပြင်တွင်အမြန်ဆုံးတပ်စွဲနိုင်ရန် စစ်သားများ ကို လေကြောင်းဖြင့်သယ်၍ ကောင်းက
မှလေထီးဖြင့်ချပေးနေစဉ်

ဗြိတိသျှ တမျိုး လုံး ၏ စိတ် ဓါတ် မှာ ယခင်ကထက် တိုး ၍ လှုပ် ရှား တက် ကြွ လာ လေ သည်။ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာချာချီကလည်း တိုင်းသူပြည်သားများအား စိတ်ဓါတ်မပျက်ပြားရန် ဩဝါဒစကားပြောကြား သည်။ သို့ရာတွင်ပြင်သစ်အစိုးရ၏ စိတ်ဓါတ်ကား ပျက်ပြား လျက် ရှိ လေပြီ။ ဂျာမန် တို့ မလာရောက်မီကပင် အညံ့ခံအရှုံးပေးလိုသော စိတ်မှာ ပြင်သစ်တို့၏ကိုယ်တွင် ကိန်းအောင်း လျက် ရှိ ခဲ့ သည်။ ဂျာမန် ဖက်တော်သားဖြစ်သော ပြင်သစ်အစိုးရပိုင်းမှခေါင်းဆောင်များကလည်း အရှုံးပေးလိုကြသည်။ ပြည်သူလူထုကြီးမှာ တရှုံးတည်း ရှုံး နေသဖြင့် စိတ်ပျက်အား ငယ် ကာ မည်သူ့ကို အားကိုး ရမှန်း မသိရှာကြတော့ချေ။ စိတ်ဓါတ် ပျက်ပြားနေပြီဖြစ်သောပြင်သစ်တပ်များကို ပြန်လည်စည်းရုံးမိအောင် ဗိုလ်ချုပ်မက်ဇင်း ဝေးဂန်းကကြိုးစားသေးသည်။ သို့သော်လည်း ဂျာမန်ယန္တရား တပ် များ ၏ ဒဏ် ကို မတွန်း လှန် နိုင်ချေ။ ဂျာမန်တို့သည်စိန်းမြစ်ကမ်းထိရောက်လာကြ သည်။ ထိုကဲ့သို့အရေးကြီးသည့် အချိန် တွင် ဣတလီသည် စစ်ထဲသို့ ဝင်ရောက် လာပြီးလျှင် ပြင်သစ်၏ နောက် ကျောကိုထား နှင့် ထိုးလေ သည်။ ၁၉၄၀ ပြည့် နှစ် ဇွန်လ ၁၀ ရက်နေ့ တွင် မူဆိုလီနီက ပြင်သစ်အားစစ်ကျေညာ၍ တိုက် ခိုက် သည်။ ဇွန် လ ၁၄ ရက်နေ့တွင် ပြင်သစ်တို့သည် ပါရစ်မြို့တော်မှ ဆုတ်သွားသဖြင့် ဂျာမန် တို့ လည်း မပင် မပန်း ဘဲ ပါ ရစ် မြို့ ကို သိမ်း ပိုက် နိုင် ကြသည် ။

ပြင်သစ်အစိုးရသည် ဗောဒိုးသို့ပြောင်းရွှေသွားရသည်။ ဝန်ကြီးချုပ် ရေးနိုးနုတ်ထွက် ၍ မာရှယ် ပေတန်းတက် လာ သည်။ ပေတန်းသည် အင်္ဂလန်–ပြင်သစ်စာချုပ်ကိုဖေါက်ဖျက်ကာ ဂျာမန်နှင့်စစ်ပြေငြိမ်းရန်စေ့စပ်သည်။ ပေတန်းသည် ဂျာမန်တို့၏တောင်းဆိုချက် များကို လိုက်လျောကာ ၁၉၄၀ ပြည့်နှစ်ဇွန်လ ၂၅ ရက်နေ့တွင် ဂျာမနီနှင့်စစ်ပြေငြိမ်းလိုက်သည်။ ဤသို့ဖြင့် ဥရောပတိုက်တွင်လက်နက်နိုင်ငံကြီးတခုဖြစ်သော ပြင်သစ်သည် ရက်သတ္တပတ်အနည်းငယ်အတွင်း နာဇီတို့၏ လက် တွင်း သို့ လုံး ဝ သက်ဆင်း သွားရ လေသည်။

ပြင်သစ်တို့ စစ်ရှုံးရသည့်အကြောင်းများကို စိစစ်ရှာဖွေသည်ရှိသော်၊ အဓိကအချက်ကြီးသုံးခုကိုတွေ့ရသည်။ ပဌမအချက်မှာ ပြင်သစ်စစ် ခေါင်းဆောင် များသည် မက်ဇီးနိုး ခံတပ် ကြီးတခုကိုသာ အားကိုး လျက် ထိုးစစ် ဆင် ရန် စိတ်မကူးဘဲ နာဇီတို့၏အတိုက်ကိုသာ ခုခံရန်စောင့်ဆိုင်းနေကြသည်။ စစ်ပရိယာယ်တွင်၎င်း၊ လက်နက်တွင်၎င်း၊ ယန္တရားစစ်အတွက်ပြင်ဆင်ခြင်းမပြုလုပ်ကြချေ။ ဒုတိယအရေးကြီးသောအချက်မှာ ပြင်သစ်တို့တွင် အမျိုးသားစည်းလုံးမှုမရှိခြင်း ပင် ဖြစ် သည်။ လူထုက အစိုးရအား အယုံအကြည်မရှိသကဲ့သို့ပင် အစိုးရကလည်း လူထုအပေါ် တွင် ယုံကြည်အားထားခြင်းမရှိချေ။ နိုင်ငံရေးပါတီများကလည်း ရန်သူကိုတိုက် မည့် အစား အချင်း ချင်း သာလျှင် တိုက် ခိုက် နေကြသည်။ လူထု၏စိတ်ဓါတ်မှာလည်း ပျက်ပြားလျက်ရှိလေ သည်။ နာဇီတို့ တနိုင်ငံပြီးတနိုင်ငံ အောင်နိုင်သည်ကိုတွေ့ရသောအခါ၊ ပြင်သစ်များမှာ အလိုအလျောက်ကြောက်စိတ် ဝင် ကာ ခုခံ လို သောဆန္ဒ လုံး ဝ မရှိကြတော့ချေ ။ တတိယအချက်မှာကား ပြင်သစ် အစိုးရပိုင်းနှင့် သတင်း စာ

လောကတွင် လာဘ်စားမှု၊ သစ္စာဖေါက်မှု၊ ညစ်ပတ်မှုများ ရှိနေခြင်းပင်ဖြစ်လေသည်။ အချို့သောခေါင်းဆောင်များသည် ပြင်သစ်သမတနိုင်ငံကြီးအား ဖက်ဆစ်နိုင်ငံအဖြစ်သို့ ပြောင်းလဲလိုကြသည်။

ပြင်သစ်ကို သိမ်းပိုက်နိုင်ခြင်းမှာ ဂျာမန်တို့အဖို့ကြီးစွာသောအကျိုးကျေးဇူးကိုဖြစ်စေသည်။ ပြင်သစ်ကိုသိမ်းပိုက်ထားရသည့်အတွက် သိမ်းပိုက်ကြေးကို ပြင်သစ်တို့ကပေးရသည်။ ပြင်သစ်နိုင်ငံတဝက်နီးပါးကို ဂျာမန်ကသိမ်းပိုက်ထားရသည်။ ဂျာမန်စစ်တပ်များကို ပြင်သစ်တို့ကထောက်ပံ့ထားရသည်။ ဥရောပတိုက်အနောက်ကမ်းခြေကို ဂျာမန်တို့ကအုပ်ချုပ်ထားလေသည်။

ပြင်သစ်၊ ဗဲလဂျီယမ်နှင့်ဟော်လန်နိုင်ငံများကို တခုပြီးတခုသိမ်းပိုက်လိုက်သဖြင့် ဂျာမန်စစ်တပ်များအား မည်သည့်နိုင်ငံကမျှ နိုင်အောင်တိုက်နိုင်လိမ့်မည်မဟုတ်ဟုထင်ကြသည်။ ပေတန်းအစိုးရသည် ဗီရှီမြို့သို့ရွှေပြောင်း၍ ရုံးစိုက်လေသည်။ သို့ရာတွင် ဟစ်တလာ၏သဘောတူညီချက်အရသာ ပေတန်းအစိုးရတည်မြဲနေခြင်းဖြစ်သည်။ ပြင်သစ်စစ်ခေါင်းဆောင်တဦးဖြစ်သော ဗိုလ်ချုပ်ဒီဂေါမှာ ဂျာမန်လက်အောက်သို့မဝင်ဘဲ၊ အင်္ဂလန်တွင်ခိုလှုံနေယင်း အင်အားစုဆောင်းလျက်ရှိလေသည်။



ပြင်သစ်နိုင်ငံအလုံးကိုတိုက်ခိုက် သိမ်းပိုက်ပြီးနောက် ဂျာမန်စစ်သားများပါရစ်မြို့တော်တွင်းသို့ချီတက် ဝင်ရောက်လာစဉ်

## ဗြိတိန်တိုက်ပွဲ

ဂျာမန်လက်အောက်သို့ ပြင်သစ်နိုင်ငံကြီးကျသွားရခြင်းသည် ကြားနေနိုင်ငံကြီးနှစ်နိုင်ငံဖြစ်သော အမေရိကန်ပြည်ထောင်စုနှင့် ဆိုဗီယက်ရုရှားကို များစွာထိခိုက်စေသည်။ စစ်ဖြစ်စတွင်အမေရိကန်ပြည်ထောင်စုသည် ကြားနေရေးဝါဒကို ကျပ်တည်းစွာလိုက်နာခဲ့သည်။ သို့ရာတွင် ပြင်သစ်နိုင်ငံကြီးကျဆုံးသွားသောအခါ ကြားနေရေးဝါဒကိုလိုက်မနေတော့ဘဲ၊ မိမိ၏စစ်အင်အားကိုတိုးချဲ့၍ မဟာမိတ်နိုင်ငံများအားအစွမ်းကုန်ကူညီရတော့သည်။ ၁၉၄၀ ပြည့်နှစ်စက်တင်ဘာလ ၂ ရက်နေ့တွင် ဗြိတိန်နှင့်အမေရိကန် နှစ်ပြည်ထောင်သဘောတူစာချုပ်ပြုလုပ်ကြသည်။ ထိုစာချုပ်အရ အမေရိကန်စစ်သင်္ဘောဟောင်း ၅၀ ကျော်ကိုဗြိတိန်ကရရှိ၍ ဗြိတိသျှပိုင်ကျွန်းများပေါ်တွင် အမေရိကန်စစ်စခန်းများဆောက်လုပ်ခွင့်ပြုရသည်။

ဗြိတိန်လေကြောင်းတိုက်ပွဲ။ ။ဟစ်တလာသည် ပြင်သစ်ကိုသိမ်းပြီးနောက် နှစ်လခန့်အချိန်ယူ၍နေလေသည်။ ထိုအတောအတွင်း ဗြိတိသျှတို့သည် စစ်အတွက်ပြင်ဆင်မှုများကိုအပြင်းအထန်လုံးပန်းလေသည်။ ၁၉၄၀ ပြည့်နှစ်ဩဂုတ်လ ၁၂ ရက်နေ့တွင် ဂျာမန်လေတပ်သည် အင်္ဂလန်ရှိအချက်အခြာမြို့ကြီးများကို စတင်၍ အပြင်းအထန်ဗုံးကြဲလေသည်။ ဗြိတိန်တိုက်ပွဲကြီးကားစလေပြီ။ ဂျာမန်တို့သည် ရာပေါင်းများစွာသောလေယာဉ်ပျံဖြင့် တသုတ်ပြီးတသုတ် ဗြိတိသျှ



ဂျာမန်လေတပ်၏ဒဏ်ကို မရှုမလှခံလိုက်ရကာ များစွာပျက်စီး ဆုံးပါးခဲ့ရသော လန်ဒန်မြို့၏ရှုခင်းတခု

လေယာဉ်ပျံကွင်းများ၊ စက်ရုံများ၊ ခံတပ်များ၊ မြို့ကြီးများကို ဗုံးကြဲတိုက်ခိုက်ကြသည်။ သို့ရာတွင်ဗြိတိသျှတို့ကို အလွယ်တကူနှင့်မအောင်နိုင်ချေ။ ဗြိတိသျှလေတပ်ကလည်း မိမိထက်အရေအတွက်များသောဂျာမန်လေယာဉ်ပျံများကို အောင်မြင်စွာခုခံဖျက်ဆီးလေသည်။ သို့ရာတွင်ဂျာမန်လေတပ်က အဆက်မပြတ်ဗုံးကြဲလျက် ပင်ရှိသည်။ စက်တင်ဘာလ ၂ ရက်နေ့တွင် ဗြိတိန်နိုင်ငံကိုလာရောက်တိုက်ခိုက်သော ဂျာမန်လေယာဉ်ပျံပေါင်းမှာ ၆၅၀ ခန့်ရှိလေသည်။ ဗြိတိသျှလေတပ်ကလည်း ဂျာမန်လေယာဉ်ပျံ ၁၀ စင်းလျှင်တစင်းကိုပစ်ချနိုင်ခဲ့သည်။ ထိုနောက်တွင်ကား ဂျာမန်များသည် နေ့ရောညပါဗုံးကြဲတိုက်ခိုက်လေသည်။ စစ်ရေးစစ်ရာနှင့်ဆိုင်သောနေရာများကိုသာမက၊ စစ်နှင့်တိုက်ရိုက်မသက်ဆိုင်သော နေရာအများကိုလည်း ဗုံးကြဲဖျက်ဆီးလေသည်။ ၁၉၄၀ ပြည့်နှစ်စက်တင်ဘာလတိုက်ပွဲမှာ အပြင်းထန်ဆုံးဖြစ်သည်။ သို့ရာတွင်များစွာသောဂျာမန်လေယာဉ်ပျံတို့မှာ ဗြိတိသျှလေကြောင်းကာကွယ်ရေးထုထယ်ကြီးကို မထိုးဖေါက်နိုင်ကြချေ။ နောက်ဆုံးတွင်ဂျာမန်တို့သည် ဗြိတိန်အားလေကြောင်းမှအပြတ်အသတ်တိုက်ခိုက်ရန်အကြံကို လက်လျှော့လိုက်ကြရသည်။

ဗြိတိန် တိုက်ပွဲကိုဗြိတိသျှတို့က အောင်မြင်လိုက်ခြင်းမှာ အလွယ်တကူဖြင့်အောင်မြင်လိုက်သည်ဟူ၍ကား မထင်မှတ်သင့်ပေ။ ဤတိုက်ပွဲတွင်လန်ဒန်မြို့တော်နှင့်တကွ အခြားမြို့ကြီးများမှာ ဂျာမန်ဗုံးဒဏ်ကြောင့် မရှုမလှပျက်စီးခဲ့ရသည်။ ထောင်ပေါင်းများစွာသော အရပ်သူအရပ်သားများမှာလည်း သေကြေပျက်စီးကြရသည်။ မသေဆုံးသူများမှာလည်း ကိုယ်လက်အင်္ဂါချွတ်ယွင်းကြရသည်။ ဗြိတိသျှသားကောင်းရတနာဖြစ်သော လေကြောင်းသူရဲများမှာလည်း ကျဆုံးကြရလေသည်။

**ဝင်ရိုးတန်းနိုင်ငံများ။** ။ဗြိတိသျှတို့အား လေကြောင်းမှတိုက်ခိုက်ရန်အကြံကို လက်လျှော့ရပြီးနောက်၊ ဟစ်တလာသည် နောက်ထပ်အကြီးအကျယ် ထိုးစစ်ဆင်ရန် မကြိုးစားတော့ချေ။ တဖက်တွင် တနေ့တခြားအင်အားကြီးမား

လာသော ဆိုဗီယက်ရုရှားရန်ကို ဟစ်တလာသည်အထူး သတိထားနေရသည်။ ဆိုဗီယက်ရုရှားမှာ ထိုအချိန်အထိ ဟစ်တလာ၏မဟာမိတ်ဖြစ်နေသော်လည်း မူလကတည်းက နာဇီတို့အား မုန်းတီးသောစိတ်ကို ကြာရှည်စွာ လျှို့ဝှက်မထားနိုင်ကြချေ။ ထိုအချက်ကို ကောင်းစွာသိသော ဟစ်တလာသည် ရှေးဦးစွာဆိုဗီယက်ရုရှားကိုနှိမ်နင်းပြီး လျှင်၊ ဥရောပတိုက်တတိုက်လုံးကိုစိုးမိုးရန်ကြံရွယ်လေသည်။

၁၉၄၀ ပြည့်နှစ်စက်တင်ဘာလတွင် နာဇီများ၏ အားပေးကူညီမှုဖြင့် ရူမေးနီးယားတွင် တော်လှန်ရေးဖြစ်ပွားပြီးလျှင်၊ ကဲရောဘုရင်သည် ထီးနန်းစွန့်လွှတ်လိုက်ရသည်။ နောက်တလခန့်ကြာသောအခါ၊ ရူမေးနီးယားတနိုင်ငံလုံးကို ဂျာမန်တို့က သိမ်းပိုက်လိုက်လေသည်။ ဟန်ဂေရီနိုင်ငံမှာ ကား ဂျာမနီ၏သြဇာခံဖြစ်နေသည်။ ဟစ်တလာသည် ကြားနေနိုင်ငံကြီးနှစ်နိုင်ငံဖြစ်သော အမေရိကန်ပြည်ထောင်စုနှင့် ဆိုဗီယက်ရုရှားတို့၏အင်အားစုကို ဖြိုခွဲရန်အတွက်၊ ဣတလီ၊ ဂျပန်တို့နှင့်ပူးပေါင်းလေသည်။ ၁၉၄၀ ပြည့်နှစ်စက်တင်ဘာလ ၂၇ ရက်နေ့တွင် ဝင်ရိုးတန်းနိုင်ငံများဟူ၍ ပေါ်ပေါက်လေသည်။ ထိုနေ့တွင် ချုပ်ဆိုသောစာချုပ်အရ ဥရောပတိုက်တွင် ဂျာမနီနှင့်ဣတလီတို့၏ခေါင်းဆောင်မှုကို ဂျပန်က အသိအမှတ်ပြု၍ အာရှတွင် ဂျပန်၏ခေါင်းဆောင်မှုကို ဂျာမနီနှင့်ဣတလီတို့က အသိအမှတ်ပြုကြရသည်။ တနိုင်ငံအား ပြင်ပရန်သူများက တိုက်ခိုက်ခဲ့သော် တဦးကိုတဦးကူညီရန် သဘောတူညီကြသည်။ ဟစ်တလာသည်သူ၏ခေတ်သစ်ထူထောင်မှုလုပ်ငန်းစဉ်ထဲသို့ ဆိုဗီယက်ရုရှားအား ဆွဲသွင်းရန်ကြိုးစားသေးသည်။ ဤသို့ကြိုးစား၍ မအောင်မြင်သည့်အဆုံးတွင် ဆိုဗီယက်ရုရှားအားကျူးကျော်တိုက်ခိုက်ရန် စီစဉ်လေတော့သည်။ ဆိုဗီယက်ရုရှားကလည်းပြန်လည်ခုခံရန်ပြင်ဆင်နေလေသည်။

၁၉၃၉ ခုနှစ်က ဣတလီသည် အယ်လဗေးနီးယားပြည်နယ်ကလေးကိုသိမ်းခဲ့သည်။ တဖန် ၁၉၄၀ ပြည့်နှစ်တွင် ဂရိကိုတိုက်ခိုက်သည်။ သို့ရာတွင်ရှုတ်တရက်မအောင်မြင်ဘဲရှိသဖြင့် ဂျာမန်တို့၏အကူအညီကို တောင်းယူရသည်။ ဣတလီတပ်များသည် ဗြိတိသျှတို့၏လက်တွင် နှစ်ကြိမ်တိုင်တိုင်အကြီးအကျယ်ဆုံးရှုံးသည်။ အထူးသဖြင့် လစ်ဗျန်သဲကန္တာရတိုက်ပွဲမှာ ဣတလီတို့အဖို့အနစ်နာဆုံးတိုက်ပွဲဖြစ်၏။ ဗြိတိန်အားအမေရိကန်ကူရပြီ။ ။ဂရိနှင့်လစ်ဗီးယားတွင် ဣတလီတပ်များ အရေးရှုံးနိမ့်နေစဉ် အမေရိကန်ပြည်ထောင်စုသည် စစ်ထဲသို့ဝင်ရန်ခြေလှမ်းလျက်ရှိသည်။ ဗြိတိသျှတို့သည် စစ်ပစ္စည်းများကို အမေရိကန်ပြည်ထောင်စုမှ ဝယ်ယူလျက်ရှိရာ၊ ၁၉၄၀ ပြည့်နှစ်ကုန်လောက်တွင် ဒေါ်လာငွေများကုန်ခန်းသွားသဖြင့် အခက်အခဲနှင့်တွေ့ရလေသည်။

ဂျာမန်ယူဘုတ်ခေါ် ရေငုပ်သင်္ဘောများကလည်း မဟာမိတ်ကုန်သင်္ဘောများကို အစားမထိုးနိုင်လောက်အောင် နှစ်မြှုပ်လျက်ရှိသည်။ ယင်းအခက်အခဲကိုကျော်နင်းနိုင်ရန် အမေရိကန်သမ္မတ ရူးဇဗဲ့က နည်းလမ်းတခုကိုတီထွင်လိုက်၏။ ထိုနည်းလမ်းမှာ အမေရိကန်ပြည်ထောင်စုမှ စစ်ပစ္စည်းများကို ဗြိတိန်နိုင်ငံသို့ခေတ္တချေးငှါးထားပြီးလျှင် စစ်ပြီးသောအခါမှ အမေရိကန်ပြည်ထောင်စုသို့ ပြန်ပေးရန် ပင်ဖြစ်သည်။ ထိုအစီအစဉ်မှာ အလွန်ကောင်းသောကြောင့် ၁၉၄၁ ခုနှစ်တွင် အမေရိကန်လွှတ်တော်က အငှါးချအကြွေးပေးဥပဒေကြမ်းကို အတည်ပြုလိုက်သည်။ စစ်ပစ္စည်းများကိုသယ်ယူပို့ဆောင်ရာ၌ ဂျာမန်ရေငုပ်သင်္ဘောများ၏ရန်ကို ကာကွယ်ရန် သင်္ဘောများကိုအမေရိကန်ရေတပ်က ဥရောပတိုက်နှင့်အိုက်စလန်ကျွန်းအထိ အစောင့်အရှောက်နှင့်လိုက်ပို့ပေးသည်။

### အာဖရိကနှင့်အရှေ့အနီးပိုင်းနိုင်ငံများ

စစ်ဖြစ်စနှစ်များအတွင်း၌ အပြင်းထန်ဆုံးတိုက်ပွဲများမှာ ဥရောပတိုက်တွင်ဖြစ်ပွားလေသည်။ ဂျာမန်တို့မှာ အောင်ပွဲတပွဲပြီးတပွဲရလျက်ရှိရာ၊ ဂျာမန်စစ်မျက်နှာမှာလည်း ကျယ်ပြန့်သည်ထက်ကျယ်ပြန့်လာလေသည်။ ၁၉၄၀–၄၁ ခုနှစ်ဆောင်းရာသီတွင် တိုက်ပွဲများအကြီးအကျယ်မဖြစ်ပွားဘဲ ငြိမ်သက်နေသည်။ ထိုအတွင်းနိုင်ငံရေးပရိယာယ်များကို ပြင်ဆင်ယင်း၊ လာမည့်တိုက်ပွဲကြီးများအတွက် အားယူနေကြသည်။ ၁၉၄၁ ခုနှစ်နွေဦးပေါက်တွင် ငြိမ်သက်နေသောစစ်မျက်နှာမှာ ရုတ်တရက်လှုပ်ရှားလာသည်။ ဂျာမန်တို့သည် ဗော်လကန်ဒေသ၊ အာဖရိကနှင့်အရှေ့အနီးပိုင်းနိုင်ငံများတွင်ထိုးစစ်ဆင်လေသည်။

၁၉၄၁ ခုမတ်လ ၁ ရက်နေ့တွင် ဗူလဂေးရီးယားနိုင်ငံသည် ဝင်ရိုးတန်းနိုင်ငံများနှင့်ပူးပေါင်း၍ ဂျာမန်စစ်တပ်များကို ဝင်ခွင့်ပြုလေသည်။ ယူဂိုဆလားဗီးယားနိုင်ငံသည်လည်းဝင်ရိုးတန်းမဟာမိတ်အဖွဲ့ဝင်ဖြစ်သွားသည်။ ဂရိနိုင်ငံသည်လည်း ဂျာမန်တို့၏တိုက်ခိုက်ခြင်းကိုခံရသည်။ ယခင်က ဣတလီတပ်များအား အောင်မြင်စွာခုခံနိုင်ခဲ့သောဂရိတပ်များသည် အင်အားကြီးမားသော ဂျာမန်တပ်ကြီးများကိုမူ အရှုံးပေးရတော့သည်။ ယခုအခါတွင် ဂျာမနီသည်ဗော်လကန်တလျှောက်လုံးကို သိမ်းပိုက်မိပြီးဖြစ်ရာ၊ ဥရောပတတိုက်လုံးအားမိမိခြေဖဝါးအောက်တွင်ထားရှိကာ၊ ဆိုဗီယက်ရုရှားတဦးတည်းကိုသာ တိုက်ခိုက်ရန်ကျန်တော့သည်။

ဂျာမန်တပ်များက အောင်ပွဲတခုပြီးတခုခံယူနေကြသည့်အချိန်တွင် ဗြိတိသျှတပ်များမှာ နောက်သို့တဆုတ်တည်းဆုတ်နေကြရသဖြင့်၊ ဗြိတိသျှတို့၏ဂုဏ်သတင်းမှာ များစွာယုတ်လျော့နေသည်။ အာဖရိကတိုက်ပွဲများတွင် ဂျာမန်



**တိုက်ပွဲများအပြီးတွင်ပျက်စီး၍ကျန်ရစ်ခဲ့သောစစ်သုံးသံချပ်ကာကားနှင့်တင့်ကားများ**

တို့သည်ပွဲဦးထွက်အောင်ပွဲများရရှိကြပေသည်။ ဂျာမန်စစ်ဗိုလ်ချုပ်ကြီးရွမ်းမဲအုပ်ချုပ်သောတပ်များသည် လစ်ဗီးယားတွင်ထိုးစစ်ဆင်ကာ အီဂျစ်ဖက် သို့ ချီတက် လျက် ရှိ သည်။ ဗြိတိသျှတပ် များ သည် အီဂျစ် သို့ အပြင်းဆုတ်ခွာသွားပြီးလျှင်၊ တိုဗရွတ်မြို့သို့ရောက် သော အခါ ထို နေရာ မှ နေ၍ အပြင်း အထန် ခုခံ လေ သည်။ နောက် ဆုံး၌ အီဂျစ်နိုင်ငံ ဆိုလမ်မြို့တွင် ဂျာမန်တို့အား ကြံ့ကြံ့ခံလေသည်။ ဂျာမန်တပ်များလည်းရှေ့သို့မတိုးနိုင်တော့ချေ။

မေလတွင်ဂျာမန်တို့သည် မြေထဲပင်လယ်အတွင်းရှိ ကရိကျွန်းကို လေထီးတပ်သားများအသုံးပြုကာ အပြင်းအထန်တိုက် ခိုက် လေ သည်။ ဗြိတိသျှတို့ က စွမ်းအား ရှိသမျှခုခံပါသော်လည်း ဂျာမန်လေတပ်ဒဏ်ကိုမခံနိုင်ဘဲ ဆုတ်ပေးကြရသည်။ တိုက်ပွဲမှာအပြင်းထန်ဆုံးတိုက်ပွဲတရပ်ဖြစ်၏။ ယင်းတိုက်ပွဲတွင် ဂျာမန်တို့ဖက်မှလူ ၂၀,၀၀၀ ခန့်ဆုံးရှုံး၍၊ အင်္ဂလိပ်ဖက်မှ ၁၅,၀၀၀ ခန့်ဆုံးရှုံးသည်။ ကရိကျွန်းကျဆုံးရခြင်းမှာ ဗြိတိသျှတို့ အဖို့ ဆုံးရှုံး မှုကြီး တခုပင် ဖြစ် သည်။

အီရက်နိုင်ငံတွင် နာဇီတို့အကူအညီဖြင့် တော်လှန်ရေးဖြစ်ပွားပြီးလျှင် ဗြိတိသျှနှင့်အီရက်တို့တိုက်ခိုက်ကြသည်။ ပြင်သစ်ပိုင်ဆီးရီးယားပြည်တွင်လည်း ဂျာမန်တို့ကခြိမ်းခြောက်လျက်ရှိသည်။ ကရိကျွန်းကျသွားပြီးနောက် ဗြိတိသျှတို့သည်ဂျာမန်တို့လက်မဦးခင်၊ ဆီးရီး ယား နှင့် လက်ဗနွန် ကို သိမ်းပိုက်လိုက်ကြသည်။

ဟစ်တလာသည် ဥရောပအရှေ့ပိုင်းသို့ စစ်မျက်နှာဖြန့်နေစဉ် သိမ်းပိုက်ထားပြီးသော ဥရောပအနောက်ပိုင်းတွင်လည်း အခြေအနေခိုင်မြဲအောင် ကြိုးပမ်းလေသည်။ ဂျာမန်ဩဇာခံ ဗီရှီအစိုးရကလည်း ဟစ်တလာနှင့်ပူးပေါင်း၍ ဂျာမနီနှင့် ပြင်သစ် နှစ်နိုင်ငံ ပူးပေါင်းဆောင်ရွက်ရေးအတွက် စည်းဝေးတိုင်ပင်ကာ အစီအစဉ်များပြုလုပ်လေသည်။

## နာဇီစစ်ဦးဆိုဗီယက်ရုရှားဖက်သို့လှည့်ပြီ

၁၉၃၉ ခုနှစ်မှစ၍ အတိအလင်းဖြစ်ပွားခဲ့သော ဒုတိယကမ္ဘာ စစ် သည် ယုတ် လျော့ သည် ဟူ၍ မရှိ ခဲ့ ဘဲ၊ တနေ့

တခြားကျယ်ပြန့်ကူးစက်လာသည်။ ၁၉၄၁ ခုနှစ်တွင် ဆိုဗီယက်ရုရှားစစ်ထဲသို့ဝင်ရောက်လာသည်။ ဤသို့ဝင်ရောက်လာရခြင်းမှာလည်း ဂျာမနီကစတင်တိုက်ခိုက်ခြင်းကြောင့်ပင်ဖြစ်သည်။ ဂျာမနီသည်အခြားနိုင်ငံများကို စိတ်ချလက်ချတိုက်ခိုက်ရန်အတွက်၊ ဆိုဗီယက်ရုရှား နှင့် မကျူးကျော်ရေးစာချုပ်ကို ပြုလုပ်ထားရသော်လည်း ဆိုဗီယက်၏အင်အားကို အမြဲတမ်းစိုးရိမ်လျက်နေခဲ့သည်။ ဗြိတိန်ကို အင်တိုက်အားတိုက် ဝင်ရောက်မတိုက်ခိုက်ခြင်းမှာလည်း၊ ဆိုဗီယက်ရုရှား၏ နောက်ပိုင်းရန်ကို စိတ်မချရသောကြောင့်ဖြစ်သည်။ သို့ဖြစ်ရာ ဥရောပတတိုက်လုံးအားအုပ်စီးမိသောအခါ၊ နာဇီတပ်ဦးသည် ဆိုဗီယက်ရုရှားဖက်သို့လှည့်လေသည်။ ၁၉၄၁ ခုဇွန်လ ၂၂ ရက်နေ့တွင် ဂျာမန်တပ်များသည် ဆိုဗီယက်ဂျာမန် မကျူးကျော်ရေးစာချုပ်ကိုဖေါက်ဖျက်ကာ၊ ဆိုဗီယက်ရုရှားကိုတိုက်ခိုက်လေတော့သည်။

ဂျာမန်တို့သည် အဓိကစစ်ကြောင်းကြီးသုံးကြောင်းခွဲ၍ ချီတက်သည်။ မြောက်ဖက်စစ်ကြောင်းမှာ ဗေါလတစ်နိုင်ငံများကိုဖြတ်၍၊ လီနင်ဂရက်မြို့တော်သို့ ဦးတိုက်လေသည်။ အလယ်စစ်ကြောင်းမှာ ဝိုက်ရပ်ရှားခေါ် ရုရှားဖြူနယ် ကို ဖြတ်၍ မော်စကိုမြို့တော် သို့ ဦးတည် လေသည်။ တောင် ဖက် စစ် ကြောင်းမှာ ယူကရိန်းနယ် နှင့် ကော်ကေးဆပ်နယ်သို့ ဦးလှည့်ထားသည်။ ဆိုဗီယက်တို့ကလည်း စစ်တပ်များကိုသုံးစုခွဲကာဂျာမန်တို့အားခုခံရန်ပြင်ဆင်သည်။

ဂျာမန် တို့ ၏ မြောက် ဖက် စစ် ကြောင်း နှင့် အလယ် စစ်ကြောင်း မှာ အလွန် လျင် မြန် စွာချီတက် လျက် ရှိသည်။ ဇူလိုင်လတွင် အလယ်စစ်ကြောင်း သည် စမိုလင့်မြို့အထိရောက်၍၊ မြောက်ဖက်စစ်ကြောင်းက ဗေါလတစ်နယ်အလုံးကိုသိမ်းပိုက်မိလေသည်။ စမိုလင့်တွင် ဆိုဗီယက်တို့ကအပြင်းအထန်ခုခံတိုက်ခိုက်ကြရာ၊ ဂျာမန်တပ်များမှာ ရှေ့သို့မတက်နိုင်ဘဲ တလခန့်ကြန့်ကြာသွားလေသည်။ ထိုသို့ကြန့်ကြာသွားသောကြောင့် လည်း ဂျာမန်တို့သည် မော်စကိုမြို့တော်ကိုလက်လွတ်ရလေသည်။ မြောက်ဖက်တွင်ကား ဂျာမန်တို့သည် လီနင်ဂရက်မြို့အနီးသို့ပင်ရောက်လာသည်။ ဖင်းလူမျိုး တို့ကလည်း ဂျာမန် တို့ဖက် မှ ဝင် ရောက် တိုက် ခိုက်သည်။ သို့ရာတွင်လီနင်ဂရက်မြို့တွင်းသို့ကား မဝင်ရောက်



ကာကွယ်ရောင်အောက်မှရန်သူကိုပစ်ခွင်းနေသောမြေပြင်ပစ်အမြောက်ကြီး



မနီလာပင်လယ်အော်အတွင်းတိုက်ကင်းလှည့်စဉ်မဟာမိတ်တို့ ဗုံးဒဏ်ခံလိုက်ရသော ဂျပန်ကရူဇာသင်္ဘောနစ်မြုပ်စပြုစဉ်

နိုင်ချေ။ တောင်ဖက်တွင် ဂျာမန်တို့သည် ယူကရိန်းသို့ဝင်ရောက်ပြီးလျှင် ကီးယက်မြို့နှင့် စက်ရုံများစွာရှိသောအိုဒက်ဆာမြို့ကို သိမ်းပိုက်လိုက်သည်။ ခါခေါ့မြို့မှာလည်း ဂျာမန်လက်တွင်း သို့ကျဆင်း ရလေသည်။ ဤ သို့လျှင် ဂျာမန် တို့သည် မြို့များ ကို တမြို့ပြီး တမြို့သိမ်း နိုင် ကြသော်လည်း သူတို့၏အကျအဆုံးမှာမနည်းလှချေ။ မြေတလက်မကိုအသက်ပေါင်း များ စွာဖြင့် လဲ၍ ခံယဉ်းစွာ တိုက်ယူ ရလေသည်။

## အမေရိကန်နှင့်ဂျပန်စစ်ထဲဝင်လာခြင်း

ယူကရိန်း နယ် တွင် ဆိုဗီယက်တို့၏ စက်မှုလက်မှုအဆုံးအရှုံးများမှာ ကြောက်ခမန်းလိလိများပြားလှသော်လည်း၊ နောက်ထပ်ပြုလုပ်သောပစ္စည်းများနှင့် နိုင်ငံခြားအကူအညီကြောင့်သာ ခံနိုင်ရည်ရှိလေသည်။ ထိုပြင်အတ္တလန္တိတ်စာချုပ်ကို ချုပ်ဆိုပြီး သည့်နောက် အမေရိကန် နှင့် ဗြိတိန် ကလည်း ဆိုဗီယက်အားအကူအညီပေးရန် အတိအလင်းထုတ်ပြန်ကျေညာသည်။

ဆိုဗီယက်တို့က ဒုတိယစစ်မျက်နှာဖွင့်ပေးရန်တောင်းဆိုကြ၏။ သို့ရာတွင်ဗြိတိသျှတို့ကဆိုင်းငံ့ထားလေသည်။ အာဖရိကတိုက် လစ်ဗီးယားနယ်တွင် ဗြိတိသျှအမှတ် ၈ တပ်မဟာက ဗိုလ်ချုပ်ရွမ်းမဲ၏ဂျာမန်တပ်များကိုမောင်းထုတ်လျက်ရှိသည်။ထိုအချိန်ကားအလွန်အေးချမ်းသောဆောင်းဥတုဖြစ်ရာ ရုရှားစစ်မြေပြင်သို့ ရောက်ရှိနေသောဂျာမန်တပ်များမှာအခက်အခဲနှင့်တွေ့ကြုံကြရသည်။ အလယ်စစ်ကြောင်းတွင် ဂျာမန်တပ်များသည် မော်စကိုမြို့တော်မှ ၂၅ မိုင်ခန့် သာဝေး တော့သည်။ သို့ရာတွင် အေး မြလှသောအအေးဒဏ်နှင့် ဆိုဗီယက်တို့၏ပြင်းထန်သော ထိုးစစ် ကြောင့် ဂျာမန်တို့မှာ ရှေ့သို့မတိုးနိုင်ဘဲ ဆုတ်ပေးကြရလေသည်။

အလယ်စစ်မျက်နှာတွင် ဆိုဗီယက်တပ်များထိုးစစ်ဆင်နေစဉ် တကမ္ဘာလုံးမမြော်လင့်သော အဖြစ်အပျက်တခု ပေါ်ပေါက်လာသည်။ ထိုနေ့ကား ၁၉၄၁ ခုဒီဇင်ဘာလ ၇ ရက်နေ့ဖြစ်၏။ ဝင်ရိုးတန်းနိုင်ငံတခုဖြစ်သောဂျပန်သည် စစ်မကျေညာဘဲ အမေရိကန်ပြည်ထောင်စုပိုင် ဟာဝိုင်ယန်ကျွန်းပါးဟာဗာခေါ် ပုလဲဆိပ်ကမ်းကို ရုတ်တရက်ဗုံးကြဲတိုက်ခိုက်သည်။ ထိုသို့စတင်တိုက်ခိုက်ပြီးနောက် နာရီပေါင်းများစွာကြာမှ ဂျာန်အစိုးရက အမေရိကန်ပြည်ထောင်စုနှင့်ဗြိတိန်နိုင်ငံကို စစ်ကျေညာလေသည်။ ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဗြိတိန်နှင့်အမေရိကန်ပြည် ထောင် စုတို့က ဂျပန် အားပြန်၍ စစ်ကျေညာသည်။ ဂျာမနီနှင့်ဣတလီတို့ကလည်း အမေရိကန် ပြည်ထောင် စုအား စစ်ကျေညာ၍ အမေရိကန် ပြည်ထောင်စုကလည်း ချက်ခြင်းတုံ့ပြန်သည်။ ဤသို့ဖြင့်ဒုတိယကမ္ဘာစစ်မီးမှာ တကမ္ဘာလုံးသို့ပြန့်နှံ့သွားတော့သည်။

## ပစိဖိတ်စစ်ပွဲ

အနောက်ဥရောပတွင် အစပြုခဲ့သော ဒုတိယ က မ္ဘာ စစ်

သည် ဂျပန်၏ကျူးကျော်တိုက်ခိုက်မှုကြောင့် အရှေ့တိုင်းသို့ကူးစက်လာခဲ့လေရာ ပစိဖိတ်သမုဒ္ဒရာတခုလုံးမှာ ဂျပန်နှင့်အင်္ဂလိပ် အမေရိကန် တို့ စစ်ခင်းရာ တလင်းပြင်ကြီးဖြစ်လာတော့သည်။ ဂျပန်တို့သည် အင်္ဂလိပ်၊ အမေရိကန်တို့အငိုက်တွင် ဝင်စီးလိုက်ရသဖြင့် ပဌမတွင်များစွာစစ်ရေးသာလျက်ရှိသည်။ ဂျပန်တို့သည်စစ်အတွက် နှစ်ပေါင်းများစွာကပင် ပြင်ဆင်ထားခဲ့သည်။ စစ်သားများကိုလည်း အထူးလေ့ကျင့်ပေးထားသည်။ ထိုအပြင်သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်းအဆက်အသွယ်များမှာလည်း ဂျပန်တို့အဖို့များစွာအဆင်ပြေလျက်ရှိသည်။ တိုက်ခိုက်ရာ၌ လက်ဦးသဖြင့် အလွယ်တကူသိမ်းပိုက်ရရှိသောနေရာများကို စစ်စခန်းပြုလုပ်ကာ နောက်ထပ်ဆက်လက်၍ နယ်ပယ်များကိုတိုက်ခိုက်သိမ်းယူနိုင်လေသည်။ သို့ဖြစ်၍ ငါးလတိုင်တိုင် ဂျပန်တို့သည် အောင်ပွဲများ တခုပြီးတခု ဆွတ်ခူးလျက်ရှိသည်။ ၁၉၄၁ ခုဒီဇင်ဘာလ ၁၀ ရက်နေ့တွင် ဗြိတိသျှတို့၏အကြီးဆုံးနှင့် အကောင်းဆုံး စစ်သင်္ဘောကြီးနှစ်စင်းဖြစ်သော ဝေလမင်းသားနှင့် ရီပတ်တို့ကို ဂျပန်လေယာဉ်ပျံများက နှစ်မြှုပ်ပစ်လိုက်သည်။

**ဂျပန်တို့၏အောင်ပွဲများ။** ။ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ ကျွန်းများမှာ ဂျပန်တို့လက်တွင်းသို့ တဖြည်းဖြည်းကျဆင်းလျက်ရှိလေသည်။ ဂျပန်ရေတပ်သည် ဒီဇင်ဘာလအတွင်း၌ပင် ဂွမ်ကျွန်း၊ ဝိတ်ကျွန်းတို့ကိုသိမ်းပိုက်ပြီးနောက်၊ ဗြိတိသျှပိုင်ဟောင်ကောင်ကျွန်းကို သိမ်းပိုက်လေသည်။ ထိုနောက် ဂျပန်တို့သည် မလေးကျွန်းဆွယ်နှင့် ဖိလစ်ပိုင်ကျွန်းတို့ကို တိုက်ခိုက်သည်။ ဖိလစ်ပိုင်ကျွန်းရှိ ဗိုလ်ချုပ်မက်အာသာ အုပ်ချုပ်သော အမေရိကန်ဖိလစ်ပီနိုတပ်များက အပြင်းအထန်ခုခံသော်လည်း စစ်အင်အားချင်းမမျှသဖြင့် ဆုတ်ခွာပေးရသည်။ လူဇုန်၊ ဗာတန်း၊ ကော်ရက်ဂျီဒေါ်ကျွန်းတို့မှာ တခုပြီးတခုဂျပန်၏လက်တွင်းသို့ သက်ဆင်းကြရသည်။ အမေရိကန် စစ်သား အမြောက်အမြားပင် သုံ့ပန်းအဖြစ် အဖမ်းခံရလေသည်။ ပစိဖိတ်အနောက်တောင်ပိုင်းတွင်လည်း ဂျပန်တို့မှာ အထူးပင်စစ်ရေးသာလျက်ရှိသည်။



စစ်ဒဏ်ကိုနှစ်ကြိမ်တိုင်မျှမလှခံခဲ့ရသည့် ဖိလစ်ပိုင်နိုင်ငံ၏မြို့တော်မနီလာ

၁၉၄၂ ခုဇန်နဝါရီလတွင် စလီးဗီးကျွန်းနှင့် မလေးပြည်မကြီးကို အင်္ဂလိပ်တို့ လက်လွှတ်လိုက်ရသည်။ ထိုအချိန်တွင် မြန်မာပြည်သို့လည်းစစ်မီးကူးစက်လျက်ရှိလေပြီ။

ဖေဖွာရီလ ၁၅ ရက်နေ့တွင် အရှေ့တိုင်း၌ ဗြိတိသျှတို့၏ အကြီးဆုံး ခံတပ် ဖြစ်သော စင်္ကာပူခံတပ်ကြီး ကျဆုံး လေသည်။ မဟာမိတ်တို့၏အရှေ့ပိုင်းအင်အားစုမှာ ပြိုကွဲလေပြီ။ အင်္ဂလိပ်၊ အမေရိကန်နှင့်ဒပ်ချတို့သည် ဆက်လက်မခုခံနိုင်တော့ချေ။ ဆူမတြား၊ ဂျားဗားနှင့်ဒပ်ချပိုင်ကျွန်းများမှာ တကျွန်းပြီးတကျွန်း ဂျပန်လက်အောက်သို့ကျရောက်ရလေသည်။ မြန်မာပြည်ဖက်တွင်လည်း မေလလောက်တွင် ဂျပန်တို့သည် မြန်မာပြည်တပြည်လုံးကို သိမ်းပိုက်မိလေသည်။ ယင်းသို့အားဖြင့် ဂျပန်၏အာဏာစက်ကွင်းမှာ ခြောက်လအတွင်းတွင် ပစိဖိတ်အနောက်တောင်ဒေသများကိုလွှမ်းခြုံမိလေတော့သည်။

အာရှအရှေ့တောင်ပိုင်းတွင် ဗြိတိသျှနှင့်မဟာမိတ် နိုင်ငံများ၏အဆုံးအရှုံးမှာ များပြားလှသည်။ သဘာဝပစ္စည်းများ၊ ကုန်ကြမ်းများ၊ အသီးအနှံများဖြင့်ကုံလုံကြွယ်ဝသော နိုင်ငံများကို လက်လွှတ်လိုက်ရသည်။ မြန်မာပြည်မှ ဆန်နှင့်ရေနံ၊ မလ္လာယုကျွန်းဆွယ်မှကော်ဖတ်၊ ဒပ်ချကျွန်းများမှသကြားစသောပစ္စည်းများကို ဂျပန်တို့ရရှိကြသဖြင့်ဂျပန်တို့မှာ အင်အားပိုမိုတောင့်တင်းသွားတော့သည်။ ထို့ပြင် စစ်ရေး စစ်ရာတွင်လည်း ဂျပန်သည် ပစိဖိတ်အနောက်တောင်ပိုင်းကို လက်ကိုင်ပြုထားနိုင်သဖြင့် များစွာအခွင့်အရေး သာလျက် ရှိလေသည်။ ယင်းသို့ အဖက်ဖက်တွင် အရှုံးနှင့်သာရင်ဆိုင် နေရသော်လည်း မဟာမိတ်နိုင်ငံများမှာ စိတ်အားလျော့ခြင်းမရှိဘဲ ဤစစ်ကိုမနိုင်မနေဟူသောဇွဲသတ္တိဖြင့်ဆက်လက်တိုက်ခိုက်လျက်ရှိလေသည်။

အမေရိကန်ပြည်ထောင်စုမှာ အငိုက်တွင် အတိုက်ခံရသဖြင့် ပဌမတွင် အတန်ပင် နစ်နာဆုံးရှုံး သွားရသော်လည်း နောင်တွင် တဖြည်းဖြည်း အင်အားပြည့်တင်းလာပြီး လျှင် ရန်သူကိုပြန်၍ထိရောက်စွာ တိုက်ခိုက်နိုင်လေသည်။ ဂျပန်သည်သြစတြေးလီးယား အရှေ့မြောက်ရှိ ကော်ရယ်ပင်လယ်ကို စိုးမိုးရန်ကြိုးစားသောအခါ၊ အမေရိကန်တပ်များက အပြင်းအထန်ခုခံတိုက်ခိုက်သဖြင့် ဂျပန်တို့၏ကြိုးပမ်းမှုမှာ အထမမြောက်တော့ချေ။ ဤတိုက်ပွဲမှာပစိဖိတ်တိုက်ပွဲတွင် ပဌမအကြီးကျယ်ဆုံးတိုက်ပွဲကြီးဖြစ်သည်။

ကော်ရယ်ပင်လယ်တွင် အရေးနိမ့်သောဂျပန်တို့သည်ပစိဖိတ်အလယ်ပိုင်းအမေရိကန်စစ်စခန်းတခုဖြစ်သော မစ်ဒဝေးကျွန်းကို ၁၉၄၂ ခုဇွန်လတွင် စစ်သင်္ဘောတပ်ကြီးဖြင့်တိုက်ခိုက်ပြန်သည်။ လေယာဉ်ပျံများလည်း နှစ်ဖက်စလုံးမှ ပင်ပါဝင်တိုက်ခိုက်ကြသည်။ ဤတိုက်ပွဲတွင်လည်း ဂျပန်တို့ပင်အရေးနိမ့်လေသည်။ ထိုနှင့်တချိန်တည်းမှာပင် ဂျပန်တပ်များသည် အလူးရှင်းကျွန်းများပေါ်သို့ တက်ရောက်နိုင်ကြလေသည်။

## ရုရှားစစ်မျက်နှာ

ပစိဖိတ်သမုဒ္ဒရာဖက်တွင် အမေရိကန်နှင့်ဂျပန်တို့ သဲသဲမဲမဲတိုက်ခိုက်နေစဉ်၊ ဥရောပတွင် ဂျာမန်များသည် ဆိုဗီယက်ရုရှားကို နွေရာသီ ထိုးစစ်ဆင်လျက်ရှိသည်။ ဆိုဗီယက်တို့သည် ဂျာမန်တို့အားခုခံယင်း အင်္ဂလိပ်အမေရိကန်တို့ကို ဥရောပတွင် ဒုတိယစစ်မျက်နှာဖွင့်ရန် တိုက်တွန်းလျက်ရှိသည်။ ဆိုဗီယက်နိုင်ငံခြားရေးဝန်ကြီး မိုလိုတော့သည် ၁၉၄၂ ခုမေလတွင် လန်ဒန်နှင့်ဝါရှင်တန်မြို့တော်များသို့ သွားရောက်ပြီးလျှင်ဒုတိယစစ်မျက်နှာဖွင့်လှစ်ရေးကို ဆွေးနွေးသည်။

၁၉၄၂ ခုနှစ်ကစ၍ ဗြိတိသျှလေတပ်မတော်သည် ဂျာမန်စက်မှုလက်မှုအလုပ်ရုံကြီးများကို အပြင်းအထန်ဗုံးကြဲစပြုလေသည်။ မေလတွင် ကိုလုန်းမြို့ပေါ်သို့ လေယာဉ်ပျံ ၁,၀၀၀ ကျော်ခန့်ဖြင့်သွားရောက်၍ ဗုံးကြဲဖျက်ဆီးသည်။ တနေ့လုံးပင် ဗြိတိသျှလေတပ်သည် ဂျာမန်စစ်စခန်းများ၊ အလုပ်ရုံစက်ရုံများကိုစံနစ်တကျဗုံးကြဲဖျက်ဆီးလေသည်။

နာဇီများမှာ ဆိုဗီယက် ရုရှားကို ဖိတိုက်လျက် ရှိလေသည်။ ဂျာမန်တို့သည် ဆီဗတ်စတိုပိုမြို့ကိုသိမ်း၍၊ တောင်ပိုင်းစစ်မျက်နှာတွင်အတင်းထိုးစစ်ဆင်သည်။ သူတို့၏ရည်ရွယ်ချက်မှာ ကော်ကေးဆပ်ရေနံမြေသို့ ချီတက်ရန်ဖြစ်သည်။ ၁၉၄၂ ခုဩဂုတ်လတွင် ဗော်လဂါမြစ်ပေါ်ရှိဆိုဗီယက်စက်မှုလက်မှုမြို့ကြီးဖြစ်သော စတာလင်ဂရက်မြို့ကို ဂျာမန်များဝိုင်းမိကြသည်။ ဆိုဗီယက်တပ်နီတော်သည် စတာလင်ဂရက်မြို့တော်ကို ရန်သူလက်သို့အကျမခံဘဲ ရှိသမျှသောအင်အားကိုစုပေါင်း၍ ဂျာမန်တို့အားရှုပ်ရှပ်ချချခုခံလေသည်။ လူအင်အား၊ လေယာဉ်ပျံအင်အား၊ တင့်ကားအင်အားချင်းအဆမတန် ကွာခြားသော်လည်း၊ မြေတလက်မအတွက် အသက်ပေါင်းများစွာပေး၍ ခုခံကြသည်။ ဤတိုက်ပွဲတွင် ဆိုဗီယက်အမျိုးသားတို့၏ ခိုင်မြဲသောစိတ်ဓါတ်နှင့် ဇွဲသတ္တိကို ကမ္ဘာကကောင်းစွာသိရှိလာလေသည်။

၁၉၄၂ ခုနိုဝင်ဘာလတွင် ဆိုဗီယက်တို့သည် တန်ပြန်ထိုးစစ်ဆင်ပြီးလျှင် စတာလင်ဂရက်နှင့် မော်စကိုအကြားရှိ ဂျာမန်စစ်ကြောင်းကို ဖေါက်ဝင်လေသည်။ ဂျာမန်တို့သိမ်းပိုက်ထားသောမြို့များကိုလည်း ပြန်လည်ရရှိသည်။ ၁၉၄၂ ခုနှစ်တွင် စမိုလင့်၊ ခါခေါ့စသောမြို့ကြီးများကို ဂျာမန်တို့လက်မှပြန်လည်ရရှိလေသည်။

## သဲကန္တာရတိုက်ပွဲ

နာဇီတို့သည် ဆိုဗီယက်စစ်မျက်နှာတွင် နွေရာသီထိုးစစ်ဆင်နေသည့်အချိန်မှာပင်၊ အာဖရိကတိုက် လစ်ဗီးယားပြည်တွင်လည်း တိုက်ခိုက်လျက်ရှိသည်။ နာဇီစစ်သူကြီး ရွမ်းမဲသည် အင်္ဂလိပ်တို့အား အရှေ့ဖက်သို့တဖြည်းဖြည်းတိုက်ထုတ်လျက်ရှိသည်။ နာဇီစစ်ကူများလည်း အဆက်မပြတ်ရောက်လျက်ရှိရာ၊ ဗြိတိသျှတပ်များလည်း နောက်သို့တဖြည်းဖြည်း ဆုတ်ပေးရလေသည်။ တိုဗရွတ်မြို့တွင်မူကား ဗြိတိသျှတပ်သား ၃၀,၀၀၀ မှာရန်သူလက်ထဲသို့ကျရောက်သွားရသည်။ ဂျာမန်တို့လည်း ရှေ့သို့ချီတက်ရာ အယ်အားလမိန်းအရပ်တွင်မှ ရပ်တန့်သွားသည်။ အယ် အားလမိန်းမှာ အီဂျစ်နိုင်ငံ အယ်လက်ဇန္ဒြီးယားမြို့မှ မိုင် ၇၀ ခန့်သာဝေးကွာလေသည်။

ဗြိတိသျှတို့လည်း ရွမ်းမဲ၏တပ်များ အယ်လက်ဇန္ဒြီးယားကိုကျော်လွန်ပြီးလျှင် ဆူးအက်တူးမြောင်းအထိ ရောက်သွားမည်စိုး၍၊ အလျင်အမြန် စစ်အင်အားဖြည့်တင်းလေသည်။ ဗြိတိသျှနှင့်အမေရိကန် လေတပ်ကိုလည်း အားဖြည့်၍အသင့်ပြင်ထားသည်။ နိုဝင်ဘာလတွင်မူကား မဟာမိတ်တို့ကတဖန် စစ်ရေးသာပြန်သည်။ ဗြိတိသျှအမှတ် ၈ တပ်မဟာသည် အယ်အားလမိန်းတွင် ဂျာမန်နှင့်ဣတလီတပ်များကို တိုက်ခိုက်အောင်မြင်လိုက်သည်။ ထိုအချိန်တွင်ဆိုဗီယက်တို့လည်း စတာလင်ဂရက်မြို့တော်ကို အပြင်းအထန်ခုခံကာကွယ်လျက်ရှိရာ၊ ဂျာမန်တို့မှာ ရှေ့သို့မတိုးနိုင်တော့ဘဲ၊ ထိုနေရာမှပင် နောက်သို့ပြန်ဆုတ်သွားကြရတော့သည်။ ၁၉၄၃ ခုနှစ်တွင်ဗြိတိသျှတို့သည် ရွမ်းမဲ၏တပ်များကို မောင်းထုတ်၍ ဒလကြမ်းချီတက်လျက်ရှိသည်။ ဆိုဗီယက်ရုရှားတွင်လည်း ဂျာမန်တို့သည် ခံစစ်ဖြင့်နောက်ဆုတ်ပေးနေရသည်။ ယင်းသို့ဂျာမန်များ စစ်ရေးမလှဖြစ်ရခြင်းမှာ ဂျာမန်လေတပ်အင်အား များစွာယုတ်လျော့သွားသောကြောင့်ဖြစ်သည်။

ဂျာမန်စက်မှု လက်မှုဌာနများကို ဗြိတိသျှလေတပ်က အကြီးအကျယ်သွားရောက်ဗုံးကြဲထားခြင်းမှာ များစွာခရီးရောက်လျက်ရှိလေသည်။

## ဥရောပလေကြောင်းတိုက်ပွဲ

ဒုတိယကမ္ဘာစစ်တွင် ထူးခြားသည့်အချက်များမှာ လေကြောင်းတိုက်ပွဲများ ပိုမိုပြင်းထန်၍ အရေးပါလာခြင်းပင်ဖြစ်သည်။ စစ်စတင်ဖြစ်ပွားသည့်ဥရောပတိုက်တွင် လေကြောင်းတိုက်ပွဲများ အများဆုံးနှင့်အပြင်းထန်ဆုံးဖြစ်၏။ ၁၉၄၂ ခုနှစ်နှစ်ဦးမှစ၍ ဗြိတိသျှလေတပ်မတော်သည် ဗုံးကြဲလေယာဉ်ပျံများကို တိုးတက်လုပ်ကိုင်ခြင်းအားဖြင့်၎င်း၊ အမေရိကန်ပြည်ထောင်စုမှ ပေးပို့သောလေယာဉ်ပျံများကို အသုံးပြုခြင်းအားဖြင့်၎င်း၊ လေတပ်အင်အားကိုဖြည့်တင်းပြီးလျှင် ဂျာမနီကိုလေကြောင်းမှထိုးစစ်ဆင်ခဲ့သည်။ ရှေးဦးစွာ ပြင်သစ်နိုင်ငံပါရစ်မြို့အစွန်အဖျားရှိစက်မှုလက်မှုဌာနများကို ဗုံးကြဲဖျက်ဆီးသည်။ ထိုနောက်တဖြည်းဖြည်းတိုးချဲ့၍၊ ဥရောပရှိဝင်ရိုးတန်းနိုင်ငံများကို ဗုံးကြဲလေယာဉ်ပျံကြီးများဖြင့်တိုက်ခိုက်သည်။ ဗြိတိသျှလေတပ်သည် နေရာအနှံ့အပြားကိုဗုံးကြဲခြင်းမပြုဘဲ၊ အရေးကြီးသောနေရာတခုတည်းကိုသာ ဖိ၍ဗုံးကြဲဖျက်ဆီးသဖြင့်အထူးအောင်မြင်လေသည်။

၁၉၄၂ ခုမေလတွင်ဆင်နွှဲသော ဗြိတိသျှလေတပ်ကြီး၏ထိုးစစ်သည်ကား အပြင်းအထန်ဆုံးဖြစ်ပေသည်။ လေယာဉ်ပျံ ၁,၀၀၀ ကျော်သည်ဗုံးတန်ချိန် ၃,၀၀၀ ကျော်ကို ကိုလုန်းမြို့ပေါ်သို့ကြဲချခဲ့သည်။ ကရုပ်လက်နက်အလုပ်ရုံများရှိရာ အက်ဆင်မြို့ကိုလည်း လေယာဉ်ပျံ ၁,၀၀၀ ကျော်ဖြင့်ဗုံးကြဲခဲ့သည်။ ထိုနောက်အမေရိကန်လေတပ်ပါ ဝင်ရောက်လာသောအခါ၊ မဟာမိတ်တို့၏လေတပ်အင်အားမှာ ဂျာမန်တို့ထက် အဆများစွာသာသွားလေတော့သည်။

၁၉၄၂ ခုနှစ်တွင်မဟာမိတ်လေတပ်တို့သည် အင်္ဂလန်တွင်စခန်းချ၍၊ ဥရောပရှိရန်သူစစ်စခန်းများ၊ စက်ရုံများ၊ လက



**စစ်မြေပြင်တွင်အရေးပါလှသော ခေတ်မီတင့်ကားတစီးတိုက်ပွဲဝင်နေစဉ်**

နက်ရုံများ၊ သင်္ဘောဆိပ်များ၊ ဘူတာရုံများနှင့် စစ်ဖက်ဆိုင်ရာနေရာဌာနများကို အကြီးအကျယ်ဗုံးကြဲဖျက်ဆီးကြသည်။ နေ့ရောညပါလိုပင် လေယာဉ်ပျံအစင်းပေါင်း ၇၀၀ ကျော်သည် အင်္ဂလိပ်ရေလက်ကြားကြီးကိုဖြတ်ကျော်ပျံ



ရန်သူအား နောက်ကျောမှတိုက်ခိုက်ရန် ကောင်းကင်ထက်ရှိ လေယာဉ်ပျံမှ လေထီးဖြင့် ဆင်းပြီး နောက် ခြေကုပ်စခန်းအတွက်အပြင်းချီတက်နေကြစဉ်

သန်း၍ နာဇီစစ်အချက်အခြာနေရာများကို မှုန့်မှုန့်ညက်ညက်ချေမှုန်းလေသည်။ စစ်ဖြစ်စတွင် အင်အားကြီးမား၍ အလွန်အရေးပါခဲ့သောဂျာမန်လေတပ်မှာ မဟာမိတ်လေတပ်ဒဏ်ကို အနိုင်နိုင်ခုခံနေရလေတော့သည်။

အင်္ဂလိပ်၊ အမေရိကန်လေတပ်၏ဗုံးဒဏ်ကို အပြင်းအထန်ဆုံးခံရသောနေရာမှာ နာဇီစက်မှုလက်မှုဌာနချုပ်ဖြစ်သော ရူးဝါးမြစ်ဝှမ်းဖြစ်သည်။ အက်ဆင်အရပ်ရှိ ကရုပ်လက်နက်ရုံများ၊ ကိုလုန်းမြို့၊ ဟမ်းဗတ်မြို့နှင့် အခြားသောစစ်နှင့်ဆိုင်သည့် အရေးပါသည့်မြို့များမှာလည်း ဗုံးဒဏ်ကိုမခါမဆံ့ခံရလေသည်။ စစ်ဖြစ်စတွင် လန်ဒန်မြို့တော်သည် ဂျာမန်ဗုံးဒဏ်ကို အများဆုံးခံရသကဲ့သို့ ယခုအချိန်တွင် ဂျာမနီနိုင်ငံ၏မြို့တော်ဖြစ်သော ဘာလင်မြို့သည် မဟာမိတ်လေတပ်၏ ဖိထောင်းခြင်းကိုခံနေရသည်။ အမေရိကန်လေတပ်မှ မိုးပျံခံတပ်ကြီးများမှာ ဗုံးကြဲရာ၌ များစွာပင်ခရီးရောက်လေသည်။ ဂျာမန်တို့လည်း မဟာမိတ်လေကြောင်းရန်ကိုတတ်နိုင်သလောက်ကာကွယ်ရန်ကြိုးစားကြ၏။ လေယာဉ်ပျံများကို ရှေးကထက်ပိုမိုလုပ်ကိုင်ကြ၏။ ၁၉၄၄–၁၉၄၅ ခုနှစ်များတွင်ကား ဂျာမနီသို့လာရောက်ဗုံးကြဲသော မိုးပျံခံတပ်များမှာ တကြိမ်လျှင် ၁,၃၀၀ ထက်မနည်းပေ။ ဂျာမန်တို့ကလည်း လက်နက်ဆန်းများကိုထွင်၍၊ ပြန်လှန်တိုက်ခိုက်ကြသည်။ လန်ဒန်မြို့တော်အား ဗွီ၀မ်း၊ ဗွီတူးစသောဒုန်းပျံလက်နက်ဆန်းများဖြင့် အဝေးမှပစ်ခွင်းကြသည်။ သို့ရာတွင်လူများကိုသာထိမှန်၍၊ စစ်နိုင်ရေးအတွက်အရာမရောက်လှချေ။ မည်သို့ပင်ဆန်းပြားသော လက်နက်မျိုးကိုတီထွင်အသုံးပြုသော်လည်း၊ ဂျာမန်လေတပ်အင်အားသည် မဟာမိတ်လေတပ်အင်အားကို မလိုက်နိုင်တော့ချေ။ ဤသို့ဖြင့်လေကြောင်းစစ်တွင် ဂျာမန်တို့အရေးနိမ့်ရလေသည်။

## မြေထဲပင်လယ်စစ်မျက်နှာ (၁၉၄၂–၄၅)

၁၉၄၂ ခုနှစ်မှစ၍စစ်ကြီးပြီးဆုံးသည်အထိ မြေထဲပင်လယ်အတွင်းနှင့် အနီးအနားတဝိုက်ရှိ နိုင်ငံများတွင်၊ ပြင်းထန်သောတိုက်ပွဲများဖြစ်ပွားခဲ့သည်။ ၁၉၄၂ ခုနှစ်တွင် ဟစ်တလာသည် အီဂျစ်နိုင်ငံကိုပင် အောင်နိုင်လုနီးပါးဖြစ်ခဲ့သည်။ အာဖရိကမြောက်ပိုင်းစစ်မျက်နှာတွင် ဂျာမန်စစ်သူကြီး မာရှယ်ရွမ်းမဲသည် အထူးပင်စစ်ရေးသာခဲ့သည်။ ဗြိတိသျှတပ်များသည် အီဂျစ်နယ်စပ်ရှိ အယ် အားလမိန်းအထိ ဆုတ်ပေးရသည်။ သို့ရာတွင်ရွမ်းမဲသည် ဆူးအက်တူးမြောင်းသို့ အရောက်ချီတက်ရန် အားခဲထားခြင်းကို လက်လျှော့ရလေသည်။

ဗြိတိသျှအမှတ် ၈ တပ်မဟာ၏ ဗိုလ်ချုပ်ကြီးမောင်ဂို

မာရီသည် မိမိ၏တပ်မကြီးကို ပြန်လည်ဖွဲ့စည်း၍ ဂျာမန်တို့အားတန်ပြန်ထိုးစစ်ဆင်လေရာ၊ ဂျာမန်တို့နောက်ဆုတ်ပေးရသည်။ ထိုနောက် အမေရိကန် စစ်ဗိုလ်ချုပ် အိုင်ဆင်ဟောင်းဝါးအုပ်ချုပ်သော မဟာမိတ်တပ်ပေါင်းစုများသည် မိုရိုကိုနှင့်အယ်လဂျီးရီးယားကမ်းခြေသို့တက်၍ တျူနစ်ဇီးယားသို့ အပြင်းချီတက်သွားသည်။ ဂျာမန်တို့လည်း နှစ်ဖက်ညှပ်မိ၍လက်နက်ချရသည်။

အာဖရိကတိုက်ကိုအောင်မြင်ပြီးနောက်၊ ၁၉၄၂ ခုဇူလိုင်လ ၁၀ ရက်နေ့တွင် ဣတလီပိုင်စစ္စလီကျွန်းပေါ်သို့ မဟာမိတ်တပ်များတက်ရောက်ကြသည်။ ဣတလီတပ်များပြိုကွဲ၍ မူဆိုလီနီလည်း ရာထူးမှကျလေသည်။ ၁၉၄၅ ခုမေလ ၂ ရက်နေ့တွင်ကား ဣတလီမြောက်ပိုင်းရှိ ဂျာမန်နှင့်ဣတလီတပ်များလက်နက်ချရလေသည်။

### ဒုတိယစစ်မျက်နှာ

၁၉၄၂–၁၉၄၃ ခုနှစ်များတွင် ဟစ်တလာသည်ဆိုဗီယက်ရုရှားကိုသာဖိ၍တိုက်နေသဖြင့်၊ ဆိုဗီယက်အစိုးရက အင်္ဂလိပ်နှင့်အမေရိကန်တို့အား ဥရောပအနောက်ပိုင်း၌ ဒုတိယစစ်မျက်နှာတခုဖွင့်ရန် တိုက်တွန်းလျက်ရှိသည်။ အင်္ဂလိပ်နှင့်အမေရိကန်တို့မှာ ဆိုဗီယက်အစိုးရ၏တောင်းခံချက်အတိုင်း ဒုတိယစစ်မျက်နှာကိုဖွင့်လိုသော်လည်း လုပ်ရမည့်လုပ်ငန်းမှာ ကြီးကျယ်ခက်ခဲလှသဖြင့် ရုတ်တရက်ထိုးစစ်မဆင်နိုင်သေးဘဲ၊ ဥရောပတိုက်ကို ပြန်လည်သိမ်းပိုက်နိုင်ရေးအတွက် အစီအစဉ်များကို အပူတပြင်းလုပ်ကိုင်နေကြရသည်။ ၁၉၄၄ ခုဇွန်လ ၆ ရက်နေ့တွင်ကား ဗိုလ်ချုပ်အိုင်ဆင်ဟောင်းဝါးအုပ်ချုပ်သော မဟာမိတ်တပ်ပေါင်းစုသည် ပြင်သစ်နိုင်ငံ နော်မန်ဒီကမ်းခြေမှ ဥရောပတိုက်ပေါ်သို့ တက်ရောက်ကြသည်။ ထိုနေ့သည် ကမ္ဘာ့သမိုင်းတွင် ဒီ–ဒေးဟုထင်ရှားလေသည်။ ဤတွင်မှသာ ဆိုဗီယက်တို့တောင့်တလျက်ရှိသော ဒုတိယစစ်မျက်နှာပေါ်ပေါက်လာတော့သည်။ စိန့်လိုးမြို့ကျဆုံးပြီးသည့်နောက်၊ ဂျာမန်တပ်များမှာ နောက်သို့တဆုတ်တည်းဆုတ်နေကြရသည်။ နောက်သုံးပတ်မျှကြာသောအခါ အမေရိကန်နှင့်ပြင်သစ်တပ်များသည် မြေထဲပင်လယ်ကမ်းခြေမှနေ၍ ပြင်သစ်နိုင်ငံပေါ်သို့တက်ရောက်ကြပြီးလျှင်၊ ဩဂုတ်လ ၂၅ ရက်နေ့တွင် ပြင်သစ်မြို့တော် ပါရစ်မြို့ကိုသိမ်းပိုက်မိကြသည်။

မဟာမိတ်တပ်ပေါင်းစုသည် ဆုတ်ခံခံလျက်ရှိသောဂျာမန်တပ်များကို လိုက်လံတိုက်ခိုက်ယင်း၊ ရှေ့သို့တွင်တွင်ကြီးချီတက်လျက် ဗဲလဂျီယမ်၊လပ်ဇင်ဗတ်နှင့် ဟော်လန်စသောနိုင်ငံများကို ဂျာမန်တို့လက်မှကယ်တင်လိုက်သည်။ အင်္ဂလိပ်ရေလက်ကြားကြီးကိုလည်း ပြန်လည်စိုးမိုးနိုင်လေသည်။ ဂျာမန်တပ်များမှာ ပြင်သစ်နိုင်ငံမှ တဖြည်းဖြည်းမောင်းထုတ်ခြင်းခံနေရသည်။ ၁၉၄၅ ခုနှစ်ဆန်းစတွင် ဆိုဗီယက်တပ်များက ပိုလန်နှင့်ဗောလတစ်နိုင်ငံများကို သိမ်းပိုက်လိုက်သည်။ ဂျာမန်လက်တွင်းကျရောက်နေသော ရူမေနီးယား၊ ဗူလဂေးရီးယား၊ ဖင်လန်စသောနိုင်ငံများလည်း ဆိုဗီယက်တို့အား လက်နက်ချကာအရှုံးပေးကြရသည်။ တူရကီကလည်း ဂျာမနီနှင့်အဆက်အသွယ်ဖြတ်လိုက်လေသည်။ ယခင်ကဂျာမနီ၏မဟာမိတ်နိုင်ငံများကပင် ဂျာမနီအားစစ်ကြေညာ၍ပြန်လှန်တိုက်ခိုက်ကြသည်။ ယူဂိုဆလားဗီးယားတွင်ကား မာရှယ်တီးတိုးခေါင်းဆောင်သော ပြောက်ကျားတော်လှန်ရေးတပ်သားများသည် ဖက်ဆစ်တို့ကိုတွန်းလှန်လျက်ရှိလေသည်။ ဂရိနိုင်ငံကိုလည်း ၁၉၄၄ ခုနိုဝင်ဘာလတွင် ကယ်တင်လိုက်ကြသည်။ ဤသို့ဖြင့်ဥရောပတွင် ဂျာမနီတဦးတည်းသာလျှင် ကျန်လေတော့သည်။

၁၉၄၅ ခုနှစ်နွေဦးတွင် မဟာမိတ်တပ်ပေါင်းစုသည် ဂျာမနီတွင်အပြင်းထိုးစစ်ဆင်ကာ ရိုင်းမြစ်ကိုဖြတ်ကူး၍ ဂျာမန်မြို့ကြီးများကိုသိမ်းယူလေသည်။ ဧပြီလ ၂၁ ရက်နေ့တွင် အရှေ့ဖက်မှအောင်ပွဲဆင်လျက်ရှိသည့် ဆိုဗီယက်တပ်နီတော်သည် ဘာလင်မြို့တော်ထဲသို့ဝင်ရောက်ခဲ့သည်။ သို့ရာတွင် ဟစ်တလာကား လက်မလျှော့သေး၊ ကြွင်းကျန်နေသေးသော အင်အားစုနှင့်ပင်ခုခံလျက်ရှိသေးသည်။ အရှေ့ဖက်သို့ချီတက်လျက်ရှိသော အမေရိကန်တပ်များနှင့် အနောက်သို့ချီတက်လျက်ရှိသော ဆိုဗီယက်တပ်များတွေ့ဆုံမိသောအခါ၊ ဂျာမနီသည်နှစ်ခြမ်းကွဲသွားလေသည်။ ဂျာမန်စစ်တပ်များလည်း တဖွဲဖွဲလက်နက်ချလျက်ရှိသည်။ စစ်ကြီးကားပြီးလုနီးလေပြီ။

ဧပြီလ ၂၈ ရက်နေ့တွင် ဣတလီဖက်ဆစ်ဆန့်ကျင်ရေးသမားများကအာဏာရှင်မူဆိုလီနီအား သုတ်သင်လိုက်ကြသည်။ မေလ ၁ ရက်နေ့တွင်မူ ဟစ်တလာသေဆုံးပြီဆိုသောသတင်းကို ဂျာမန်ရေဒီယိုကကြေညာသည်။ နောက်တနေ့တွင် ရုရှားတပ်နီတော်က ဘာလင်မြို့တော်ကိုသိမ်းပိုက်လိုက်သည်။ ထိုနောက်ငါးရက်မျှအကြာ မေလ ၇ ရက်နေ့တွင် ဂျာမနီက ချွင်းချက်မရှိလက်နက်ချလေသည်။ သို့ဖြင့်ဥရောပစစ်ပွဲကြီးကား ပြီးဆုံးသွားလေပြီ။

### အရှေ့ဖျားစစ်မျက်နှာအဆုံးသတ်

ဥရောပစစ်မျက်နှာတွင် ဂျာမန်နှင့်အခြားဖက်ဆစ်အင်အားစုများ အရေးနိမ့်လျက်ရှိစဉ်၊ ကမ္ဘာ့အရှေ့ဖျားစစ်မျက်နှာတွင်လည်း ဂျပန်တို့သည် တဖြည်းဖြည်းအင်အားဆုတ်ယုတ်လျက် သိမ်းပိုက်ပြီးနယ်ပယ်များမှ ဆုတ်ခွာနေကြရသည်။ ပစိဖိတ်စစ်မျက်နှာတွင် အမေရိကန်ပြည်ထောင်စုက တာဝန်ယူ၍ အခြားမဟာမိတ်နိုင်ငံများနှင့်အတူ တိုက်နေရသည်။ ပစိဖိတ်အလယ်ပိုင်းဒေသတွင် အမေရိကန်ရေ



ပြင်သစ်နိုင်ငံ၊ နော်မန်ဒီစစ်မျက်နှာမှဂျာမန်တို့အား ထိုးစစ်ဆင်ရန်ချီတက်လာကြသည့် မဟာမိတ်စစ်သည်တော်များ

ကြောင်းဗိုလ်ချုပ်နီမစ်က အုပ်ချုပ်၍ ပစိဖိတ်အနောက်တောင်ပိုင်းတွင် ဗိုလ်ချုပ်မက်အာသာက အုပ်ချုပ်ပြီးလျှင် အာရှအရှေ့တောင်ပိုင်းဒေသတွင်မူ ဗြိတိသျှရေကြောင်း ဗိုလ်ချုပ် မောင့်ဗက်တန်က တာဝန်ယူရသည်။ တရုပ်စစ်တပ်များကိုချန်ကေရှိတ်ကဦးစီးလျက်ရှိသည်။

မဟာမိတ်တပ်ပေါင်းစုများ၏ လူအင်အား လက်နက်အင်အား စစ်ပစ္စည်းအင်အားမှာ ဂျပန်တို့ထက် များစွာသာလွန်သော်လည်း၊ ဂျပန်ကျွန်းပေါ်သို့ တက်ရောက်သိမ်းပိုက်ရန် လုပ်ငန်းမှာ မလွယ်ကူလှချေ။ အထူးလေ့ကျင့်ထားသော ဂျပန်စစ်သားများမှာလည်း အသက်နှင့်လဲ၍ခုခံလျက်ရှိသည်။ သို့ဖြစ်လေရာ ပထဝီဝင်အနေအထားနှင့် ဂျပန်စစ်သားများ၏ အရှုံးမပေးသောစိတ်ဓါတ်ကြောင့် အမေရိကန်တပ်များသည် ကျွန်းတကျွန်းကိုသိမ်းယူနိုင်ရန်အတွက် အသက်ပေါင်းများစွာစွန့်လွှတ်ကာ၊ ပြင်းထန်သောတိုက်ပွဲများကို ဆင်နွဲရလေသည်။ ပစိဖိတ်အလယ်ပိုင်းတွင် ရေကြောင်းဗိုလ်ချုပ်နီမစ်သည် ဂျပန်ကျွန်းမကြီးများကို တိုက်ခိုက်ရန်အတွက် စစ်စခန်းများရရှိရန် ဂီးလဗတ်ကျွန်း၊ မာရှယ်ကျွန်း၊ ဆိုင်ပန်ကျွန်း၊ မယ်ရီယန္နားကျွန်းများနှင့်ပါလောင်ကျွန်းများကို တိုက်ခိုက်သိမ်းယူလေရာ၊ ဂျပန်စစ်သားများကလည်း စွန့်စွန့်စားစားပြန်လှန်၍ ခုခံတိုက်ခိုက်ကြသဖြင့် နှစ်ဦးနှစ်ဖက်အကျအဆုံးမှာ ကြောက်ခမန်းလိလိဖြစ်တော့သည်။ အလယ်ပိုင်းစစ်မျက်နှာတွင် နီမစ်၏တပ်များက ကျွန်းကလေးများကို ဤသို့တိုက်ခိုက်နေစဉ်၊ မက်အာသာ၏တပ်များသည် နယူးဂင်းနီကျွန်းမြောက်ဖက်ကမ်းခြေသို့ ချီတက်လျက်ရှိသည်။ ၁၉၄၄ ခုအောက်တိုဘာလတွင် မက်အာသာ၏တပ်များသည် ဖိလစ်ပိုင်ကျွန်းစုရှိ လေးတီးကျွန်းပေါ်သို့တက်ရောက်ကြသည်။ ၁၉၄၅ ခု ဇန္နဝါရီလတွင် လူဇုန်ကျွန်းထက်သို့တက်ကြသည်။ ဖေဖွာရီလ ၄ ရက်နေ့တွင် မနီလာမြို့တော်ကိုသိမ်းယူရရှိသည်။ ဇူလိုင်လလောက်တွင် ဖိလစ်ပိုင်ကျွန်းအားလုံးကို သိမ်းပိုက်မိလေသည်။

အရှေ့ဖျားစစ်မျက်နှာတွင် အရေးကြီးသောစစ်မျက်နှာတခုမှာ မြန်မာပြည်မြောက်ပိုင်း အိန္ဒိယနယ်စပ်တွင်ဖြစ်သည်။ ဂျပန်တို့သည်အာသံနယ်ကိုဝင်ရောက်တိုက်ခိုက်ရန် ပြင်ဆင်နေကြသည်။ အာသံကိုသိမ်းယူရန် သုံးကြိမ်တိုင်တိုင်ကြိုးစားသော်လည်း မအောင်မြင်ချေ။ ၁၉၄၄ ခုနှစ်တွင် အင်္ဂလိပ်အမေရိကန်တို့ကလည်း မြန်မာပြည်ကိုပြန်လည်သိမ်းပိုက်ရန်ကြိုးစားကြသည်။ ဗိုလ်ချုပ်ဝင်းဂိတ်၏ လေထီးတပ်သားများကို အထက်မြန်မာပြည်သို့ချပေးကာ ပြောက်ကျားစစ်ဆင်နွှဲစေခဲ့သည်။

၁၉၄၅ ခုမတ်လတွင် အင်္ဂလိပ်တို့မန္တလေးကိုပြန်လည်သိမ်းယူသည်။ ထိုမတ်လအတွင်း၌ပင် ဗမာ့ကာကွယ်ရေး



အပေါ်ပုံတွင် စစ်အတွက်အရေးပါလှသော မြန်မာနိုင်ငံမြောက်ဖက်တောင်တန်းနှင့် ရှုံမြောင်များကိုဖြတ်ကျော်ဖေါက်လုပ်ထားသည့်လီဒိုလမ်းကြီးကိုကောင်းစွာမြင်နိုင်ပေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းကစစ်ရိက္ခာများကို တရုပ်နိုင်ငံနှင့်မြန်မာနိုင်ငံတို့သို့ပို့ရာ၌ ဤလီဒိုလမ်းမကြီးကိုအထူးအားထားကာအသုံးပြုခဲ့ရလေသည်။ လကျ်ာဖက်ပုံမှာဂျပန်နိုင်ငံ ဟီရိုရှီးမားမြို့ကို အနုမြူဗုံး ဖြင့်ကြဲပြီးနောက်ပြာပုံအတိကျကာပျက်စီးရပုံဖြစ်သည်။ ၁၉၄၅ ခုဩဂုတ်လ ၆ ရက်နေ့တွင်ကြဲသောထိုအနုမြူဗုံးဒဏ်ကြောင့် လူဦးရေသုံးသိန်းကျော်ရှိသောဟီရိုရှီးမားမြို့၏သုံးပုံနှစ်ပုံခန့်ပြာအတိဖြစ်သွားသည့်ပြင်ထောင်ပေါင်းများစွာသောလူ၊ တိရစ္ဆာန်နှင့်အဆောက်အအုံများဆုံးရှုံးခဲ့ရလေသည်။

တပ်မတော်နှင့် ဖက်ဆစ်ဆန့်ကျင်ရေးပြောက်ကျားတို့သည် ဂျပန်ကိုတော်လှန်တိုက်ခိုက်ကြသည်။ ထို့ကြောင့်လည်း မဟာမိတ်တို့က မြန်မာပြည်ကို လျင်မြန်စွာပြန်လည်သိမ်းပိုက်နိုင်ခြင်းဖြစ်သည်။ ဗိုလ်ချုပ်အောင်ဆန်းကြီးမှူးသော ဗမာ့တပ်မတော်သားများသည် မြန်မာတမျိုးလုံးအား ဖက်ဆစ်ဂျပန်ကိုတော်လှန်ရာ၌ ခေါင်းဆောင်ခဲ့သည်။ မြန်မာတမျိုးသားလုံးကလည်း ဗိုလ်ချုပ်အောင်ဆန်း ရှေ့ဆောင်ရာသို့ မသေမဖီဘဲလိုက်ခဲ့၍ ဂျပန်များကို မြန်မာပြည်မှ အချိန်အနည်းငယ်အတွင်းတွင် မောင်းထုတ်နိုင်ခဲ့ပေသည်။

မဟာမိတ်တပ်များသည် ဂျပန်ကျွန်းမကြီးနှင့် မလှမ်းမကမ်းရှိသော ကျွန်းများကိုတိုက်ခိုက်ကြရာ၊ ၁၉၄၅ ခုမတ်လတွင် အီဝိုဂျီးမားကျွန်းကိုင်၎င်း၊ ဧပြီလတွင် အိုကီနားဝါးကျွန်းကို၎င်း၊ အကျအဆုံးများစွာနှင့် သိမ်းယူရရှိသည်။ အမေရိကန်တပ်များကလည်း ဂျပန်ကျွန်းမကြီးပေါ်သို့ တက်ရောက်နိုင်ရန် အကြီးအကျယ်ပြင်ဆင်လျက်ရှိသည်။

ထိုသို့ဂျပန်တို့၏ အချက်အခြာကျွန်းမကြီးကိုတိုက်ခိုက်ရန် စီစဉ်နေခိုက်၊ မမြော်လင့်သောအဖြစ်အပျက်များ ပေါ်ပေါက်လာသဖြင့် မူလစစ်အခြေအနေမှာ လုံးဝပြောင်းလဲသွားလေတော့သည်။ ၁၉၄၅ ခုဩဂုတ်လ ၆ ရက်နေ့တွင် အမေရိကန်လေတပ်က ဂျပန်နိုင်ငံဟီရိုရှီးမားမြို့ပေါ်သို့ ပဌမဆုံးအကြိမ် အနုမြူဗုံးတလုံးကို ကြဲချလိုက်သည်။ ဩဂုတ်လ ၈ ရက်နေ့တွင် ဆိုဗီယက်ရုရှားက ဂျပန်အားစစ်ကြေညာပြီးလျှင် မန်ချူးရီးယားကို ဝင်ရောက်တိုက်ခိုက်သည်။ ဩဂုတ်လ ၉ ရက်နေ့တွင် နောက်ထပ်အနုမြူဗုံးတလုံးကို ဂျပန်နိုင်ငံ နဂစာကီမြို့ပေါ်သို့ ကြဲချလိုက်ပြန်သည်။

အနုမြူဗုံးကား သာမန်ဗုံးများထက် အဆပေါင်းများစွာ အင်အားကြီးမား၍ အထိရောက်ဆုံးသောလက်နက်ဖြစ်သည်။ လူဦးရေသုံးသိန်းကျော်စီရှိသော ထိုမြို့ကြီးနှစ်မြို့မှာ သုံးပုံနှစ်ပုံခန့် ပြာပုံအတိဖြစ်သွားသည်။ ထောင်ပေါင်းများစွာသော လူ၊ တိရစ္ဆာန်၊ အဆောက်အအုံများ သေကြေပျက်စီး၍ ထောင်ပေါင်းများစွာ ဒဏ်ရာရရှိကြသည်။ ဂျပန်တို့မှာကြာရှည်မခံနိုင်တော့ဘဲ၊ ၁၉၄၅ ခုဩဂုတ်လ ၁၄ ရက်နေ့တွင် လက်နက်ချကာအရှုံးပေးလေသည်။ လက်နက်ချသောစာချုပ်ကို စက်တင်ဘာလ ၂ ရက်နေ့တွင် ဂျပန်အစိုးရက လက်မှတ်ရေးထိုးလေသည်။ ဤတွင်ကြောက်မက်ဖွယ်ကောင်းလှသော ဒုတိယကမ္ဘာစစ်ကြီးမှာ ပြီးဆုံးခြင်းသို့ ရောက်လေတော့သည်။

## စစ်ပြီးနောက်

ကျွန်ုပ်တို့ မှီတင်းနေထိုင်လျက်ရှိသော ကမ္ဘာကြီးသည်

ပစိဖိတ်သမုဒ္ဒရာစစ်မျက်နှာတွင် ဤသို့ကမ်းတက်တိုက်ပွဲများကိုများစွာဆင်နွှဲရသည်။



နှစ်ငါးဆယ်အတွင်း၌ ကြောက်မက်ဖွယ်ကောင်းသော ကမ္ဘာ့စစ်ကြီးနှစ်ခုနှင့် ရင်ဆိုင်ခဲ့ရသည်။ ၁၉၁၄–၁၈ ခုနှစ် ပဌမကမ္ဘာ့စစ်ကြီး ပြီးဆုံးသွားသောအခါ၊ ကမ္ဘာ့သူကမ္ဘာ့သားများသည် စစ်၏ဆိုးရွားပုံနှင့် အဖျက်သဘောတရားများကို မျက်ဝါးထင်ထင်တွေ့မြင်ကြရသဖြင့် နောက်ထပ်စစ်ဖြစ်မည်ကို အထူးပင်စိုးရိမ်ခဲ့ကြသည်။ သို့ဖြစ်၍ စစ်နောက်ထပ်မဖြစ်ပွားစေရန် နည်းလမ်းများကိုရှာကြံရာမှ နိုင်ငံပေါင်းချုပ်အသင်းကြီးကို တည်ထောင်ခဲ့ကြသည်။ သို့ရာတွင် ဤအသင်းကြီးမှာ မူလရည်ရွယ်ချက်များ မှန်မြတ်သလောက် လုပ်ငန်းကို ထိထိရောက်ရောက်မလုပ်နိုင်သဖြင့် ကမ္ဘာ့အခြေအနေမှာ ဒုတိယကမ္ဘာ့စစ်ကြီးဖြစ်သည့်အခြေတိုင်အောင် တစတစဆိုးရွားလာခဲ့သည်။ (ကမ္ဘာ့စစ်ကြီး၊ ပဌမ။ နိုင်ငံပေါင်းချုပ်အသင်းကြီး — ရှု)။

၁၉၃၉–၄၅ ခုနှစ်ဒုတိယကမ္ဘာ့စစ်သည် လူတိုင်းသိရှိသည့်အတိုင်း ပဌမကမ္ဘာ့စစ်ထက် အစစ အရာရာတွင်ကြီးကျယ်ပေသည်။ ကမ္ဘာ့လူဦးရေတိုးတက်များပြားလာသည်နှင့် အမျှ သိပ္ပံပညာလည်း ထွန်းကားလာခဲ့သဖြင့် စစ်လက်နက်များ၊ စစ်တပ်ကြီးများမှာလည်း ကြီးကျယ်ဆန်းပြားလာလေသည်။ ဒုတိယကမ္ဘာ့စစ်အတွင်း၌ အပျက်အစီးများမှာ ယခင်စစ်များမှာထက် အဆပေါင်းမြောက်မြားစွာပိုမိုခဲ့လေသည်။ ဒုတိယကမ္ဘာ့စစ်ပြီးစီးသွားသောအခါ လူများသည် စစ်ကိုအထူးမုန်းတီးရွံရှာလာ၍ စစ်ကိုတားဆီးနိုင်မည့် နည်းလမ်းများကို ကြံဆကြပြန်သည်။ ဤသို့ဖြင့် ယခင်ပဌမကမ္ဘာ့စစ်အပြီးတွင်တည်ထောင်ခဲ့သော နိုင်ငံပေါင်းချုပ်အသင်းကြီးကို မူသစ်ဖြင့်ပြန်လည်အသက်သွင်းပေးကာ ကုလသမဂ္ဂဟူသောအမည်ဖြင့် ဖွဲ့စည်းလိုက်သည်။ (ကုလသမဂ္ဂ – ရှု။) ကုလသမဂ္ဂသည် နောက်ထပ်ကမ္ဘာ့စစ်ကြီးကို မဖြစ်စေရန် တားဆီးနိုင်မည်လော သို့တည်းမဟုတ် နိုင်ငံပေါင်းချုပ်အသင်းကြီး၏ နမူနာအတိုင်းပင် ဖြစ်သွားဦးမည်လောဆိုသည်ကို အချိန်ကသာသက်သေခံပေမည်။

**စစ်ပြီးကမ္ဘာ့အခြေအနေ။** ။မည်သည့်နိုင်ငံ မည်သည့်အရပ်ဒေသတွင်ဖြစ်စေ၊ စစ်ဖြစ်ပွားပြီးသည့်နောက် အရပ်ရပ်အခြေအနေများသည်အနည်းနှင့်အများဆိုသလို တမျိုးတဖုံပြောင်းလဲသွားတတ်သည်မှာ ဓမ္မတာပင်ဖြစ်ပေသည်။ စီးပွားရေး၊ နိုင်ငံရေး၊ ပညာရေး၊ ပြည်ထောင်ချင်းချင်းပေါင်းသင်းဆက်ဆံရေးစသည်တို့မှာ ဆုတ်ယုတ်သွားသည်လည်းရှိ၏။ တိုးတက်လာသည်လည်းရှိပေသည်။ လက်အောက်ခံနိုင်ငံကလေးများအနက် အချို့မှာသခင်အပြောင်းအလဲရှိကြ၍၊ အချို့မှာ လွတ်လပ်ရေးရသွားတတ်သည်။ စစ်ရှုံးသောနိုင်ငံများကို စစ်နိုင်သောနိုင်ငံကြီးများက ခွဲခြမ်းအုပ်ချုပ်ကြသည်။ တခါတရံ နိုင်ငံသစ်ကလေးများလည်း ဖြစ်ထွန်းလာတတ်သည်။ ယင်းသို့ယေဘုယျနိုင်ငံရေးအခြေအနေပြောင်းလဲသွားပုံကို ပဌမကမ္ဘာ့စစ်အပြီးတွင် တွေ့ကြုံခဲ့ရသကဲ့သို့ ယခုဒုတိယကမ္ဘာ့စစ်ပြီးခေတ်တွင်လည်းတွေ့မြင်ရပြန်သည်။

**ကြီးသုံးကြီး။** ။ဒုတိယကမ္ဘာ့စစ်ကြီးတွင် အောင်ပန်းဆွတ်ခူးခဲ့သောမဟာမိတ်နိုင်ငံများအနက်၊ ဗြိတိသျှ၊ အမေရိကန်နှင့်ဆိုဗီယက်ရုရှားတို့ကို ကြီးသုံးကြီးဟူ၍ ခေါ်စမှတ်ပြုကြသည်။ အဘယ်ကြောင့်ဆိုသော် ယင်းနိုင်ငံကြီးသုံးနိုင်ငံမှာ လက်နက်အင်အားနှင့် စက်မှုလက်မှုအင်အားတွင် အကြီးဆုံးနိုင်ငံကြီးများဖြစ်သောကြောင့်တည်း။ စစ်ကိုနိုင်လိုသည်ဟုပင်ဆိုရသော်လည်း အပျက်အစီး အဆုံးအရှုံးမှာ ကြောက်ခမန်းလိလိဖြစ်တော့သည်။ ဗြိတိန်နိုင်ငံမှာ စစ်မဖြစ်မီက ပဌမတန်းစားနိုင်ငံကြီးဖြစ်ခဲ့သော်လည်း စစ်ပြီးသည့်အချိန်တွင် တတိယတန်းစား နိုင်ငံဘဝသို့ လျှောကျသွားလေသည်။ စစ်ပြီးခေတ်စီးပွားရေးကျပ်တည်းမှုကြောင့် ဗြိတိန်တမျိုးသားလုံး ခြိုးခြံစွာကျင့်သုံးနေကြရသည်။ စစ်အတွင်းက ခေါင်းဆောင်ခဲ့သော ချာချီအစိုးရပြုတ်ကျ၍၊ အက်တလီဦးစီးသော အလုပ်သမားအစိုးရ တက်လာသည်။ ယခင်က နေမဝင်သော ဗြိတိသျှအင်ပိုင်ယာကြီးမှာလည်း တစတစနှင့်ပြိုကွဲလျက်ရှိသည်။ သို့ရာတွင် ဗြိတိသျှလူမျိုးတို့သည် ပြန်လည်ထူထောင်ရေးလုပ်ငန်းများကို ဇွဲကောင်းကောင်းနှင့် လုပ်ကိုင်နေကြပေသည်။

ကြီးသုံးကြီးတွင်ပါဝင်သော အမေရိကန်ပြည်ထောင်စုသည် ဒုတိယကမ္ဘာ့စစ်တွင် အမြတ်အထွက်ဆုံးနိုင်ငံဖြစ်သည်။ အမေရိကန်မြေပေါ်သို့ ရန်သူများလာရောက်၍ဗုံးမကြဲနိုင်သဖြင့် အပျက်အစီးဟူ၍လုံးဝမရှိ။ သဘာဝပစ္စည်းများဖြင့်လည်း ကြွယ်ဝသည့်ပြင် စက်မှုလက်မှုအလုပ်ရုံများပေါများသဖြင့် လက်နက်များကို အခြားနိုင်ငံများသို့ပင် တင်ပို့နိုင်ခဲ့လေသည်။ ကမ္ဘာ့ပေါ်တွင် အနုမြူဗုံးကို ရှေးဦးစွာအသုံးပြုသောနိုင်ငံလည်းဖြစ်သည်။ စစ်ပြီးသောအခါ ကမ္ဘာ့ပေါ်၌ အချမ်းသာဆုံးနိုင်ငံဖြစ်လာပြီးလျှင် အခြားနိုင်ငံများသို့ ငွေကြေးအထောက်အပံ့များ ပေးလျက်ရှိရာ၊ ယခုအခါ အမေရိကန်ပြည်ထောင်စုမှ အထောက်အပံ့ကို မယူသော နိုင်ငံဟူ၍ မရှိသလောက်ပင်ဖြစ်တော့သည်။ ဆိုဗီယက်ရုရှားမှာလည်း ကြီးသုံးကြီးတွင် အပါအဝင်ဖြစ်သည်။ ဒုတိယကမ္ဘာ့စစ်ဒဏ်ကို အများဆုံးခံရသော ပြည်ထောင်စုနိုင်ငံဖြစ်သော်လည်း နောက်ဆုံးတွင် ဂျာမန်တို့ကို ပြန်လည်တိုက်ခိုက်အောင်မြင်ခဲ့ပေသည်။ မဟာမိတ်တို့ဂျာမနီကိုအောင်နိုင်ခြင်းမှာ ဆိုဗီယက်ရုရှားကြောင့် ဖြစ်သည်ဟုဆိုက မှားမည်မဟုတ်ချေ။ ယခုအခါ ဆိုဗီယက်ရုရှားမှာ ကမ္ဘာ့ထိပ်သီး ပဌမတန်းနိုင်ငံကြီးတခုဖြစ်၍ အမေရိကန်ပြည်ထောင်စုနှင့် ယှဉ်ပေါင်တန်းလိုက်လျက်ရှိသည်။ ကမ္ဘာ့တွင်လည်း ဆိုဗီယက်တို့၏ဩဇာမှာ ယခင်ကထက်ပြန့်နှံ့နေ



တိုကျိုပင်လယ်အော်အတွင်း ယူအက် (စ) အက် (စ) မိဇူးရီသင်္ဘောပေါ်တွင် ဂျပန်လက်နက်ချစာချုပ် လက်မှတ်ရေးထိုးရန်ပြင်နေကြစဉ်

လေသည်။ ဥရောပအရှေ့ပိုင်းနိုင်ငံများမှာ ဆိုဗီယက်နှင့် များစွာသင့်မြတ်ကြသည်။ ယခုအခါ တရုပ်ပြည်သူ့သမတနိုင်ငံကြီးပင်ဆိုဗီယက်ရုရှား၏ မဟာမိတ်ဖြစ်လာခဲ့သဖြင့် ဆိုဗီယက်တို့၏အင်အားမှာများစွာတောင့်တင်းနေသည်။

**ကမ္ဘာ့အနောက်ပိုင်း။** ။ဥရောပတိုက်သည် ၁၉၃၉ ခုနှစ်စစ်ဖြစ်သည့်အချိန်မှအစပြု၍ ဂျာမန်တို့လက်နက်ချသည့်အချိန်အထိ စစ်တလင်းဖြစ်ခဲ့ရာ၊ အပျက်အစီးအသေအပျောက်များလှသည်။ ပြင်သစ်၊ ဗဲလဂျီယမ်၊ ဟော်လန်စသောနိုင်ငံများမှာ နာဇီလက်အောက်တွင် နှစ်အတန်ကြာဖိနှိပ်ညှဉ်းပန်းခြင်း ခံခဲ့ကြရသည်။ မြို့ရွာများစွာတို့မှာလည်း ပြာပုံအတိဖြစ်ခဲ့ရပြီးလျှင်၊ လူများမှာ ရှားပါးငတ်မွတ်ခြင်းနှင့် ရင်ဆိုင်ခဲ့ကြရသည်။ စစ်ရှုံးသောဂျာမနီနိုင်ငံမှာလည်း ထို့အတူပင်ဖြစ်သည်။ ဗြိတိသျှ၊ အမေရိကန်၊ ရုရှားနှင့် ပြင်သစ်တို့သည် ဂျာမနီနိုင်ငံကို လေးပိုင်းပိုင်း၍ တဦးလျှင် တပိုင်းစီ အုပ်ချုပ်ကြသည်။ ဘာလင်မြို့ကိုလည်း အရှေ့ပိုင်း အနောက်ပိုင်းဟူ၍ ခွဲထားပြီးလျှင် အရှေ့ပိုင်းကို ဆိုဗီယက်ရုရှားကငင်း၊ အနောက်ပိုင်းကို အင်္ဂလိပ်၊ အမေရိကန်တို့ကငင်း၊ အုပ်ချုပ်သည်။ နာဇီလက်အောက်သို့ကျရောက်ခဲ့သော ဥရောပနိုင်ငံများမှာ ယခုအခါလွတ်လပ်သောနိုင်ငံများ ဖြစ်လာကြသည်။ တောင်အမေရိကတိုက်နှင့် မြောက်အမေရိကတိုက်များမှာကား စစ်၏ဒဏ်ကို တိုက်ရိုက်မခံရသဖြင့် အပျက်အစီးမရှိချေ။ ပထဝီဝင်အနေအထားကြောင့် သက်သာရာရလေသည်။

**ကမ္ဘာ့အရှေ့ပိုင်း။** ။ဥရောပတိုက်နှင့်ကပ်လျက်ရှိသောပါလက်စတိုင်းနိုင်ငံတွင် စစ်အတွင်းက ပြင်းထန်သောတိုက်ပွဲများ မဖြစ်ပွားခဲ့သော်လည်း၊ စစ်ပြီးခေတ်တွင် ပြည်တွင်းစစ်၏ဒဏ်ကိုခံရလေသည်။ ယဟူဒီတို့အား ပါလက်စတိုင်းတွင် နေရာချထားသည်ကို အာရပ်နိုင်ငံများက ကန့်ကွက်လျက်ရှိသည်။ နောက်ဆုံးတွင် အာရပ်နှင့်ယဟူဒီတို့ လက်နက်စွဲကိုင်၍တိုက်ခိုက်ကြသည်။ ယခုအခါသော်ကား ယဟူဒီတို့သည် အစ္စရီယယ်နိုင်ငံဟူ၍ နိုင်ငံသစ်တခုထူထောင်လိုက်လေပြီ။

ဒုတိယကမ္ဘာစစ်ကြောင့် အပြောင်းလဲဆုံးသောနိုင်ငံများမှာ အရှေ့ဖျားနိုင်ငံများဖြစ်သည်။ အိန္ဒိယပြည်ကြီးသည် နှစ်ပေါင်းများစွာ ဗြိတိသျှတို့လက်အောက်တွင်နေခဲ့ရပြီးနောက်၊ ၁၉၄၇ ခုဩဂုတ်လ ၁၅ ရက်နေ့တွင် ဗြိတိသျှဓနသဟာယအဖွဲ့အတွင်း ဒိုမီနီယန်အဆင့်အတန်းကိုရလေသည်။ သို့ရာတွင် ဝမ်းနည်းဖွယ်ကောင်းသည်မှာ အိန္ဒိယ



ဖြစ်ပွားခဲ့သောစစ်များအနက် ဒုတိယကမ္ဘာစစ်သည်ကမ္ဘာပေါ်ရှိနိုင်ငံအားလုံးကိုစစ်ဒဏ်သင့်စေခဲ့သည်။ စစ်ပြီးဆုံးသောအခါတွင်စစ်ကြီးများကိုတားဆီး၍ထာဝစဉ်ငြိမ်းချမ်းရေး၊ လုံခြုံရေးတို့ကိုထိန်းသိမ်းနိုင်ရန်ကမ္ဘာ့သူကမ္ဘာ့သားတို့သည်ကုလသမဂ္ဂကိုဖွဲ့စည်းခဲ့ကြပေသည်။

ပြည်ကြီးသည် ရှေးယခင်ကကဲ့သို့ တလုံးတစည်းတည်း မဟုတ်တော့ဘဲ၊ အိန္ဒိယနှင့်ပါကစ္စတန်ဟူ၍ နိုင်ငံနှစ်ခုဖြစ်သွားခြင်းပင်ဖြစ်လေသည်။

အိန္ဒိယနိုင်ငံနှင့်ကပ်လျက်ရှိသော မြန်မာပြည်သည်ကားနှစ်ကြိမ်တိုင်တိုင် ဒုတိယကမ္ဘာစစ်၏ဒဏ်ကို အလူးအလဲခံခဲ့ရသဖြင့် မြန်မာ့စီးပွားရေးအခြေအနေမှာ များစွာပျက်စီးယိုယွင်းခဲ့သည်။ စီးပွားရေးအားဖြင့် ဆုတ်ယုတ်သွားခဲ့သော်လည်း၊ နိုင်ငံရေးအားဖြင့်မူ တိုးတက်လာသည်ဟု ဆိုရပေမည်။ ဗိုလ်ချုပ်အောင်ဆန်းအမှူးရှိသော ခေါင်းဆောင်ကြီးများ၏ ကြိုးပမ်းမှုကြောင့်၎င်း၊ စစ်ပြီးခေတ်တွင် မြန်မာလူထု၏ နိုးကြားလာမှုကြောင့်၎င်း၊ ဗြိတိသျှလက်အောက်တွင် နှစ်တရာကျော်ကျရောက်ခဲ့သော မြန်မာပြည်သည် ၁၉၄၈ ခုဇန္နဝါရီလ ၄ ရက်နေ့မှစ၍ လွတ်လပ်သော ပြည်ထောင်စုသမတနိုင်ငံတော်အဖြစ်သို့ ရောက်ရှိလာခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အပြီးတွင် အရှေ့အာရှနိုင်ငံများ၌အမျိုးသားရေး နိုးကြားထကြွမှုများ အနှံ့အပြားပေါ်ပေါက်လာခဲ့သည်။ အင်ဒိုနီးရှား၊ အင်ဒိုချိုင်းနား၊ မြန်မာနိုင်ငံစသည်တို့တွင် လွတ်လပ်ရေးတိုက်ပွဲများဆင်နွှဲကြသည်။ ယင်းနိုင်ငံများအနက် မြန်မာနိုင်ငံမှာ ၁၉၄၈ ခုနှစ်တွင်လွတ်လပ်ရေးရပြီးနောက် ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံတခုဖြစ်လာသည်။ အင်ဒိုနီးရှားနိုင်ငံသည်လည်း ဒပ်ချတို့နှင့် အရေးဆိုပြီးနောက် လွတ်လပ်သော အင်ဒိုနီးရှားပြည်ထောင်စုသမတနိုင်ငံအဖြစ်သို့ရောက်ရှိလာခဲ့သည်။

အင်ဒိုချိုင်းနားတွင်ကားဟိုချီမင်းခေါင်းဆောင်သောမျိုးချစ်တော်လှန်ရေးသမားများသည် ပြင်သစ်ကိုလိုနီအစိုးရကို ယခုတိုင်အောင် တော်လှန်လျက်ရှိသည်။ ဖိလစ်ပိုင်နိုင်ငံကိုမူ ၁၉၄၆ ခုဇူလိုင်လ ၄ ရက်နေ့ကပင် အမေရိကန်ကလွတ်လပ်ရေးပေးလိုက်သည်။

အရှေ့ဖက်နိုင်ငံများအနက် အကျယ်ဝန်းဆုံးနှင့် လူဦးရေအများဆုံးဖြစ်သော တရုပ်နိုင်ငံကြီးမှာ စစ်ပြီးခေတ်တွင် အကြီးအကျယ်ပြောင်းလဲခဲ့သည်။ ၁၉၂၇ ခုနှစ်မှစ၍ ချန်

ကေရှိတ်အစိုးရကို တော်လှန်ပုန်ကန်လာခဲ့သော ကွန်မြူနစ်များသည် ဒုတိယကမ္ဘာစစ်အတွင်းက ချန်ကေရှိတ်အစိုးရနှင့်ပူးပေါင်း၍ ဖက်ဆစ်ဂျပန်ကို တော်လှန်ခဲ့ကြသည်။ ဂျပန်စစ်ရေးနိမ့်သွားသောအခါ ချန်ကေရှိတ်အစိုးရနှင့် ကွန်မြူနစ်များမှာ ရန်သူပြန်ဖြစ်ပြီး ဖြစ်ပြီးလျှင် ပြည်တွင်းစစ်ပွဲကြီးကိုဆင်နွှဲကြသည်။ တရုတ်ကွန်မြူနစ်များ၏ခေါင်းဆောင်မှာ မော်စီတုံးဖြစ်သည်။ နောက်ဆုံးတွင် ချန်ကေရှိတ်အစိုးရ၏ညံ့ဖျင်းမှုကြောင့်၎င်း၊ တရုတ်ကွန်မြူနစ်များ၏ ငွေ့သတ္တိအရည်အချင်းတို့ကြောင့်၎င်း၊ ချန်ကေရှိတ်တပ်များမှာ တဖြည်းဖြည်းအရေးရှုံးနိမ့်ပြီးလျှင် ပြည်မကြီးကိုစွန့်ခွာ၍ ဖေါ်မိုဆားကျွန်းကလေးပေါ်သို့ ရွှေ့ပြောင်းခိုအောင်းနေကြရသည်။ ၁၉၄၉ ခုအောက်တိုဘာလ ၁ ရက်နေ့တွင် တရုတ်ပြည်သူ့နိုင်ငံရေးဆွေးအတိုင်ပင်ခံအဖွဲ့ကိုဖွဲ့စည်းခဲ့ရာ မော်စီတုံးမှာ ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခြင်းခံရသည်။ ယခုသော် တရုတ်ပြည်သူ့သမတနိုင်ငံသစ်အဖြစ် တိုးတက်လျက်ရှိချေပြီ။

ဝင်ရိုးတန်း ခစ်နိုင်ငံတခုဖြစ်သော ဂျပန်နိုင်ငံမှာကား စစ်အပြီးတွင် အမေရိကန်တပ်များ၏ သိမ်းပိုက်ထားခြင်းကို ခံခဲ့ရသည်။ ဂျပန်ခစ်ပြေငြိမ်းရေးစာချုပ်ကို ၁၉၅၁ ခုစက်တင်ဘာလရောက်မှ အင်္ဂလိပ်၊ အမေရိကန်တို့နှင့် ချုပ်ပြီးလေသည်။ ဂျပန်တို့သည် စက်မှုလက်မှုပညာရပ်တွင် ကျွမ်းကျင်သူများဖြစ်သည့်အားလျော်စွာ သူတို့၏နိုင်ငံကို ယခင်ကအခြေအနေသို့ ပြန်လည်ရောက်ရှိအောင် ကြိုးပမ်းလျက်ရှိကြသည်။

ကမ္ဘာဦးတိရစ္ဆာန်များ။ ။ကျွန်ုပ်တို့ မှီတင်းနေထိုင်သော ကမ္ဘာကြီး၏သက်တမ်းသည် မည်မျှမည်မျှရှိခဲ့ပြီဟု မည်သူမျှမခန့်မှန်းနိုင်သေးချေ။ သို့ရာတွင် ကမ္ဘာတည်လာသည်မှာ နှစ်ပေါင်းသိန်း၊ သန်းမက ကြာရှည်လှပြီဖြစ်ကြောင်းကား ထင်ရှားပေသည်။ ယနေ့အခြေအနေမျိုးသို့ ရောက်ရှိအောင် နှစ်ပေါင်းမည်မျှ၊ ခေတ်ပေါင်းမည်မျှ သဘာဝတရားက ပန်တီးပြုပြင်ပေးခဲ့ရသည်ကို မှန်းဆ၍ သာကျေနပ်ရလေသည်။

ယခုခေတ်သည် တိုးတက်နေသောခေတ်ဖြစ်၍၊ လူများသည်လည်း အဘအရာရာတွင် တိုးတက်နေကြသည့်အလျောက် ရှေးက မသိဘူးသောအရာများကို သိရှိနိုင်ကြ၏။ အဘတ်ပညာအမျိုးမျိုး ထွန်းကားနေသဖြင့်လည်း အဘအရာရာ၌ လက်တွေ့စုံစမ်းရှာဖွေကြ၏။ သို့ဖြစ်လေရာ မိမိတို့နေထိုင်ကြသော ကမ္ဘာကြီး၏နောက်ကြောင်းကိုလည်း ပြန်လည်သုံးသပ်ကြ၏။ ကမ္ဘာဦးအခါက လူများမည်ကဲ့သို့နေထိုင်ကြသည်၊ ကမ္ဘာပေါ်တွင်မည်ကဲ့သို့သော အခြေအနေမျိုးဖြစ်ပေါ်သည်၊ မည်သို့မည်ပုံတိုးတက်ပြောင်းလဲလာသည် စသောပြဿနာရပ်များကို အဖြေရှာကြ၏။ အထူးသဖြင့် နိုင်ငံသမိုင်းဆရာတို့သည် အကြောင်းအကျိုး အမျိုးမျိုးကိုတွေးတောဆင်ခြင်၍၎င်း၊ မြေကြီးများကိုတူးဖေါ်၍၎င်း၊ ရှေးဟောင်းပစ္စည်းများကို စိစစ်ဆက်စပ်၍၎င်း၊ ကမ္ဘာ့နောက်ကြောင်းအခြေခံသမိုင်းကို ဆက်စပ်ကြည့်ကြ၏။ ခေတ်မှီနိုင်ငံကြီးများ၌ မူကား နိုင်ငံအစိုးရကိုယ်တိုင်ကပင် ငွေကြေးမြောက်မြားစွာ အကုန်အကျခံပြီးလျှင် ရှေးဟောင်းပစ္စည်းများကို တူးဖေါ်စေသည်။ တူးဖေါ်ရရှိသောဝတ္ထုပစ္စည်းများကိုလည်း ပျောက်ပျက်မသွားစေရန် ပြတိုက်ကြီးများ၌ကောင်းစွာထိန်းသိမ်းထားလေသည်။ လန်ဒန်မြို့ရှိပြတိုက်ကြီး၊ နယူးယောက်မြို့ရှိ သဘာဝသမိုင်းပြတိုက်ကြီးများတွင် မြေအောက်မှတူးဖေါ်ရရှိသောပစ္စည်းများ၊ ကျောက်များမှ ထွင်းယူရရှိသောအရာဝတ္ထုများကို ပကတိအနေအထားဖြစ်အောင် ပုံသွန်း၍ထားသဖြင့် ကျွန်ုပ်တို့တွေ့ရှိနိုင်သည်။ မြေကြီးများကို တူးဖေါ်ရာ၌၎င်း၊ ကျောက်များကို ထွင်းသောအခါ၌၎င်း၊ ရှေးဦးကမ္ဘာတွင် ကျက်စားခဲ့သည့်သတ္တဝါများ၏ အရိုးများ၊ အရိုးခုများကို တွေ့ရှိရပေသည်။ ထိုအရိုးများကို ဆက်ကြည့်သောအခါ ထိုခေတ်က တိရစ္ဆာန်များ၏ပုံပန်းသဏ္ဍာန်ကို အကြမ်းအားဖြင့် တွေ့ရှိနိုင်သည်။

လွန်ခဲ့သော နှစ်ပေါင်းသိန်း၊ သန်းမကသည့် အခါက ကမ္ဘာပေါ်တွင် လူဟူ၍မရှိသေးချေ။ ထိုခေတ်ကို ကမ္ဘာဦးခေတ် (ဝါ) သမိုင်းမတင်မီခေတ်ဟု ခေါ်ဆိုကြ၏။ လူမပေါ်ပေါက်သေးသည့်ကမ္ဘာ၌ တိရစ္ဆာန်များသာ ရှေးဦးစွာ နေထိုင်ကျက်စားခဲ့ကြောင်းကို စူးစမ်းရှာဖွေကြရာမှ ခိုင်လုံသောအထောက်အထားများကို တွေ့ရှိရလေသည်။

ကမ္ဘာမြေပေါ်ရှိ ကျောက်အမျိုးမျိုးကို ထုခွဲကြည့်ရှုခြင်းဖြင့် ဘူမိဗေဒဆရာများသည် ကမ္ဘာပေါ်၌ ခေတ်အသီးသီးတွင် ကျက်စားခဲ့သော သတ္တဝါများအကြောင်းကို သရုပ်နှင့်တကွ ဖေါ်ထုတ်နိုင်ခဲ့ပေသည်။ သို့ရာတွင် အတိအကျမှန်ကန်သည်ဟု မပြောနိုင်ဘဲ အမှန်းအဆမျှသာ ဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော် ရှေးခေတ်တိရစ္ဆာန်တိုင်း၏ အစအနများကို ကျောက်များ၌မတွေ့ရဘဲ၊ အချို့အဝက်သာ တွေ့ရသောကြောင့်ဖြစ်ပေသည်။ ထိုသို့ ကျောက်များ၌ကျန်ရစ်ခဲ့သော အရိုးအဆစ်အပိုင်းများကို ပုံသွန်းဆက်စပ်ကြည့်ခြင်းအားဖြင့် ရှေးခေတ်တိရစ္ဆာန်များ၏သဏ္ဍာန်ကို သရုပ်ဖေါ်ရလေသည်။

ကမ္ဘာပေါ်၌ ပဌမဆုံးနေထိုင်သည်ဟုယုံကြည်ရသော သက်ရှိသတ္တဝါများမှာ အသက်ရှိသည့် သာမန်အင်္ဂါစုက လေးများသာဖြစ်ကြ၍ ထူးဆန်းသည်ဟု မဆိုသာချေ။ နှစ်ပေါင်းများစွာတိုင်အောင် ထိုအင်္ဂါစုကလေးများသည် ကမ္ဘာပေါ်တွင် နေထိုင်ကြပြီးနောက်၊ တိမ်ကောသွား



အံ့သြဖွယ်ရာ ကမ္ဘာဦး တိရစ္ဆာန်ကြီး

ယခုတိုးတက်လျက်ရှိသောခေတ်တွင် နိုင်ငံသမိုင်းဆရာတို့သည် ကမ္ဘာဦးအခါက မည်သို့အခြေအနေမျိုးရှိသည်၊ မည်သို့မည်ပုံတိုးတက်ပြောင်းလဲလာသည် စသောပြဿနာရပ်များကိုစူးစမ်းရှာဖွေလေ့လာခဲ့ကြရာ၌ သမိုင်းမတင်မီခေတ်က တိရစ္ဆာန်ကြီးများအကြောင်းကိုသိရှိလာခဲ့ကြသည်။ ငါးခေတ်တိမ်ကောသွားပြီးနောက် တွားသွားကောင်များခေတ်သို့ရောက်လာသောအခါ ပဌမဆုံးတွားသွားကောင်တို့မှာ ကုန်းပေါ်၌ရင်း၊ ရေပေါ်၌ရင်း ကျက်စားသောသတ္တဝါများဖြစ်သည်။ တွားသွားကောင်များအနက် ပုံတွင်မြင်ရသည့်ဒိုင်နိုဆောကောင်ကြီးမျိုးမှာ အလွန်ကြီးမားကြောက်မက်ဖွယ်ကောင်း၍ ဥမှပေါက်ပွားကြသည်။

ကြ၏။ ထိုအခါက ကျောရိုးရှိသတ္တဝါများ၊ နို့တိုက်သတ္တဝါများလည်း မရှိသေးချေ။ ထိုအခါကရှိခဲ့သောသတ္တဝါများမှာ ကျောရိုးမဲ့သတ္တဝါများသာဖြစ်လေသည်။ (ကျောရိုးမဲ့သတ္တဝါများ — ရှု)။

ထိုကျောရိုးမဲ့သတ္တဝါများသည် ကုန်းပေါ်၌မနေကြဘဲ ရေ၌သာကျက်စားကြ၏။ သို့ရာတွင် ယင်းတို့အား ငါးဟုလည်း မခေါ်ဆိုနိုင်ချေ။ ထူးဆန်းသောပုံသဏ္ဌာန်အမျိုးမျိုးဖြင့် ရေထဲ၌ကျက်စားကြ၏။ ထိုသတ္တဝါတို့ တဖြည်းဖြည်း တိမ်ကောပပျောက်သွားသောအခါ ကျောရိုးရှိစပြုသော သတ္တဝါများ ပေါ်လာသည်။ ပိုးမွှားများလည်း ဖြစ်ပေါ်လာသည်။ (ကျောရိုးရှိသတ္တဝါများ—ရှု)။

ထိုနောက် နှစ်ပေါင်းများစွာကြာသောအခါ ငါးခေတ်သို့ရောက်လာလေသည်။ အင်္ဂလန်ပြည်၊ ဒက်ဗွန်ရှိုင်ယာနယ်ရှိ ကျောက်များသည် ထိုခေတ်က ငါးများအကြောင်းကိုဖေါ်ပြပေသည်။ ငါးခေတ်တိမ်ကောပြီးနောက် နှစ်ပေါင်းများစွာကြာသောအခါ၊ တွားသွားကောင်ခေတ်သို့ရောက်လာသည်။ ပဌမဆုံးတွားသွားကောင်များသည် ကုန်းပေါ်၌ရင်း၊ ရေပေါ်၌ရင်း၊ ကျက်စားသောသတ္တဝါများဖြစ်၏။ ယခုခေတ်တွေ့ရှိရသော မိကျောင်းခေါင်းတိုနှင့် ဖွတ်ပုတတ်မျိုးတို့သည် ထိုခေတ်က တွားသွားကောင်များနှင့် သဏ္ဌာန်တူသည်။ (ငါးများ၊ တွားသွားကောင်များ—ရှု)။

နောက်တခေတ်တွင်ကား ကမ္ဘာပေါ်၌ အလွန်ကြီးမားသော တွားသွားကောင်များ ကြီးစိုးလာသည်ကို တွေ့ရသည်။ အထူးသဖြင့် ဒိုင်နိုဆောကောင်ကြီးများ ပေါများလေသည်။ အချို့မှာ အသားစား၍ အချို့မှာအသီးအရွက်များကိုသာစားသည်။ ယင်းတို့အားလုံးပင် ယခုခေတ်တွားသွားကောင်များကဲ့သို့ သွေးအေးသတ္တဝါများဖြစ်၍ ဥမှပေါက်ပွားကြသည်။ ထိုခေတ်က တွားသွားကောင်များသည် ကိုယ်လုံးကိုယ်ထည် ကြောက်မက်ဖွယ်ရာကြီးမားလှသည်။ အချို့မှာ အလျားပေ ၈၀ ကျော်လေသည်။ သို့ရာတွင် အရွယ်ကြီးသလောက် ဦးနှောက်သေးငယ်၍ ဉာဏ်



ကမ္ဘာဦးတိရစ္ဆာန်များ၏ အရိုးများကို အမေရိကန်နိုင်ငံ အမျိုးသားပြတိုက်တွင်ဤသို့ပြင်ဆင်ပြသထားသည်။



နယူးယော့မြို့ သဘာဝသမိုင်းပြတိုက်တွင်းရှိ ရှေးဟောင်းဆင် မိသားစုတို့၏ပုံကို ကောင်းစွာမြင်နိုင်လေသည်။ တွားသွားကောင်များနှင့်တခေတ်တည်းပေါ်ပေါက်လာသော်လည်း နို့တိုက်သတ္တဝါမျိုးဖြစ်သည်။ နို့တိုက်သတ္တဝါများမှာသွေးနွေးသတ္တဝါများဖြစ်၍ ကလေးမွေးပြီးလျှင် ပြုစုတတ်သည်။

မရှိကြချေ။ ထိုခေတ်အတွင်းမှာပင် တွားသွားကောင်များမှ တဖြည်းဖြည်း ငှက်များဖြစ်ပေါ်လာသည်ကို တွေ့ရသည်။ ပဌမဦးဆုံးသောငှက်များ၌ သွားများရှိသည်ကိုတွေ့ရသည်။ ထိုခေတ်မှာပင် နို့တိုက်သတ္တဝါများလည်း ပေါ်ပေါက်လာလေသည်။ နို့တိုက်သတ္တဝါများသည် သွေးနွေးသတ္တဝါများဖြစ်၍ ကလေးမွေးပြီးလျှင် ပြုစုတတ်သည်။ တွားသွားကောင်များထက် ဥာဏ်ကောင်း၍ လျင်မြန်စွာပြန့်ပွားလေသည်။ ထိုအခါ ဒိုင်နိုဆောကောင်များ တိမ်ကော၍မျိုးပြုတ်သွားလေသည်။ (ဒိုင်နိုဆောကောင်—ရှု)။ ထိုခေတ်တွင် ငှက်များ၊ ပိုးမွှားများ၊ အပင်များလည်း ပေါ်လာ၍ ယနေ့ထက်တိုင်တွေ့ရှိရလေသည်။ ကမ္ဘာ့ဥတုရာသီပြောင်းလဲ၍ နောက်ဆုံးအဆင့်တွင်ကား မျောက်များနှင့် ကမ္ဘာဦးလူများပေါ်ပေါက်လာ၏။

ဤသို့သက်ရှိသတ္တဝါတို့ ဆင့်ကဲ ဖြစ်ပေါ်နေကြသည့်အချိန်တွင် ကမ္ဘာမြေပြင်၊ ရေပြင်တို့သည်လည်း အမျိုးမျိုးဖြစ်ပေါ်ပြောင်းလဲခဲ့သည်။ ဆိုခဲ့သောသတ္တဝါများ၏ခေတ်အခါက ကမ္ဘာ့ပထဝီနှင့် ယခုခေတ်ကမ္ဘာ့ပထဝီတို့သည် မတူတော့ချေ။ ရေပြင်၊ မြေပြင်အသစ်တို့သည် ဖြစ်ပေါ်၍ အချို့ရေပြင်၊ မြေပြင်များ ပျောက်ကွယ်ခဲ့သည်များလည်း ရှိသည်။ သို့ရာတွင် အရွယ်အစားအကျယ်အဝန်းတို့တွင် ပြောင်းလဲသွားသော်လည်း ကမ္ဘာတည်စအခါမှ ယခုထက်တိုင် တည်ရှိနေသောအရပ်ဒေသများလည်း ရှိပေသေးသည်။ ထိုကဲ့သို့သောဒေသများမှ ပေါ်ပြခဲ့သော ကမ္ဘာဦးတိရစ္ဆာန်ကြီးများမှာ နှစ်ပေါင်းသန်းနှင့်ချီ၍ မြေအောက်တွင်နစ်မြုပ်နေခဲ့သောကြောင့် ကျောက်များဖြစ်နေကြလေသည်။ (အီဗော်လျူးရှင်၊ ဘူမိဗေဒ၊—လည်းရှု)။

**ကမ္ဘာ့အေးစေတီ။** ။ကမ္ဘာ့အေးစေတီမှာ ရန်ကုန်မြို့ ရေကူးရပ် သီရိမင်္ဂလာကုန်းတွင် တည်ရှိသောစေတီတော် ဖြစ်သည်။ ဘွဲ့တော်အားဖြင့် သီရိမင်္ဂလာကမ္ဘာ့အေးစေတီဟုတွင်သည်။ ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ဆုတောင်းအဓိဋ္ဌာန်ဖြင့် ဝန်ကြီးချုပ်ဦးနုခေါင်းဆောင်သော သာသနာရေးခေါင်းဆောင်ပုဂ္ဂိုလ်ကြီးများ စုပေါင်း မ တည်ကာ အရပ်ရပ်ကုသိုလ်ရှင်များ၏ အလှူငွေများဖြင့်တည်ထားသော စေတီတဆူဖြစ်သည်။

စေတီတော်ကြီးမှာ မြန်မာနိုင်ငံတွင်တည်ထားပြီးသော စေတီတော်များနှင့် လုံးဝမတူဘဲ ခေတ်မီပိသုကာပညာအရ သံထုတ်တန်းကြီးများဖြင့် အတွင်း၌ လိုဏ်ဂူသဖွယ် ဥပနာ တိုက်ကို အုံထပ်၍ တည်ထားသည်။ စေတီတော်၏လိုဏ် တွင်း၌ အလယ်ဥပနာတိုက်ကိုပတ်၍ ဘဒ္ဒကမ္ဘာတွင် ပွင့်တော်မူပြီးနှင့် ပွင့်တော်မူဆဲ ဘုရားငါးဆူတို့ကို ပူဇော်သောအားဖြင့် ဆင်းတုတော်ကြီးငါးဆူကို ကိုးကွယ်ထားသည်။ ဆင်းတုတော်တို့မျက်နှာမူရာတွင် မုခ်ငါးမုခ်ထားရှိသည်။ ဘုရားငါးဆူတွင် တဆူတဆူ၌ ထိုဘုရားရှင်တို့ ပွင့်တော်မူရာ ဗောဓိပင်များကို နောက်ခံကားဆေးခြယ်ထားသည်မှာအလွန်ကြည်ညိုဖွယ်ရှိလှသည်။

လိုဏ်အတွင်း ဥပနာတိုက်ပတ်လည် အထက် အဆင့်တွင်မူ နှစ်ကျိပ်ရှစ်ဆူသော ဘုရားရှင်တို့၏ ရုပ်တုတော်များကိုထို ဘုရားရှင်တို့ ပွင့်တော်မူရာ ဗောဓိပင်နှင့် တကွထားသည်။ မုခ်ဝများတွင်လည်း စကြာပုံတောင်းသဏ္ဍာန်နှင့် ကြာပွင့်ကြာဖူးသဏ္ဍာန်များကို သာသနာတော်ရိပ်မြုံ အဖြစ်ပုံဖော်ထားလေသည်။

စေတီတော်ကြီးကို ကမ္ဘာ့အရပ်ရပ်မှ ပုဂ္ဂိုလ်အများ နေ့ညမရွေးလာရောက်ဖူးမြော်ကြသည်။ သီရိမင်္ဂလာကုန်းတော်တွင် ဇရပ်၊ တန်ဆောင်း၊ ဂူ၊ ကျောင်း၊ ပြာသာဒ်များပါတည်ထား၍ နိုင်ငံတော် အစိုးရ သာသနာရေးဌာနပိဋကတ်တော် ဘာသာပြန်ဌာနကို ကမ္ဘာ့အေးတန်ဆောင်း အဆောက်အအုံတွင်ဖွင့်လှစ်ထားသည်။

စေတီတော်၏ထီးတော်တင်ပွဲနှင့် ပဌမအကြိမ်ပွဲတော်ကြီးကို ၁၃၁၃ ခုတပေါင်းလတွင်ကျင်းပ၍ ဝန်ကြီးချုပ်ဦးနုကိုယ်တိုင် ထီးတော်တင်သည်။ ထီးတော်တင်ပွဲကို ၇ ရက်တိုင်ကျင်းပသည်။ မကြုံဘူးအောင်စည်ကားလှ၍ စေတီတော်အတွင်း ဥပနာတိုက်တွင် ကျိန်းဝပ်သော သာဝကဓါတ်တော်များ၊ ရုပ်တုဆင်းတုတော်များကို ဖူးမျှော်ခွင့်ရရှိကြသည်။

ဘုရားပွဲတော်ကို နှစ်စဉ်တပေါင်းလတွင်ကျင်းပလေ့ရှိ၍ အထူးပင်စည်ကားသည်။ ရှင်လူအများ ဖူးမြော်ပူဇော်နိုင်ကြရန် မန္တလေးမြို့ နန်းစဉ်ရုပ်ပွားတော်များ၊ သရေခေတ္တရာ နန်းစဉ်ရုပ်ပွားတော်ဥပနာများ စသည့်ဓါတ်တော်၊ မွေတော်၊ ဆင်းတုတော်များကို အခါအားလျော်စွာ ကမ္ဘာ့အေးစေတီ၌ ထားရှိလေသည်။

ကမ္ဘာ့အေးစေတီတော်အနီးတွင် ဗောဓိပင်ကိုလည်း စိုက်ပျိုးထားသည်။ ထိုစေတီတော်ကုန်း၌ပင် ဆဋ္ဌသင်္ဂါယနာတင်ရန် လိုဏ်ဂူကြီးကို ဆောက်လုပ်ရန်လျာထားစီစဉ်၍ အုတ်မြစ်ချပွဲကို ခမ်းနားစွာကျင်းပခဲ့သည်။ နိုင်ငံတော် အရပ်ရပ်နှင့် နိုင်ငံခြားတိုင်းပြည်များမှ ရှင်လူအများလာရောက်ဖူးမျှော်ကြသည်။ စေတီတော်၏ အမြင့်ဥာဏ်တော်မှာ ၇၈ တောင် ၂ မိုက်ဖြစ်သည်။



သီရိမင်္ဂလာကမ္ဘာ့အေးစေတီအတွင်းစံပယ်တော်မူသောဆင်းတုတော်ကြီး

## ကမ္ဘာအေးစေတီ



**သိရိမင်္ဂလာကမ္ဘာအေးစေတီ**

ရန်ကုန်မြို့ ရေကူးရပ် သိရိမင်္ဂလာကုန်းတွင် အတွင်း၌လိုဏ်ဂူသဖွယ် ဌပနာတိုက်ကိုအုံထပ်၍တည်ထားသောစေတီတော်ကို အထက်ပါအတိုင်း ဖူးမျှော်နိုင်ပေသည်။ စေတီတော်၏လိုဏ်တွင်း၌ အလယ်ဌပနာတိုက်ကိုပတ်၍ ဘဒ္ဒကမ္ဘာတွင်ပွင့်တော်မူပြီးနှင့် ပွင့်တော်မူဆဲဘုရားငါး ဆူတို့ကိုပူဇော်သောအားဖြင့် ဆင်းတုတော်ကြီးငါးဆူကိုမှီ၍ ပွင့်တော်မူကြရာ ဗောဓိပင်တို့နှင့်အတူ ကိုးကွယ်ထားသည်။ ဆင်းတုတော်ထို မျက်နှာမူရာတွင် မုခ်ငါးမုခ်ထားရှိလေသည်။

**ကမ္ဘရွန်းနယ်။** ။ကမ္ဘရွန်းနယ်သည် အာဖရိကတိုက်အနောက်ဖက်ကမ်းခြေတွင် ဂင်းနီပင်လယ်ကွေ့ကို မျက်နှာမူလျက်ရှိသည်။ ပင်လယ်ကမ်းစပ် ရေတိမ်တလျှောက်တွင် ပုဇွန်ကျော့များ အလွန်ပေါများရာ၊ ၁၅ ရာစုနှစ်တွင် ထိုနယ်ဒေသကို ရှာဖွေတွေ့ရှိကြသော ပေါ်တူဂီလူမျိုးများသည် ယင်းတို့၏ဘာသာအားဖြင့် ကမ္ဘရိုးဟုခေါ်ဝေါ်ခဲ့ကြ၏။ ဆိုလိုသည်မှာ ပုဇွန်ကျော့ ပေါများရာဒေသဟူ၍ဖြစ်၏။ ၁၆ ရာစုနှစ်မှ ၁၉ ရာစုနှစ်တိုင်အောင်ဂင်းနီပင်လယ်ကွေ့၏ ဝန်းကျင်ဒေသတို့သည် ငွေဝယ်ကျွန်ကုန်ကူးသူတို့၏ ကျက်စားရာအရပ်ဖြစ်ခဲ့လေသည်။ ထိုဒေသတဝိုက်မှ တိုင်းရင်းသားလူမဲများကို နိုင်ထက်စီးနင်း ဖမ်းဆီး၍ သင်္ဘောကြီးငယ်တို့ဖြင့် အမေရိကတိုက်နှင့် အနောက်အိန္ဒိယကျွန်းစုတို့သို့ တင်ဆောင်ပြီးနောက်၊ စိုက်ခင်းခြံပိုင်ရှင်ကြီးများထံ ရောင်းစားခြင်းဖြင့် ကျွန်ကုန်သည်တို့သည် စီးပွားလမ်းဖြောင့်ခဲ့ကြလေသည်။ ထိုအခြင်းအရာတို့ကြောင့် ရှေးအခါက ကမ္ဘရွန်းနယ်အပါအဝင်ဖြစ်သောအနောက်အာဖရိကသည် အာဖရိကတိုက်မှောင်တွင် အမှောင်ဆုံးသောဒေသဖြစ်ခဲ့လေသည်။

ကမ္ဘရွန်းနယ်သည် အီကွေတာနှင့်နီးကပ်သည့်အလျောက် အပူပိုင်းရာသီဥတု ရရှိ၍ အပူပိုင်းသီးနှံပင်များ ပေါက်ရောက်၏။ သစ်တောများမှာ အလွန်ကြီးလျက် အက်ဗနီခေါ် မာသောသစ်သားနက်များထွက်သည်။ ထိုနယ်တွင် အထင်ရှားဆုံးသောတောင်မှာ ပေပေါင်း ၁၃,၃၇၀ မြင့်သော ကမ္ဘရွန်းတောင်ထိပ်ဖြစ်၏။ မြစ်များမှာ ဆနဂါမြစ်၊ ဆန်ဂါမြစ်၊ လိုဂွန်ရှားရီးမြစ်နှင့် ရှားမြစ်တို့ဖြစ်သည်။ ထိုနယ်မှ ကိုကိုး၊ ကော်ဖတ်၊ ဆင်စွယ်၊ အုန်းဆီနှင့်အုန်းသီးဆန်တို့ကို ပြည်ပသို့ရောင်းချလေသည်။

ထိုဒေသတွင် နေထိုင်ကြသောကပ္ပလီများသည် ဗန်တူအမျိုးအနွယ်များဖြစ်၍၊ အာဖရိကတိုက်တွင် အခြားတိုင်းရင်းသားတို့ထက် ပိုမိုထွားကျိုင်းလျက်၊ ထွားကျိုင်းသလောက်လည်း ရက်စက်ကြမ်းကြုတ်ကြသည်။ ပဌမကမ္ဘာစစ်ကြီးမဖြစ်မီက ကမ္ဘရွန်းနယ်မှာ ဂျာမန်ပိုင်ဖြစ်သည်။ ထိုစစ်ကြီးအပြီးတွင် လန်ဒန်ကျေညာချက်အရ ဗြိတိသျှနှင့် ပြင်သစ်တို့က ခွဲဝေအုပ်ချုပ်ခဲ့ကြ၏။ ဗြိတိသျှပိုင် ကမ္ဘရွန်းနယ်မှာ နိုင်ဂျီးရီးယားနယ်စပ်တလျှောက်၌ရှိသော အစိတ်အပိုင်းဖြစ်၍ စတုရန်းမိုင်ပေါင်း ၃၄,၀၀၀ မျှကျယ်ဝန်းပြီးလျှင် လူဦးရေ ၈၆၉,၀၀၀ ခန့်ရှိသည်။ ထိုမှကျန်သောနယ်မြေတို့ကို ပြင်သစ်တို့ကအုပ်ချုပ်ကြ၏။ နယ်အကျယ်အဝန်းမှာစတုရန်းမိုင်ပေါင်း ၁၆၆,၄၈၉ မျှဖြစ်၍၊ လူဦးရေမှာ ၂,၅၁၃,၀၀၀ ခန့်ရှိသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းက မဟာမိတ်နိုင်ငံများသည် ကမ္ဘရွန်းမှ အင်္ဂလိုအီဂျစ်ရှင်ဆူဒန်သို့ စစ်လမ်းများဖေါက်၍



ဗြိတိသျှကမ္ဘရွန်းနယ် ရှိကျေးရွာမြင်ကွင်းတခု

ကမ္ဘရွန်းနယ်တွင်နေထိုင်ကြသောလူမျိုးတို့မှာကပ္ပလီများပင်ဖြစ်သော်လည်း ဗန်တူမျိုးနွယ်ဝင်များဖြစ်ကြသည်။ ကျေးလက်များတွင် ရှေးမူအတိုင်း ခေတ်နောက် ကျစွာ နေထိုင် လျက် ပင် ရှိ ကြ သော် လည်း၊ တဖက်ပုံတွင် မြင်ရသည့် ကမ္ဘရွန်းနယ် စူလတန် ဘုရင်အဖို့မူ အနောက်ဥရောပယဉ်ကျေးမှု စံနစ် အရ ခေတ်နှင့် ယှင် ပေါင် တန်း မှီအောင် နေထိုင်လျက်ရှိပေသည်။

အီဂျစ်နှင့် အရှေ့အလယ်ပိုင်းနိုင်ငံများသို့ စစ်ပစ္စည်းများနှင့် စစ်ကူများ ပို့ခဲ့ကြလေသည်။ ဒုတိယကမ္ဘာစစ်ကြီးပြီးသောအခါ၊ ဗြိတိသျှကမ္မရွန်းနှင့် ပြင်သစ်ကမ္မရွန်း ၂ နယ်စလုံးကို ကုလသမဂ္ဂနိုင်ငံငယ်များ ထိန်းသိမ်းရေးအဖွဲ့က ကြီးကြပ်ခဲ့၏။ ဗြိတိသျှကမ္မရွန်းကို နိုင်ဂျီးရီးယားအစိုးရက အုပ်ချုပ်၍ ဝိတိုရိယမြို့မှာ ထိုနယ်အတွက် ဆိပ်ကမ်းမြို့ဖြစ်သည်။ ပြင်သစ်ကမ္မရွန်းမှာ ကိုယ်ပိုင်အုပ်ချုပ်ရေးရသောနယ်ဖြစ်လျက်၊ အစိုးရ ရုံးစိုက်ရာမြို့တော်မှာ ယောင်းဒေးမြို့ဖြစ်သည်။ ဒွါးလားမြို့မှာ ထိုနယ်အတွက် ဆိပ်ကမ်းမြို့ဖြစ်၏။ ပြင်သစ်ကမ္မရွန်းနယ်တွင် ရထားလမ်း ၃၁၄ မိုင်မျှရှိ၍၊ ကုန်းလမ်းမိုင်ပေါင်း ၄,၀၀၀ ခန့်ရှိလေသည်။

**ကံရာဇာကြီး။** ။ကံရာဇာကြီးသည်မဇ္ဈိမဒေသကပိလဝတ်ပြည်မှ ပဌမဦးစွာ မြန်မာနိုင်ငံတွင်းသို့ ရွှေ့ပြောင်းလာသော သကျသာကီဝင်မင်း အဘိရာဇာ၏ သားကြီး ဖြစ်သည်။ အဘိရာဇာသည် ဂေါတမမြတ်စွာဘုရား ပွင့်တော်မမူမီ၊ မြန်မာနိုင်ငံမြောက်ပိုင်း ရှေးအကျဆုံးမြို့တော်ဖြစ်သည့် သင်္ကဿရဋ္ဌ တကောင်းပြည်ကို စတင်တည်ထောင်သည်။

သားတော်ကံရာဇာကြီးသည် ခမည်းတော် အဘိရာဇာ နတ်ရွာစံသောအခါ ညီတော်ကံရာဇာငယ်နှင့် ထီးမွေနန်းမွေလုကြရာ၊ ရန်စစ်မထိုးဘဲ ကုသိုလ်စစ်ထိုးကြရာတွင်အရေးနိမ့်သဖြင့်၊ ဗိုလ်ပါတို့ကိုစုရုံးခေါ်ဆောင်ကာ သလ္လာဝတီမြစ်ကို ဆန်တက်၍၊ ကလေးတောင်ညိုအရပ်တွင် ရာဇဂြိုဟ်မြို့တော်ကို တည်ထောင်သည်။ ထိုမြို့တွင် ၆ လကြာမျှဗိုလ်ပါစုဆောင်းနေသည်။ ထိုမှတဖန် ကစ္ဆပနဒီမြစ်အရှေ့ဖက်သို့ ရွှေ့ပြောင်းပြန်ကာ ကျောက်ပန်းတောင်းမြို့ကိုတည်ထောင်ပြန်သည်။ ထိုမြို့တွင် ၇၄ နှစ်တိုင်စံနေသည်။ ထိုမှတဖန် ရှေးမာလာယုမင်းတို့ တည်ထောင်ခဲ့သောဓညဝတီမြို့ဟောင်းကို သိမ်းယူ၍၊ ထီးနန်းမြို့ပြ ပြင်ဆင်စံနေသည်။

ကံရာဇာကြီးတွင် သုဘဒ္ဒါဒေဝီ မိဖုရားမှ မုဒုစိတ္တမည်သော သားတော်တပါးဖွားသည်။ ထိုသားတော်ကို သုနာပရန္တတိုင်းမှ ပျူ၊ ကမ်းယံ၊ သက်လူမျိုးတို့က မင်းလျာတောင်းသောကြောင့် ပျူတို့အရပ်တွင် မင်းပြုစေရန် စေလွှတ်အုပ်ချုပ်စေသည်။

**ကံရာဇာငယ်။** ။ကံရာဇာငယ် သည် မဇ္ဈိမဒေသ ကပိလဝတ်ပြည်မှ ပဌမဦးစွာ မြန်မာနိုင်ငံတွင်းသို့ ရွှေ့ပြောင်းလာသော သကျသာကီဝင်မင်း အဘိရာဇာ၏သားငယ်ဖြစ်သည်။ အဘိရာဇာမှာ သင်္ကဿရဋ္ဌတကောင်းပြည်ကြီးကို စတင်တည်ထောင်သော မင်းဖြစ်သည်။

သားတော်ကံရာဇာငယ်သည် ခမည်းတော် အဘိရာဇာ နတ်ရွာစံသောအခါ၊ နောင်တော်ကံရာဇာကြီးနှင့် ထီးမွေနန်းမွေလုကြရာ၊ ရန်စစ်မထိုးဘဲ ကုသိုလ်စစ်ထိုးကြရာတွင် အရေးသာရသဖြင့်တကောင်းပြည်ကို ဆက်ခံစိုးအုပ်ရသည်။

ထိုမင်း၏သားတော်မှာ ဇမ္ဗူဒီပရာဇာဖြစ်သည်။ ကံရာဇာငယ်၏ သား၊ မြေး၊ အစဉ်အဆက်တို့သည် ၃၃ ဆက်တိုင် တကောင်းပြည်၌ပင် ဆက်လက်အုပ်စိုးကြ၍၊ နောက်ဆုံးဘိန္နကရာဇာမင်း လက်ထက် စိန့်ပြည်မှတရုပ် တရက်တို့ နှောင့်ရှက်သဖြင့် ကံရာဇငယ်စိုးစံခဲ့သော တကောင်းပြည်ကြီးပျက်စီးသည်။

ကံရာဇာငယ်၏အနွယ်များသည် နောင်တော်ကံရာဇာကြီး၏သား မုဒုစိတ္တအနွယ်များနှင့် ပေါင်းဆုံမိ၍ မြန်မာ



နိုင်ငံမင်းဆက်များ ဆက်ပွားပေါ် ထွန်းပြန်သည်။ (ကံရာဇာကြီး — လည်းရှု)။

**ကမ်းခြေကာကွယ်ရေးတပ်။** ။ကမ်းခြေကာကွယ်ရေးတပ်မှာ ဖွဲ့စည်းပုံအားဖြင့် ရေတပ်ကဲ့သို့ပင်ဖြစ်၍၊ အချို့တိုင်းပြည်များ၌ ဥပဒေနှင့်မညီသော လူဝင် လူထွက်ကိစ္စ၊ ကူးသန်းရောင်းဝယ်မှုများ စသည်တို့ကိုဖမ်းဆီးရန်၊ ဘေးဒုက္ခတွေ့ကြုံနေသော လှေ၊ သင်္ဘောများကိုကယ်ဆယ်ရန်နှင့် ပင်လယ်၌တွေ့ကြုံရတတ်သော လေမုန်တိုင်း အချက်ပြသတိပေးရန်စသော အလုပ်တာဝန်များကို ဆောင်ရွက်ရလေသည်။

ဥရောပတိုက်၌ နပိုလီယန်နှင့်ဖြစ်ရသော စစ်ပွဲများအပြီးတွင် မတရားကုန်သွယ်မှုများ ပေါ်များလှသဖြင့် ဗြိတိသျှကမ်းခြေတွင် တားမြစ်ပိတ်ပင်ရေးဌာနများ ဖွင့်လှစ်၍ စောင့်ကြပ်ခဲ့ရလေသည်။ ၁၈၃၁ ခုနှစ်တွင် ထိုတားမြစ်ပိတ်ပင်ရေးဌာနကို အုပ်ချုပ်ရန် ရေတပ်မတော်အုပ်ချုပ်ရေးအဖွဲ့ချုပ် လက်အောက်သို့ပြောင်းရွှေ၍၊ ကမ်းခြေကာကွယ်ရေးတပ်ဟူသောအမည်ဖြင့် ပြောင်းလဲခေါ်ဝေါ်ကာ ယခင်ကကဲ့သို့သော အလုပ်ဝတ်တရားများကို ဆောင်ရွက်စေလေသည်။ သို့ရာတွင် ၁၈၄၅ ခုနှစ်သို့ရောက်သောအခါ ထိုတပ်သည် ရေတပ်နှင့် အချက်အလက်များစွာတွင် တူညီလာခဲ့လေသည်။ ၁၈၅၆ ခုနှစ်တွင် ကမ်းခြေကာကွယ်ရေးတပ်ဆိုင်ရာ အက်ဥပဒေတရပ် ပြဋ္ဌာန်း၍ ရေတပ်မတော်ထဲသို့ လုံးဝသွတ်သွင်းလိုက်လေသည်။

ထိုအခါကမ်းခြေကာကွယ်ရေးတပ်၏ တာဝန်ဝတ်တရားများမှာ၊ မူလဖွဲ့စည်းစဉ်ကကဲ့သို့ မတရားကုန်သွယ်မှုနှင့် လူဝင် လူထွက်ကို စောင့်၍ဖမ်းရန်မျှသာမဟုတ်တော့ဘဲ၊ ပင်လယ်ကမ်းခြေနှင့် ပင်လယ်ရေပြင်၌ ဖြစ်ပျက်သမျှအပျက်အစီးများနှင့်စပ်လျဉ်း၍ စောင့်ရှောက်ကူညီရန်နှင့် အသက်များကယ်ဆယ်ရန် တာဝန်များပါဝင်လာခဲ့၏။ ထို့ပြင် စစ်မက်ဖြစ်ပွားသောအချိန်အခါများတွင်၊ ကမ်းခြေကို ရန်သူတို့ဝင်ရောက်တိုက်ခိုက်ခြင်းမှ ကာကွယ်ရသည့်ပြင်၊ ရေတပ်၏ အရံတပ်သဖွယ်လည်း ဆောင်ရွက်ရလေသည်။

ထို့ကြောင့် ကမ်းခြေကာကွယ်ရေးတပ် ဖွဲ့စည်းရာတွင်၊ ကျွမ်းကျင်ပြီးသော ရေတပ်ဗိုလ်များအုပ်ချုပ်၍၊ ရေတပ်မတော်သားများကဲ့သို့ပင် သင်တန်းများပေး၍ ဖွဲ့စည်းရလေသည်။ စစ်မဖြစ်သောအချိန်များတွင် ကမ်းခြေဆိုင်ရာအထက်အဆိုပါတာဝန်များကို ရေတပ်မတော်မှ အငြိမ်းစားယူထားသူများက ဝင်ရောက်ထမ်းရွက်ကြလေသည်။

၁၉၂၂ ခုနှစ်တွင် ကမ်းခြေကာကွယ်ရေးတပ်ကို ကမ်းခြေ



ကမ်းခြေကာကွယ်ရေးတပ်တွင်အသင့်ထားရှိသောအသက်ကယ်မော်တော်ဘုတ်ပင်လယ်သို့ထွက်ခွာစဉ်




ဗြိတိသျှကမ်းခြေကာကွယ်ရေးတပ်၏ဌာနခွဲရုံးကိုကျောက်ဆောင်ထက်တွင်တည်ထားရသည်။

တားမြစ်ပိတ်ပင်ရေးတပ်ဖွဲ့နှင့်ကမ်းခြေစောင့်ကြည့်ရေး တပ်ဟု အဖွဲ့နှစ်ဖွဲ့ခွဲ၍ ပြန်လည်ဖွဲ့စည်းခဲ့သည်။ ကမ်းခြေတားမြစ်ပိတ်ပင်ရေးတပ်ဖွဲ့သည် မတရားကုန်သွယ်နေသူများကို ဖမ်းဆီးရန်ဖြစ်၍၊ ကမ်းခြေစောင့်ကြည့်ရေးတပ်ကား ပင်လယ်ပြင်တွင် သင်္ဘောပျက်သည်ဖြစ်စေ၊ အခြားအခက်အခဲတစုံတရာ ကြုံတွေ့သည်ဖြစ်စေ၊ ကူညီကာကွယ်စောင့်ရှောက်ပေးရန်ဖြစ်လေသည်။

၁၉၂၅ ခုနှစ်၌ အသစ်တဖန်ပြန်လည်ဖွဲ့စည်းလိုက်သောအခါတွင်၊ ကမ်းခြေကာကွယ်ရေးတပ်မှာ အဓိကအားဖြင့် အသက်ကယ်ဆယ်ရေးလုပ်ငန်းကိုသာ လုပ်ဆောင်ရလေတော့သည်။ ယခုအခါ ဗြိတိန်နိုင်ငံကမ်းရိုးတန်းတလျှောက်တွင်၊ ကမ်းခြေကာကွယ်ရေးစခန်းများ ၂၅၀ ခန့်ရှိ၏။ ဌာနအကြီးဆုံးတွင် လူလေးယောက်ကျ နေ့ညလဲကာ အစောင့်ချထား၏။ ထိုဌာနများတွင် တယ်လီဖုန်း၊ ဝိုင်ယာလက်၊ အချက်ပြကရိယာများ၊ အဝေးကြည့်မှန်ပြောင်းများစသည်ဖြင့် အသက်ကယ်ဆယ်ရေးအတွက် အသုံးဝင်မည့်အစီအမံများကို လိုလေသေးမရှိအောင် တပ်ဆင်ထားလေသည်။

ထို့မှတပါး ပင်လယ်ပြင်၌ လေမုန်တိုင်းကျမည့်အရိပ်နိမိတ်ရှိမရှိကို လေယာဉ်ပျံဖြင့် အမြဲလှည့်လည်ကြည့်ရှုလေသည်။ ဘေးအန္တရာယ်တစုံတရာမြင်လျှင် ကြိုတင်သတိပေးလျက်၊ ဆိပ်ကမ်းရှိ အသက်ကယ်သင်္ဘောစသည့် ကယ်ဆယ်ရေးအစီအမံများကို အဆင်သင့်ပြင်ဆင်ထားရန် အကြောင်းကြားလေသည်။ ပင်လယ်ပြင်၌ သင်္ဘောတစင်း သို့မဟုတ် တံငါလှေတစင်းဒုက္ခရောက်နေလျှင်၊ မည်မျှပင်ကြမ်းတမ်းသော မုန်တိုင်းလှိုင်းတံပိုးများအကြား၌ဖြစ်စေ၊ သွားရောက်ကယ်ဆယ်လေသည်။ ကုန်းပေါ်တွင် မီးသတ်အဖွဲ့ကဲ့သို့ စွန့်စား၍ဆောင်ရွက်ကြသည်။

အမေရိကန်ပြည်ထောင်စုနိုင်ငံ ကမ်းခြေတလျှောက်၌လည်းအလားတူ ကမ်းခြေစောင့်ဌာနများ ရှိလေသည်။

**ကမ်းခြေစောင့်ရှောက်ရေး။** ။ပင်လယ်ကမ်းခြေတွင် နေထိုင်သူတို့သည် ကမ်းခြေကို ရေတိုက်စားမည့်ဘေးမှ တတ်စွမ်းသမျှ ကာကွယ်ကြရလေသည်။ ထို့ကြောင့် ပင်လယ်လှိုင်းများ၏ဒဏ်ကို ခံနိုင်စေရန် ခိုင်မာ၍ရေတွင်တာရှည်ခံမည့် သစ်သားတိုင်များကို ရွေးချယ်လျက် ကမ်းခြေနှင့်ခပ်လှမ်းလှမ်းနေရာ၌ စိုက်ထူထားကြရလေသည်။

ထိုကဲ့သို့ပင်လယ်မှရိုက်ခတ်သည့် လှိုင်းတံပိုးများ၏

အရှိန်ကို ကြိုတင်ကာကွယ်ထားခြင်းဖြင့်၊ ကမ်းခြေမှာ ရေတိုက်စားသည့်ဘေးမှ သက်သာရာရလေသည်။ သဲသောင်ပြင် ရှိလျှင်လည်း ညီညာပျံ့ပျူးလျက် ရှိနေပေမည်။ သဘော ဆိပ်ဆိုလျှင် သောင်ထွန်းလာမည့်ဘေးမှကာကွယ်နိုင်ပေမည်။

ပင်လယ်ကမ်းစပ်အရပ်များတွင် လှိုင်းများတိုက်စားခြင်းကြောင့် မြေများဆုံးရှုံးရလေသည်။ ယခုအခါတွင် လှိုင်းကာများနှင့်သစ်သား၊ အုတ်၊ ကျောက်တုံး၊ ကျောက်ခဲတို့ဖြင့် ပင်လယ်ရေကာတံတိုင်းများကို ခိုင်ခံ့စွာဆောက်လုပ်ခြင်းအားဖြင့်၊ ကမ်းခြေကို ရေတိုက်စားသည့်ဘေးမှ စောင့်ရှောက်ကာကွယ်ထားလေသည်။

တိုးတက်နေသော သိပ္ပံပညာရပ်ကြောင့် ပေါ်ပေါက်လာသည့် ခေတ်မှီနည်းစံနစ်များကို မှီလျက် ပြုလုပ်ထားသည့် ဤကဲ့သို့သောအစီအမံများကြောင့်၊ နောင်အခါများတွင် ပင်လယ်ကမ်းခြေကို ရေတိုက်စားသည့်ဘေးမှ ထိရောက်စွာ ကာကွယ်နိုင်လိမ့်မည်ဟု မြော်လင့်ရပေသည်။

**ကမ်းပါးဂူအောင်းရှေးလူ**။ ။ပပျောက်တိမ်ကောသွားပြီဟု ယူဆကြရသော ရှေးဟောင်းလူမျိုးတမျိုးမှာ၊ ယခုခေတ်တွင် မြောက်အမေရိကတိုက်၌ နေထိုင်ကြသော ပွက်ဗလိုအင်းဒီးယန်း တိုင်းရင်းသားတို့၏ ဘိုးဘေးဘီဘင်များဖြစ်သည်ဟု ယုံကြည်ရပေသည်။ ထိုသူတို့သည် မြင့်မားမတ်စောက်သော ကျောက်ကမ်းပါးကြီးများတွင် အဆောက်အအုံများ တည်ဆောက်နေထိုင်ခဲ့ရာ၊ ထိုအဆောက်အအုံများ၏ အကြွင်းအကျန်အစအနတို့ကို ယခုအခါ မြောက်အမေရိကတိုက် ကော်လိုရားဒိုးပြည်နယ်၊ မက္ကဆီကိုပြည်နယ်၊ အယ်ရီဇိုးနားပြည်နယ်နှင့် ယူးတားပြည်နယ်များတွင် တွေ့မြင်နိုင်သေးသည်။

ယင်းသို့အတက်အဆင်းလွန်စွာခက်ခဲသော တောင်စောင်းကျောက်ကမ်းပါးများကိုမှ ရွေးချယ်၍ နေအိမ်များဆောက်လုပ်နေထိုင်ကြခြင်းအကြောင်းမှာ၊ မိမိတို့ထက်ရိုင်းစိုင်း၍ ရက်စက်ကြမ်းကြုတ်သောလူများ၏ ဝင်ရောက်တိုက်ခိုက်ခြင်းကို ကာကွယ်နိုင်ရန်ဖြစ်၏။ ထိုသူများသည် မိမိတို့ထက်ရှေးကျသောလူများကဲ့သို့ ရန်သူကိုခုခံနိုင်သောအရည်အခြင်းစွမ်းရည်သတ္တိနှင့် မပြည့်စုံကြခြင်းကြောင့်ဖြစ်ပေသည်။ သို့ရာတွင် ယဉ်ကျေးမှုအရာ၌ ခေတ်ပြိုင်အခြားလူမျိုးများထက် အဆင့်အတန်းမြင့်ပေသည်။ သူတို့သည် သီးနှံစိုက်ပျိုးခြင်း၊ အိုးခွက်လုပ်ခြင်း၊ အဝတ်အထည်၊ ဖျာ၊ တောင်း၊ ပလုံးများ ရက်လုပ်ခြင်းနှင့် ကျောက်ကရိယာများကို တိုးတက်ကောင်းမွန်အောင်ပြုပြင်လုပ်ကိုင်ခြင်းတို့ကိုနားလည်ကြ၏။

အဆောက်အအုံများကို ညီညာသောကျောက်သားပြင်တွင်၊ ကျောက်ကမ်းပါးများကို နောက်ခံပြုလျက် ဆောက်လုပ်ကြပြီးလျှင်၊ ကမ်းပါး၏မြေသားကို ထွင်းဖေါက်၍ အခန်းများဖွဲ့ထားကြလေသည်။ နေအိမ်ဆောက်လုပ်ရာတွင် အသုံးပြုကြသောအရာဝတ္ထုများမှာ ညီအောင်ညှိထားသော ကျောက်ပြားကြီးများဖြစ်၍၊ ထိုကျောက်ပြားများကို အတွင်းဖက်တွင် စီခင်းပြီးလျှင် ရွှံ့သရွတ်ကိုင်ထားကြလေသည်။

အဆောက်အအုံများဆီသို့ တက်ရောက်နိုင်ရန်အတွက်



ကမ်းပါးဂူအောင်းရှေးလူများ၏ ဘာသာရေးအဆောက်အအုံတခု၊ နေနတ်ဘုရားကျောင်းဟုယူဆရသည်။ လက်ျာဖက်ပုံမှာ မြိတ်သျှကမ်းခြေကိုစောင့်ရှောက်ရသောကမ်းခြေစောင့်တပ်သားတဦးကင်းလှည့်နေပုံဖြစ်သည်။ ပင်လယ်ကမ်းခြေနှင့် ပင်လယ်ရေပြင်၌ဖြစ်ပျက်သမျှတို့ကို ကူညီရသည့်အပြင် စစ်ဖြစ်ပွားချိန်၌ ရေတပ်အရံတပ်အဖြစ်လည်းဆောင်ရွက်ရလေသည်။

ကျောက်ကမ်းပါးတွင် လှေကားသဖွယ်အထစ်များ ပြုလုပ်ထား၏။ မြေသြဇာထက်သန်သော ချိုင့်ဝှမ်းဒေသများတွင် ဟင်းသီးဟင်းရွက်များ စိုက်ပျိုးကြသည်။ ထို့အပြင် လယ်ယာများထဲသို့ ရေသွင်းရန်ပြုလုပ်ထားသောရေလှောင်ကန်များ၊ တူးမြောင်းများနှင့် ရန်သူများဝိုင်းရံတိုက်ခိုက်ခြင်းကို ခံရသည့်အချိန်တွင် အစားအစာအလွယ်တကူရရှိနိုင်ရန် ပြုလုပ်ထားသော အသီးအနှံလှောင်သည့်ကျီကြီးများတို့၏ အစအနများကိုလည်း တွေ့မြင်နိုင်လေသည်။ (ကျောက်ခေတ် — လည်းရှု)။

**ကမ်းယံလူမျိုး**။ ။အာရှတိုက်အလယ်ပိုင်းတွင် နေထိုင်ကြသော မွန်ဂိုလူမျိုးတို့သည် မိမိတို့ဒေသ၌ အစာရေစာ ရှားပါးသဖြင့် ရှေးနှစ်ပေါင်းများစွာကပင် တောင်ဖက်သို့ တသုတ်ပြီးတသုတ် ပြောင်းရွှေ့လာကြရာ၊ မြန်မာနိုင်ငံသို့ ရှေးဦးစွာ ဝင်လာသူများမှာ မွန်ခမာလူမျိုးများဖြစ်၍ ဒုတိယအသုတ်မှာ တိဗက်မြန်မာလူမျိုးများ ဖြစ်ကြသည်။

သူတို့သည် အရှေ့ဖက်လမ်း၊ အနောက်ဖက်လမ်းဟူ၍၊ လမ်းနှစ်သွယ်ဖြင့် ဝင်ရောက်လာကြသည်။ အရှေ့ဖက်လမ်းဖြင့် ဝင်ရောက်သူ သည် မဲခေါင်မြစ်ကြောင်း၊ သံလွင်မြစ်ကြောင်းတို့ဖြင့် ဝင်ရောက်လာကြသည်။ အနောက်ဖက်လမ်းဖြင့် ဝင်ရောက်လာသူတို့အနက်၊ အချို့မှာ ဒီဟောင်းခေါ် ဗြဟ္မပုတ္တရမြစ် ဝှမ်း အတိုင်း ဆင်း လာ ကြပြီး လျှင် အာသံနယ်၌ မြို့ပြတည်ထောင်နေထိုင်ကြသည်။ အချို့မှာ ဧရာဝတီမြစ်ကြောင်း၊ ချင်းတွင်းမြစ်ကြောင်းတို့ဖြင့် ဝင်ရောက်လာကြသည်။ ဤသို့ဖြင့် သူတို့သည် ဗြဟ္မပုတ္တရမြစ်နှင့် ဧရာဝတီမြစ်များအကြားရှိ ရေဝေကုန်းတန်းကြီးတွင် မှီတင်း နေထိုင် လာ ကြ ရာ၊ နောင် ကာလ ကြာ မြင့် သော် တောင်ဖက်သို့ပြန့်နှံ့ လျက်နေထိုင်ကြလေသည်။

တိဗက်မြန်မာတို့သည် မြန်မာနိုင်ငံတွင်းသို့ ရောက်သောအခါ ပျူ၊ ကမ်းယံ၊ သက်ဟူ၍ အမျိုးသုံးစားကွဲပြားခဲ့သည်။ ဧရာဝတီမြစ်ကမ်းတလျှောက်တွင် ပျူတို့မြို့ပြတည်ထောင် နေ ထိုင် ကြ သည်။ အနောက်ရိုးမ တလျှောက် ဖြစ်သော တောင်ကုန်းဒေသများတွင် နေထိုင်ကြသူများကို သက်ဟုခေါ်တွင်သည်။ အနောက်ရိုးမ၏ တောင်ဖက်စွန်းဖြစ်သော ရခိုင်ရိုးမနှင့် ဗင်္ဂလားအော်အကြားရှိ ပင်လယ်ကမ်းခြေအရပ်ဒေသတွင် နေထိုင်ကြသူများကို ကမ်းယံဟုခေါ်ကြသည်။ ကာလကြာမြင့်သော် ပျူတို့သည် ကွယ်ပျောက်၍ မြန်မာအစုတွင် ပါဝင်လာကြသည်ဟုဆိုသည်။ သက်နှင့်ကမ်းယံများကိုမူ ချင်း၊ ရခိုင်အစုများတွင်ထည့်သွင်းရေတွက်ကြလေသည်။

ကမ်းယံတို့မှီတင်းနေထိုင်ရာဒေသမှာ သံတွဲမှစ၍ တောင်စဥ့်ခုနစ်ခရိုင် ဖြစ်ကြောင်း၊ သရေခေတ္တရာတွင် ပျူတို့ကောင်းစားစဉ် ရခိုင်ပြည်တောင်ပိုင်းတွင် ကမ်းယံတို့ရှိခဲ့ကြောင်း၊ ယင်းတို့မှာ ဗုဒ္ဓဝါဒီများဖြစ်ကြောင်း သိရသည်။

**ကိမ်းဗရစ်တက္ကသိုလ်**။ ။တက္ကသိုလ်များ — ရှု။

**ကိမ်းဗရစ်မြို့**။ ။ကိမ်းဗရစ်မြို့သည် ကိမ်းဗရစ်ရှိုင်ယာနယ်၏ မြို့တော်ဖြစ်၍ လန်ဒန်မြို့မြောက်ဖက် ၅၆ မိုင်အကွာ ကမ်းမြစ်ပေါ် တွင်တည်ရှိသည်။ သို့သော် ၁၁ ရာစုနှစ်လောက်မှစ၍ ယနေ့ထက်တိုင်၊ ကိမ်းဗရစ်မြို့၏အမည်မှာမထင်ရှားဘဲ၊ ကိမ်းဗရစ်တက္ကသိုလ်သာလျှင် ကမ္ဘာ ပေါ် တွင် ထင်ရှားကျော်စောလျက်ရှိလေသည်။ ကိန်းဗရစ်မြို့တွင် လူဦးရေ ၇၆,၂၆၀ (၁၉၄၅) မျှရှိသည်။ အင်္ဂလန်ပြည်ရှိ အောက်စဖို့မြို့ သည် လည်း ကိမ်း ဗ ရစ် မြို့ နည်း တူ မ ထင် ရှား ပေ။ အောက်စဖို့တက္ကသိုလ်သာလျှင် လူသိများလေသည်။

အင်္ဂလန်ပြည်ရှိ ထင်ရှားကျော်စောသော တက္ကသိုလ်ကြီးနှစ်ခုအနက် တခုဖြစ်သောကိမ်းဗရစ်တက္ကသိုလ်မှာ ၁၂ ရာစုနှစ်လောက်တွင်မထင်ရှားလှသေးဘဲ ၁၃ ရာစုနှစ်သို့ရောက်မှ တိုးတက်ထင်ရှားလာလေသည်။ ၁၂၀၉ ခုနှစ်တွင် အောက်စဖို့တက္ကသိုလ်မှ ကျောင်းသားတို့သည် စာပေအသင်အပြကောင်းသည်ဟုကျော်ကြားလာသော ကိမ်းဗရစ်တက္ကသိုလ်ကျောင်းသို့ ပြောင်းရွှေ့လာကြ လေ သည်။ ထိုနှစ် မှစ၍ ကိမ်းဗရစ်တက္ကသိုလ်သည် တဖြည်းဖြည်းကြီးပွားတိုးတက်လာရာ၊ ၁၆ ရာစုနှစ်တွင် တက္ကသိုလ်ဟောင်းဖြစ်သော အောက် စ ဖို့ တ က္က သိုလ် ထက် ပင် ကျော် စော လာ ခဲ့ ၏။ (အောက်စဖို့တက္ကသိုလ် — ရှု)။

ကိမ်းဗရစ်တက္ကသိုလ်တွင် အမျိုးသမီးများအတွက် ဂါးတန်း နှင့် နျူးနမ် ကော လိပ် ကျောင်း နှစ် ကျောင်း အပြင်၊ ကောလိပ်ကျောင်းပေါင်း ၁၈ ကျောင်းမျှပါဝင်လေသည်။ ကျောင်းသူကျောင်းသားများ နေထိုင်ဖို့ ကျောင်းဆောင်များလည်းရှိသည်။

ရှေးအကျဆုံးကောလိပ်ကျောင်းမှာ စိန့်ပီတာကောလိပ် သို့မဟုတ် ပီတာဟောက်ကောလိပ်ကျောင်းဖြစ်သည်။ စိန့်ပီတာကောလိပ်ကျောင်းကို ၁၂၈၄ ခုနှစ်တွင် အီလီဂိုဏ်းအုပ်ကြီး ဟျူးဒါဗော်လရှမ်တည်ထောင်ခဲ့၏။

တဖန် ၁၃၂၆ ခုနှစ်တွင် ဒေါက်တာဗက်ဒျူးဆိုသူသည် ယူနီဗာစီတီဟောအမည်ရှိ ကောလိပ်ကျောင်းတဆောင်ကို တည်ထောင်ခဲ့ရာ၊ ထိုကျောင်းမှာ မကြာမီ မီးသင့်၍ပျက်စီးသွား သည်။ ဤသို့ဖြင့် ၁၃၃၆ ခုနှစ်၌ ထိုကျောင်းဟောင်းတည်ရာတွင် ကလဲယားအမည်ဖြင့် ကျောင်းဆောင်အသစ် တည် ဆောက် ခဲ့ ပြန် သည်။ ကလဲ ယား ကော လိပ် ကျောင်း ကို လေဒီ အယ်လစ်ဇဗက် ဒါ ကလဲယား တည်ဆောက်ခဲ့လေသည်။



ကိမ်းဗရစ်တက္ကသိုလ်ဘုရင့်ကောလိပ်အဆောက်အအုံကြီးကိုဤသို့ခမ်းနားစွာတွေ့ရသည်။

ပင်းဗရုတ်၊ ဂွန်းဗီးနှင့်ကေးယပ်၊ ထရင်နီတီဟောနှင့်ကောပပ်ခရစ္စတီကောလိပ်ကျောင်းများသည် ၁၄ ရာစုနှစ်အတွင်းက တည်ထောင်ခဲ့သော ကောလိပ်ကျောင်းလေးကျောင်းဖြစ်ကြသည်။ ပင်းဗရုတ်ကောလိပ်ကျောင်းကို ၁၃၄၇ ခုနှစ်တွင် မာရီဒါစိန်ပေါ်က တည်ထောင်ပေးခဲ့၏။ ၁၃၄၉ ခုနှစ်တွင် အက်ဒမန်ဂွန်းဗီးသည် ဂွန်းဗီးဟောကောလိပ်ကျောင်းကိုတည်ထောင်ခဲ့ရာ၊ ၁၅၅၇ ခုနှစ်တွင် ထိုကျောင်းကိုတိုးချဲ့ဆောက်လုပ်ပြီးနောက်၊ ဂွန်းဗီးနှင့်ကေးယပ်ကောလိပ်ကျောင်းဟုအမည်ပေးလိုက်လေသည်။

ထရင်နီတီဟောကောလိပ်ကျောင်းကို ၁၃၅၀ ပြည့်နှစ်တွင် ဝီလျံဗိတ်တမင်ခေါ် ဂိုဏ်းအုပ်ကြီးတပါးက တည်ထောင်ခဲ့သည်။ ကောပပ်ခရစ္စတီကောလိပ်ကျောင်းကို ကောပပ်ခရစ္စတီဂီးအဖွဲ့ဝင်များက ၁၃၅၂ ခုနှစ်တွင်တည်ထောင်ခဲ့၏။

ထိုနောက် ၁၄၄၁ ခုနှစ်သို့ရောက်မှ ဆဋ္ဌမဟင်နရီဘုရင်သည် ဘုရင့်ကောလိပ်ကျောင်းကိုတည်ထောင်ခဲ့လေသည်။ တဖန် ၁၄၄၈ ခုနှစ်တွင် ထိုမင်း၏မိဖုရားမာဂရက်သည် မိဖုရားကောလိပ်ကျောင်းသစ်တခုကို တည်ထောင်လိုက်ပြန်သည်။

ထိုနောက် ၁၄၇၃ ခုနှစ်တွင် စိန်ကက်သရင်းကောလိပ်ကျောင်းကို ရောဗတ်ဝုဒလာ့အမည်ရှိ ပုဂ္ဂိုလ်ကြီးကတည်ထောင်ခဲ့သည်။ အီလီဂိုဏ်းအုပ်ဆရာတော် ဂျွန်အဲလကော့သည် ၁၄၉၆ ခုနှစ်တွင် ဂျီးဆပ်ကောလိပ်ကျောင်းကိုတည်ထောင်ခဲ့၏။

၁၄၄၁ ခုနှစ်တွင်ခရိုက်စကောလိပ်ကျောင်းကို တည်ထောင်ခဲ့သော်လည်း သတ္တမဟင်နရီဘုရင်၏မယ်တော်ရစ်ချမွန်စား ကောင့်ကတော် လေဒီမာဂရက် ဗိုးဖတ်က ၁၅၀၅ ခုနှစ်တွင်ထိုကျောင်းကို ပြန်လည်ဆောက်လုပ်တည်ထောင်ပေးခဲ့သည်။ စိန်ဂျွန်းကောလိပ်ကျောင်းကိုလည်း လေဒီ မာဂရက်ကပင် ၁၅၁၁ ခုနှစ်တွင်တည်ထောင်ခဲ့၏။

၁၆၇၈ ခုနှစ်တွင်တည်ထောင်ခဲ့သော ကောလိပ်ကျောင်းများထဲတွင်၊ ထရင်နီတီကောလိပ်ကျောင်းမှာ ၁၅၄၆ ခု

နှစ်က အင်္ဂမဟင်နရီဘုရင် တည်ထောင်ခဲ့သောကျောင်း ဖြစ်၏။ ဆာဝေါ်လတာမိုင်းလမေးသည် ၁၅၇၄ ခုနှစ်တွင် အီမန်းနျူအယ်ကောလိပ်ကျောင်းကို တည်ထောင်ခဲ့သည်။ ဆပ်ဆက်နယ်စားကတော် လေဒီဖရန်စစ်ဆစ်ဒနီသည် ဆစ်ဒနီဆပ်ဆက်ကောလိပ်ကျောင်းကို ၁၅၉၅ ခုနှစ်တွင်တည် ထောင်ခဲ့လေသည်။

တဖန် ၁၈၀၀ ပြည့်နှစ်တွင် ဆာဂျော့ဒေါင်းနင်းသည် ဒေါင်းနင်းကောလိပ်ကျောင်းကို တည်ထောင်ခဲ့၏။ ထို နောက်နှစ်ပေါင်း ၈၀ ကျော်အကြာ၊ ၁၈၈၂ ခုနှစ်တွင် ဆယ်လွင်ကောလိပ်ကျောင်းကို တည်ထောင်ခဲ့ပြန်သည်။ အမျိုးသမီးများအတွက် ကောလိပ်ကျောင်းများအနက်ဂါး တန်းကောလိပ်ကျောင်းကို ၁၈၆၉ ခုနှစ်တွင်၎င်း၊ နျူးနမ်း ကောလိပ်ကျောင်းကို ၁၈၇၅ ခုနှစ်တွင်၎င်း၊ တည်ထောင် ခဲ့လေသည်။

ကိမ်းဗရစ်တက္ကသိုလ်တွင် ဖော်ပြခဲ့သော ကောလိပ် ကျောင်းကြီးများအပြင်၊ စာကြည့်တိုက်၊ ပြတိုက်၊ ဘုရား ရှိခိုးကျောင်းနှင့်မျှော်စင် စသည့် အဓိကရအဆောက်အအုံ ကြီးများလည်း ရှိသေးသည်။ အင်္ဂလန်ပြည်ရှိ အကြီးဆုံး သောစာကြည့်တိုက်သုံးခုထဲတွင်၊ တခုအပါအဝင်ဖြစ်သည့် ကိမ်းဗရစ်တက္ကသိုလ် စာကြည့်ပိဋကတ်တိုက်အဆောက် အအုံသစ်ကို ၁၉၃၄ ခုနှစ်တွင်ဖွင့်လှစ်ခဲ့သည်။ ထိုစာကြည့် တိုက်သစ်တွင် စာအုပ်ပေါင်း ၁,၅၀၀,၀၀၀ မျှထားရှိနိုင် လေသည်။

၁၅၄၂ ခုနှစ်တွင် အသစ်တဖန်ပြန်လည်တည်ဆောက်ခဲ့ သော မော်ဒလင်ကောလိပ်ကျောင်းရှိ စာကြည့်ပိဋကတ် တိုက်တွင်၊ ပီးပစ် လက်ရေးတို့နှင့် ရေးမှတ်ခဲ့သော မှတ်တမ်း လက်ရေးစာမူတခုရှိလေသည်။

ကိမ်းဗရစ်တက္ကသိုလ်၏ ဘုရားရှိခိုးကျောင်းမှာ စိန့်မေရီ ဘုရားရှိခိုးကျောင်းဖြစ်၏။ ထို့ပြင်ကိမ်းဗရစ်တက္ကသိုလ်နယ် တွင် ထင်ရှားသည့် အခြားဘုရားရှိခိုးကျောင်းများမှာ နော် မန်ဒီလူမျိုးများမလာရောက်မီခေတ်က ဆောက်လုပ်လေ့ရှိ သောပုံစံမျိုးဖြင့် ဆောက်လုပ်ထားသည့် မျှော်စင်ရှိသော စိန့်ဗင်းနေးနှင့်ဟိုးလီးဆက်ပါးလခါးခေါ် ဘုရားရှိခိုးကျောင်း များဖြစ်လေသည်။

ကိမ်းဗရစ်မြို့ရှိ ကောလိပ်ကျောင်းအားလုံးသည် ကိမ်း ဗရစ်တက္ကသိုလ်အုပ်ချုပ်ရေးအဖွဲ့ လက်အောက်ခံကောလိပ် ကျောင်းများ ဖြစ်လေသည်။ သို့သော်တက္ကသိုလ်တခုလုံး နှင့် သက်ဆိုင်သောကိစ္စရပ်များမှတပါး အခြားကိစ္စရပ်များ တွင်၊ ကောလိပ်ကျောင်းအသီးသီးတို့သည် မိမိနှင့်ဆိုင်ရာ အုပ်ချုပ်စီမံရေးစည်းကမ်းဥပဒေများအရ လွတ်လပ်စွာ ဆောင်ရွက်နိုင်လေသည်။ ကောလိပ်ကျောင်း၏ အုပ်ချုပ် ရေးမှူးကို မာစတာဟုခေါ်သည်။ (ဘုရင့်ကောလိပ်တွင် ပရော့ဗတ်၊ မိဖုရားကောလိပ်တွင် ဥက္ကဋ္ဌဟုကဲ့ပြားခေါ်ဝေါ် သေးသည်။) ကောလိပ်ကျောင်းတခု၏အုပ်ချုပ်ရေးမှူး နှင့် ဖဲလိုးခေါ်အဖွဲ့ဝင်များ ပါဝင်သောကောင်စီသည် ထို ကောလိပ်ကျောင်းကို စီမံအုပ်ချုပ်ရလေသည်။ ကောလိပ် ကျောင်းတိုင်းရရှိသောဝင်ငွေအလိုက်တက္ကသိုလ်သို့ငွေကြေး ထောက်ပံ့ရလေသည်။

တက္ကသိုလ်အုပ်ချုပ်ရေးအဖွဲ့တွင် အဓိပတိ၊ ကောလိပ် ကျောင်းအသီးသီးတို့မှ အုပ်ချုပ်ရေးမှူးများ၊ ဖဲလိုးများ နှင့် ကျောင်းသားများပါဝင်ကြသည်။ ဆီနိတ်အဖွဲ့တွင် အဓိပတိ၊ ဒုတိယအဓိပတိ၊ ပါရဂူဘွဲ့ရပုဂ္ဂိုလ်များ၊ မဟာ ဝိဇ္ဇာသို့မဟုတ် မဟာသိပ္ပံဘွဲ့ရပုဂ္ဂိုလ်များပါဝင်ပြီး လျှင် ဥပ ဒေပြုပိုင်သောအာဏာရှိလေသည်။ တက္ကသိုလ်မှတ်ပုံတင် ကြေးများ၊ တက္ကသိုလ်မှကျင်းပသော စာမေးပွဲများအတွက် ဝင်ကြေးများ၊ တက္ကသိုလ်အဖွဲ့ဝင်များထံမှရရှိသောအခွန် ငွေများနှင့် လက်အောက်ခံကောလိပ်ကျောင်းတို့မှရရှိသော ငွေများမှာ တက္ကသိုလ်၏ဝင်ငွေများဖြစ်သည်။ ၁၉၁၉ ခု နှစ်အထိ ကိမ်းဗရစ်တက္ကသိုလ်သည် အစိုးရထံမှ ထောက်ပံ့ ကြေးမရရှိခဲ့ပေ။ သို့ရာတွင်ပဌမကမ္ဘာစစ်ကြီးအပြီး၌ နေ ထိုင်စရိတ်ကြီးမြင့်လာခြင်းကြောင့်၎င်း၊ ငွေ၏တန်ဖိုးလျော့ ကျခြင်းကြောင့်၎င်း၊ တက္ကသိုလ်တွင်ငွေကြေးမလုံလောက် ဖြစ်လာလေရာ အစိုးရထံမှငွေကြေးအကူအညီကိုတောင်း ခံရလေသည်။ အစိုးရကလည်း စုံစမ်းရေးအဖွဲ့ကိုဖွဲ့စည်းလိုက် လေသည်။ အဆိုပါ စုံစမ်းရေးအဖွဲ့ စစ်ဆေးစုံစမ်းနေဆဲ အချိန်တွင် အစိုးရထံမှ နှစ်စဉ်ပေါင်ပေါင်း ၃,၀၀၀ ကို ထောက်ပံ့ကြေးအဖြစ် ရရှိခဲ့လေသည်။ ၁၉၂၅ ခုနှစ်မှစ၍ နှစ်စဉ်ပုံသေထောက်ပံ့ကြေးပေါင် ၈၅,၀၀၀ ရရှိခဲ့သည်။

ကိမ်းဗရစ်တက္ကသိုလ်တွင် သင်တန်းများကို တနှစ်အတွက် သုံးပိုင်းခွဲထားသည်။ ကျောင်းသားသစ်များသည် အများ အားဖြင့် အောက်တိုဘာလတွင်အစပြုသော သင်တန်းမှ စတင်၍ တက်ရောက်သင်ကြားလေ့ရှိကြသည်။ ကိမ်းဗရစ် တက္ကသိုလ်တွင် ကျောင်းသားဦးရေ ၅,၀၀၀ ကျော်မျှရှိ သည်။ ထိုမျှသောကျောင်းသားဦးရေကို ကျောင်းအ ဆောက်အအုံများတွင် ကျောင်းအိပ်ကျောင်းစားအဖြစ် လက်ခံရန်မဖြစ်နိုင်သဖြင့်၊ မြို့ထဲ၌ တက္ကသိုလ်မှအသိအမှတ် ပြုထားသောအိမ်များတွင် ဘော်ဒါကျောင်းသားအများ နေထိုင်ကြရသည်။ ဘွဲ့မရသေးသောကျောင်းသားတဦး အဖို့ တနှစ်လျှင်စာသင်ရက်ပေါင်း ၂၄ သီတင်းမျှရရှိရလေ သည်။ကောလိပ်ကျောင်းတကျောင်းသို့ ဝင်နိုင်ရန် ကျောင်း စာမေးပွဲသော်လည်းအောင်ရမည်၊ သို့မဟုတ်ဝင်ရောက်သင် ကြားနိုင်အောင် ပညာအရည်အခြင်းနှင့်ပြည့်စုံကြောင်း အထောက်အထားသော်လည်း ပြနိုင်ရပေမည်။ ကျောင်း သားများသည် ဝတ်ရုံနှင့် လေးထောင့်ကက်ဦးထုပ်ကို

ကျောင်းထမင်းစားခန်းမကြီးနှင့် ဘုရားရှိခိုးကျောင်းအတွင်း ဝင်ထွက်သွားလာရာ၌ အမြဲတမ်းဝတ်ဆင်ရလေသည်။ သင်တန်းကိုးပိုင်း၊ သို့မဟုတ်သုံးနှစ်မျှသင်ကြားပြီးသောအခါမှသာ ဘွဲ့တခုခုအတွက် စာမေးပွဲကိုဝင်ရောက်ဖြေဆိုနိုင်လေသည်။ ဝိဇ္ဇာဘွဲ့ရပြီးသူသည် သုံးနှစ်ကြာလျှင် မဟာဝိဇ္ဇာဘွဲ့ကို ဆွတ်ခူးနိုင်လေသည်။ ဝိဇ္ဇာနှင့်မဟာဝိဇ္ဇာဘွဲ့ထူးများအပြင် ကိမ်းဗရစ်တက္ကသိုလ်တွင် ရနိုင်သောဘွဲ့များမှာ ဗြဟဒေဝဗေဒပါရဂူဘွဲ့၊ ဥပဒေပါရဂူဘွဲ့၊ ဆေးပညာပါရဂူဘွဲ့၊ ဂီတပါရဂူဘွဲ့၊ စာပေပါရဂူဘွဲ့၊ သိပ္ပံပါရဂူဘွဲ့၊ ဥပဒေမဟာဝိဇ္ဇာဘွဲ့၊ အခွဲအစိတ်ပညာမဟာဝိဇ္ဇာဘွဲ့၊ သာသနာရေးဝိဇ္ဇာဘွဲ့၊ ဥပဒေဝိဇ္ဇာဘွဲ့၊ ဂီတဝိဇ္ဇာဘွဲ့နှင့်ဆေးပညာဝိဇ္ဇာဘွဲ့စသည်တို့ဖြစ်သည်။ ထိုပြင် သဘာဝတ္တဗေဒပညာရပ်များ၊ ဗြဟဒေဝဗေဒ၊ သဘာဝသိပ္ပံ၊ ဥပဒေ၊ သမိုင်း၊ ဘောဂဗေဒ၊ အလယ်ခေတ်နှင့် ခေတ်သစ်ဘာသာစကားများ၊ အရှေ့တိုင်းဘာသာစကားများ၊ စက်မှုသိပ္ပံပညာစသောပညာရပ်များအတွက်ဂုဏ်ထူးစာမေးပွဲများလည်းရှိလေသည်။ ထိုမှတပါး စိုက်ပျိုးရေး၊ ပထဝီဝင်၊ သတ္တုတူးဖော်ရေး၊ အင်ဂျင်နီယာအတတ်၊ သစ်တောပညာစသည်တို့အတွက် စာမေးပွဲများလည်းရှိပေသေးသည်။

ကိမ်းဗရစ်တက္ကသိုလ်တွင် အလယ်ခေတ်အခါကပင်ရှိနေခဲ့သော ဓလေ့ထုံးစံအချို့ကို ယခုထက်တိုင်လိုက်နာဆောင်ရွက်လျက်ရှိကြသည်။ ယနေ့တိုင် ကျောင်းသားတို့သည် ညစာစားသောက်ရာတွင် ဆိုင်ရာကောလိပ်ကျောင်းဆောင်ရှိ ထမင်းစားခန်းမကြီးထဲ၌ရှိသော စားပွဲတလုံးတွင် ဝိုင်းထိုင်စားသောက်ကြလေသည်။ ထမင်းစားခန်းများမှာ ခန့်ညားကျယ်ဝန်း၍၊ တခန်းလျှင်ကျောင်းသားပေါင်း ၆၀၀ မှ ၇၀၀ အထိဝင်ရောက်စားသောက်နိုင်လေသည်။

အမေရိကန်ပြည်ထောင်စုနိုင်ငံ၊ မက်ဆချူးဆက်ပြည်နယ်တွင် ကိမ်းဗရစ်အမည်ဖြင့် မြို့တမြို့ရှိသည်။ ထိုမြို့သည် ဗော်စတန်မြို့နှင့်မျက်နှာချင်းဆိုင်လျက်၊ ချားမြစ်ပေါ်တွင်



ကမ်းမြစ်နံဘေးတင့်တယ်လှသောကိမ်းဗရစ်တက္ကသိုလ်၏စိန့်ဂျွန်းကောလိပ်ဘုရားဝတ်ကျောင်းမျှော်စင်

တည်ရှိသည်။ အမေရိကန်ပြည်ထောင်စုနိုင်ငံတွင် စက်မှုလုပ်ငန်းနှင့် ကုန်စည်အရောင်းအဝယ်ထွန်းကားသောမြို့ဖြစ်သည်။ ထိုမြို့တွင်ထင်ရှားကျော်စောသော ဟားဗဒ်တက္ကသိုလ်ရှိသည်။ ထိုတက္ကသိုလ်ကျောင်းကို ၁၆၃၆ ခုနှစ်တွင် စတင်တည်ထောင်ခဲ့သဖြင့် အမေရိကန်ပြည်ထောင်စုနိုင်ငံ၌ ရှေးအကျဆုံးတက္ကသိုလ် ဖြစ်လေသည်။ အမျိုးသမီးများအတွက် ရက်ကလစ် ကောလိပ် ကျောင်း တခု လည်း ရှိလေသည်။ ထိုမြို့တွင်လူဦးရေ ၁၁၀,၇၇၉ ယောက် (၁၉၄၀) ရှိသည်။

**ကုံကုမံ။** ။ကုံကုမံသည် အဖိုးတန်သောပန်းဝတ်ဆံတမျိုးဖြစ်၍၊ ယင်းတို့ကို ရှေးရောမနှင့်ဂရိလူမျိုးတို့လက်ထက်မှ အစပြုကာ လိမ္မော်ဝါရောင်ဆိုးဆေးအဖြစ်ဖြင့်ရင်း၊ အမွှေးနံ့သာအဖြစ်ဖြင့်ရင်း၊ ဘယဆေးအဖြစ်ဖြင့်ရင်း၊ အစဉ်အဆက်အသုံးပြုလာခဲ့ကြသည်။ ရှေးခေတ်ဂရိနှင့် အိုင်ယာလန်နိုင်ငံတို့တွင် ကုံကုမံသည်အထက်တန်းကျလှသော ထီးနန်းသုံးဆိုးဆေးဖြစ်ခဲ့ဘူး၏။ အိန္ဒိယနှင့်မြန်မာနိုင်ငံတွင် ဒန်ပေါက်ထမင်း၌ထည့်လေ့ရှိသဖြင့်လူသိများသည်။ ဤသို့ ထမင်းဟင်းလျာများ၌ထည့်သည့်အခါ ကုံကုမံတွင်အပူဓါတ်ပါသောကြောင့် အစာကြေစေသည်ဟုဆိုသည်။ ကုံကုမံကို ကိတ်မုန့်၊ ချိုချင်သကြားလုံးစသည်များ၌လည်း ထည့်သွင်းအသုံးပြုကြသည်။ ဆေးဖက်ဝင်သည်ဆိုသော်လည်း အမှန်စင်စစ် ကုံကုမံ၌ရောဂါဘယများကို ပျောက်ကင်းစေနိုင်သည့်သတ္တိမရှိဟုသိရပေသည်။

ကုံကုမံပင်များပေါက်ရာမူလဒေသမှာ ဥရောပအနောက်တောင်ပိုင်း၊ ဂရိနိုင်ငံနှင့်အီရန် (ပါရှား) နိုင်ငံများပါဝင်သော မြေထဲပင်လယ် အရှေ့ပိုင်း ဒေသ တဝိုက်ဖြစ် သည်။ နောင်သော် ကုံကုမံ၏အဖိုးတန်မှုကြောင့်၊ ကုံကုမံပင်များကို စပိန်နိုင်ငံ၊ အင်္ဂလန်နိုင်ငံ၊ ပင်ဆီလဗေးနီး ယား ပြည် နယ် (အမေရိကန်) စသော အခြားနိုင်ငံများ၌လည်း စိုက်ပျိုးလာကြသည်။

ကုံကုမံပင်သည် နှစ်ကြာခံသည့်အပင်ငယ်မျိုးဖြစ်သည်။ မြေအောက်အမြစ်ရင်းတွင် ကြက်သွန်နီကဲ့သို့သောဥမျိုးရှိ၍၊ ထိုဥ၏ထိပ်မှ အရွက်၊ ဖူးတံနှင့်အပွင့်များ ဖူးပွင့်ထွက်ပေါ်လာကြသည်။ မြက်ရွက်နှင့်ဆင်သောအရွက်များမှာ ၅ လက်မမှ ၉ လက်မအထိရှည်လျား သည်။ ဖူးတံမှာရှည်လျားကာခေါင်းပွဖြစ်၍၊ ထိုဖူးတံထိပ်ဖျားမှ ဆောင်းဦးပေါက်ရာသီတွင် ခရမ်းရောင်နုသန်းသော ကတော့ပုံပန်းပွင့်အဖူးများ ပွင့်လာကြသည်။ ကုံကုမံပန်း၌ပွင့်ချပ် ၆ ချပ်ပါသည်။ အပွင့်၏အလယ်ဗဟို၌ ဝတ်ဆံမတိုင်ရှိ၍၊ ထိုတိုင်ထိပ်တခု၌ တလက်မသာသာရှည်သော နီရဲနေသည့် ဝတ်ဆံထိပ် ၃ ပင်စီပေါက်ကြသည်။

ကုံကုမံဆိုသည်ကား အခြားမဟုတ်၊ စုသိမ်းအခြောက်ခံထားသော အဆိုပါဝတ်ဆံထိပ်ကလေးများပင်ဖြစ်၏။ ပန်းပွင့်ပေါင်း ၄,၀၀၀ မှဝတ်ဆံမျှင်ပေါင်း ၁၂,၀၀၀ လောက်ကိုစုသိမ်း၍အခြောက်ခံမှ ကုံကုမံအလေးချိန်တအောင်စခန့်ရသဖြင့်၊ ကုံကုမံသည်ရှေးအထက်ကစ၍ အဖိုးများစွာတန်ခဲ့သည်။ ထိုကြောင့်လည်း ကုံကုမံတွင်အခြားပန်းဝတ်ဆံများကိုရော၍ လူမသမာများက ရောင်းချစီးပွားရှာလာကြရာ၊ ထိုပြစ်မှုကျူးလွန်သူများကို အလယ်ခေတ်က သေဒဏ်ပေး၍ ပင်နှိပ်ကွပ်သည်ဟုဆိုလေသည်။

ယခုခေတ်တွင်လည်း ကုံကုမံအတုများရှိသဖြင့်၊ ကုံကုမံကို ဈေးကြီးပေးဝယ်၍အသုံးပြုလိုသူများဖို့ အတုနှင့်အစစ်ကိုခွဲခြားသိရှိရန် အရေးကြီးသည်။ ကုံကုမံအစစ်သည် စီးကရက်ဆေးကဲ့သို့ နီညိုရောင်ရှိသည့်အမျှင်ကလေးများဖြစ်သည်။ အနံ့သင်း၍ စားကြည့်လျှင် အရသာခါး သက် သက် ရှိ သည့်ပြင် ပူရှိန်းရှိန်းနေသည်ကိုတွေ့ရပေမည်။ လျှာပေါ်၌လည်း



ကုံကုမံဥမှပင်စည်ထွက်၍ဖူးပွင့်လာကြပုံ

အဝါရောင်စွဲကျန်ရစ်လိမ့်မည်။ ကုံကုမံအစစ်ကို စပိန်နိုင်ငံမှတင်သွင်းရ၍ မြန်မာနိုင်ငံ၌မီးကုံကုမံဟုတွင်သည်။ အသားအရေပေါ်၌ ဤကုံကုမံကိုအရည်ဖျော်၍လိမ်းထားလျှင်မီးဒဏ်ကိုခံနိုင်သဖြင့် မီးကုံကုမံဟုခေါ်သည်ဟုဆို၏။ မြန်မာနိုင်ငံ၌ကုံကုမံဟူသောအမည်ဖြင့် ရောင်းလေ့ရှိသောကုံကုမံအတုမှာ ကုံကုမံအစစ်ထက်အနီရောင်ပို၍လွင်သည်။ အနံ့နည်း၍အရသာတွင်လည်း အခါးဓါတ်၊ အပူဓါတ်ခေါင်းပါးသည်။ ကြာဝတ်ဆံနှင့်တူသောကြောင့် ထိုကုံကုမံအတုမှာ မြန်မာနိုင်ငံ၌ ကြာကုံကုမံဟူ၍တွင်သည်။

ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင်ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသော အမည်များ မြောက်မြားစွာ ပါဝင်လေသည်။

ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသော အမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။

## ဝေါဟာရများ

| | |
|---|---|
| ကကေးအို (ပင်) | Cacao |
| 'ကချင်တောင်တန်းသားများဆိုင်ရာစည်းမျဉ်းဥပဒေများ' | 'Kachin Hill Tribes Regulations' |
| ကချင်ပြည်နယ်လက်စွဲ | Kachin State Manual |
| ကဇော်ပေါက်ခြင်း | Fermentation |
| ကညစ် | Stylus |
| ကတိုး (ဆီ) | Musk |
| ကတိုးကောင် | Musk-deer (*moschus moschifera*) |
| ကထိက | Lecturer |
| ကနုကမာ (အထပ်) | Mother-of-pearl (Nacre) |
| ကနေဒီယန် | Canadian |
| ကနေဒီယန်နေရှင်နယ်မီးရထားလမ်း | Canadian National Railway |
| ကနေဒီယန်ပစိဖိတ်မီးရထားလမ်း | Canadian Pacific Railway |
| ကနေရီ (ငှက်) | Canary |
| ကမာ | Oyster |
| ကမီယိုပန်းပြောက် | Cameo |
| ကမဲလီယားပင် | Camellia |
| ကယန် (လူမျိုး) | Kayan |
| ကရိယာ | Instrument |
| ကရီအိုစုတ် | Creosote |
| ကရူဇာစစ်သင်္ဘော | Cruiser |
| ကရူးဆိတ်စစ်ပွဲ | Crusade |
| ကရေယွန်ရောင်စုံဆေးတောင့် | Crayon |
| ကရော့ (ကရိုရှေး–ကြည့်) | Croc |
| ကရိုမာ | Chroma |
| ကရိုမီယမ် | Chromium |
| ကရိုမိုက် | Chromite |
| ကရိုမိတ် | Chromate |
| ကရိုရှေး | Crochet |
| ကရိုင်းမီးယားစစ်ပွဲ | Crimean War |
| ကရစ်ကက် | Cricket |
| ကရစ်တစ်–အော့–ပျူးဝါးရီးဇင်း | Critique of Pure Reason |
| ကရပ်စတေးစီး (မျိုးပေါင်း) | Crustacea (class) |
| ကလနား | Selvedge |
| ကလီဂေး (စစ်ဖိနပ်) | Caligae |
| ကလီယိုပါးထရားကျောက်တိုင် | Cleopatra's Needle |
| ကလေးတရားရုံး | Juvenile Court |
| ကလေးထိန်းဆရာမ | Governess |
| ကလေးထိန်းဌာန | Nursery |
| ကလေးပြုစုရေးဌာန | Residential Nursery |
| ကလေးများလုပ်အားရောင်းကစါးခြင်းအက်ဥပဒေ | The Children (Pledging of Labour) Act. |
| ကလေးများအဖို့တောရွာဘွဲ့တေးကဗျာများ | Country Rhymes for Children |
| ကလေးသူငယ်များထောက်ပံ့စောင့်ရှောက်ရေးအသင်း | Children's Aid and Protection Society |
| ကလေးအရာရှိ | Children Officer |
| ကလေးအလုပ်ကြမ်းဥပဒေ | Child-labour Laws |
| ကလောဆီ | Chaulmoogra Oil |
| ကလောပင် | Chaulmoogra |
| ကလိုဗါပင် | Clover |
| ကလိုဗါအချိုပင် | Sweet Clover (or Melilot) |
| ကလိုရိုဖေါင်း | Chloroform |
| ကလိုရိုက် | Chloride |
| ကလိုရင်း | Chlorine |
| ကလိုရင်းအရည် | Liquid Chlorine |
| ကလိုရိတ် | Chlorate |
| ကလောင်ငှက် | Secretary Bird |
| ကလိုင်ဒိုစကုပ်။ (ရုပ်စုံမှန်ပြောင်း) | Kaleidoscope |
| ကလပ် | Club |
| ကသီဒရယ်ဘုရားရှိခိုးကျောင်း | Cathedral |
| ကာကျူပွတ်ဆီ (သို့မဟုတ်) ကာပူတီဆီ | Cajuput Oil or Caputi Oil |
| ကာကျူပွတ်ပင် | Cajuput |
| ကာကွယ်ရောင် | Protective Coloration |
| ကာဒို | Cardo |
| ကာဒင်နယ်ကောလိပ် (ခေါ်) ကာဒင်နယ်ဂိုဏ်းချုပ်အဖွဲ့ | College of the Cardinals |
| ကာဒင်နယ်ဂိုဏ်းချုပ် | Cardinal |
| ကာဒင်နယ်ငှက် | Cardinal Bird |
| ကာဒင်နယ်အသျှင်မြတ် (အင်းမိနင့်) | 'Eminence' |
| ကာနက်ဂီကော်ပိုရေးရှင်း | Carnegie Corporation |
| ကာနက်ဂီသံမဏိကုမ္ပဏီ | Carnegie Steel Company |
| ကာဖေး | Cafe |
| ကာဗေါလစ်အက်ဆစ် | Carbolic Acid |
| ကာဗိုလိတ် | Carbolate |
| ကာဗိုဟိုက်ဒရိတ် | Carbohydrate |
| ကာဗိုက် | Carbide |
| ကာဗွန် | Carbon |
| ကာဗွန်ဒိုင်အောက်ဆိုက် | Carbon Dioxide |
| ကာဗွန်နစ်အက်ဆစ် | Carbonic Acid |
| ကာဗွန်နိတ် | Carbonate |
| ကာဗွန်မုန်အောက်ဆိုက် | Carbon Monoxide |
| ကာရက် | Carat |
| 'ကာလကတ္တားအလုံထောင်ကိစ္စ' | 'Black Hole of Calcutta' |

| | |
|---|---|
| ကာလဝမ်းရောဂါ | Cholera |
| ကာလသား (ရောဂါ) | Venereal Disease |
| ကားသေ့ (လူမျိုး) | Carthaginian |
| ကီးဝီးငှက် | Kiwi |
| ကုလသမဂ္ဂ (ယူအင်အို) | United Nations (U.N.O.) |
| ကုလသမဂ္ဂစာချုပ်ကြီး | United Nations Charter |
| ကူဗလိုင်ခန် | 'Kubla Khan' |
| ကူရှင်ဖုံ | Cushion |
| ကူးချူ | Caoutchouc |
| ကူးစက်တတ်သောရောဂါ | Infectious Disease |
| ကူးသန်းပင် | Hymendictyon Excelsum |
| ကူးသန်းရောင်းဝယ်ရေးမင်းကြီး | Trade Commissioner |
| ကေဆီအင်း | Casein |
| ကေဆွန် | Caisson |
| ကေဆွန်နာ | Caisson Disease |
| ကဲ့ (လူမျိုး)၊ (ဆဲ) | Celt |
| ကယ်စီအိုလေးရီးယား | Calceolaria |
| ကယ်စီအိုလပ် | Calceolus |
| ကယ်ဆယ်ရေးတပ် | Salvation Army |
| ကယ်ဆယ်ရေး၊ ပြန်လည်နေရာချထားရေး နှင့်လူမှုဝန်ထမ်းဝန်ကြီးဌာန။ | Ministry of Relief, Resettlement and Social Welfare |
| ကယ်လဆီယမ် | Calcium |
| ကယ်လီဒိုးနီးယန်းတောဝက်ကြီးကိုလိုက်လံဖမ်းဆီးခြင်း | Calydonian Boar Hunt |
| ကယ်လိုရီ (အပူကေမူ) | Calorie |
| ကဲရကယ် | Caracal |
| ကဲရီးဗူးသမင် | Caribou |
| ကော့ကနီး | Cockney |
| ကော့စတစ်ဆိုဒါ | Caustic Soda |
| ကော့စမစ်ရောင်ခြည် | Cosmic Ray |
| ကော့ဆက် | Cossack |
| ကော့ဒငါး | Cod |
| ကော့ပါး | Copper |
| ကော့ဗက်နိုင်ငံရေးမော်ကွန်းအပတ်စဉ် (မော်ကွန်း) | 'Cobbett's Weekly Political Register' |
| ကော် | Glue |
| ကော်ကေးရှန်း | Caucasian |
| ကော်စေး | Gutta-percha |
| ကော်ပိုရေးရှင်းအဖွဲ့ | Corporation (of a city) |
| ကော်ဖတ် (ကြက်ပေါင်စေး)။ (ရော်ဗါ) | Rubber |
| ကော်ဖတ်တု | Artificial Rubber |
| ကော်ဗီဒီ | Corvidae |
| ကော်မရှင် | Commission |
| ကော်မီတီ | Committee |
| ကော်မှုန့် (ကစီ) | Starch |
| ကော်လံဗိုင်း | Columbine |
| ကော်လွိုက် | Colloid |
| ကော်လွိုက်ဓါတုဗေဒ | Colloid Chemistry |
| ကောပပ်ခရစ္စတီဂီးအဖွဲ့ | Guilds of Corpus Christi |
| ကောလိပ်ကျောင်း | College |

| | |
|---|---|
| ကိုကိုး | Cocoa |
| ကိုကိုးဆီ | Cocoa Butter |
| ကိုကိုးနစ် (ကိုကိုးအသားဆန်) | Cocoa Nib |
| ကိုချင်နီးဆိုးဆေး | Cochineal |
| ကိုယ်စားလှယ်တော်ချုပ် | Chief Resident |
| ကိုယ်စားလှယ်များ | Delegation |
| ကိုဗေါ့ | Cobalt |
| ကိုမင်တန် | Kuomintang |
| ကိုရီးယား | Korea |
| ကိုယ်ရေးဖူလုံမှု | Self-sufficiency |
| ကိုရန်ကျမ်း | Koran |
| ကိုလိုနီ | Colony |
| ကိုလံဗိုစီမံကိန်း | Colombo Plan |
| ကိုယ်ဟန်အနေအထား | Posture |
| ကက်ကတ္တူဝါ | Cacatua |
| ကက်ဆောဝရီငှက် | Cassowary |
| ကက်တလစ် (ဓါတ်ကူ) | Catalyst |
| ကက်ပတိန် | Captain |
| ကက်ပတိန်ဂျင်နရယ် | Captain General |
| ကက်ပီတောလွှတ်တော် (အမေရိကန်ပြည်ထောင်စု) | Capitol |
| ကက်ပီဗားရား (....ခေါ်ပူးကြီးတမျိုး) | Capybara |
| 'ကက်ပတ်' | Caput |
| ကက်ဖီအင်း | Caffeine |
| ကက်ဗိနက်အဖွဲ့ | Cabinet |
| ကောက်နှံ | Ear (of any cereal) |
| ကောက်မျိုး | Cereals |
| ကောက်ရိုး | Straw |
| ကောက်သီးနှံဥပဒေ | Corn Law |
| ကောက်သီးနှံဥပဒေတိုက်ဖျက်ရေးအဖွဲ့ | Anti-Corn Law League |
| ကောက်သိမ်းခြင်း (ကောက်သိမ်းပွဲ) | Harvest |
| ကိုက်ဖြတ်သတ္တဝါ | Rodent |
| ကင်ဂရူးကောင် | Kangaroo |
| ကင်ဆာ | Cancer |
| ကင်ညွန်ချောက် | Canyon |
| ကင်ဒါဂါတင် (ကလေးဥယျာဉ်) (သူငယ်တန်း) | Kindergarten |
| ကင်မရာ | Camera |
| 'ကင်း' ခေါ်ကျားကြီး | King (Draughts) |
| ကင်းခြေများ | Centipede |
| ကင်းစိတ် | Patrol (Boy Scout) |
| ကင်းစိတ်ဦးစီး | Patrol Leader (Boy Scouts) |
| ကင်းထောက် | Boy Scout |
| ကင်းထောက်ကတိ | Scout Promise |
| ကင်းထောက်ကျင့်ဝတ် | Scout Law |
| ကင်းထောက်ချုပ် | Chief Scout |
| ကင်းထောက်ဆရာ | Scoutmaster |
| ကင်းထောက်လမ်းညွှန် | 'Scouting for Boys' |
| ကင်းထောက်အဖွဲ့ | Boy Scout Troop |
| ကင်းထောက်အမျိုးသမီး | Girl Guides |
| ကင်းထောက်အမျိုးသမီးကျင့်ဝတ် | Guide Law |
| ကင်းထောက်အမျိုးသမီးအဖွဲ့ | Guide Company |

ကင်းထောက်အမျိုးသမီးအသင်း Girl Guides Association
ကင်းထောက်အသင်း Boy Scouts Association
ကင်းမွန် Cuttlefish
ကင်းမွန်ဘဲလိပ် Squid
ကင်းလှည့်တပ် Patrol Group
ကောင့် Count
ကောင်စီ Council
ကောင်စီဝင်လူကြီး Councillor
ကောင်စစ်ဝန် Consul
ကောင်းကင်တမန်မင်း Archangel
ကောင်းခြီးပေးခြင်း Benediction
ကောင်းမှုပင် Parashorea Stellata
ကိုင်ရိုကြေညာစာတမ်း Cairo Delclaration
ကတ္တရာ Asphalt
ကတ္တရာစေး Tar
ကတ္တဝါ Cockatoo
ကိတ်မုန့် Cake
ကိတ်မုန့်စုံ Assorted Cake
ကုဋ္ဌနူနာ Leprosy
ကုတ်မီးသွေး Coke
ကန့် Sulphur
ကန့်ကူ (တာလက) Talc
ကန့်ပလာပင် Sonneratia Apetala
ကန်ကရစ် Concrete
ကန်စွန်းကလေး (ပင်) Ipomaea Aquatica
ကန်စွန်းကြီး (ပင်)
Elephant Creeper (Argyreia Speciosa)
ကန်စွန်းဥ (ပင်) Sweet Potatoe (Ipomaea Batatas)
ကန်တာဗာရီဂိုဏ်းချုပ်ကြီး Archbishop of Canterbury
ကန်တာဗာရီပုံပြင်များ ' Canterbury Tales '
ကန်တာဗာရီသိုးပျိုသား Canterbury Lamb
ကန္တာရ။ (သဲကန္တာရ) Desert
ကန္တာရသင်္ဘော ' Ship of the Desert '
ကန်ထရိုက်စာချုပ် Contract
ကန်ထရိုက်တာ Contractor
ကန်ဒီတပ်ပင် Candytuft
ကုန်ခနှုန်းထား Freight Rate
ကုန်တံဆိပ် Merchandise Mark
ကုန်မှတ်တံဆိပ် Trade Mark
ကုန်လှောင်ရုံ Warehouse
ကုန်သင်္ဘောစု Merchantile Marine
ကုန်သွယ်ရေးနှင့်စိုက်ပျိုးရေးကောင်စီ
Council for Trades and Plantations
ကုန်သွယ်ရေးဘုတ်အဖွဲ့ Board of Trade
ကပ္ပလီ Negro
ကပ္ပလီလုပု Pigmy
ကပ္ပိတန် Captain (of Ship)
ကုပ်ကလုငှက်
The Siamese Dusky Eagle Owl Bubo Coromandus Klossi
ကံ့ကော် (မက်ဆူဝါဖဲရီးယား) Mesua Ferrea
ကံကျေးချစံနစ် Fuedalism
ကမ္ပည်းကျောက်စာဌာန
Archaeological Survey Department
ကမ္ဘာ့ကုန်သွယ်ရောင်းဝယ်ရေးအဖွဲ့ (အိုင်၊ တီ၊ အို)
International Trade Organization
ကမ္ဘာ့ကင်းထောက်အမျိုးသမီးအဖွဲ့ချုပ်
World Association of Girl Guides and Girl Scouts
ကမ္ဘာ့ကျန်းမာရေးအဖွဲ့ World Health Organization
ကမ္ဘာ့ကြေးနန်းဆက်သွယ်ရေးသမဂ္ဂ
International Telecommunication Union
ကမ္ဘာ့ခိုကိုးရာမဲ့သူများစောင့်ရှောက်ရေးအဖွဲ့
International Refugee Organization
ကမ္ဘာ့ငြိမ်းချမ်းရေးကောင်စီ World Peace Council
ကမ္ဘာ့ငြိမ်းချမ်းရေးကွန်ဂရက်ကြီး World Peace Congress
ကမ္ဘာ့ငြိမ်းချမ်းရေးလုပ်ငန်း Peace Movement
ကမ္ဘာ့ငွေကြေးဆိုင်ရာရန်ပုံငွေအဖွဲ့
International Monetary Fund
ကမ္ဘာ့စာပို့တိုက်သမဂ္ဂ Universal Postal Union
ကမ္ဘာ့တိရစ္ဆာန်ဘေးမဲ့နေ့ S.P.C.A. Day
ကမ္ဘာ့သမဝါယမနေ့ Co-operative Day
ကမ္ဘာ့သမဝါယမအဖွဲ့ချုပ်ကြီး (အိုင်၊ စီ၊ အို)
The International Co-operative Alliance
ကမ္ဘာ့အလုပ်သမားနေ့ (မေဒေး)
(International) Labour Day (May Day)
ကမ္ဘာ့အိုလင်းပစ်နေ့ Olympic Day
ကမ္ဘာ့အိုလင်းပစ်အသင်းကြီး
International Olympic Committee
ကမ္ဘာ့အံ့ဖွယ်ခုနစ်သွယ် Seven Wonders of the World
ကမ္ဘာစစ်။ ပဌမ World War—I
ကမ္ဘာစစ်။ ဒုတိယ World War—II
ကမ္ဘာဦးခေတ် (ဝါ) သမိုင်းမတင်မီခေတ် Prehistoric Age
ကမ္ဘာဦးတိရစ္ဆာန်များ Prehistoric Animals
ကမ္ပည်းစာ Inscription
ကမ်းကပ်ဆိပ် Wharf
ကမ်းခြေ Coast
ကမ်းခြေကာကွယ်ရေးစခန်း Coast Guard Station
ကမ်းခြေကာကွယ်ရေးတပ် Coast Guard
ကမ်းခြေကာကွယ်ရေးတပ်ဆိုင်ရာအက်ဥပဒေ
Coast Guard Act
ကမ်းခြေစောင့်ကြည့်ရေးတပ် Coast Watching Force
ကမ်းခြေစောင့်ရှောက်ရေး Coast Protection
ကမ်းခြေတားမြစ်ပိတ်ပင်ရေးအဖွဲ့ Coast Preventive Corps
ကမ်းပါးစောက် Precipice
ကမ်းရိုးတန်း Coastline
ကုံကုမံ Crocus Cativus
ကျား Tiger
ကျားခုံ Draughts Board
ကျားခြင်္သေ့ Tigon (Father-Tiger; Mother-Lion)
ကျားထိုးခြင်း Draughts
ကျား–မ ပညာရေး Co-education
ကျားသစ် Leopard

| | |
|---|---|
| ကျီမြင့် | (Grain) Elevator |
| ကျီး | Crow |
| ကျီးအ | Rook |
| ကျူနီးဖောင်း | Cuneiform |
| ကျူးဂါးဒင်း | Kew Gardens |
| ကျေးရွာကျန်းမာရေးအဖွဲ့ငယ် | Rural Health Centre |
| 'ကျေးလက်သို့မြင်းစီးခရီးလှည့်ခြင်းများ' | 'Rural Rides' |
| ကျောရိုးမဲ့သတ္တဝါ | In-vertebrate |
| ကျောရိုးရှိသတ္တဝါ | Vertebrate |
| ကျောရိုးရှိသတ္တဝါများဆိုင်ရာရုပ်ကြွင်းကျောက်ပညာ | Vertebrate Paleontology |
| ကျက်သရေဆောင်ဥက္ကဋ္ဌ | Honorary President (Boy Scouts) |
| ကျောက်ကြီး (ရောဂါ) | Small Pox |
| ကျောက်ခက်တန်း | Reef |
| ကျောက်ချဉ် | Alum |
| ကျောက်ဂွမ်း | Asbestos |
| ကျောက်စက်ပန်းဆွဲ | Stalactite |
| ကျောက်စက်မိုးမျှော် | Stalagmite |
| ကျောက်ဆည် | Stone Weir |
| ကျောက်ပုရန် | Stonemason |
| ကျောက်ဖြစ်ရုပ်ကြွင်း | Fossil |
| ကျောက်ပုဇွန် | Crayfish (or Crawfish) |
| ကျောက်မီးသွေး | Coal |
| ကျောက်မီးသွေးကတ္တရာ | Coal Tar |
| ကျောက်မီးသွေးဓါတ်ငွေ့ | Coal Gas |
| ကျောက်မီးသွေးဖြည့်ရာစခန်း | Coaling Station |
| ကျင့်ထုံးကိစ္စ | Procedural Matter |
| ကျောင်းထိုင်သီလရှင်ကြီး | Abbess |
| ကျန်းမာရေးနည်းပြဆရာမ | Lady Health Visitor |
| ကြားနေနိုင်ငံ | Nuetral Nation |
| ကြားဖေါက်သင်္ဘော | Tramp Ship |
| ကြေးစား | Professional |
| ကြေးညို | Bronze |
| ကြေးနီခေတ် | Copper Age |
| ကြေးမုံ | Mirror |
| 'ကြေးမုံပြင်ထဲဝယ်' | 'Through the Looking Glass' |
| ကြေးဝါ | Brass |
| ကြေးဝါရုပ်တုကြီး | The Colossus (at Rhodes) |
| ကြယ်တံခွန် | Comet |
| ကြက်ခြေနီအသင်းများ | Red Cross Societies |
| ကြက်ညှာ | Whooping Cough |
| 'ကြက်ဖများ၏ဥ' | 'Cock's Egg' (Cokenay) |
| ကြောင်မြီးတို | Lynx |
| ကြည်းတပ်မတော်သေနာပတိ | Commander-in-Chief of the Land Forces |
| ကြိတ်သက္ကလတ် | Felt |
| ကွင်းပြင်ကရိုးဗူး | Barren Land Caribou |
| ကွင်းဗါး (ရင်းဗါး) | Ring Bar |
| ကွင်းမေရီ | Queen Mary |
| ကွင်းအယ်လစ်ဇဗက် | Queen Elizabeth |

| | |
|---|---|
| 'ကွန်ဂရီဂေးရှင်း' | 'Congregation' |
| ကွန်ဂရက် | Congress |
| ကွန်ဂရက်လွှတ်တော် | Congress (United States) |
| 'ကွန်စစ္စတိုရီ' | 'Consistory' |
| ကွန်ဆာလ်ကြီး | Consul (Roman History) |
| ကွန်ဆောင် (လူမျိုး) | Kawn-sawng |
| ကွန်ဗော်ဗျူလေစီအီး | Convolvulaceae |
| ကွန်ဗော်ဗျူးလပ် | Convolvulus |
| ကွန်မင်တန်ဆန့်ကျင်ရေးစာချုပ် | Anti Comintern Pact |
| ကျွဲကောကလေး | Grapefruit |
| ကျွဲနွားစာ | Fodder |
| ကျွဲနွားမွေးဌာန | Ranch |
| ကျွတ် | Tube |
| 'ကျွန်ုပ်၏လောက' | 'The World I Live In' |
| 'ကျွန်ုပ်၏ဘဝ' | 'The Story of my Life' |
| ကျွန်အရောင်းအဝယ် | Slave Trade |
| ကျွန်းဆွယ် | Peninsula |
| ကြွေထည် | Porcelain |
| ကြွက်ကတိုး | Musk Rat |
| ခနောက်စိမ်း | Antimony |
| ခရီးစဉ်သွားမြဲသင်္ဘော | Liner |
| ခရုပက်ကျိ | Snail |
| ခရိုင် | District (Burma) County (Britain) |
| ခရိုင်မဲဆန္ဒမြို့ | County Borough (England) |
| ခရိုင်မင်းကြီး (ကင်းထောက်အမျိုးသမီး) | District Commissioner |
| ခရစ္စတာဗဲ | 'Christabel' |
| ခရစ္စတဲလွိုက် | Crystalloid |
| ခရစ္စမတ်ပွဲတော် | Christmas |
| ခရစ်တော်မွေးနေ့ | Christmas Day |
| ခရစ်နှစ် | Christian Era |
| ခရစ်ယန် | Christian |
| ခရစ်ယန်ဆိုရှယ်လစ် | Christian Socialist |
| ခရစ်ယန်မိန်းကလေးအသင်း (ဝိုင်၊ ဒဗျူ၊ စီ၊ အေ) | Young Women's Christian Association |
| ခရစ်ယန်လူငယ်အသင်း (ဝိုင်၊ အမ်၊ စီ၊ အေ) | Young Men's Christian Association |
| ခရစ်ယန်အယူဝါဒဆိုင်ရာဥပဒေ | Canon Law |
| ခရစ်ယန်အယူဝါဒအရေးတော်ပုံ | Reformation |
| ခရစ်ယန်အယူဝါဒ၏ဥပဒေသများ | 'Institutes of the Christian Religion' |
| ခရမ်းဘေးရောင်ခြည် | Ultra-violet Ray |
| ခါ | Partridge |
| ခါးပိုက်ဆောင်စစ်သင်္ဘော | Pocket Battleship |
| ခဲ | Lead |
| (ခဲမဖြူ)။ သံဖြူ | Tin |
| ခိုကိုးရာမဲ့သူငယ်များဂေဟာ | Home for Waifs and Strays |
| ခေါက်ကင်မရာ | Folding Camera |
| ခေါင်လေကြမ်း | Hurricane |
| ခေတ်ဆန်းချိန် (အတတ်ပညာပြန်လည်ဆန်းသစ်ခေတ်) | Renaissance |

| | |
|---|---|
| ခေတ်သစ်ထူထောင်မှု | New Order (Hitler) |
| ခေတ်သစ်နိုင်ငံသမိုင်း | Modern History |
| ခန်ဂ | Khang |
| ခန်မင်းကြီး | Khan |
| ခံတပ် | Fort |
| ခုံးချွန်ပြတင်း | Lancet Window |
| ချိနွတ် (လေ) | Chinook |
| ချီးတား | Cheetah |
| ချယ်ရီ | Cherry |
| ချောကလက် | Chocolate |
| ချောဆီ | Lubricant |
| ချောက် | Gorge |
| ချိုင့်ဝှမ်း (မြစ်ဝှမ်း) | Valley |
| ချိင်တု | Chien-Tu |
| ချစ်ကိုရီ | Chicory |
| ချန် (လူမျိုး) | Chiang |
| ခြေနု | Tenderfoot |
| ခြေမျက်စိ | Ankle |
| ခြောက်ပဲနီသီချင်း | Sing a Song of Sixpence |
| ခြောက်ဦးစီး | Sixer |
| ခြောက်ဦးစီးအုပ် | Senior Sixer |
| ခြောက်ဦးစု | Six |
| ခြင်္သေ့ကင်းထောက် | King's / Queen's Scout |
| ခြင်္သေ့ကျား | Liger (Father-Lion; Mother-Tiger) |
| ချည်ငင်စက် | Spinning Mill |
| ချည်ထည် | Cotton Goods |
| ချည်မျှင် | Yarn |
| ခွေးရူးရောဂါ | Rabies |
| ခွေးသွားစိပ်မီးရထားလမ်း | Cogwheel Railroad |
| ခွင့်ပြုစာချွန် | Letters Patent |
| ချွင်းချက်မရှိလက်နက်ချခြင်း | Unconditional Surrender |
| ဂရိ | Greek |
| ဂရက်ဖိုက်။ (ခဲနက်) | Graphite |
| ဂရင်းနစ်နက္ခတ်မျှော်စင် | Greenwich Observatory |
| ဂလီးနား | Galena |
| ဂလင်း | Gland |
| ဂလစ်ဆရင်း | Glycerine |
| ဂါဇနစ် (ညှိသည်တော်များညှိခံရာအဆောက်အအုံ) | Gurzenich |
| ဂါဇီ (ဘွဲ့ထူး) | Ghazi |
| ဂါလီဗါ၏ခရီးစဉ် | Gulliver's Travels |
| ဂီတပါရဂူဘွဲ့ | D. Mus. (Doctor of Music) |
| ဂီတဝိဇ္ဇာဘွဲ့ | B. Mus. (Bachelor of Music) |
| ဂူကြီး | Cavern |
| ဂူစီ၊ ဂူစီ၊ ဂင်ဒါ | Goosey, Goosey, Gander |
| ဂူလီကစားခြင်း။ (ကုလီကစားခြင်း) | Polo |
| ဂေါ့သ | Goth |
| ဂေါ့သပုံစံ | Gothic Style |
| ဂေါက်သီး | Golf Ball |
| ဂေါက်သီးကွင်း | Golf Course |

| | |
|---|---|
| ဂိုဏ်း (ခရစ်ယာန်ဘာသာ) | Church |
| ဂိုဏ်းချုပ် | Archbishop |
| ဂိုဏ်းထောက် | Dean |
| ဂိုဏ်းအုပ် | Bishop |
| ဂုဏ်ထူးဆောင် (ရာထူး) | Honorary (Rank) |
| ဂုဏ်သတ္တိများ | Properties |
| ဂျာမန် | German |
| ဂျီနီးဗားပရိုတိုကိုး | Geneva Protocol |
| ဂျီနိုးဝီး | Genoese |
| ဂျီသြမေတြီ | Geometry |
| ဂျဲ (ခဲ) | Gel- |
| ဂျော်ဂျီယန် | Georgian |
| ဂျက္ကတ်ရက်ကန်းစင် | Jacquard Loom |
| ဂျက်ဂွါး | Jaguar |
| ဂျက်စတာရိုမနိုရမ် | Gesta Romanorum |
| 'ဂျက်ဟော်နာကလေး' | Little Jack Horner |
| ဂျင်မခါနာ | Gymkhana |
| ဂျင်မနော့ | Gymnos |
| ဂျင်မိနိုင် (နက္ခတ်) | Gemini |
| ဂျင်နီးဆစ် | Genesis |
| ဂျိန်း (အယူဝါဒ) | Jain (-ism) |
| ဂျစ်တာဗတ် | Jitterburg |
| ဂျစ်ပဆမ် | Gypsum |
| ဂျမ်ဗိုရီ | Jamboree |
| ဂျုံ | Wheat |
| ဂြိုဟ် | Planet |
| ဂွမ်ချေ (လူမျိုး) (ဂွမ်ချို) | Guanche (or Guancho) |
| ဂျွန်ဂီလပင် | John Gilpin |
| ငရှဉ့် | Eel |
| ငါးခေတ် | Age of Fish, The |
| ငါးစည်ဖေါင်း | Air-bladder |
| ငါးစည်ဖေါင်းကော် | Isinglass |
| ငါးနှုတ်ခမ်းမွေး | Barbel |
| ငါးမွေးကန် | Aquarium |
| ငါးများတန် | Long-line |
| ငြိမ်းချမ်းရေးမေတ္တာရပ်ခံလွှာ | Peace Appeal |
| ငြိမ်းချမ်းရေးလေ့လာမှုအဖွဲ့ | Peace Observation Commission |
| ငြိမ်းချမ်းရေးသမဂ္ဂ (အင်္ဂလန် ၁၉၃၄) | Peace Pledge Union |
| ငြိမ်းချမ်းရေးအတွက်စည်းလုံးမှု | Uniting for Peace |
| ငွေဝယ်ကျွန် | Slave |
| ငွေဝယ်ကျွန်စံနစ် | Slavery |
| ငှက်ကုလားအုပ် | Ostrich |
| ငှက်ကုလားအုပ်ပု | Emu |
| ငှက်ပြာ | Blue Bird |
| ငှက်ပြာကင်းထောက် | Blue Bird |
| ငှက်ပြာအုပ် | Blue Bird Pack |
| ငှက်ဖျား (ရောဂါ) | Malaria |
| ငှက်ရဲ | Bird of Prey |
| စကရော့ဖျူလေးရီအေးစီး | Scrophulariaceae |
| စကားထာ | Riddle |

| | |
|---|---|
| စကားပြောကြေးနန်း | Telephone |
| စကားလက် ဖျား | Scarlet Fever |
| စကော့ | Scot |
| စကျင်ကျောက် | Marble |
| စကြာဝဠာ | Universe |
| စတုရန်း........၉ မိုင်၊ စတုရန်းမိုင်........၁၀၀။ | ........9 or 100........ Square Miles. |
| ........၉........မိုင်စတုရန်း | ........9........Miles Square |
| စတော့ကီးနှင့်အဖေါ်များ | Stalky and Company |
| စတက်လွင်ပြင် | Steppes |
| စတိုင်းရင်း | Styrene |
| စတိုင်းလပ် | Stylus |
| စနိုးဝိုက်နှင့်လူပုခုနစ်ဖေါ် | Snow White and the Seven Dwarfs |
| စနိုက်ကြီး | Woodcock |
| စပရင်းဥတု (နွေကူးရာသီ) | Spring |
| စပင်းနင်းဂျင်နီ | Spinning Jenny |
| စပင်းနင်းမျူး | Spinning Mule |
| စပျစ် (ပင်) | Grape |
| စဖင့် | Sphinx |
| စမော့ (အရောင်ဆေး) | Smalt |
| စမစ် ဆု | Smith's Prize |
| စာချုပ် | Pact |
| စာတည်း | Editor |
| စာပေကလပ် | Literary Club |
| စာပေပါရဂူဘွဲ့ | D. Litt. (Doctor of Literature) |
| စာမူပိုင် | Copyright |
| စာရင်းစု | Statistics |
| စားသုံးသူများသမဝါယမအသင်း | Consumers' Co-operative Society |
| စီ၊ အက် (စ)၊ အိုင် | Companion of the Star of India (C. S. I.) |
| စီးပွားရေးကော်မရှင် | Economic Commission |
| စီးပွားရေးကန့်သတ်ချက် | Economic Sanction |
| စီးပွားရေးကပ်ဆိုးကြီး | Trade Depression |
| စီးပွားရေးနှင့်လူမှုရေးရာအဖွဲ့ | Economic and Social Council |
| စီးပွားရေးဝံသာနုစိတ်ဓါတ် | Economic Nationalism |
| စုပေါင်းကာကွယ်ရေး | Collective Security |
| စူလတန်ဘုရင် | Sultan |
| စက်ပတ်ကြိုး | Belt |
| စက်ဖလိုပိုးဒါး | Cephalopoda |
| စက်ဘီး | Bicycle |
| စက်မှုလက်မှုလုပ်ငန်းများ | Industries |
| စက်မှုလက်မှုလုပ်ငန်းရှင် | Industrialist |
| စက်မှုသိပ္ပံပညာ | Mechanical Science |
| စက်ဝိုင်း | Circle |
| စိုက်ပျိုးခင်းခြံ | Farm, Agricultural |
| စင်ကိုးနား (ပင်) | Cinchona |
| စင်တီဂရိတ်။ (အပူချိန် - စင်တီဂရိတ်) | Centigrade |
| စင်ဒါရဲလား (စန္ဒမာလာ) | Cinderella |
| စင်ဖိုး (သိမ်းပေါ) | Sing Hpo |
| စောင့်ရှောက်ခံနယ် | Protectorate |
| စစ်ကင်းထောက် | Army Scout |
| စစ်ဆေးရေးမှူး (အင်စပိတ်တော်) | Inspector |
| စစ်တုရင်ခုံ | Chess Board |
| စစ်တက္ကသိုလ် | Military Academy |
| စစ်ပြေငြိမ်းရေးစာချုပ် | Armistice |
| စစ်ပြင်ဆင်မှု | Mobilization |
| စစ်ပွဲ။ (စစ်) | War |
| စစ်ဖက်ဆိုင်ရာတွဲဖက်သံအရာရှိ | Military Attache |
| စစ်ဗါရီ | Sepoy |
| စစ်ရေးလက်ထောက် | Adjutant |
| စစ်လျော်ကြေး | Reparation |
| စစ်ဝန်ကြီး | Secretary of State for War (Britain) |
| စစ်သူကြီး (မာရှယ်) | Field Marshal |
| စစ်သေနာပတိချုပ် | Generalissimo. Supreme Commander |
| စစ်ဦးစီးချုပ် | Chief of the General Staff |
| စစ်ဦးစီးအဖွဲ့ | Military Staff Committee (U.N.S.C.) |
| စစ်အေး | Cold War |
| စည် | Drum (Music) |
| စည်းကမ်းချက် | Condition |
| စည်းမျဉ်းခံဘုရင့်အုပ်ချုပ်ရေး | Constitutional Monarchy |
| စည်းမျဉ်းဥပဒေ | Regulation |
| စည်းလုံးတိုးတက်ရေးအသင်းကြီး | Society of Union and Progress |
| စုတ်အင်္ဂါ | Sucker |
| စိန့်။စိန့်သူတော်စင် | St. (Saint) |
| စိန့်ဂျိမ်းနန်းတော်ကြေညာစာတမ်း | St. James Palace Declaration |
| စံ | Standard |
| စံတင်ရှေးလက်ရာ (ပန်းချီ) | Classic |
| စွန့်ပယ်ပစ္စည်း | Waste |
| စွမ်းအင် | Energy |
| ဆလိုင်း (ပေါမိုင်း) | Salangs |
| ဆလပ် | Slav |
| ဆာ | Sir |
| ဆာကက်ရှန် | Circassian |
| ဆာဂျင် - ကက်ပတိန် | Surgeon-Captain |
| ဆာနဒ်အမိန့်စာချွန် | Sanad |
| ဆာမန်ငါး | Salmon |
| ဆာရဆင် | Saracen |
| ဆာလဖါ | Sulphur |
| ဆာလဖါဂွာနဒင်း | Sulphaguanidine |
| ဆာလဖါဆေး | Sulpha Drug |
| ဆာလဖါနီလာမိုက် | Sulphanilamide |
| ဆာလဖါသိုင်ယာဇိုး | Sulphathiazole |
| ဆာလဖိုက် (ဒ) | Sulphide |
| ဆာလဖိတ် | Sulphate |
| ဆာလဖျူရစ်အက်ဆစ် | Sulphuric Acid |
| ဆီ | Oil |

| | |
|---|---|
| ဆီညာ | Seigneur (Segnior) |
| ဆီနိတ် | Senate |
| ဆီပီယာအော့ဖီဆီနဲလ်လစ် | Sepia Officinalis |
| ဆီမှိုင်း | Lampblack |
| ဆီလီကိတ် | Silicate |
| ဆီသီယန် (လူမျိုး) | Scythian |
| ဆီးဖရစ်ခံတပ် | Siegfried Lines |
| ဆီးရီးယန်း (လူမျိုး) | Syrian |
| ဆုတောင်းချက်စာအုပ် | Prayer Book |
| ဆူမီးယားရီးယန်း (လူမျိုး) | Sumerian |
| ဆေး | Tobacco |
| ဆေးခန်းလက်ထောက် | Clinical Assistant |
| ဆေးပညာပါရဂူဘွဲ့ | M.D. (Doctor of Medicine) |
| ဆေးပညာဝိဇ္ဇာဘွဲ့ | M.B. (Bachelor of Medicine) |
| ဆေးရုံအုပ် | Superintendent of a Hospital |
| ဆေးလယန်းဖရန့် | Salian Frank |
| ဆေးဝါး | Medicine |
| ဆေးဝင်ပစ္စည်း | Drug |
| ဆဲလဂျုတ်တရက် | Seljuk Turk |
| ဆဲလျူလွိုက် | Celluloid |
| ဆော်ဗွန် | Sorbonne |
| ဆော (ရည်) | Sal |
| ဆိုဒီယမ် | Sodium |
| ဆိုဗီယက်တော်လှန်ရေး | Soviet Revolution |
| ဆိုဗီယက်ဖင်လန်စစ်ပွဲ | Soviet Finnish War |
| ဆိုဗီယက်အဖွဲ့ | Congress of Soviets |
| ဆိုးဆေး | Dye |
| ဆက္ကဆွန် | Saxon |
| ဆက်ပိုတေစီး | Sapotaceae |
| ဆင်ခြေလျှော | Slope |
| ဆင်းဖို့နှင့်မားတန် | Sandford and Merton |
| ဆောင်တုန် (လူမျိုး) | Swang-Tung |
| ဆောင်ပုဒ် | Motto |
| ဆောင်းအောင်းသည် | Hibernate |
| ဆစ် | Le Cid |
| ဆစ်ဖလစ် (ရောဂါ) | Syphilis |
| ဆစ်အယူဝါဒီ (ဆစ်) | Sikh |
| ဆည်ထိပ်ကြီး | Head Work |
| ဆည်ထိပ်ရေတံခါးကြီး | Head Sluice |
| ဆည်မြောင်းဖောက်ခြင်း | Irrigation |
| ဆိတ်မွေး | Mohair |
| ဆန်ကွဲပန်းပင် | Candytuft |
| ဆန်တာမရီယာ | Santa Maria |
| ဆိပ်ခံတန်တား | Promenade Pier |
| 'ဆုံးခဲ့ပေါ့ပြည်နိဗ္ဗာန်' | 'Paradise Lost' |
| ဆွီဒင် (လူမျိုး) | Swedish |
| ဆွဲငင်မှု | Gravitation |
| ဆွဲပိုက် | Trawl |
| ဆွန် (မင်းဆက်) | Sung |
| ဆွန်းနက် | Sonnet |
| ဇလီဖါးတုံး | Sleeper |

| | |
|---|---|
| ဇုနတ်ရုပ်တုကြီး | The Statue of Zeus |
| ဇော်မွှားကြီးပင် (ကာနေရှင်းပင်) | Carnation |
| ဇင့် | Zinc |
| ဇာတ်ကောင် | Character |
| ဇုန် | Zone |
| 'ဇွန်လ ၁ရက် ရေကြောင်းတိုက်ပွဲ' | 'Glorious First of June' |
| ညွန်ပျောင်း | Marsh |
| တဆေး | Yeast |
| တတန်းဗါး | Horizontal Bar |
| ၁၉၁၃ ခုနှစ် ကိုကိုကျွန်းစုမျှားအစီရင်ခံစာ | Report of the Cocos Islands for the year 1913 |
| တနှစ်ခံ | Annual |
| တမန်တော် | Apostle Prophet |
| တမိလ် | Tamil |
| တရားမှန် | La Justice |
| တရားလွှတ်တော် (ပြည်ထောင်စုမြန်မာနိုင်ငံ) | High Court (of Union of Burma) |
| တရားဥပဒေ | Law |
| တရက်တိုဂျီးနိုးကာဇိုင်း | Taraktogenos Kurzii |
| တရုပ်နီ | Red Chinese |
| တရုပ်ပြည်သူ့ သမတနိုင်ငံ | Chinese People's Republic |
| တရုပ်အမျိုးသားအစိုးရ | Chinese Nationalist Government |
| တသီးပုဂ္ဂလကင်းထောက်အမျိုးသမီး | Lone Guide |
| တာရပင်ဆီ | Turpentine |
| တားတား (လူမျိုး) | Tartar |
| တားမြစ်ပိတ်ပင်ရေးဌာန | Preventive Service |
| တိရစ္ဆာန်ညှင်းပန်းမှုကာကွယ်ရေးအသင်း (တ၊ ည၊ က၊ သ) | Society for the Prevention of Cruelty to Animals |
| တိရစ္ဆာန်လောက | Animal Kingdom |
| တီဗီရောဂါ | Tuberculosis |
| တူမီးသေနတ် | Firelock |
| တူရကီ | Turkish |
| တူးမြောင်း | Canal |
| တယ်လီဖုန်းစကားပြောခွက် | Telephone Receiver |
| တယ်လီဗစ်ရှင်း။ (ရုပ်လှင့်ရုပ်ဖမ်းခြင်း) | Television |
| တော်ပီဒို | Torpedo |
| တော်ဝင်အသင်း | Royal Society |
| တောကဲရီးဘူး | Wood-land Caribou |
| တောကျီး | Raven |
| တောစခန်းထွက်ခြင်း | Camping |
| တောတွင်းပုံပြင် | Jungle Book |
| တောရီ (လူမျိုး) | Tauri |
| တောလယ်ထွက်ခြင်း | Hiking |
| တောဝက် | Boar |
| တက္ကဗေဒ | Logic |
| တက္ကသိုလ် | University |
| တက်ဗန် (ထမင်းဆိုင်) | Tavern |
| တိုက်စားခြင်း | Erosion |
| တိုက်ဒဲသီအိုရီ (ဒီရေအဆို) | Tidal Theory |

| | |
|---|---|
| တိုက်ပွဲ | Battle |
| တိုက်ဖတ်ဖျား | Typhus |
| တင့်ကား | Tank |
| တင်ဒါ | Tender |
| တင်းနစ် | Tennis |
| တင်းပုတ်။ (အင်ဒီးယန်းကလပ်) | Indian club |
| တောင်ကုန်း | Hill |
| တောင်စခန်း (မြို့) | Hill Station |
| တောင်စု | Mountain Group |
| တောင်ဆွယ် | Spur |
| တောင်တန်းဒေသဆိုင်ရာအုပ်ချုပ်ရေး | Frontier Administration (Burma) |
| တောင်ထိပ် | Peak |
| တောင်ရိုး | Ridge |
| တောင်အုပ် | Taung-ok |
| တိုင်ခြည် | Warp |
| တိုင်ယာ | Tyre |
| တိုင်းပြည်ပြုလွှတ်တော် | Constituent Assembly |
| တိုင်းရင်းသား | Natives |
| တိုင်းဦးသား | Aborigines |
| တစ်ရှူး (အသားမျှင်) | Tissue |
| တန်ဂို | Tango |
| တန်စတင်။ (ခဲမသေ) | Tungsten |
| တန်ပြန်ထိုးစစ် | Counter Offensive |
| တပ်ကလပ်။ (မြင်းပွဲအသင်း) | Turf Club |
| တပ်နီတော် (ရုရှ) | Red Army (Russia) |
| တပ်မကြီး | Division |
| တပ်မတော် (တပ်ဖွဲ့ပုံအစီအစဉ်) | Army |
| တပ်မှူး | Commander |
| တပ်ရင်း | Battalion |
| တံမြက်သိမ်းဖုံသုတ်စက်။ (ဓါတ်တံမြက်စည်း) | Vacuum Cleaner |
| တျူဗာကယ်ဗက်ဆီလပ် | Tubercle Baccillus |
| တြိဂံ | Triangle |
| တွားသွားကောင်ခေတ် | Age of Reptiles, The |
| တွဲလောင်းစီးခိုခြင်း | Suspension (in a liquid) |
| တွင်းထွက်ပစ္စည်း | Mineral |
| တွမ်ဗရောင်း၏ကျောင်းသားဘဝ | Tom Brown's Schooldays |
| ထနောင်းစေး | Gum Arabic |
| ထနောင်းမျိုး | Acacia |
| ထရိုဂျန် | Trojan |
| ထရောက်ငါး | Trout |
| ထရိုင်အောက်ဆိုက် | Trioxide |
| ထရတ်အဖွဲ့ | Trust |
| ထာဝရမဟုတ်သောအဖွဲ့ဝင်။ လုံခြုံရေးကောင်စီ | Non-permanent Member, Security Council |
| ထာဝရအဖွဲ့ဝင်။ လုံခြုံရေးကောင်စီ | Permanent Member, Security Council |
| ထူပါရုံစေတီ | Stupa |
| ထူးခြားသောအနံ့ | Characteristic Smell |
| ထင်းမီး | Fuel |
| ထောင်သား | Convict |
| ထည့်ဝင်ငွေ | Contribution |
| ထုတ်ကုန်လိုင်စင် | Export Licence |
| ထုတ်လုပ်မှု | Production |
| ထမ်းကို | Servicemen |
| ထုံး | Lime |
| ထုံးကျောက် | Limestone |
| ထုံးရေကြည် | Limewater |
| ထုံးဟောင်းပုံပြင် | Mythology |
| ဒယက် (လူမျိုး) | Dayak |
| ဒလိမ့် | Roller |
| ဒလိမ့်တုံး | Cylinder (Cylinderical Block) |
| ဒရွမ်မီဒယ်ရီ | Dromedary |
| ဒလိုင်းလာမာ (တိဗက်သာသနာပိုင်) | Dalai Lama |
| ဒီဒေး | D. Day |
| ဒီမိုကရေစီ | Democracy |
| ဒုတိယစစ်မျက်နှာ | Second Front |
| ဒုတိယဗိုလ် (ကြည်းတပ်) | Second Lieutenant |
| ဒုတိယဗိုလ် (ရေတပ်) | Midshipman |
| ဒုတိယဗိုလ်မှူးကြီး (ကြည်းတပ်) | Lieutenant Colonel |
| ဒုတိယဘုရင်ခံ | Lieutenant Governor |
| ဒုတိယသေနာပတိ | Second-in-Command |
| ဒုတိယဥက္ကဋ္ဌ | Vice-president |
| ဒူးအခံ | Knee-pad |
| ဒေဗီတံဆိပ် | Davy Medal |
| 'ဒေးဗစ်ကောပါးဖီး' | 'David Copperfield' |
| ဒိုဒိုငှက် | Dodo |
| ဒိုမီနီယန် | Dominion |
| ဒိုရီယန် (လူမျိုး) | Dorian |
| ဒေါက်တာ | Doctor (Dr.) |
| ဒင်္ဂါးစက်ရုံ | Mint |
| ဒေါင့်သန်းနာ | Anthrax |
| ဒိုင်ဆာလဖိုက် (ဒ) | Disulphide |
| ဒိုင်နိုဆောကောင် | Dinosaur |
| ဒိုင်ယာနာနတ်သမီး၏နတ်ကွန်းကြီး | The Temple of Diana |
| ဒိုင်အောက်ဆိုက် | Dioxide |
| ဒဏ္ဍာရီပုံပြင် | Fable |
| ဒန်းကတ်မှဆုတ်ခွာခြင်း | Evacuation of Dunkirk, The |
| ဒိန်ခဲ | Cheese |
| ဒိန်း (လူမျိုး) | Dane |
| ဒပ်ချ (လူမျိုး) | Dutch |
| ဒမ်ဗယ် | Dumbbell |
| ဒုံးပျံလက်နက်ဆန်း | Rocket Bomb |
| ဒုမ်ဆ (နတ်ဆရာ) | Tumpsa |
| ဒျူ | Duke |
| ဒြပ်စင် | Element |
| ဒြပ်ပေါင်း | Compound |
| ဒြပ်ရော | Mixture |
| ဓါတုဗေဒ | Chemistry |
| ဓါတုသင်္ကေတ | Chemical Symbol |

ဓါးပြကနန်း (အုန်းကနန်း) Robber Crab (or Coconut Crab)
ဓါတ်ကာပစ္စည်း Insulator
ဓါတ်ချက်ကော်ဖတ် Synthetic Rubber
ဓါတ်ငွေ့ Gas
ဓါတ်ငွေ့ကာမျက်နှာဖုံး Gas Mask
ဓါတ်ဆား Chemical Salt
ဓါတ်ပေါင်းစပ်ယူနည်း Synthesis
ဓါတ်ပစ္စည်း Chemical
ဓါတ်ပုံ ပုံဖေါ်ဆေး Photographic Developer
ဓါတ်ပြောင်းမှု Chemical Change
ဓါတ်ဖိုတိုင် Anode
ဓါတ်ရည်စိမ်ခြင်း Electro-plating
ဓမ္မသစ်ကျမ်း New Testament
ဓမ္မဟောင်းကျမ်း Old Testament
နပိုလီယန်စစ်ပွဲများ Napolconic Wars
နပန်းသတ် Wrestling
နာဇီလက်နက်ကိုင်မုန်တိုင်းတပ် Nazi Storm Troops
နာဝပ်စော်ဘွား Newab
နိယမ Law (Sc.)
နီနာ Nina
နီယိုပရင်း Neoprene
နေရှင်နယ်ပတ် National Park
နယ် (ဆပ်ဒီဗီဇံနယ်) Sub-division
နယ်ခြားတပ် Frontier Force
နယ်စောင့်အရံတပ် Territorial Force
နယ်သစ် Colony
နော့စမန် (လူမျိုး) Norseman
နော်မန် (လူမျိုး) Norman
နို့စေး Latex
နို့တိုက်သတ္တဝါ Mammal
နိုပယ် (ရှားစောင်းမျိုး) Nopal (A Species of Cactus)
နိုဗဲဆု Nobel Prize
နက္ခတ် Constellation
နက္ခတ္တဗေဒ Astronomy
နက္ခတ်မျှော်စင် Observatory
နက်ဂတစ် Negative
နက်ဆောငါး Nassau
နက်ဖသားကတ္တရာ Naphtha
နက်ဗျူလာ Nebular
နက်ဗျူလာဟိုက်ပေါ်သီဆစ် Nebular Hypothesis
နက်ဗဟိုးအင်ဒီးယန်း Navajo Indian
'နောက်ဆုံးမိုဟီးကန်း' 'Last of the Mohicans'
နိုက်တင်းပလားသူရဲကောင်းဂေဟာ
House of the Knights Templars (Templehaus)
နိုက်ထရိုဂျင် Nitrogen
နိုက်ထရစ် Nitric
နိုက်ထရိတ် Nitrate
နိုင်ငံခြားရေးရုံး Foreign Office
နိုင်ငံခြားရေးဝန်ကြီး (အမေရိကန်ပြည်ထောင်စု)
Secretary of State

နိုင်ငံငယ်များထိန်းသိမ်းရေးအဖွဲ့ Trusteeship Council
နိုင်ငံတော်ကောက်ပဲသီးနှံရောင်းဝယ်ရေးဘုတ်အဖွဲ့
State Agricultural Marketing Board
နိုင်ငံတော်ကောင်စီ Council of State (France)
နိုင်ငံတော်အယူဝါဒ State Religion
နိုင်ငံပေါင်းချုပ်အသင်း League of Nations
နိုင်ငံပေါင်းစုံကျေညာစာတမ်းကြီး
United Nations Declaration
နိုင်ငံပေါင်းစုံညီလာခံ (အပြည်ပြည်ဆိုင်ရာညီလာခံ)
International Conference
နိုင်ငံပေါင်းစုံပညာ၊ သိပ္ပံနှင့်ယဉ်ကျေးမှုအဖွဲ့
United Nations Educational Scientific and Cultural Organization
နိုင်ငံပြုသူခမိန် Statesman
နိုင်ငံဖြတ်မီးရထားလမ်း (မကြီး)
Transcontinental Railway
နိုင်ငံရေးရာညီလာခံ
Political Conference (Korean War)
နိုင်ငံရေးရာနှင့်လုံခြုံရေးကော်မီတီ
Political and Security Committee
နိုင်းမြစ်တိုက်ပွဲ Battle of the Nile
'နိုင်းမြစ်ဒေသမြွေဟောက်မ' 'Serpent of Old Nile'
နစ်ကယ် Nickel
နည်းပြဆရာ Tutor
နတ်ကွန်း Oracle
နပ်ကြောအဖွဲ့ Nervous System
'နံနက်ခင်းသာယာသောတိုင်းပြည်'
'Land of Morning Calm'
နုံးတင်မြေနုကွင်းပြင် Alluvial Plain
နုံးမြေဆီလွှာ Alluvial Soil
(နွား) နို့ထွက်ပစ္စည်း Dairy Product
'နွေဦးမယ်အလှဘုရင်မ'
'Queen of May or May Queen'
နွယ်ပင် Vine
နှင်း Snow
နှစ်ကြာခံပင် Perennial
နှစ်ခြင်းဂိုဏ်း Baptist Church
နှစ်တရာစစ်ပွဲ Hundred Years War
နှစ်တန်းဗါး Parallel Bars
နှစ်သုံးဆယ်စစ်ပွဲ Thirty Years War
နှံစားပြောင်း Millet
နှမ်းဖတ်ကျောက်။ (ကျောက်နှမ်းဖတ်) Granite
ပညာမြှင့်တင်ရေးအဖွဲ့ Institute
ပဓါနအစာ Staple Food
ပပိုင်းရပ်။ (စက္ကူကျူ) Papyrus
ပရီတာလူကြီး Praetor
ပရီဗီကောင်စီ Privy Council
ပရေရီလွင်ပြင် The Prairie
ပရဲ (လူမျိုး) Brek
ပရိုတိုဇွန်း (ကောင်) Protozoan (pl. Protozoa)
ပရိုတက်စတန့် Protestant

| | |
|---|---|
| ပရိုတင်း | Protein |
| ပရော့ဗတ် | Provost |
| ပရက်ဇဗီတီးရီးယန်း | Presbyterian |
| ပရပ်ရှင်း | Prussian |
| ပရုတ် | Camphor |
| ပလက်တီနမ် | Platinum |
| ပလန်းနက်တက်စီမယ်ဟိုက်ပေါ့သီဆစ် | Planetisimal Hypothesis |
| ပလိန်းကိတ် | Plain Cake |
| ပလပ်စတစ် | Plastic |
| ပလိပ် (ရောဂါ) | Plague |
| ပသီပုံပြင်များ | Arabian Nights |
| ပါစီဒို (မျိုးရင်း) | Percidoe (Perch Family) |
| ပါဏဗေဒ | Zoology |
| ပါမောက္ခ | Professor |
| ပါရဂူ (ဘွဲ့) | Doctor (-ate) |
| ပါရဆိုက် | Parasite |
| ပါရစ်မြို့ငြိမ်းချမ်းရေးစာချုပ် | Peace Pact of Paris |
| ပါရစ်မြို့အနုပညာပြပွဲကြီး | Paris Salon |
| ပါးရှား (ဘွဲ့ထူး) | Pasha |
| ပါလီမန် | Parliament |
| ပါလီမန်ဆွေးနွေးချက်များ | Parliamentary Debates |
| ပါလီမန်ပြုပြင်ပြောင်းလဲရေး | Parliamentary Reform |
| ပါလီမန်အတွင်းဝန် | Parliamentary Secretary |
| ပါလေကွီယမ် အော့ဗလောင်းဂျီဖိုးလီးယါး | Palaquium Oblongifolia |
| ပါဝါ | Power |
| ပါသာရိ | Pertharite |
| ပါအောက်ဆိုက် | Peroxide |
| ပါးရှင်း | Persian |
| ပါးလအက် | Pearl Ash |
| ပိရမစ် | Pyramid |
| ပီလောပီနံ | Tapioca, Cassava |
| ပူးပေါင်းဆောင်ရွက်ရေး | Collaboration |
| ပေးမာစတာ–ကက်ပတိန် | Paymaster-Captain |
| ပဲငပိ | Soya Beans |
| ပဲလုံး | Pea |
| ပေါ်တူဂီ (လူမျိုး) | Portuguese |
| ပေါ်လီနီမီဒို (မျိုးရင်း) | Polynemidoe |
| ပို့စ–ကက်ပတိန် | Post-Captain |
| ပိုတက်ဆီယမ် | Potassium |
| ပိုလိုနီယမ်း | Polonium |
| ပိုလျှံသောစစ်ပစ္စည်းများဝယ်ယူထုခွဲရောင်းချရေးဘုတ်အဖွဲ့ | Army Surplus Stores Purchase Board |
| ပိုး (လူမျိုး) | Pole, Polish |
| ပိုးစါပင် | Mulberry |
| ပိုးတောင်မာ | Beetle |
| ပိုးနသန်ကောင် | Millipede |
| ပိုးနှိမ်ဆေး | Disinfectant |
| ပက်ကျိ | Slug |
| ပက်စသ ဂျာနယ် | Pesth Journal |

| | |
|---|---|
| ပေါက်ဖတ် | Caterpillar |
| ပင့်ကူကနန်း | Spider Crab |
| ပင်စည် | Stem |
| ပင်ဆီလဗေးနီးယားမီးရထားကုမ္ပဏီ | Pennsylvania Railroad |
| ပင်တာ | Pinta |
| ပင်လယ်ကင်းမြီးကောက် | Sea Scorpion |
| ပင်လယ်ကျောက်ပွင့် | Seaweed |
| ပင်လယ်ကွေ့ | Gulf |
| ပင်လယ်ခရီးဖြင့်ကမ္ဘာလှည့်ခဲ့ခြင်း | A Cruising Voyage Round the World |
| ပင်လယ်ပြင် | Sea Level |
| ပင်လယ်မှပင်လယ်သို့ | From Sea to Sea |
| ပင်လယ်ရေကာတံတိုင်း | Sea Wall |
| ပင်လယ်ရေပူကြောင်း (ဂပ်စထရင်း) | Gulf Stream |
| ပင်လယ်ရေမျောဒိုက် | Plankton |
| ပင်လယ်လက်ကြား | Inlet |
| ပင်လယ်အောက်ခင်း | Sea Floor |
| ပေါင်မုံ့သီး | Bread Fruit |
| ပေါင်းခံနည်း | Distillation |
| ‘ပိုင်းလော့’ | ‘The Pilot’ |
| ပစ်ကရစ်အက်ဆစ် | Picric Acid |
| ပစ်ချကတ္တရာ | Pitch |
| ပစ်ချဗလင်း | Pitch Blende |
| ပစ္စည်းသယ်ပတ်ကြိုး | Conveyer Belt |
| ပဥ္စမတပ် | Fifth Column |
| ပဥ္စမတပ်သား | Fifth Columnist |
| ပုဒ်မ | Article |
| ပလ္လင် | Altar |
| ပန်းထိုးပန်းချုပ် | Embroidery |
| ပန်းပု (လုပ်ငန်း) | Wood-carving |
| ပန်းပုံရုပ်ပုံဖော်ရက်နည်း | Tapestry |
| ပန်းသီး | Apple |
| ပပ်ရဟန်းမင်း | Pope |
| ပုံချုပ်ဆေး | Fixer |
| ပုံဆောင်ခဲ (ပုံဆောင်ခဲဖြစ်သော) (ပုံဆောင်ခဲမဖြစ်သော) | Crystal (Crystalline) (Amorphous) |
| ပုံနှိပ်စက်မင်လုံး | Printer's Roller |
| ပုံနှိပ်မင် | Printing Ink |
| ပုံရိပ် | Image |
| ပျူရီတန် | Puritan |
| ပျူးနစ်စစ်ပွဲ | Punic Wars |
| ပျော်စရာချိုင့်ဝှမ်း | Happy Valley |
| ပျော်ဝင်ပစ္စည်း | Solute |
| ပျော်ဝင်ရည် (ဖျော်ရည်) | Solution |
| ပျောက်ကြားတော်လှန်ရေးတပ်သား | Partisan |
| ပြာသာဒ် | Pinnacle |
| ပြုပြင်ပြောင်းလဲရေး | Reform |
| ပြင်ပကစားခြင်း | Outdoor Game (Open-air-game) |
| ပြင်သစ်ဆိုဗီယက်မဟာမိတ်စာချုပ် | Franco Russian Treaty |
| ပြင်သစ်တော်လှန်ရေး | French Revolution |
| ပြင်သစ်နိုင်ငံတော်ပညာမြှင့်တင်ရေးအဖွဲ့ | French Institute |

ပြင်သစ်ပရပ်ရှားစစ်ပွဲ — Franco-Prussian War
ပြင်သစ်မြေဖြူ — French Chalk
ပြင်သစ်အကက် ဒမီဓါပန်းနွယ်သရဖူ — Laurel Crown of the French Academy
ပြောင်းဖူး — Corn. Indian Corn or Maize
ပြိုင်မော်တော်ကား — Racing Car
ပြည်တွင်းစစ် — Civil War
ပြည်ထောင်ချင်းချင်းအငြင်းပွားမှု — International Dispute
ပြည်ထောင်ချင်းချင်းဥပဒေ — International Law
ပြည်ထောင်စုဆိုဗီယက်ညီလာခံ — All-Union Congress of Soviets
ပြည်ထောင်စုဖက် (အမေရိကန်ပြည်တွင်းစစ်) — Union Side
ပြည်ထောင်စုသီးသန့်နယ်မြေ — Federal Territory
ပြည်နယ်ဥက္ကဋ္ဌ — Head of the State
ပြည်သူ့နီတိ (ပညာ) — Civics
ပြည်သူ့နိုင်ငံရေးရာအတိုင်ပင်ခံအဖွဲ့ — People's Political Consultative Council
ပြည်သူ့ပြတိုက် — Public Museum
ပြန်လည်ထူထောင်ရေးနှင့်တိုးတက်ရေးဆိုင်ရာကမ္ဘာ့ဘဏ် — International Bank of Reconstruction and Development
ပွေး (ရောဂါ) — Ringworm
ပွင့်ဖတ် — Petal
ဖရန့် (လူမျိုး) — Frank
ဖရန့်စစ္စကန် — Franciscan
ဖလားဒါလီး (၃ ရွက်မြသုံးသဏ္ဌာန်ရှိသည့်တံဆိပ်) — Fleur-de-lis
ဖလားဝါး-အော့-ဆာလဖါ — Flower-of-Sulphur
ဖလိုရင်း — Fluorine
ဖဝါးနေ — Fender Pad
ဖါရင်ဟိုက် (ဒီဂရီဖါရင်ဟိုက်) — Fahrenheit
ဖါးပြုပ် — Toad
ဖိနပ်ကြီးနှင့်ကြောင်ကလေး — Puss-in-Boots
ဖိလစ်ပိုင် — Philippino
ဖိသိပ်လေ — Compressed Air
ဖိအား — Pressure
ဖီနီရှန် — Phoenician
ဖီနော — Phenol
ဖဲရပ် — Ferrous
ဖဲလိုး — Fellow (of a University)
ဖေါက်စထရော့ — Fox-trot
ဖေါ့စဖေါရပ် — Phosphorous
ဖေါ့စဖိတ် — Phosphate
ဖို့ဝီလျံ — Fort William
ဖိုးကပ် (ဆုံချက်) — Focus
ဖိုးဖွားဗိမာန် — Ancestral Hall
'ဒိုးသောကြာ' — 'Friday'
ဖေါက်ခြည် — Weft
ဖင့်စာကလေး — Finch
ဖင်းလူမျိုး — Finns
ဖေါင်တိန်ပင် — Fountain Pen
ဖေါက်ထုံး — Slaked Lime
ဖန်းကပ် (မှိုမျိုး) — Fungus
ဖုံမှုန်တိုင်း — Dust Storm
ဖျက်သင်္ဘော — Destroyer
ဖြူ — Porcupine
ဖြန့်ချိရေးကင်းထောက်အမျိုးသမီး — Post Guide
ဖြန်ဖြေရေးအရာရှိ — Mediator
ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (အခြေခံဥပဒေ) — Constitution
ဖွတ်ပုတတ်မျိုး — Lizard
ဗမာ့ကာကွယ်ရေးတပ်မတော် — Burma Defence Army
ဗရိုမင်း — Bromine
ဗရင်ဂျီ — Roman Catholic
ဗဟို — Centre
ဗဟိုနိုင်ငံများ — Central Powers
ဗဟန်းကျောက် — Iron Pyrites
ဗာဂန်ဒီပစ်ချကတ္တရာ — Burgandy Pitch
ဗာကျာအိမ် — Bellows
ဗာဒံ — Almond
ဗာဗီဇုန်ရေးဆွဲနည်း — Barbizon School
ဗာလကန်နိုက်ဇင်း — Vulcanizing
ဗားဗဲ — Barbell
ဗိလတ်မြေ — Cement
ဗိလတ်ရည် — Mineral Beverage; Mineral Waters
ဗိသုကာ — Architecture
ဗီစကွတ် (မုန့်) — Biscuit
ဗီစီဂျီ — B.C.G.
ဗီတာမင် — Vitamin
ဗီတိုအာဏာ — Veto
ဗီနီးရှန်း — Venetian
ဗီဗာဖျံ — Beaver
ဗီယာအရက်ဆောင်ပုန်ကန်မှု — Beer Hall Putsch
ဗုဒ္ဓန်တုပ်ကြီး — Lobster
ဗေရီယမ်ကရိုမိတ် — Barium Chromate
ဗယ်ရီစဖီးယား (သတ္တုရည်ထု) — Barysphere
ဗယ်ရီသီး — Berry
ဗယ်လေ — Ballet
ဗဲရွန် — Baron
ဗဲလဂျီယမ် — Belgium
ဗဲလာက် — Ballad
ဗေါ်ခံတန်တားကြီး — Pontoon Bridge
ဗေါ်လရှီဗစ် — Bolshevik
ဗေါဘယ်ရင် — Ball Bearing
ဗိုလ် (ရေကြောင်းတပ်နှင့်) — Lieutenant (Navy) (Army)
ဗိုလ်ကြီး (ကက်ပတိန်) — Captain
ဗိုလ်ချုပ် (သာမန်အခေါ်) — General
ဗိုလ်ချုပ် (အဆင့်အတန်း) — Major-General
ဗိုလ်ချုပ်ကြီး — Lieutenant General
ဗိုလ်ချုပ်မှူး (အဆင့်အတန်း) — General (Rank)
ဗိုလ်မှူး (မေဂျာ) — Major
ဗိုလ်မှူးကြီး (ကြည်းတပ်) (ကာနယ်) — Colonel
ဗိုလ်မှူးကြီး (ရေတပ်) (ကက်ပတိန်) — Captain
ဗိုလ်မှူးကြီး (လေတပ်) (ဂရုကက်ပတိန်) — Group Captain

